# ကျော်စွာ ၁၀၀

## ဒေါက်တာသန်းထွန်း

**The 100**
**A Ranking of the Most Influential Persons in History**

MICHAEL H. HART

လေးတွဲ တစ်ပေါင်းတည်း ထုတ်ဝေခြင်း

# မာတိကာ

(၃၂) ဂျွန် ဒဲလ်တန် (၁၇၆၆ – ၁၈၄၄)
(၃၃) မဟာအလက်ဇန္ဒား (၃၅၆ ဘီစီ – ၃၂၃ ဘီစီ)
(၃၄) နပိုလီယန် ဘိုနာပတ် (၁၇၆၉ – ၁၈၂၁)
(၃၅) သောမတ်စ် အယ်ဒီဆင် (၁၈၄၇ – ၁၉၃၁)
(၃၆) အန်တိုနီ ဗန် လီဥဝဲန်ဟောက် (၁၆၃၂ – ၁၇၂၃)
(၃၇) ဝီလီယမ် တီ ဂျီ မော်တင် (၁၈၁၉ – ၁၈၆၈)
(၃၈) ဂုဂလီယယ်မို မာကိုနီ (၁၈၇၄ – ၁၉၃၇)
(၃၉) အဒေါ့ဖ်ဟစ်တလာ (၁၈၈၉ – ၁၉၄၅)
(၄၀) ပလေတို (၄၂၇ ဘီစီ – ၃၄၇ ဘီစီ)
(၄၁) အော်လီဗာ ကရွမ်းဝဲလ် (၁၅၉၉ – ၁၆၅၈)
(၄၂) အလက်ဇန္ဒား ဂရေဟမ်ဘဲလ် (၁၈၄၇ – ၁၉၂၂)
(၄၃) အလက်ဇန္ဒား ဖလဲမ်မင် (၁၈၈၁ – ၁၉၅၅)
(၄၄) ဂျွန်လော့ခ် (၁၆၃၂ – ၁၇၀၄)
(၄၅) လုဒ်ဝစ် ဗန် ဘီသိုဗင် (၁၇၇၀ – ၁၈၂၇)
(၄၆) ဝါနာ ဟောဆဲန်ဘာ့ဂ် (၁၉၀၁ – ၁၉၇၆)
(၄၇) လွီစ် ဒဂွဲယာ (၁၇၈၇ – ၁၈၅၁)
(၄၈) ဆိမွန်ဘိုလီဗား (၁၇၈၃ – ၁၈၃၀)
(၄၉) ရီနီဒေးကား (၁၅၉၆ – ၁၆၅၀)
(၅၀) မိုက်ကယ် အိန်ဂျယ်လို (၁၄၇၅ – ၁၅၆၄)
(၅၁) ရဟန်းမင်းကြီး ဒုတိယ အာဗင် (၁၀၄၂ – ၁၀၉၉)
(၅၂) ဥမာအိဗအယ်–ခတ္တာဗ် (၅၈၆ – ၆၄၄)
(၅၃) အသောက (၃၀၀ ဘီစီခန့် – ၂၃၂ ဘီစီ)
(၅၄) စိန့်ဩဂုတ်စတင်း (၃၅၄ – ၄၃၀)
(၅၅) ဝီလီယမ် ဟာဗေး (၁၅၇၈ – ၁၆၅၇)
(၅၆) အားနက်စ် ရုသာဖို့ဒ် (၁၈၇၁ – ၁၉၃၇)
(၅၇) ဂျွန် ကာလ်ဗင် (၁၅၀၉ – ၁၅၆၄)
(၅၈) ဂရီဂေါ် မဲန်ဒဲလ် (၁၈၂၂ – ၁၈၈၄)
(၅၉) မက်စ် ပလင့်ခ် (၁၈၅၈ – ၁၉၄၇)
(၆၀) ဂျိုးဆက် လစ္စတာ (၁၈၂၇ – ၁၉၁၂)
(၆၁) နစ်ကိုလာ့စ် ဩဂုတ်စ် ဩတို (၁၈၃၂ – ၁၈၉၁)
(၆၂) ဖရန်စစ်စကို ပီဇာရို (၁၄၇၅ ခန့် – ၁၅၄၁)
(၆၃) ဟာနန်ဒို ကောတေ့စ် (၁၄၈၅ – ၁၅၄၇)
(၆၄) သောမတ်စ် ဂျက်ဖာဆင် (၁၇၄၃ – ၁၈၂၆)
(၆၅) မိဖုရား အစ္စဘဲလာ (၁) (၁၄၅၁ – ၁၅၀၄)
(၆၆) ဂျိုးဆက် စတာလင် (၁၈၇၉ – ၁၉၅၃)
(၆၇) ဂျူးလီးယပ်စ် ဆီဇာ (၁၀၀ ဘီစီ – ၄၄ ဘီစီ)
(၆၈) အောင်နိုင်သူ ဝီလီယမ် (၁၀၂၇ ခန့် – ၁၀၈၇)
(၆၉) ဆစ်ဂမန် ဖရွိဒ် (၁၈၅၆ – ၁၉၃၉)
(၇၀) အက်ဒဝဒ် ဂျဲန်နာ (၁၇၄၉ – ၁၈၂၃)
(၇၁) ဝေလ်ဟဲမ် ကွန်ရတ် ရောင့်တ်ဂျဲန် (၁၈၄၅ – ၁၉၂၃)

(၇၂) ဂျိုဟာန် ဆေဗစတီယန် ဘာ့ချ် (၁၆၈၅ – ၁၇၅၀)
(၇၃) လောင်ဇူ (ဘီစီ ၄ ရာစု)
(၇၄) ဗောလ်တဲ(၁၆၉၄ – ၁၇၇၈)
(၇၅) ဂျိုဟဲန်နက်စ် ကက်ပလာ (၁၅၇၁ – ၁၆၃၀)
(၇၆) အဲန်ရီကိုဖာမီ (၁၉၀၁ – ၁၉၅၄)
(၇၇) လီယိုနဒ် ယူလာ (၁၇၀၇ – ၁၇၈၃)
(၇၈) ဇန်ဂျက်ကွဲရူးဆိုး (၁၇၁၂ – ၁၇၇၈)
(၇၉) နစ်ကိုလို မက်ခီယာဗယ်လီ (၁၄၆၉ – ၁၅၂၇)
(၈၀) သောမတ်စ်မေးလ်သပ်စ် (၁၇၆၆ – ၁၈၃၄)
(၈၁) ဂျွန်ဖစ်ဂျရယ် ကနေဒီ (၁၉၁၇ – ၁၉၆၃)
(၈၂) ဂရယ်ဂိုရီပင်ကပ်စ် (၁၉၀၃ – ၁၉၆၇)
(၈၃) မနီ(၂၁၆ – ၂၇၆)
(၈၄) လီနင် (၁၈၇၀ – ၁၉၂၄)
(၈၅) ဆို့ဝမ်တီ (၅၄၁ – ၆၀၄)
(၈၆) ဗစကို ဒဂါးမား (၁၄၆၀ ခန့် – ၁၅၂၄)
(၈၇) မဟာဆိုင်ရပ်စ် (ခရစ်မပေါ်မီ ၅၉၀ – ၅၂၉)
(၈၈) မဟာပီတာ (၁၆၇၂ – ၁၇၂၅)
(၈၉) မော်စီတုန်း (၁၈၉၃ – ၁၉၇၆)
(၉၀) ဖရန်စစ် ဘေကွန် (၁၅၆၁ – ၁၆၂၆)
(၉၁) ဟင်နရီဖို့ဒ် (၁၈၆၃ – ၁၉၄၇)
(၉၂) မဲန်စီယပ်စ် (၃၇၁ ဘီစီခန့် – ၂၈၉ ဘီစီခန့်)
(၉၃) ဇော်ရော့အက်စတာ (ခရစ်မပေါ်မီ ၆၂၈ နှစ်လောက်က ၅၅၁ လောက်ထိ)
(၉၄) ဘုရင်မ ပထမ အယ်လီဇဘက် (၁၅၃၃ – ၁၆၀၃)
(၉၅) မိခေးလ် ဂေါ်ဗာချော့ဗ် (၁၉၃၁ – ......)
(၉၆) မဲန်နက်စ် (ခရစ်မပေါ်မီ အနှစ် ၃၁၀၀ က ပေါ်ထွန်းခဲ့သူ)
(၉၇) သျှာလမိန်း (၇၄၂ – ၈၁၄)
(၉၈) ဟိုမာ (ခရစ်မပေါ်မီ ၈ ရာစုနှစ်လောက်က ထွန်းကားသူ)
(၉၉) ပထမ ဂျပ်စတီနီယဲန် (၄၈၃ – ၅၆၅)
(၁၀၀) မဟာဝီရ(ခရစ်မပေါ်မီ ၅၉၉ – ၅၂၇)

ပထမပုံနှိပ်ခြင်းမှာ ပါခဲ့ပေမယ့် ဒုတိယပုံနှိပ်ခြင်းမှာ ထုတ်နုတ် ထားခဲ့ရတဲ့ ပုဂ္ဂိုလ်များ

ထိတ်ထိတ်ကြဲထဲ မပါပေမယ့် ဒီလူတွေကို မထိမ်သင့်

(က) ပက်ဗလို ပီကာဆို (၁၈၈၁ – ၁၉၇၃)
(ခ) အဲန်တွိုင် ဟဲန်နရီ ဗက်ကွာရယ် (၁၈၅၂ – ၁၉၀၈)
(ဂ) နီးစ်ဘော (၁၈၈၅ – ၁၉၆၂)
(ဃ) စိန့်သောမတ်စ် အကွီနာ့စ် (ခရစ်နှစ်၁၂၂၅ ခန့် – ၁၂၇၄ခန့်)
(င) အာခီမီဒိစ် (ခရစ်မပေါ်မီ ၂၈၇ က ခရစ်မပေါ်မီ ၂၁၂ ထိ)
(စ) ချားလ်စ် ဘက်ဘေ့ချ် (၁၇၉၂ – ၁၈၇၁)
(ဆ) ချော့ပ်စ်(ခရစ်မပေါ်မီ ၂၆ ရာစုနှစ်လောက်က)
(ဇ) မာရီ ကျူရီ (၁၈၆၇ – ၁၉၃၄)

# ပုံနှိပ်မှတ်တမ်း


စာမူခွင့်ပြုချက်အမှတ် – ၃၁၀၁၀၅၀၉၀၉

မျက်နှာဖုံးခွင့်ပြုချက်အမှတ် – ၃၁၀၀၁၈၀၂၁၀

မျက်နှာဖုံး– M.S.O

စောင်ရေ – ၅၀၀

၂၀၁၀ ပြည့်နှစ်၊ မတ်လ

တန်ဖိုး – ၆၀၀၀ ကျပ်

စာအုပ်ချုပ် – ကိုမြင့်

ထုတ်ဝေသူ – ဦးစန်းဦး၊

စိတ်ကူးချိုချိုစာအုပ်တိုက်၊ ၈၅၊ ၁၆၄ လမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်

ပုံနှိပ်သူ – ဒေါ်ဝင်းမာ၊

စိတ်ကူးချိုချိုပုံနှိပ်တိုက်၊ တာမွေ၊ ရန်ကုန် ဒုတိယအကြိမ်

သန်းထွန်း/ ဒေါက်တာ

ကျော်စွာ ၁၀၀/ ဒေါက်တာသန်းထွန်း ။ရန်ကုန်။

စိတ်ကူးချိုချိုစာပေ။

၂ ကြိမ်။ ၂၀၁၀။

စာမျက်နှာ ၆၅၃ မျက်နှာ၊ ၁၄.၅ စင်တီ x ၂၃ စင်တီ (၁)

# မြန်မာပြန်သူရဲ့အမှာ

World Famous Books in Outline ဆိုတဲ့ စာအုပ် တစ်အုပ်ကို သတိရပြီး စာအုပ်စင်က ထယူ လိုက်တယ်။ စာအုပ်မှာ ကျွန်တော့် ငယ်သူငယ်ချင်း နာမည်ကို တွေ့တယ်။ သူ့ဆီက ငှားထားတာ အနှစ် ငါးဆယ် ရှိပြီ။ နာမည်ကြီးတဲ့ စာအုပ်ဆိုရင် ကျွန်တော် ရအောင် ရှာထားတယ်။ ဖတ်ကြည့်ပြီး ကျွန်တော်ကြိုက်ရင် အင်္ဂလိပ်က မြန်မာ၊ မြန်မာက အင်္ဂလိပ် ပြန်တယ်။ ပုံနှိပ်ထုတ်ဝေဖြစ်အောင်လည်းကြိုးစားတယ်။ ကမ္ဘာကျော် စာအုပ်တွေအကျဉ်းကို ဘာပြုလို့ မပြန်သလဲလို့ မေးချင်ကြတယ် ထင်ပါတယ်။ အဲဒီစာအုပ်မှာ ပုံနှိပ်တဲ့အဖွဲ့အစည်း နာမည်က…

> The Home Library Club Conducted under the point management of The Times of India– the Statesman associated Newspapers of Ceyan Ltd.

သီဟိုဠ် (သီရိလင်္ကာ) ပြည်ထွက်၊ ပုံနှိပ်တဲ့နှစ် မပါဘူး။ စာအုပ် တစ်အုပ်စီ ကပဲဖြစ်ဖြစ်၊ ငါးဆယ့်ငါးအုပ် အကုန်လုံး ကိုပဲ ဖြစ်ဖြစ် ဘယ်သူက အချုပ် ရေးတယ်လို့ မပါဘူး။ အဲဒီတော့ စာအုပ်ကို အထင်သေးစရာ ဖြစ်သွားတယ်။ ပါဝင်တဲ့ စာအုပ်တွေကတော့ တကယ့်ကို ကြီးကျယ်တဲ့ စာအုပ်တွေပါ။ ဥပမာ မဟာဝံသ (မဟာဝင်) (မြန်မာပြန် ရှိသလို ဂျာမန် ဘာသာပြန်၊ အင်္ဂလိပ် ဘာသာပြန်လည်းရှိတယ်)ကို မိတ်ဆက်ပေးတဲ့ အခါ…

> "မဟာဝံသ (ရာဇဝင်ကြီး)ကို ခြောက်ရာစုနှစ်က ဒီဃသန္တ ကျောင်းတော်နေ မဟာသာမက ပါဠိဂါထာ အနေနဲ့ ရေးတယ်။ မူရင်းက သီဟိုဠ် ဘာသာ စကားပြေနဲ့ ရေးပြီး ရှိတာကို ပါဠိဘာသာနဲ့ ဂါထာစီပြီး ဘာသာပြန်ခဲ့တယ်။ မူရင်းက အခု ရှာမတွေ့တော့ပါ။ ဥရောပ ဘာသာ စကားနဲ့ ပထမဆုံး ဘာသာပြန်တဲ့ကျမ်း ဖြစ်ပါတယ်။"

ဒီလို မိတ်ဆက်စကားနဲ့ပဲ ဒီအကျဉ်းကို ဖတ်ချင် အောင် ဆွဲဆောင်နိုင်ပါတယ်။ ဒါပေမယ့် ကျွန်တော် မဖတ်ပါ။ ဘာပြုလို့လဲဆိုတော့ မြန်မာပြန်နဲ့ အင်္ဂလိပ်ပြန်ကို အခေါက်ခေါက် ဖတ်ထားလို့ ဖြစ်ပါတယ်။

> "လီယိုတော်စတွိုင်းရဲ့ စစ်နဲ့ငြိမ်းချမ်းရေး ဆိုရင် စာရိတ္တမဏ္ဍိုင် ကြွခိုင်ဖို့နဲ့ ဇာတ်ကွက်၊ ဇာတ်အိမ် ဆင်တဲ့နေရာမှာ သိပ်ပြီး အသေးစိပ် နိုင်နိုင် နင်းနင်း

ရေးနိုင်ပြီး အတွေးအခေါ်မှာလည်း သိပ်နက်ရှိုင်းလေတော့ ဒီစာရေးဆရာကို ဥရောပရဲ့ စာရေးဆရာတွေထဲမှာ သူလည်း ထိပ်တန်းက ပါတယ်။ နပိုလီယံ စစ်ပွဲ ၁၈၀၀ ခုနှစ်တွေ အတွင်းက ရုရှနိုင်ငံကြီးရဲ့ အခြေအနေကို မြင်ကွင်းကျယ် ရေးပြထားပြီး (၁၈၆၀ က ပုံနှိပ် ဖြန့်ဝေခဲ့တာဖြစ်လို့) ရေးခဲ့ဖူးသမျှ အံ့သြစရာ ကောင်းလောက်အောင် သြဇာထက်မြက်တဲ့ စာပေထဲမှာ ဒီဝတ္ထုရှည်ကြီးလည်း ပါတယ်။ သမိုင်းကို ဒဿနနဲ့ တိုင်ချည် ဖောက်ချည် လုပ်ပြီး ရက်လုပ်ထားတဲ့အခါ လူ့လောက၊ လူသားတွေရဲ့ သဘောသရုပ်ကို ကွက်ကွက် ကွင်းကွင်း ဖော်ပြတယ်။ ချုံ့တာဆိုပေမယ့် အကြမ်းပုံ ပေါ်အောင် လုပ်ရတာ ကပဲ မနိုင်မနင်း ဖြစ်နေပါတယ်။ ဒီစာအုပ်ရဲ့အရသာကို တကယ် သိချင်ရင်တော့ မူရင်းကို မဖြစ်မနေ ဖတ်ရပါ လိမ့်မယ်။”

အဲဒါနဲ့ မူရင်းကို ကျွန်တော် မနည်းကုန်အောင် ဖတ်လိုက်ပါတယ်။ မူရင်းကို ဖတ်ဖြစ်အောင် ဖတ်ပါဆိုလို့ ကျွန်တော်က အကျဉ်းချုံ့ ထားတာကို မဖတ်ဖြစ်တော့ပါ။ ကျော်စွာ ၁၀၀ ကိုတော့ အပေါ်ကပြောတာရဲ့ ပြောင်းပြန်ကို ပြောရမှာ ဖြစ်ပါတယ်။ ကမ္ဘာကျော် ပုဂ္ဂိုလ်တွေကို စာမျက်နှာ ပေါင်းများစွာ အုပ်တွဲပေါင်းများစွာ ရေးထားပြီး ရှိနေပါတယ်။ သမိုင်းလေ့လာသူ ဖြစ်လို့ ဒီပုဂ္ဂိုလ်ကြီးတွေရဲ့ အကြောင်းကို အပြန်ပြန် အခေါက်ခေါက် ဝေဖန်တယ်။ သမိုင်း အခြေခံထားပြီး တန်ဖိုးဖြတ်တယ်။ အခု သမိုင်း ဆရာ မဟုတ်တဲ့ သာမည စာရေးဆရာ တစ်ယောက်က လူကျော် တစ်ဦးရဲ့ အကြောင်းကို စာငါးမျက်နှာ လောက်နဲ့ ချုံ့ရေးပေးတော့ ဖတ်ရတာ အရသာ တစ်မျိုး ပေါ်တယ်။ သူ့ဆုံးဖြတ်ပုံ…

(၁) ဘယ်အခြေခံနဲ့ ဒီပုဂ္ဂိုလ်ဟာ ကြီးမြင့် လာရပါသလဲ၊
(၂) ဒီလူရဲ့အစွမ်းနဲ့ လူတွေဘယ်လောက်များများ အကျိုးခံစားရသလဲ၊
(၃) ဒီလူ့ကျေးဇူးကို လူတွေ ဘယ်လောက် ကြာကြာ ခံစားရပါသလဲ၊

အဲဒီမေးခွန်းသုံးခုနဲ့ပဲ လူတွေကို ပထမ၊ ဒုတိယ ဆိုပြီး တန်းစီလိုက်တယ်။ အဲဒီလိုလုပ်ပုံကို ကျွန်တော် ကြိုက်တယ်။ ဒါပဲ သမိုင်းနည်းကျ တယ်။ ဒါ့ကြောင့် ကျော်ကြားတဲ့စာအုပ်ကို မြန်မာဘာသာ မပြန်မိဘဲ ဒီစာအုပ်ကျတော့မှ မြန်မာဘာသာ ပြန်မိပါတယ်။

လူနာမည် ဒေသနာမည်တွေကို မြန်မာအက္ခရာနဲ့ ရေးတဲ့အခါ မှန်ရဲ့လားဆိုတဲ့ ပြဿနာရှိပါတယ်။ ဒီကိစ္စကို ဥပမာတွေနဲ့ပဲ ပြောရမယ်။ ကျွန်တော် အင်္ဂလန်လေးနှစ်၊ ဂျပန်ငါးနှစ်၊ အမေရိကသုံးနှစ် နေဖူးတယ်။ သန်းထွန်းဆိုတဲ့ နာမည်ကို ကုလား၊ တရုတ်၊ အမေရိက၊ ဂျပန် မှန်အောင် မခေါ်တတ်ပါ။

လန်ဒန်တက္ကသိုလ်အဓိပတိ မင်းသမီးအဲန်က ၁၅ မတ် ၁၉၉၀ ဇစ်တိုရိယန့် အယ်လဗတ်ဟော ဘွဲ့နှင်း သဘင်မှာ ကျွန်တော့်ကို D.Lit ဘွဲ့ပေးဖို့ အဓိပတိရှေ့ကို ဝင်လာဖို့ခေါ်တဲ့အခါ ကျွန်တော့် နာမည်ကို မှန်မှန် ခေါ်မှဖြစ်မယ်ဆိုပြီး လန်ဒန် တက္ကသိုလ် မော်ကွန်းထိန်းက သူခေါ်တဲ့အခါ အသံထွက်မှန်ဖို့ ကျွန်တော့်ဆီကိုလာပြီး နာမည် အသံထွက် မေးတယ်။ ဆိုကြည့်တယ်။ ပြင်သစ်မြန်မာ အဘိဓာန်လုပ်တဲ့ Madame Bernolt ကို သူရွတ်ပြတဲ့အတိုင်း လိုက်ပြီး ထွက်ကြည့်ပါတယ်။ အခုထိမှန်အောင် မခေါ်တတ်ပါ။

ရှေးရှေးက Burma, Rangoon ဆိုတာတွေကို ဘာပြုလို့ နာမည်သစ်တွေ ပေးနေတာလဲလို့ နိုင်ငံခြားမှာ ကျွန်တော့်ကို မေးကြတော့ နာမည်သစ်မဟုတ်၊ နာမည်မှန်လို့ ရှင်းရတယ်။ Mubyne (Bombay), Beijing (Peking), Melbourne (l သံမပါ), Greenwich (w သံမပါ), Sa-v-di, Sa-id, ဆိုတာမျိုးတွေပေါ့။ ရှေးက မြန်မာတွေ ရေးတဲ့ ရောမ (Rome)၊ ဥရောပ (Europe)၊ အီစပါညို (Spain)၊ ဣသရေလ (Israel)၊ ပါရီ (Paris)၊ ကောရေယ (Korea) ဆိုတာတွေ မှန်တယ်။ အခု ကျွန်တော်တို့ ခေါ်နေတာက မှားတယ်။

အတိုချုပ်ပြောချင်တာကတော့ ဆိုင်ရာ ဆိုင်ရာ တွေကို ရောက်တော့မှ ကျွန်တော်တို့ အင်္ဂလိပ် ခေါ်သလို လိုက်ခေါ်နေတာ မှားမှန်းသိပါတယ်။ ကျွန်တော်လည်း သိသလောက်ပြင်တယ်။ အီတလီ၊ ပြင်သစ်၊ ဂျာမန် နာမည်တွေကို ကျွန်တော် ရေးတာလည်း မှားဖို့နဲ့ မှန်ဖို့မှာ မှားဖို့က များပါတယ်။ အတ္ထုပ္ပတ္တိ အကျဉ်းရေးထားတာ ကျွန်တော် ဖတ်ဖူးသမျှ တွေထဲမှာ ဒီစာအုပ်က တော်တော် ကောင်းတယ်။

ပြီးတော့ လူပုဂ္ဂိုလ်တစ်ဦးစီရဲ့ အတ္ထုပ္ပတ္တိကို သန့်သန့်ရှာဖွေပြီး အကျယ် ရေးထားတာတွေ အများကြီး ဖတ်ဖူးတယ်။ အခုစာအုပ်က သိကောင်းစရာ အရေးကြီး တာတွေကို လေးငါး မျက်နှာနဲ့ သိရလို့ ကျေးဇူးတင်ပါတယ်။ မြန်မာပရိသတ်လည်း ဖတ်စေချင်တယ်။ ဒါနဲ့ မြန်မာပြန် ဖြစ်ပါတယ်။

သန်းထွန်း

၂၂ နိုဝင်ဘာ၊ ၂၀၀၀၊

ကွန်သာယာ၊

၁၅၅ က၊ ယောဂီကျောင်းလမ်း၊ လှိုင် ၁၁၊ ရန်ကုန်။

# သိစေချင်တဲ့ မြန်မာပြန်သူရဲ့အမှာ

Michael H.Hart ဟာ Cornell University ကျောင်းထွက်၊ New York Law School က L.L.B ဘွဲ့၊ Adelphi University က M.S. ဘွဲ့၊ Princeton University က Ph.D. ဘွဲ့ရခဲ့ပြီး အခု System and Applied Science Corporation in Riverdale Maryland မှာ အကြီးတန်း သုတေသန ပညာရှင် အဖြစ် အမှုထမ်းနေပါတယ်။ ကျော်စွာ ၁၀၀ ကို ၁၉၈၀ က ပထမအကြိမ် ပုံနှိပ်ပြီး၊ ၁၉၉၂ မှာပြင်ဆင် ဖြည့်စွက်ပါတယ်။

လူပုဂ္ဂိုလ်မျိုးစုံထဲက လောကီ၊ လောကုတ္တရာ ပရိသတ် အစုအစည်းများတဲ့ လူကို ရှေ့တန်းမှာ ထားတယ်။ အဲဒါအပြင် လူတွေကို အကျိုးပြုတဲ့ အတွေးအခေါ် (စိတ်ပိုင်း) အောင်မြင်သူကို ထိပ်တန်း ထားတယ်။

နိုင်ငံရေးသမားက နောက်တန်းမှာ နေရတယ်။ ကမ္ဘာ့ကိုးကွယ်ယုံကြည်မှုမှာ ဗုဒ္ဓ၊ ခရစ်၊ ဟင်ဒီ၊ မုဟမ္မဒ် ဆိုသလို တန်းစီလိုက်တဲ့အခါ ယုံကြည်သူ လူဦးရေနဲ့ ပြောရင် ခရစ်က များမယ်၊ လူတွေပေါ်မှာ (နေ့စဥ် နေထိုင်ရေး၊ ဘဝ လမ်းကြောင်း) အပါအဝင် ဩဇာ အရှိဆုံးက မုဟမ္မဒ် ဖြစ်လို့ သူ့ကိုဘဲ နံပါတ် ၁ ထား လိုက်တယ်။ အဲဒါကို မြန်မာ ဗုဒ္ဓသာသနာဝင်များ လက်ခံကြမည် မထင်ပါ။ ဒါပေမယ့် သူ့စာအုပ်ကို ဘာသာပြန်သူက သူ့အစီအစဥ်ကို ပြင်ဆင်ခွင့်မရှိပါ။

သန်းထွန်း၊

၁၉၊ ဖေဖော်ဝါရီ၊ ၂၀၀၀။

# မိုက်ကယ်အိပ်ချ်ဟတ် (Michael H.Hart) ရေးတဲ့

# ကျော်စွာ ၁၀၀ ပြင်ဆင်တည်းဖြတ်ပုံနှိပ်ခြင်း ၁၉၉၂ အတွက် စာရေးသူရဲ့အမှာစာ

ကျော်စွာ ၁၀၀ ကို ထုတ်ဝေပြီးတာ တစ်ဆယ့်နှစ်နှစ် ကြာခဲ့ပြီဖြစ်ပေမယ့် အရောင်းရ တွင်ကျယ်ဆဲ၊ ဘာသာမျိုးစုံ ပြန်ကြဆဲ။ ဒီလိုဆိုတော့ တည်းဖြတ်ပြင်ဆင်ပြီး ဒုတိယ အကြိမ် ထုတ်ဝေသင့်တယ် မဟုတ်လား။

ဒုတိယအကြိမ် ထုတ်သင့်တဲ့ အကြောင်းထဲမှာ သမိုင်းက ၁၉၇၈ မှာ ရပ်သွားတာ မဟုတ်၊ ဆက်လက် ချီတက်မြဲ ဖြစ်လို့ အဖြစ်အပျက် သစ်တွေ မမျှော်လင့်ဘဲ

ပေါ်လာတယ်။ သမိုင်းမှာ ထင်ရှားသူ စာရင်းလည်း တိုးလာတယ်။ အဲဒါအပြင် ဒီတစ်ဆယ့်နှစ်နှစ်အတွင်းမှာ ကျွန်တော့် ပညာဉာဏ်လည်း အများကြီး တိုးတက်ပွင့်လင်းလာတဲ့ အတွက် ပြောင်းလဲနေတဲ့ ကမ္ဘာနဲ့ ယှဉ်တွဲမိအောင် ဒီစာအုပ်ကိုလည်း ပြင်ဆင်ဖြည့်စွက်ဖို့ လိုနေပြီလို့ ဆုံးဖြတ် လိုက်ပါတယ်။

အမှန်ကလည်း ၁၉၇၈ က အတိတ်ဖြစ်စဉ်တွေနဲ့ ပတ်သက်တဲ့ ကျွန်တော့် အမြင်ကလည်း ကောင်းလှပြီလို့ မဆိုနိုင်ပါ။ ကြားကာလမှာ ကျွန်တော် ကလည်း ထပ်ပြီး ပညာရှာတယ်၊ ဒီစာအုပ်နဲ့ ပတ်သက်ပြီး ဟိုက ဒီက ဝေဖန် ဆွေးနွေးကြတာကလည်း သိပ်ပြီး ပညာရတယ်။ စာဖတ်သူတွေရဲ့ ပေးစာမှာ ကျွန်တော် သတိမမူမိတဲ့ သမိုင်း ကြောင်းတွေကို ထောက်ပြ ကြတာလည်း ရှိတယ်။ အဲဒါအပြင် သူတို့ဆီက အမြင်သစ်လည်း ရတယ်။ ကျွန်တော်မြင်ပြီးသား ကောက်ချက်ထက်သာတဲ့ ကောက်ချက်သစ်လည်း ရတယ်။ ရေဒီယိုက ပညာပေး ဟောပြောချက်မှာ ကျွန်တော်က ပရိသတ် အဖြစ် နားထောင်လို့ အသိပညာရတာလည်း အမှန်ပါ။

ဒီတော့ ကျွန်တော် ချို့တဲ့ချွတ်ယွင်းချက်တွေကို ပြင်ချင်လာတယ်။ အခက်ခဲဆုံးနဲ့ (စိတ်ဝင်စားစရာ အကောင်းဆုံး) အပိုင်းကတော့ နိုင်ငံရေး ခေါင်းဆောင် အမျိုးမျိုးကို ကျော်စွာ ၁၀၀ ဆိုပြီး အဆင့်ခွဲ တန်းစီ ပေးရတဲ့ကိစ္စပါပဲ။ ကျွန်တော်တို့နဲ့နှိုင်းရင် သူတို့က သိပ်အစွမ်း ထက်မြက် ကြီးမြင့်တယ်လို့ ထင်လေ့ရှိတယ်။ ဒါပေမယ့် အရင်နှစ် အတော်ကြာကက ခေါင်းဆောင်ကို သူနဲ့ရွယ်တူတွေက သူတို့ထက် အစစအရာရာ သာတယ် ထင်ခဲ့ကြပေမယ့် အခုတော့ သူတို့ကို မေ့သလောက် ရှိနေပါပြီ။

ရေးတုန်းက ခေါင်းဆောင်ကို သူ ဘယ်လောက် စွမ်းရည်ထက်မြက်တယ်လို့ တန်ဖိုးဖြတ်ရတာ လွယ်တယ်။ ဘာပြုလို့လဲဆိုတော့ သူ့အစွမ်းနဲ့ ပေါ်ပေါက်လာတဲ့ ကိစ္စမှန်သမျှကို သိနေကြလို့ ဖြစ်တယ်။ ခု လက်ငင်း နိုင်ငံရေးမှာ ထင်ရှားသူကို အကဲဖြတ်ဖို့က ပိုပြီးခက်ခဲတယ်။ ကနေ့ ခေါင်းဆောင် တစ်ဦးဟာ အင်မတန် တန်ခိုး ဩဇာ ကြီးပါစေ၊ အင်မတန် ဆန်းသစ်တဲ့ ကိစ္စတွေကို ဖော်ထုတ်နိုင်ပါစေ၊ သူ့ကျေးဇူးကို လူအများက ဘယ်လောက် အရှည်အကြာ ခံစားနိုင်မလဲလို့ ခန့်မှန်းဖို့ ခက်တယ်။

မျက်ဝါးထင်ထင် တင်ပြစရာအကြောင်းကတော့ မော်စီတုန်း (Mao Tse–tung)၊ အခု မော်စီတုန်းကို ဒီစာအုပ် ပထမ အကြိမ်ပုံနှိပ်စဉ်က အမှတ် (၂၀) မှာထားတယ်။ ‘မော်’ ကွယ်လွန်ပြီး မရှေးမနှောင်းမှာ ဒီစာအုပ် ထွက်တာကြောင့် သူ့ရဲ့စွမ်းဆောင်ချက်တွေကို ပူပူနွေးနွေး သတိရတုန်းပဲ ရှိကြသေးတယ်။ နှစ်ကြာရင် သူ့ကျေးဇူးကို မေ့လိုက်ကြမှာပဲလို့ သာမည သိထားပါတယ်။ ဒါပေမယ့် အခုလောက် မြန်မြန်ဆန်ဆန်ကြီး သူ့ဂုဏ်သတင်းဟာ လျော့ကျတိမ်မြုပ် ပျောက်ကွယ် သွားမယ်လို့ ကျွန်တော် မထင်မိတာ အမှန် ဖြစ်ပါတယ်။ မော် ကွယ်လွန်ပြီး နှစ်အနည်းငယ် အတွင်းမှာပဲ သူ့ကို ဆက်ခံသူ ဒင်ရှောက်ပင် (Deng Xiao Ping)ရဲ့ ပြုပြင်ရေးတွေက၊ မော် အထွတ်အမြတ် ထားခဲ့တဲ့ ပေါ်လစီတွေကို မညှာမတာ ပယ်ဖျက်ရုပ်သိမ်း ပြင်ဆင်ပစ်တာကို

တွေ့ရပါတယ်။ တိန့်က ဒီလို မော်ရဲ့ စီမံကိန်းတွေကို၊ အများကြီးချိုးဖျက်တွန်းဖယ် ပစ်လိုက်ပုံကို တွေ့တော့ ကျွန်တော့်ရဲ့ ပထမအကြိမ် ပုံနှိပ်စာအုပ်ထဲမှာ မော်ကို အကြာကြီး လေးစားကြည်ညို နေကြဦးမယ်လို့ ထင်တဲ့ ကျွန်တော့်တွက်ခြေဟာ မှားတယ်လို့ ထင်ရှား သိလာပါတယ်။

ပုဂ္ဂိုလ် တစ်ဦးတည်းရဲ့ အဆင့်ကို ပြောင်းဖို့လိုတာ တစ်ခုတည်းနဲ့ ဒီစာအုပ်ကို ခုလို ဒုတိယ အကြိမ် တည်းဖြတ် ပုံနှိပ်တာ မဟုတ်ပါ။ လွန်ခဲ့တဲ့ ဆယ်စုနှစ် (Decade) ထဲမှာ မော်ရဲ့ ဩဇာ ကျဆင်းသလို အခြား အကြောင်းအချက်တွေ တကယ့်ကို အများကြီး ပေါ်ပေါက်ခဲ့ပါတယ်။

ပထမအကြိမ် ပုံနှိပ်မှုကို ရေးစဉ်က ကွန်မြူနစ် လှုပ်ရှားမှု (Communist Movement) ဟာ တကယ့်ကို လန်းစရာလို့၊ နိုင်ငံတွေအများကြီးမှာ တွေ့နေရတယ်။ အာဏာကို ချုပ်ကိုင်ပုံဟာ၊ တကယ် ကျွမ်းကျင်တယ်။ ဘာကိုမှ မညှာမထောက် လိုချင်တဲ့ပန်းတိုင်ကို အရယူလေ့ ရှိတယ်။ ဒါကြောင့် နောက်ထပ် ဆယ်စုနှစ်တွေ အများကြီး ခိုင်မြဲနေမယ်၊ ဆယ်စုနှစ်တွေက ရာစုနှစ်တွေများစွာ ပွားပြီး တည်တံ့ နေဦးမယ်လို့ ထင်ရတယ်။ ဒီလိုဆိုရင်တော့ တစ်ယူသန် အစွဲအလမ်း မကြီးတဲ့အပြင် ညှာတာ ထောက်ထားစိတ်တွေ များနေတဲ့ အနောက်တိုင်းမှာ တောင် ဒီဝါဒက နောက်ဆုံး အောင်ပွဲခံ သွားလိမ့်မယ်လို့ ပြောကြတယ်။

ဒီလိုသာဆိုရင် ကွန်မြူနစ်စနစ်ကို စတင် ထူထောင်သူတွေ ဖြစ်တဲ့ မာ့က်စ် (Marx)၊ လီနင် (Lenin)၊ စတာလင် (Stalin) တို့ဟာ အလွန်အမင်း ဩဇာကြီးမားတဲ့ ပုဂ္ဂိုလ်တွေလို့ ဆိုရမယ်။ ဒါပေမယ့် အခုမကြာမီ နှစ်အနည်းငယ် အတွင်းမှာပဲ အများကြီး တန်ခိုးကြီးထွားပြီး အမြစ်ခိုင်ခိုင်မြဲမြဲ တွယ်လာစရာရှိတယ်လို့ ကျွန်တော် ကြောက်ရွံ့စိုးရိမ်ခဲ့တဲ့ ကွန်မြူနစ်စနစ် (Communist System)ဟာ တန်ခိုးမရှိ၊ မခိုင်မြဲ ပါကလားလို့ တွေ့ရတယ်။ အမှန်က မာ့က်စ်ဝါဒ (Marxism) ကျဆင်းတာကို ကုန်ခဲ့တဲ့ဆယ်စုနှစ် အတွင်းမှာ သိပ်အံ့ဩရတဲ့ သမိုင်းမှာ ထင်ရှားတဲ့ အဖြစ်အပျက်တစ်ခု အဖြစ်နဲ့ တွေ့လိုက်ကြရပါတယ်။

ဥရောပအရှေ့ခြမ်း (Eastern Europe) မှာ ဆိုဗီယက် အင်ပါယာ (Soviet Empire) ကြီးတစ်ခုလုံး လဲပြိုသွားပြီ။ လွတ်မြောက် နယ်မြေတွေက ကွန်မြူနစ် ဝါဒကို ရှုတ်ချတယ်။ အီသီယိုပီးယား (Ethiopia)၊ မွန်ဂိုလီးယား (Mongolia) စတဲ့နိုင်ငံတွေ အများကြီးဟာ တစ်ကြိမ်တစ်ခါက ဆိုဗီယက်ပြည်ထောင်စုရဲ့ လက်ဝေခံ နိုင်ငံတွေဘဝက မာ့က်စ်ဝါဒ အောက်က ရုန်းထွက်သွားကြပြီ။ ဆိုဗီယက် ပြည်ထောင်စု (Soviet Union) လည်း အစိတ်စိတ် ကွဲပြီး သူ့နေရာမှာ သီးခြား လွတ်လပ်တဲ့ သမ္မတနိုင်ငံ (Independent Republics) တစ်ဆယ့်ငါးခု ဖြစ်ပေါ်လာပါတယ်။ အဲဒီအထဲမှာ ဘယ်နိုင်ငံမှာမှ မာ့က်စ်လီနစ်စနစ်ကို ဆက်ပြီး မကျင့်သုံးတော့ပါ။

ကမ္ဘာမှာ ဗီယက်နမ် (Vietnam)၊ မြောက်ကိုရီးယား (North Korea)၊ ကျူးဘား

(Cuba)၊ လော (Laos) နဲ့ တရုတ်ပြည်သူ့သမ္မတနိုင်ငံ (People's Republic of China) စတဲ့ ကွန်မြူနစ်အစိုးရတွေ အသင့်အတင့် ကျန်ရှိနေပါ သေးတယ်။ ဒီအထဲက ဘယ်နိုင်ငံမှာမှ စီးပွားရေး မတောင့်တင်းဘူး၊ ဘယ်နိုင်ငံမှ တည်ငြိမ် လှပါတယ်လို့ မဆိုနိုင်ဘူး။ လူကုဋေ တစ်ရာကျော်ဟာ ခုထိ ကွန်မြူနစ် ဖိစီး ချုပ်ချယ်ခြင်းအောက်မှာ နေရပေမယ့် မာ့ခ်စ်ဝါဒ တစ်ခါပြန် ခေါင်းဆောင်နိုင်စရာ ရှိပါသေးတယ်လို့ သဘောတရားအရ ပြောရပေမယ့် ကနေ့ကစပြီး ရှေ့ဆယ်နှစ်က အနှစ်နှစ်ဆယ်အတွင်းမှာ ကမ္ဘာကြီး တစ်ခုလုံးက ကွန်မြူနစ်အစိုးရတွေ ထွက်ခွာ သွားလေပြီဆိုရင်လည်း ဘာမှ အံ့သြဖွယ်ရာ မရှိပါ။

ဒီလိုဆိုရင် ကွန်မြူနစ်စနစ်ကို စတင် တည်ထောင်သူ တွေဟာ ကျွန်တော်မှုလက မှန်းဆ အထင်ကြီး ခဲ့တာလောက် အရေးပါ အရာရောက်ခြင်း မရှိပါ။ အဲဒီတော့ သောမတ်စ် ဂျက်ဖာဆင် (Thomas Jefferson) နဲ့ အဒမ်စမစ် (Adam Smith) တို့လို ကွန်မြူနစ်ဝါဒကို ဆန့်ကျင်တွေးခေါ်သူတွေဟာ ဒီစာအုပ် ပထမ အကြိမ် ပုံနှိပ်စဥ်ကတည်းက ကျွန်တော် ထင်တာထက် ပိုပြီးသြဇာ ရှိနေပါတယ်။

အဲဒါအပြင် သြဇာကြီးသူ စာရင်းမှာ လူသစ် တစ်ဦးရဲ့နာမည်ကို ဖြည့်ရပါမယ်။ သူဟာ ဆိုဗီယက် ပြည်ထောင်စုရဲ့ ကံကြမ္မာကို ထင်ရှား စေတဲ့ (၁၉၈၅ – ၁၉၉၁) နှစ်များမှာ နိုင်ငံ့ ခေါင်းဆောင်ဖြစ်လာတဲ့ မိခေးလ် ဂေါ်ဗာချော့ (Mikhail Gorbachev) ဖြစ်ပါတယ်။ သူ့ဝါဒ သူ့လှုပ်ရှားမှုတွေဟာ၊ သူကိုယ်ရှိန်သတ်ပြီး အရေးကြီးတဲ့ လမ်းဆုံမှာ ဘာမှ မဆိုင်သလို နေလိုက်ပုံတွေဟာ စစ်အေး (Cold War) ကို ရပ်စဲဖို့ အရေးကြီးလှတဲ့ အခြင်းအရာ တစ်ခုလည်း ဖြစ်ပါတယ်။ ကွန်မြူနစ်ဝါဒ လျှော့ကျဖို့ တွန်းပို့တဲ့ အခြင်းအရာ တစ်ခုလည်း ဖြစ်ပါတယ်။ ဆိုဗီယက် ပြည်ထောင်စု အစိတ်စိတ်ကွဲစေတဲ့ အချက်လည်း ဖြစ်ပါတယ်။ အဲဒီလို သိပ်အရေးပါတဲ့ အဖြစ်အပျက် တွေကြောင့် ဂေါ်ဗာချော့နာမည်ကို ဒီပုံနှိပ်မှုမှာ ထည့်ရပါတယ်။ သူ့နံပါတ်က (၉၅) ဖြစ်လေတော့ လီနင်အောက် ရောက်နေပေမယ့် ရှေးခေတ်က နိုင်ငံရေး ခေါင်းဆောင် အများစုထက်တော့ အများကြီး သာသူ ဖြစ်ပါတယ်။

နောက်ထပ်ပြင်ဆင်ချက်တစ်ခု ရှိပါသေးတယ်။ အကျယ်တဝင့် ငြင်းခုံစရာ အချက်တစ်ချက်လို့ ဆိုရင်လည်း ဖြစ်ပါတယ်။ အဲဒါကတော့ ဝီလီယမ်ရှိတ်စပီးယား (William Shakespeare) ဟာ အဗွန်မြစ်ရိုးက စတြပ်ဖို့ (Stratford–on–avon) မှာနေတဲ့ လူတစ်ယောက် ဖြစ်တယ်လို့ 'ရှေးရှေးက' ရေးဖူးသမျှ လက်သုံးစာအုပ်တွေက ဖော်ပြတာကို ပယ်ဖျက်ပြီး၊ အက်ဒွပ်ဒေဗရာ (EdWard de Vere) ဖြစ်တယ်လို ဖြည့်စွက် တင်ပြချက် ဖြစ်ပါတယ်။ အဲဒီလို အပြောင်းအလဲကို သိပ်ပြီး စိတ်ပါလက်ပါ ရေးလိုက်တာ မဟုတ်ပါ။ ဆင်ခြင် တွေးတောချက် တွေနဲ့ မရဲတရဲ ရေးတာဖြစ်ပါတယ်။ ပထမပုံနှိပ်မှုမှာ ကျွန်တော် သိပ်မှားသွားပါတယ်။ အများနဲ့ ရောယောင်ပြီး လိုက်မိ ပါတယ်။ အချက်အလက်တွေကို အသေအချာ မစစ်ဆေးမိပါ။ အဲဒါကြောင့် သူတကာပြောသလို ပြဇာတ်ရေးဆရာဟာ စတြပ်ဖို့သားဆိုတာ လက်ခံခဲ့တယ်။

အဲဒီအချိန်ကစပြီး ဒီပြဿနာရဲ့ နှစ်ဦးနှစ်ဖက် ထွက်ချက် တွေကို နှိုင်းယှဉ်လေ့လာတယ်။

သက်သေပြချက်တွေကို ချိန်ခွင်မှာ တင်ပြီး ချိန်စက် သလို လုပ်လိုက်တော့ စတြပ်ဖို့ထက် ဒေဗာဘက်က သိသိသာသာ အချိန်စီးနေတာ တွေ့ပါတယ်။ အခုလို စာအုပ်မျိုးမှာ စတြပ်ဖို့ထက် ဒေဗရာသာ ဇာတ်ဆရာ ဖြစ်ထိုက်ကြောင်း တင်ပြသမျှ အထောက်အထားတွေကို အားလုံး ထည့်မရေးနိုင်တာကို ဝမ်းနည်းပါတယ်။ စာဖတ်ပရိသတ် အများစုက အခုလောက်ဖော်ပြတာကို ကျေနပ် လောက်တယ် လို့ ထင်ပါတယ်။ ပိုပြီးပြည့်စုံအောင် အသေးစိတ်ဖတ်လိုတဲ့ ပုဂ္ဂိုလ်တွေက ချာလ်တန် အော့ဂ်ဘန်း (Charlton ogburn) ရေး အထူးကောင်းတဲ့ လျှို့ဝှက်နက်နဲတဲ့ ဝီလီယမ် ရှိတ်စပီးယား (Mysterious William Shakespeare) ဆိုတဲ့ စိတ်ပါဝင်စားစရာ အကြောင်းအရာ တစ်ခုကို တိကျအောင် ရှင်းလင်းနိုင်တဲ့ စာအုပ်ကို ဖတ်ပါလို့ပဲ ညွှန်းပါရစေ။

ဂေါ်ဗာချော့အပြင် ပထမအကြိမ်ထုတ် စာအုပ်မှာ မပါဘဲ ခုမှထပ်ဖြည့်တာက အာနက်စ်ရူသာဖို့ဒ် (Earnest Rutherford) နဲ့ ဟင်နရီဖို့ဒ် (Henry Ford) ဆိုတဲ့ ပုဂ္ဂိုလ် နှစ်ယောက် ဖြစ်ပါတယ်။

ရူသာဖို့ဒ်က နှစ်ဆယ်ရာစုနှစ်ရဲ့ အထင်ရှား အကျော်ကြားဆုံး သိပ္ပံပညာရှင် ဖြစ်တယ်။ ပထမ အကြိမ်ထုတ် စာအုပ်မှာ ဒီလိုပုဂ္ဂိုလ်ကို ကျွန်တော် ဘာကြောင့် ချန်ပြီး မဖော်ပြမိသလဲလို့ မပြောတတ်တော့ပါ။ သိပ္ပံပညာရှင်အများစုက ကျွန်တော့် ပေါ့လျော့မှုကို အံ့ဩကြတယ်။ သူ့သိပ္ပံစွမ်းဆောင်ချက်ကို စိစစ်မိတဲ့အခါ ခေတ်အဏုမြူသီအိုရီ (Atomic Theory) မှာ အမှတ် (၁၀၀) နေးစ်ဘော (Niels Bohr) လုပ်ခဲ့တာထက် သာတယ်။ ရေဒီယိုဓာတ်သက်ပုံ (radioactivity) ကို တင်ပြတဲ့အခါ သူက ဘက်ကျူရယ် (Becquerel) အမှတ် ၅၈ တင်ပြ နိုင်တာထက် အများကြီးအဖိုးတန်အောင် တင်ပြနိုင်တာကို တွေ့ရပါတယ်။

ဟင်နရီဖို့ဒ်ကို ပထမအကြိမ် ထုတ်စာအုပ်မှာ အထိုက်အလိုက်(အသင့်အတင့်) ဂုဏ်ပြု ထားပါတယ်။

စာဖတ်ပရိသတ်တွေ အတော်များများက သူ့ကို ကျွန်တော်က နှိမ်ထားတယ်၊ ဒီအချက်တွေ ကြည့်ပါတော့လား၊ သူလည်း ကျော်စွာ ၁၀၀ မှာ ပါသင့်တာပေါ့လို့ ထောက်ပြကြတယ်။ ဒါကို ပြန်ပြီး စဥ်းစားကြည့်တော့ ကျွန်တော့်ကို ဝေဖန်တဲ့လူ တွေ မှန်တယ်လို့ သိရပါတယ်။ ဒါနဲ့ အခုလို ပြင်ဆင်ချက် လုပ်ရတာ ဖြစ်ပါတယ်။

ဒီလို လုပ်နေတာကို ဆန္ဒမဲယူပြီး ကပြောင်းကပြန် လုပ်နေတယ်လို့ မယူဆစေလိုပါ။ ကန့်ကွက်စာများလို့ ဖို့ဒ်(Ford) နဲ့ပတ်သက်ပြီး ကျွန်တော့် အယူအဆကို ပြင်တာ မဟုတ်ပါ။ တချို့အချက်တွေမှာ ကန့်ကွက်စရာတွေပါတယ်။ ဒါပေမဲ့ အားလုံးခြုံကြည့်ရင် စာရေးသူတွေ မှန်တယ်။ ဒီစာရင်းမှာတော့ အထက်အောက် နေရာချတာကတော့ မှားမှားမှန်မှန်

ကျွန်တော် တစ်ယောက်တည်းရဲ့ ဆုံးဖြတ်ချက် ဖြစ်ပါတယ်။ စာဖတ်သူတွေရဲ့ ညွှန်ကြားချက် မပါပါ။

ထိပ်ပိုင်းတစ်ရာမှာ ဂေါ်ဗာချော့၊ ရှုသာဖို့ဒ် နဲ့ ဖို့ဒ်ကို ထည့်လိုက်တော့ စောစောက တစ်ရာထဲက သုံးယောက်ကို ပယ်ရတယ်ပေါ့။ နေးစ်ဗော (Niels Bohr)၊ ပါဗလို ပီကာဆို (Pablo Picasso) နဲ့ အန်တွိုင်း ဟင်နရီ ဘက်ကျူရယ် (Antoine Henri Becqerel) တို့ဖြစ်ပါတယ်။ ဒီလို လုပ်လိုက်လို့ ဒီပုဂ္ဂိုလ်သုံးဦးဟာ အရေးမပါ အရာမ ရောက်လို့ မထင်ပါနဲ့။ သူတို့ကို ကျွန်တော်က နေရာ မပေးနိုင်ပေမယ့် ဂုဏ်ပြုထိုက်သူ အမျိုးသား၊ အမျိုးသမီးတွေ ဖြစ်တယ်။ သူတို့လည်း ပါရမီရှင်တွေ၊ ထူးခြားတဲ့အရည်အချင်းရှိပြီး ဩဇာ ကြီးမားသူတွေ၊ ကျွန်တော်တို့ မီတင်းနေထိုင်တဲ့ ဒီကမ္ဘာကို နှစ်သက်မြတ်နိုးဖွယ်ရှိအောင် ဆိုင်ရာ ဆိုင်ရာက ဖန်တီးပေးနိုင်တဲ့လူတွေသာ ဖြစ်ပါတယ်။

မိုက်ကယ်အိပ်ချ်ဟတ်

Michael H.Hart.

ဇန်နဝါရီ၊ ၁၉၉၂။

**ဉာဏ်ရွှင်ခြင်း၊ ပညာထူးခြင်း ဆိုတာတွေကြောင့် ပေါ်လာတဲ့ အသိတရားတွေဟာ လက်နဲ့ တည်ဆောက်တဲ့ အဆောက်အအုံ တွေထက် ကြာရှည်ခံတယ်။ ဒီစကားမှန်တယ်ဆိုတာ ဟိုမာရဲ့ ကဗျာတွေက သက်သေခံတယ်။ သူ့ကဗျာထဲက စာတစ်လုံးဟာ အနှစ် နှစ်သောင်း ငါးထောင်ကြာလည်း မပျောက်မပျက် ကျန်ရှိနိုင် တယ်။ ဒီအတောအတွင်း တည်ဆောက်ထားတဲ့ နန်းတော်၊ နတ်ကျောင်း၊ ရဲတိုက်နဲ့ မြို့တော်ကြီးတွေ ပျက်စီးတာ၊ ဖျက်ဆီးတာ အကြိမ်ကြိမ်ခံခဲ့ကြရပါပြီ။**

ဖရန်စစ်ဘေကွန်။

# နိဒါန်း

အင်္ဂလိပ်စာပေအကြောင်း ရေးတဲ့ စာအုပ်တွေထဲမှာ ဖော်လတဲက ၁၇၂၆ သူ့ အင်္ဂလန်မှာ နေစဉ်အခိုက် ဆီဇာ၊ အလက်ဇန္ဒား၊ တမာလိန်း၊ သို့မဟုတ် ကရွမ်းဝဲလ် ဘယ်သူက အစွမ်းသတ္တိ အကြီးဆုံးလဲလို့ ငြင်းနေသံကို ကြားဖူးတယ်။ ဒီအထဲမှာ တစ်ယောက်ကဖောက်ပြီး ဆာအိုက်ဆက်နယူတန်ကဘာမှငြင်းစရာမရှိ အောင် အကြီးမြတ်ဆုံးဖြစ်တယ်လို့ ပြောတယ်။ ဖော်လတဲက အဲဒီစကားကို ထောက်ခံတယ်။ ဘာပြုလို့လဲဆိုတော့ အဲဒီပုဂ္ဂိုလ်က ရှေ့ဆောင်ပေးလို့ ငါတို့ဟာ အမှန်တရားရဲ့ သတ္တိကို သိလာတယ်။ အကြမ်းဖက်ပြီး ငါတို့ကို ကျွန်ပြုလို့မရဆိုတဲ့ သဘောတရားကို ငါတို့ လေးစားတယ်။ ခုလို ဖော်လတဲက ဆာအိုက်ဆက် နယူတန်ဟာ လူသားမှန်သမျှမှာ အကြီးမြတ်ဆုံးပဲ ဆိုတာ စွဲမြဲ ယုံကြည်ချက်လား၊ ဒဿနိက အမြင်လားဆိုတာ ခွဲပြီး ပြောပြစေချင်တယ်။ ဒီလိုပြောလေ မေးစရာအချက်တစ်ခု ပေါ်လာလေ ဖြစ်ပါတယ်။ လူတွေ ကုဋ္ဌေကုဋာနေကြတဲ့ ဒီကမ္ဘာမှာ ဘယ်ပုဂ္ဂိုလ်ဟာ သမိုင်း တစ်လျှောက်လုံးမှာ ဩဇာအရှိဆုံးလဲလို့ မေးလိုပါတယ်။

ဒီစာအုပ်ထဲမှာ ကျွန်တော် အဖြေကို ပေးထားပြီး ပါပြီ။ သမိုင်းမှာ ဩဇာအရှိဆုံးလူ တစ်ရာရှိတယ်။ ဩဇာ အရှိဆုံး ဆိုတဲ့စကားကို သတိပြုပါ။ အကြီးမြတ်ဆုံး လို့ မဆိုလိုပါ။ ဥပမာ ဩဇာသိပ်ကြီးပြီး အကြင်နာ အကင်းမဲ့ဆုံး၊ အရက်စက်ဆုံး စတာလင်လိုလူကိုလည်း ကျွန်တော့် စာရင်းမှာ တွေ့ပြီး သူတော်စင် တမျှ ကြီးမြတ်တဲ့ အမိ စဗရိနီတော့ နေရာမပေးပါ။

ဒီစာအုပ်မှာ ရည်ရွယ်ချက်တစ်ခု ရှိတယ်။ အဲဒါက ကမ္ဘာ့သမိုင်းနဲ့ သမိုင်းလမ်းစဉ်ကို အများကြီး လွှမ်းမိုး နိုင်တဲ့ လူ ၁၀၀ ဟာ ဘယ်သူတွေလဲလို့ ရှာရတာဖြစ်ပါတယ်။ ဒီတစ်ရာ အရေအတွက်ရှိတဲ့ လူတွေကိုလည်း ဆင့်ကဲ ဆင့်ကဲ ကြီးမြင့်သူကို ဆွဲထုတ်ပြီး တန်းစီရပါတယ်။ သမိုင်းမှာ အရာ ရောက်တာအပြင် လူတွေနေ့စဉ်ဘ၀ကို ဘယ်လို ပြုပြင်ပြောင်းလဲစေသလဲလို့ ကြည့်ရပါသေးတယ်။

လူစုဆိုရာမှာလည်း လက်ရွေးစင်လား၊ သာမန်လား ဆိုတာ ကြည့်ရပြန်တယ်။ ကျော်ကြားသလား၊ မထင်မရှားပဲလား ဆိုတာ ပိုင်းခြား ရပြန်တယ်။ ဝင့်ဝါသလား၊ ပုံမှန်လား။ အဲဒီလူတွေဟာ ငါတို့ဘ၀၊ ငါတို့နေ့စဉ် နေဟန် စားဟန်တွေကို ဘယ်လို အကျိုးပြုသလဲ ဆိုတာလည်း စစ်ဆေးရပါတယ်။

အခုပြောတဲ့အတိုင်း စာရင်းတင်ကြည့်နိုင်ဖို့ အခြေခံ ဥပဒေသက ဘယ်သူဟာ ဘာကြောင့် ဒီစာရင်းမှာ ထည့်သွင်းဖော်ပြထိုက်တယ်ဆိုတဲ့ အချက်ကို

ထုတ်ဖော်ရခြင်း ဖြစ်ပါတယ်။ ပထမအချက်က ဒီလိုနာမည်နဲ့ ဒီလူ တကယ် ရှိဖူးသလား ဆိုတာရှာရတယ်။ ဥပမာ တရုတ် ပညာရှင် လောင်ဇုဆိုတာ တကယ့် ပုဂ္ဂိုလ်လား၊ ဒဏ္ဍာရီထဲက ပညာရှိလား ဆိုတာမျိုး စစ်ဆေးရတာကို ဆိုလိုပါတယ်။ ဒီလိုစစ်ဆေးလို့ ဟိုမာ၊ အီစွတ် ဆိုတာတွေ ရှိတယ်။ အီစွတ်ပုံပြင်များလို့သာ ခေါ်နေကြတာ အဲဒီလူ တကယ်ရှိသလား။ ကျွန်တော်က မှန်းဆ ရပါတယ်။ ရနိုင်စွမ်းရှိသလောက် မျှော်ထောက်တဲ့ အမှန်းအဆ (Studied Guess) ဖြစ်ပါတယ်။

ရေးသူအမည်မသိ ဆိုတာမျိုးကိုလည်း ထည့် စဉ်းစားလို့မရပါ။ မျက်ဝါးထင်ထင် ဥပမာပြရရင် လှည်းဘီး အသုံးချနည်းကို လူပုဂ္ဂိုလ် တစ်ဦး တည်းက ရှာတွေ့တယ်ဆိုရင် အဲဒီလူရဲ့ ကျေးဇူးဟာ သိပ်ပြီး ကြီးတယ်။ သူ့ကို ဂုဏ်ပြုရမယ်။ အကြောင်းအရာတွေက အများကြီး ဖြစ်နေတယ်။ ဒီစာအုပ်မှာ သူဟာ အရေးပါသူ တွေရဲ့စာရင်းမှာ ထိပ်ဆုံးက ထည့်သွင်းရမှာ ဖြစ်ပါတယ်။ သူ့လိုပဲ စာရေးနည်းပညာကို စတင် ဖော်ထုတ်သူ ဆိုတာမျိုးတွေ ရှိတယ်။ လူသားအားလုံးရဲ့ ကျေးဇူးရှင် ဖြစ်ပေမယ့် ဘယ်သူဘယ်ဝါလို့ နာမည်တပ်စရာ လူရှာ မတွေ့ပါ။ အဲဒီတော့ အခုပြုစုတဲ့ စာရင်းထဲမှာ ထည့်ထားလို့ မရနိုင်ပါ။

ဒီစာရင်းလုပ်တဲ့အခါ သမိုင်းမှာ ထင်ရှား ရှိသူကိုသာ ရွေးပြီးတန်းစီရပါတယ်။ နာမည်ကြီးတယ်၊ အစွမ်းရှိတယ်၊ အကျင့်ကောင်းတယ်၊ (အမျိုးမြတ်တယ်) ဆိုတာတွေဟာ သူ့ကြောင့် လူသတ္တဝါတွေမှာ အကျိုးခံစားချက်များတယ် ဆိုတာနဲ့ မဆိုင်ပါ။ ဒါကြောင့် ဘင်ဂျမင် ဖရန်ကလင်၊ မာတင်လူသာကင်းဂျူနီယာ၊ ဗဗိရှယ်နဲ့ လီယိုနာဒို ဒါဗင်ချီတို့လိုလူဟာ ကျော်စွာ ၁၀၀ ထဲမပါဘဲ နောက်ဆက်တွဲ ၁၀၀ ထဲ ရောက်သွားရတာဖြစ်ပါတယ်။ လူသားတွေအပေါ်မှာ လွှမ်းမိုးတာဟာ အကြင်နာ မေတ္တာတရား သက်သက်ကြောင့် မဟုတ်ပါ။ ဟစ်တလာလို မိုက်ရိုင်းသူလည်း ပါသင့်မသင့် စဉ်းစား ခွင့်ပြုပါသေးတယ်။

နိုင်ငံရေးခေါင်းဆောင်ဆိုရင် ဒေသအလိုက်သာ လူအများကို ကျေးဇူးဆပ်ဖို့ ဆောင်ရွက်သူဖြစ်လို့ ဒီစာရင်းမှာ မပါနိုင်ပါ။ ဒါပေမယ့် ရှုရှားက မဟာပီတာ ဆိုရင် သူစိုးမိုးတဲ့နိုင်ငံဟာ အတိုင်းအတာ ကြီးမားတယ်။ တခြားဒေသတွေ မှာလည်း စပ်ဟပ်တိုးပွားပြီး ဩဇာရှိတယ်ဆိုရင် သူတို့ကို အခုစာရင်းမှာ ထည့်ရပြန်တယ်။

အခုလက်ငင်း လူ့ဘောင်လောကရဲ့ ကျေးဇူးရှင် တွေကိုသာ ဒီစာရင်းမှာ ထည့်သွင်း ထားတယ်ဆိုတာလည်း မဟုတ်ပါ။ ရှေးအထက် ကာလက လူသားကို ကျေးဇူးပြုတဲ့ ပုဂ္ဂိုလ်တွေကိုလည်း အလားတူ ထည့်သွင်း ထားပါတယ်။

ရှေ့အဖို့ ဘယ်လိုလုပ်မှာလဲ။ အခုထင်ရှားသူ တွေရဲ့ အစွမ်းဟာ ရှေ့အဖို့ ဘယ်လောက် ဆက်ရှိ နိုင်သေးသလဲ ဆိုတာကို ခန့်မှန်းရပါတယ်။ ဒါပေမယ့် ရှေ့ကို မြင်နိုင်ဖို့ ဆိုတာလည်း သိပ်ခက်ပါတယ်။ ဒါပေမယ့် ဥပမာ လျှပ်စစ် ဓာတ်အားဆိုရင် ရှေ့အနှစ်ငါးရာမှာလည်း အရေးပါနေဦးမှာ ဖြစ်ပါတယ်။

သိပ္ပံပညာရှင် ဖာရာဒေးတို့၊ လက်ဆဲဝလ်တို့ ကျေးဇူးဟာလည်း ရှေ့လူအဆက်ဆက်မှာ ဆက်လက် ကျေးဇူးပြု နေဦးမှာ ဖြစ်ပါတယ်။

လူပုဂ္ဂိုလ်တစ်ဦးကို ဂုဏ်ပြုစာရင်းရဲ့ ဘယ်နေရာမှာ ထည့်ရမယ်ဆိုတာကို စဉ်းစားတဲ့ အခါ သမိုင်းစဉ်ဆက် လှုပ်ရှားမှုနဲ့ တွဲပြီး ကြည့်ရပါတယ်။ ဒါပေမယ့် အမှန်က သမိုင်း ပြောင်းလဲချက်ဟာ လူတစ်ဦး တစ်ယောက်ရဲ့ အစွမ်းကြောင့်လို့ ပြောမဖြစ်ပါ။ ဒီစာအုပ်က လူတစ်ဦးချင်း သူ့ဩဇာ သူ့ဂုဏ်သတင်းကို အကဲဖြတ် ရတာဖြစ်လို့ တတ်နိုင်သလောက် ဒီပုဂ္ဂိုလ်ဟာ ဒီအရေးအခင်းမှာ ဘယ်အခန်းက ပါဝင် သလဲဆိုတာကို ပေါင်းစပ်နိုင်ဖို့ ကြိုးစား ရတယ်။ အဲဒီမှာပဲ လူဟာ အရေးအခင်းရဲ့ နောက်ကွယ် ကဆိုတာ ထင်ရှားလာပါတယ်။ ဒါပေမယ့် ဒီလူကြောင့် ဒါဖြစ်တယ်ဆိုတာမျိုး သိသာ ထင်ရှားရင်တော့ ဒီလူကို စာရင်း ရှေ့ပိုင်းမှာ ထည့်သွင်းရမှာ အမှန်ဖြစ်ပါတယ်။

ဥပမာ ဖော်ထုတ်ပြရရင် မိုဟာမက်ဟာ ဂျီးစပ်စ်ရှေ့က ရောက်သွားပါတယ်။ ကျွန်တော့်အထင် မိုဟာမက်က မူစလင် အယူအဆကို ဂျီးစပ်စ်က ခရစ်ယာန် အယူအဆကို ပျံ့အောင် ဆောင်ရွက်တာထက် ပိုတာကိုတွေ့လို့ ဖြစ်ပါတယ်။ ဒီနေရာမှာ ဆက်ပြောချင်တာက မိုဟာမက်ဟာ ဂျီးစပ်စ်ထက်ပိုပြီး ကြီးမြင့်တယ်လို့ မဆိုလိုပါ။

အင်မတန်ကြီးကျယ်တဲ့ အဖြစ်အပျက်တွေမှာ လူပေါင်း အမြောက်အမြား ပါဝင်တယ်။ ဘယ် တစ်ယောက် ကမှ နောက်တစ်ယောက်ထက် ပိုတယ်လို့ မရှိပါ။ ဥပမာ ယမ်းကို သုံးပြီး ဖောက်ခွဲနိုင်တယ်၊ သေနတ်နဲ့ လိုရာကို ချိန်ပြီး အတိအကျမှန်အောင် ပစ်နိုင်တယ် ဆိုတာတွေမှာ လူတစ်ဦး တစ်ယောက်တည်းရဲ့ ဆောင်ရွက်ချက် မဟုတ်ဘူး ဆိုတာ တွေ့ရမယ်။ အမျိုးသမီး လွတ်မြောက်ရေး လှုပ်ရှားမှုကိုလည်း ကြည့်ပါ။ ဟိန္ဒူတွေရဲ့ အယူ (ဗြဟ္မဏ)မှာလည်း ဒီအတိုင်း ဟိုကဒီက အယူအဆတွေ ပေါင်းပြီး ဖြစ်ပေါ်လာတာပဲ မဟုတ်လား။ ဒီလိုပေါ်ထွန်း ဖြစ်မြောက်တိုးတက်လာတဲ့နေရာမှာ ပါဝင် ပတ်သက် သူတွေ များတယ်။ အဲဒီလို ဆောင်ရွက်ကြတဲ့ အထဲမှာ တစ်ယောက်ချင်း ထင်ရှားသူရှိမယ်။

ဒါပေမယ့် အဲဒီအများစုထဲက တစ်ယောက် တည်းကို ထုတ်လိုက်ပြီး ဒီစာအုပ်ထဲမှာ ထည့်ချင် ပါတယ်ဆိုလို့ သူ့အတွက် နေရာမရနိုင်ပါ။

ဒီလို တိုးတက်မှု အစဉ်တစိုက် ရှိနေတဲ့အထဲမှာ တိုးတက်မှု တစ်ကွက်စီအတွက် လူတစ်ယောက်စီ ခွဲထုတ်ပြီး သူ့ကို ဂုဏ်ပြုလို့ကော မဖြစ်နိုင်ဘူးလား မေးပါ။ မဖြစ်နိုင်ပါ။ အခုပြော သလို လုပ်မယ်ဆိုရင် ဟိန္ဒူဒဿနိက ဆရာ သင်္ကာရကို ဟိန္ဒူအယူဝါဒအတွက် ထိပ်တန်းမှာ ထားရလိမ့်မယ်။ ဒါပေမယ့် သင်္ကာရဟာ ကျော်ကြားခြင်း လည်း မရှိ၊ အိန္ဒိယ အပြင်မှာလည်း သိသူမရှိ ထူးခြား ပြောင်မြောက်အောင် တော်တယ်လို့လည်း မဆိုနိုင်။ ဒီလိုပဲ ယှဉ်ပြိုင်စံနှုန်း သီအိုရီ (Relative Theory) ဟာ သေနတ် လက်နက် ဖြစ်မြောက်နည်းလောက် အသုံးမတည့်ပါဘူးလို့ ပြောပြီး ရှေးပုံစံနဲ့လုပ်ခဲ့တဲ့ စက်သေနတ်ကိုလုပ်သူ

ရစ်ချတ်ဂက်တလင်ကို အယ်လဘတ် အိုင်စတိုင်း ရှေ့က ထားမိရင် ကျွန်တော့်ကို ကရော်ကမည်လုပ်ပြီလို့ ပြောကြတော့မယ်။ ဒီလိုရွေးတဲ့အခါ 'ရည်တူချင်းမှာ သူကသာတယ်'လို့ မဖြစ်အောင် သတိထားရပါတယ်။ ဒီစာအုပ်မှာထည့်ဖို့ ပုဂ္ဂိုလ်တစ်ဦးကို ဒီအရေးမှာ ထင်ရှားတယ်ဆိုရုံနဲ့ မထည့်ပါ။ လက်တွေ့မှာ သူ့ဩဇာကြီးတယ်ဆိုမှ ထည့်ဝံ့ပါတယ်။ လူပုဂ္ဂိုလ် နီးနီးစပ်စပ် နှစ်ဦးပေါင်းပြီး လုပ်ငန်း တစ်ခုကိုလုပ်လို့ အောင်မြင်သွားတယ်ဆိုရင် သူတို့ကို နေရာပေးဖို့ ဥပဒေသတ်သတ် လုပ်ပေးထားရပါတယ်။ ဥပမာ အောဗီလီ (Orvile) နဲ့ ဝေလဗာရိုက်(Wilbur Wright) တို့ ပူးပေါင်းပြီး လေယာဉ်ပျံလုပ်တာကို ဘယ်သူက လေယာဉ်ပျံရဲ့ ဘယ်အပိုင်းကို လုပ်တာလို့ ခွဲပြခိုင်းဖို့က ခဲယဉ်းပါတယ်။ ခွဲခြမ်းပြီး ပြသင့်တာမျိုးလည်း မဟုတ်ပါ။ ပြီးတော့ ဒီစာအုပ်မှာလည်း တစ်ကွစီ ထည့်ဖို့လည်း မဖြစ်ပါ။ နှစ်ယောက်ပေါင်းပြီး ဖော်ပြဖို့သာ သင့်တော်တယ်လို့ ဆုံးဖြတ်လိုက်ရပါတယ်။ ရိုက်ညီနောင်လိုပဲ ကားလ်မာ့က်စ်နဲ့ ဖရက်ဒရစ် အိန်ဂျဲလ်တို့ကို ပေါင်းပြီး ဖော်ပြရတယ်။ ဒါပေမယ့် မာ့က်စ်နာမည်ကို ရှေ့ကထားတယ်။ သူတို့ နှစ်ယောက်မှာ မာ့က်စ်က ပိုတယ်လို့ ကျွန်တော်က ယူဆလို့ပါ။ အခုလို အတွဲလိုက်ဖော်ပြဖို့ ပေါ်ပေါက်တဲ့ အခါတိုင်း အခုပြောသလို ရွေးချယ်ဖော်ပြပါတယ်။ ဒီမှာ ထပ်ပြီး ရှင်းချင်တာက လူနှစ်ဦးရဲ့ လုပ်ငန်းနယ်တူလောက်နဲ့ တွဲပြီး မဖော်ပြပါ။ တကယ်ပူးကပ် ဆောင်ရွက်မှသာ အခုလိုတွဲပြီး ဖော်ပြတာ ဖြစ်ပါတယ်။

ဒီစာအုပ်မှာ နေရာရဖို့ရွေးတဲ့အခါ ထည့်သွင်း စဉ်းစားစရာ နောက်တစ်ချက် ရှိပါသေးတယ်။

ရှေ့နောက် ဆက်ပြီး ဆင်ခြင်လိုက်ရင် တကယ်လို့ ဂူလီယယ်မိုမာကိုနီက ရေဒီယို (Radio) ကို စတင် တီထွင်ပေမယ့် အဲဒီကာလအတွင်းမှာ တစ်ယောက် ယောက်က လုပ်မှာဖြစ်ပါတယ်။ အဲဒီလိုပဲ ဖာနန်ဒို ကော်တက်ဇ် မပေါ်ပေါက်ပေမယ့် စပိန်က မက္ကဆီကို သိမ်းယူတယ်။ စဉ်ဆက်မပြတ် ပြောင်းလဲ တတ်တယ်ဆိုတဲ့ သီအိုရီကို ချားလ်စ်ဒါဝင် စပြီးမပြောလည်း ပြောမယ့်သူ ပေါ်လာမှာ ဖြစ်ပါတယ်။

အခု မာကိုနီ၊ ကော်တက်ဇ်နဲ့ ဒါဝင်တို့က ဖန်တီး ကြတာကို တွေ့ရပါပြီ။ ဒီသုံးယောက်ကို ဆိုင်ရာနေရာမှာ ဖော်ပြပါတယ်။ ဘာပဲပြောပြော ဒါတွေကတော့ ပေါ်ပေါက် လာမှာပဲ ဆိုတဲ့ဆင်ခြေကို မသုံးလိုက်ပါ။

တစ်ဖက်က ပြောစရာရှိတာက ဒီလူမှ မပေါ်ပေါက်ရင် ဒါမျိုး ဖြစ်ကို မဖြစ်ဘူး ဆိုတာမျိုး လည်း ရှိပါတယ်။ အဲဒီအစု ထဲမှာ အဆန်းတကြယ်စမ်းသူတွေက ဂျိန်ဂျစ်ခန်၊ ဘီသိုဗင်၊ မိုဟာမက်နဲ့ အောင်နိုင်သူ ဝီလီယမ်တို့ ဖြစ်ပါတယ်။ သူတို့ရဲ့အစွမ်းဟာ တကယ်ပဲ ကြီးမားတယ်။ သူတို့ရဲ့ ဩဇာဟာ အမှန်တကယ်ကို နာမည်နဲ့လိုက်အောင် ဩဇာ ရှိကြပါပေတယ်။

ကမ္ဘာ့လူသား အရေအတွက်ဟာ ကုဋေကုဋာ ရှိပေမယ့် လူတစ်သန်းမှာ တစ်ယောက် လောက်သာ အတ္ထုပ္ပတ္တိ အဘိဓာန်မှာ ပါတော့တယ်။ လူကျော်

နှစ်သောင်းလောက် ချီးကျူးစရာ တွေ့ရင် တစ်ရာပဲ ဒီမှာ ပါတော့တယ်။ အဲဒါကြောင့် ဒီမှာပါတဲ့ လူတိုင်းဟာ တကယ့်ကို လွန်လွန်ကဲကဲ ချီးကျူးထိုက်သူတွေ ဖြစ်ပါတယ်။ သူတို့ တစ်ဦးစီဟာ သမိုင်းမှာ ကြီးမားခန့်ထည်တဲ့ မှတ်တိုင်ကြီးတွေ ဖြစ်တယ်လို့ ဆိုရပါမယ်။

ဩဇာ ကြီးမားတဲ့ အမျိုးသမီးနာမည်ဖော်ပြတာ နည်းပေမယ့် သူတို့ရဲ့တန်ဖိုး၊ သူတို့ရဲ့ လူ့အရေးအခင်းမှာ ပါဝင်ပတ်သက်ပုံဟာ တကယ် အသိအမှတ်ပြုတာကို ခံရတာထက် အဆ အများကြီး သာပါတယ်။ အခုလို ဂုဏ်ပြု စာရင်းမှာ ပါဖို့ကတော့ အစွမ်းကြီးတာလည်း မှန်ရမယ်။ အရည်အချင်း တော်တိုင်း ကောင်းတိုင်း အစွမ်းပြ ခွင့်ရကြတာ မဟုတ်လို့ အစွမ်းပြခွင့်ရတဲ့ ပုဂ္ဂိုလ်သာ အစွမ်းပြနိုင်တယ် ဆိုတာကို သတိပြု သင့်ပါတယ်။ သမိုင်းတစ်လျှောက်မှာ အမျိုးသမီးတွေကို နေရာပေးတာ သိပ်နည်း နေပါတယ်။

ကျွန်တော်က အမျိုးသမီးနှစ်ဦးသာ ဒီမှာ ထည့်သွင်း ဖော်ပြနိုင်တာဟာ အခုပြောပြတဲ့ အချက်တွေကြောင့် ဖြစ်ပါတယ်။ ဒါပေမယ့် စာရင်း ထပ်ပြီး မတိုးရပါ။ ဘာပြုလို့လဲ ဆိုတော့ အထင်အရှားဖြစ်ခဲ့တာတွေကိုသာ ဖော်ပြမယ်လို့ အခြေခံ သဘောထားရှိလို့ ဖြစ်ပါတယ်။ ဒါမျိုးဖြစ်သင့်တယ်။ ဒီလိုဆိုမှ တရားမှာပေါ့ဆိုတဲ့ ဆင်ခြေတွေကို အရေးမယူသာပါ။ ဒီလို စကားမျိုးကို လူမျိုးအလိုက်နဲ့ ပြောစရာတွေ ရှိပါသေးတယ်။ ဖိစီးနှိပ်စက်တဲ့ဒဏ်နဲ့ အမျိုးကောသွားလို့ အဲဒီအထဲက ပညာတတ် လူရည်ချွန်တွေ ပျောက်ကုန်တာလည်း အများကြီး ရှိပါတယ်။

ဒီနေရာမှာ တကယ့်ဩဇာထိတွေ့တာကို မြင်ရ သိရမှ ကျွန်တော်တို့က ထည့်သွင်း ဖော်ပြနိုင်တာမျိုး မဟုတ်ရင် ထင်ပေါ်ခြင်း၊ ကြည်ညို လေးစားခံရခြင်း၊ အစွမ်းထက်မြက်ခြင်း၊ စွယ်စုံတော်ခြင်း၊ စာရိတ္တ ကောင်းမွန်ခြင်း ဆိုတဲ့ အရည်အသွေးတွေနဲ့ စာရင်း တစ်မျိုးလုပ်ပြီး ကျမ်းတစ်စောင် သီးခြားရေးနိုင်စရာ ရှိပါတယ်။

ဒီစာအုပ်ကို ဖတ်သူတွေက ကိုယ့်စိတ်ကူးနဲ့ ကိုယ့်ဘာသာ ဆုံးဖြတ်ပြီး လူကျော်စာရင်း လုပ်ကြည့်စမ်းပါ။

ဘယ်လုပ်ငန်း၊ ဘယ်အစွမ်း၊ ဘယ်အမျိုးဖြစ်ဖြစ် သိပ်တော်တဲ့လူတွေ ထွက်လာမှာ ဖြစ်ပါတယ်။ အခု ကျွန်တော် ဒီစာအုပ်ကို ရေးရတာ သိပ်ကျေနပ်တယ်။ သိပ်ပျော်တယ်။ စာဖတ်သူ တွေလည်း ကိုယ့်စိတ်ကြိုက် လူကျော်စာရင်း လုပ်ပြီး ကျွန်တော်ပျော်သလို ကျွန်တော် ကျေနပ်သလို လုပ်နိုင်ကြပါတယ်။

လူထူး တစ်ရာ၊ လူအံ့ တစ်ရာ ဆိုတာမျိုး ရှာဖွေပြုစုနိုင်ကြမယ်ဆိုရင် သမိုင်းသစ်ပေါ်လာမှာ အမှန်ဖြစ်ပါတယ်။

၁၂ နိုဝင်ဘာ၊ ၂၀၀၂။

# (၁) မိုဟာမက် (၅၇၀ – ၆၃၂)

# MUHAMMAD (570 – 632)

မိုဟာမက် (Muhammad) ကို ကမ္ဘာ့သြဇာအရှိဆုံး ပုဂ္ဂိုလ်ထဲမှာ ထိပ်ကထည့်လိုက်တာကို တချို့လည်း အံ့သြမယ်၊ တချို့လည်း ဟုတ်ရဲ့လား ကွယ့်လို့ မေးခွန်း ထုတ်မယ်။ သမိုင်းကိုပြန်ကြည့်ရင် ကိုးကွယ် ယုံကြည်မှုဘက်၊ ပြည့်ရေးရွာမှုဘက် နှစ်ဖက်စလုံးမှာ အကြီးအကျယ် အောင်မြင်ခဲ့တဲ့ ပုဂ္ဂိုလ်ဖြစ်တယ်။

အညတရ အနေက ကမ္ဘာ့အကြီးဆုံး ကိုးကွယ် ယုံကြည်မှု တွေထဲမှာ တစ်ခု အပါအဝင် ဖြစ်တဲ့ ယုံကြည်မှုကို ပေါ်ထွန်းစေတယ်။ အင်မတန် တန်ခိုးသြဇာရှိတဲ့ နိုင်ငံရေးခေါင်းဆောင်လည်း ဖြစ်ခဲ့တယ်။ ကွယ်လွန်ခဲ့တာ အနှစ် တစ်ထောင့် သုံးရာ ရှိပေမယ့် မိုဟာမက်ရဲ့သြဇာ ကြီးမား ရှင်သန်လျက် ရှိပါသေးတယ်။

ဒီကျမ်းထဲမှာပါဝင်တဲ့ ပုဂ္ဂိုလ်အများစုဟာ နိုင်ငံရေး အရ ဆိုလည်လို အချက်အချာဒေသ၊ ခလေ့ အရာမှာလည်း အမြင့်ဆုံးဒေသ၊ ယဉ်ကျေးမှု ဘက်မှာလည်း ဗဟိုဆိုတဲ့ နေရာတွေမှာပဲ မွေးဖွားခဲ့တဲ့ အချက်ဟာ ဒီပုဂ္ဂိုလ်တွေ အတွက် အခြေခံ ကောင်းတယ်လို့ ဆိုရမယ်။ ဒါပေမယ့် မိုဟာမက်ကို အဲဒီအခါက စာပေကျမ်းဂန်၊ အနုပညာနဲ့ ရောင်းဝယ်ရေး မထွန်းကား မတိုးတက်တဲ့ အာရေဘီးယား (Arabia) တောင်ဘက် မက္ကာ (Mecca) မှာ ၅၇၀ က မွေးဖွားခဲ့တယ်။ ခြောက်နှစ်သားမှာ မိဘမဲ့ကလေး ဖြစ်ရ ရှာပါတယ်။ လူတန်းစေ့ရဲ့ အနိုင်နိုင်နေရတဲ့ အခြေအနေမှာ ကြီးပြင်းခဲ့ရတယ်။ အစ္စလာမ် (Islam) အစဉ်အဆက်ပြောစကားအရ စာမတတ်ပါ။ အသက် နှစ်ဆယ့်ငါးနှစ်မှာ ကြွယ်ဝတဲ့မုဆိုးမနဲ့ အိမ်ထောင်ကျလို့ အနေအစား ချောင်လည်လာပါတယ်။ ဒါပေမယ့် အသက် လေးဆယ် အထိ သူ့ကို နောင် ထင်ရှားကြီးကျယ်မယ်လို့ ဘယ်သူမှ ထင်မှတ် ကြမယ် မဟုတ်ပါ။

ဟိုတုန်းက အာရပ် (Arab) အများစုဟာ မိစ္ဆာအယူ ရှိကြတယ်။ ဘုရားပေါင်းစုံ ကိုးကွယ်တယ်။ မိုဟာမက် ဟာ မက္ကာမှာ ဂျူး (Jew) နဲ့ ခရစ်ယာန် (Christian) လူနည်းစုတွေ ဆီက စကြဝဠာ တစ်ခုလုံးကို စီမံအုပ်ချုပ်တဲ့ တစ်ဆူတည်းသော ဘုရား၊ တန်ခိုးအကြီးဆုံးဘုရား ရှိတယ်လို့ ပြောဟောတာကို နာယူခဲ့ဖူးဟန် တူပါတယ်။ အသက်လေးဆယ်မှာ ဒီစစ်မှန်တဲ့ တစ်ဆူတည်း သောဘုရား (Allah) က တမန်တော်ကြီး ဂါဗရီယယ် (Archangel Gabriel) ကတဆင့် အယူမှန်ကို

ပုံ့နှံ့အောင်လုပ်ဖို့ သူ့ကို ရွေးချယ် တယ်လို့ သိရတယ်။

အစပထမသုံးနှစ်မှာ နီးစပ်ရာ အရင်းနီးဆုံး မိတ်သင်္ဂဟကိုပဲ ပြောဟောစည်းရုံးတယ်။ ပြီးမှ ၆၁၃ လောက်မှာ လူအများကို တွေ့ဆုံပြီး တရားဟောပါတယ်။ သူ့ အယူဝါဒကို သက်ဝင် ယုံကြည်တဲ့လူ တဖြည်းဖြည်း များလာတဲ့အခါ မက္ကာကို အုပ်ချုပ်သူတွေက 'အန္တရာယ်ပေးမယ့် မနှစ်မြို့ဖွယ် အနှောင့်အယှက်တစ်ခု' လို့ သတ်မှတ်လိုက်တယ်။ အဖမ်းအချုပ်လွတ်အောင် ၆၂၂ မှာ မက္ကာက မြောက်ဘက် မိုင် ၂၀၀ကွာ မေဒီနာ (Medina) ကို ပြေးခဲ့ရတယ်။ မေဒီနာမှာ နိုင်ငံရေးအာဏာ အသင့်အတင့်ရရှိသူတစ်ဦး ဖြစ်လာပါတယ်။ တိမ်းရှောင် တာကို ဟေဂိရ (Hegira) ခေါ်ပါတယ်။ အဲဒီလို တိမ်းရှောင်ခြင်းဟာ ပရောဖက် (Prophet) ဘဝမှာ အတက်တစ်ကွေ့ဖြစ်တယ်လို့ ဆိုနိုင် ပါတယ်။ မက္ကာမှာတုန်းက နောက်လိုက် အသင့်အတင့် ရှိခဲ့တယ်။ မေဒီနာမှာ နောက်လိုက်တွေ ပေါများပြီး ဘုရင်တစ်ဆူလို ကြီးမြင့် လာခဲ့ပါတယ်။

နှစ်နည်းနည်းအတွင်းမှာပဲ နောက်လိုက် ခြွေရံ သင်းပင်း အများကြီးဖြစ်လာပါတယ်။ မေဒီနာနဲ့ မက္ကာတို့ စစ်ပွဲအပြန်အလှန် အများကြီး တိုက်ခိုက် ကြရတယ်။ ၆၃၀ မှာ မက္ကာကို စစ်အောင်နိုင်သူ အဖြစ်နဲ့ ပြန်ရောက်ပါတယ်။ မကွယ်လွန်မီ တစ်နှစ်ခွဲ အတွင်းမှာ ယုံကြည်မှုအသစ်ကို အာရပ်မျိုးတူစုတွေ (Arab tribes) တစ်ဖွဲ့ပြီးတစ်ဖွဲ့ ကူးပြောင်းလာကြလို့ မိုဟာမက်ကွယ်လွန်တဲ့ ၆၃၂ အခါမှာ တောင်ဘက် အာရေဘီးယားတစ်ခုလုံးကို ကောင်းစွာ အုပ်စီးနိုင်တဲ့ပုဂ္ဂိုလ် ဖြစ်လာပါတယ်။

အာရေဘီးယားရဲ့ ဘီဒိုးအင်း (Bedouin) လူမျိုးစုဟာ အင်မတန် ကြောက်စရာကောင်းတဲ့၊ အစီအစဥ် ကောင်းတဲ့ စစ်သည်တွေလို့ ထင်ရှား ကျော်ကြားတယ်။ လူဦးရေကတော့ နည်းတယ်။ အချင်းချင်း မညီညွတ်လို့ နှစ်ဦးနှစ်ဖက်စလုံး ပြုန်းတီး ပျက်စီးကျဆုံးရတဲ့ စစ်ပွဲတွေ ဆင်နွှဲ နေကြလို့၊ သူတို့ရဲ့ မြောက်ဘက်က သူတို့ထက် အင်အားကြီးပြီး စိုက်ပျိုးရေးနဲ့ အခြေတကျ ကြီးပွားနေတဲ့ နိုင်ငံတွေရဲ့ တပ်တွေကို မယှဉ်ပြိုင် နိုင်ခဲ့ကြပါ။ ဒါပေမယ့် မိုဟာမက်စုစည်းပေးလို့ သူတို့သမိုင်းတစ်လျှောက်မှာ အခုလိုညီညွတ်မှုကို မရစဖူး ရပြီး၊ တစ်ဆူတည်းဖြစ်ပြီး စစ်မှန်သောဘုရား (God) ကို အပြင်းအထန် စွဲမြဲ ယုံကြည်စိတ်နဲ့ အာရပ် (Arab) တပ်ငယ် ကလေးတွေဟာ လူ့သမိုင်းမှာ အင်မတန် အံ့သြစရာ ကောင်းလောက်အောင် တစ်ခါထက် တစ်ခါ သာလွန် အောင်မြင်တဲ့ ပွဲစဥ်တွေကို တိုက်ခိုက်ခဲ့ကြတယ်။ အာရေဘီးယားရဲ့ အရှေ့မြောက်ဘက်မှာ စက်စနစ် (Sassanids) တွေရဲ့ ပါရှ အင်ပိုင်ယာသစ် (Neo–Persian Empire) ရှိတယ်။ အနောက်မြောက်ဘက်မှာ ကွန်စတန် တီနိုပယ် (Constantinople) ကို ဗဟိုပြုတဲ့ ဗိုင်ဇန်တိုင်း (Byzantine) ခေါ်တဲ့ အရှေ့ရောမ အင်ပိုင်ယာ ရှိတယ်။ ဂဏန်း အရေအတွက်ချပြီး ပြောကြမယ်ဆိုရင် ဒီရန်သူတွေကို အာရပ်တွေ မယှဉ်နိုင်ပါ။ လက်နက်နဲ့ ယှဉ်ရတဲ့စစ်ပွဲမှာတော့ တစ်မျိုးပဲ။

ယုံကြည်မှု နှိုးဆွထားတဲ့ အာရပ်တွေက ခပ်မြန်မြန် ပဲ မက်ဆိုပိုတေးမီးယား (Mesopotamia)၊ ဆီးရီးယား (Syria) နဲ့ ပါလက်စတိုင်း (Palestine) တို့ကို သိမ်းယူနိုင်ခဲ့တယ်။ အီဂျစ် (Egypt) ကို ၆၄၂ မှာ ဗိုင်ဇန်တိုင်း အင်ပါယာထံက ဖဲ့ယူပြီး ပါရှ (Persia) တပ်တွေကို ၆၃၇ ကဒီစိယ (Qadisiya) စစ်ပွဲနဲ့ ၆၄၂ နေဟာဗင် (Nehavend) စစ်ပွဲတွေမှာ ချေမှုန်းနိုင်ခဲ့တယ်။ ဒီနှစ်ပွဲဟာ အရေးအပါဆုံးပဲ။ ဒီပွဲနှစ်ပွဲနိုင်ရင် ကျန်ပွဲတွေဟာ မမှုလောက် တော့ဘူးလို့ ဆိုရမယ့်ပွဲတွေပါပဲ။

မိုဟာမက်ရဲ့ အရင်းနှီးဆုံးမိတ်ဆွေဖြစ်ပြီး မိုဟာမက်ကို ဆက်ခံသူတွေဖြစ်တဲ့ အဘူဘက္ကာ (Abu Bakr) နဲ့ ဥမာအိဗန်အာခတ္တဗ် (Umaribn al-Khattab) တွေက ကြီးမားလှတဲ့ အောင်မြင် သိမ်းပိုက်ပွဲတွေ ဆက်လုပ် ခဲ့တာမျှနဲ့လည်း အာရပ် တိုးတက်ကြီးပွားရေးဟာ မရပ်သေးဘူး။ အာရပ် တပ်မကြီးတွေဟာ မြောက်အာဖရိကကိုဖြတ်ပြီး အတ္တလန္တိတ် သမုဒ္ဒရာ ကမ်းခြေအထိ ၇၁၁ မှာ နယ်မြေသိမ်းယူပွဲကြီး လုပ်ပြီးနောက် မြောက်ဘက်ကို ဦးတည်ပြီး ဂျီဘရော်လ်တာ (Gibraltar) ရေလက်ကြားကိုဖြတ် စပိန် (Spain) က ဗီစီဂေါ့သ် (Visgoths) နိုင်ငံကို လွှမ်းမိုးလိုက်သေးတယ်။ ဥရောပရဲ့ ခရစ်နိုင်ငံတွေ အားလုံးကို မူစလင် (Muslim) က ဝါးမျိုတော့မလောက် စိုးရိမ်ရတဲ့ အခြေ ရောက်လှ ဆဲဆဲဖြစ်ပြီးမှ ၇၃၂ မှာ နာမည်ကျော် တိုး (Tours) ပွဲမှာ ပြင်သစ်နိုင်ငံအလယ်ပိုင်းအထိ ပေါက်မြောက် နေပြီဖြစ်တဲ့ မူစလင်တပ်ကို ဖရန့် (Franks) တွေက နိုင်လိုက်ပါတယ်။ ဒီလိုတစ်ရာစုနှစ်မျှလောက် လှုပ်ရှားတိုက်ခိုက်ရုံနဲ့ ဘီဒိုးအင်း လူမျိုးတွေဟာ တမန်တော် (Prophet) ရဲ့ အားပေးစကားမျှနဲ့ အိန္ဒိယနယ်စပ်က အတ္တလန္တိတ် သမုဒ္ဒရာအထိ ကျယ်ပြန့်တဲ့ နယ်မြေကို ရယူနိုင်တာဟာ အံ့ဩရမှာ ဖြစ်တယ်။ အခုအထိ ကမ္ဘာမှာ ဒါလောက် ကျယ်ပြန့်တဲ့ အင်ပါယာမျိုး မမြင်ဖူးသေးပါ။ အဲဒါအပြင် သူတို့ သိမ်းတဲ့နေရာတိုင်းမှာ သူတို့အယူကို လူတွေ အများကြီးက ပြောင်းယူ လာကြတာ ကိုလည်း တွေ့ရမှာ ဖြစ်ပါတယ်။

ဒီလိုအောင်ပွဲ အကြာအရှည် တည်မြဲတယ် လို့တော့ မပြောနိုင်ပါ။ တမန်တော် (Prophet) ရဲ့အယူကို ဆက်လက် ခံယူတယ်ဆိုပေမယ့် အာရပ်လက်အောက်က လွတ်လပ်ရေး ရခဲ့တဲ့ နိုင်ငံတွေ ရှိပါတယ်။ စပိန်မှာဆိုရင် အနှစ် ၇၀၀ ကျော်ကြာအောင် တိုက်ကြပြီးမှ ခရစ်အယူ ရှိသူတွေက ကျွန်းဆွယ်တစ်ခုလုံးကို ပြန်ရပါတယ်။ ရှေးအကျဆုံး ယဉ်ကျေးမှု စတင် ထွန်းကားတဲ့ မက်ဆိုပိုတေးမီးယားနဲ့ အီဂျစ်မှာ လိုပဲ အာရပ်နိုင်ငံဖြစ်တဲ့ မြောက်အာဖရိက ကမ်းခြေ တစ်လျှောက်မှာလည်း ဒီအတိုင်းပဲ တွေ့ရတယ်။

ကိုးကွယ်ယုံကြည်မှုသစ်ဟာ အဲဒီနောက် ရာစု နှစ်ပေါင်း များစွာ မလွဲကေန် ဆက်လက် ပျံ့နှံ့ခဲ့ပါတယ်။

စတင်တည်ထွန်းရာဒေသကနေ အများကြီး ဝေးကွာတဲ့ အရပ်တွေကို ရောက်သွားပြီး အာဖရိကနဲ့ အာရှ အလယ်ပိုင်းတွေမှာ ယုံကြည်သူ သန်းပေါင်း များစွာ ရှိသလို၊ ပါကစ္စတန်နဲ့ အိန္ဒိယမြောက်ပိုင်း၊ ပြီးတော့ အင်ဒိုနီးရှားမှာ

ပိုလို့တောင်များသေးတယ်။ အင်ဒိုနီးရှားဆိုရင် အားလုံး စည်းလုံးပေါင်းစပ်မိအောင် ကိုးကွယ် ယုံကြည်မှုက ဆောင်ရွက် ပေးနေပါတယ်။ အိန္ဒိယလို တိုက်ကြီး တစ်တိုက်နီးပါး ကြီးမား ကျယ်ပြန့်တဲ့ နေရာမှာတော့ ဟိန္ဒူ၊ မူစလင် ပဋိပက္ခဟာ ညီညွတ်ရေးရဖို့ အကြီးဆုံး အဟန့်အတား ဖြစ်ခဲ့ပါတယ်။

မိုဟာမက်ကို လူ့သမိုင်းမှာ ဩဇာအရှိဆုံးလို့ အကဲဖြတ်ဖို့ ခက်မနေဘူးလားလို့ မေးစရာ ရှိပါတယ်။ တခြား ကိုးကွယ်ယုံကြည်စရာ ဘာသာတရား တွေလိုပဲ အစ္စလာမ်တရားက ယုံကြည်သူတွေရဲ့ ဘ၀လမ်းကြောင်းကို ကောင်းကောင်း ထိန်းချုပ်ထားနိုင်ပါတယ်။ အဒီအချက် ကြောင့်ပဲ ဒီစာအုပ်မှာ ဘာသာတရား ခေါင်းဆောင်တွေကို ထိပ်တန်းကတင်ထားရတာ ဖြစ်ပါတယ်။ အကြမ်းအားဖြင့် ခရစ်သာသနာ၀င် လူဦးရေက မူစလင်လူဦးရေထက် နှစ်ဆ လောက်များ နေတယ်ဆိုပေမယ့် မိုဟာမက်က ဂျီးစပ်စ် (Jesus) ထက် သာတယ်ပြောရင်၊ ‘လွယ်လွယ်ကူကူ ပြောကြတယ်၊ ဟုတ်ပါ့မလား’ လို့ မေးစရာဖြစ်တယ်။ ဒီဘက်ကပြစရာ အရေးပါတဲ့ အကြောင်းအချက်နှစ်ခု ရှိပါတယ်။ ပထမတစ်ချက်က အစ္စလာမ်ပျံ့ပွားဖို့ မိုဟာမက် တာ၀န်ယူပုံက ခရစ်၀ါဒပျံ့ဖို့ ဂျီးစပ်စ်တာ၀န်ယူပြီး ဆောင်ရွက်ပုံထက် အများကြီး ထိရောက်ပါတယ်။ လူ့ခလေ့ လူ့စရိုက်ဆိုင်ရာ ပဓာန သဘောတရား တွေမှာ ခရစ်အယူ၀ါဒက ဂျူး၀ါဒီ (Judaism) နဲ့ခြားနားသမျှကို ဖွင့်ဆိုဟောပြောရာမှာ ဂျီးစပ်စ်က တာ၀န်ခံ ဟောပြောခဲ့ပါတယ်။ ဒါပေမယ့် ခရစ်ကျမ်းကို အရင်း မူလကျနအောင် ဖော်ထုတ်ပြီး ပျံ့နှံ့စေတာ ဓမ္မသစ် (New Testament) ရဲ့ အခန်းပေါင်းများစွာကိုရေးတာ၊ မူလ ဂျူး၀ါဒနဲ့ ပိုပြီးပြန်လည်ပေါင်းစပ်မိအောင် ဆောင်ရွက်ပေးတာက စိန့်ပေါလ် (St. Paul) ဖြစ်ပါတယ်။

အစ္စလာမ်ရဲ့ ကျမ်းစာပိုင်းဆိုင်ရာနဲ့ အရင်းမူလ လူမှုကျင့်၀တ်တွေကို ဖော်ထုတ်ဟောပြောသူက မိုဟာမက် ဖြစ်တယ်။ အယူ၀ါဒသစ်ကို ရေးအယူနဲ့ ညှိပေးတဲ့နေရာမှာလည်း ရှေ့ဆောင်ဖြစ်တယ်။ အစ္စလာမ် ယုံကြည်မှုကျင့်စဉ်ကို တီထွင်သူလည်း ဖြစ်တယ်။ မူစလင်ကျမ်းစာဖြစ်တဲ့ ကိုရန်(Koran) ဆိုတာကလည်း အထက်ကောင်းကင်က နှိုးဆော်တဲ့ အတိုင်း ပြောတာပဲလို့ သူကိုယ်တိုင်က ဖွင့်ဟ ပြောပြီးတော့ ဟောပြောသမျှကို အစီအစဉ်ကျနအောင် ရေးပေးသူလည်းဖြစ်တယ်။ ပြောသမျှကို အများအယွင်း နည်းနိုင်သမျှ နည်းအောင် မိုဟာမက် အသက်ထင်ရှားရှိစဥ်ကပဲ ရေးသားကူးယူကြပြီး မိုဟာမက်ကွယ်လွန်ပြီး မကြာမီမှာပဲ မူရင်းမူမှန်ဆိုတဲ့ ကျမ်းအနေအထား ရောက်အောင် ရေးသားပြီးဖြစ်ခဲ့ပါတယ်။ ဒါကြောင့် ကိုရန်ဟာ မိုဟာမက်ရဲ့ အတွေးအခေါ်နဲ့ ဆိုဆုံးမချက်တွေကို အမှန်ကန်ဆုံး ဖော်ပြတယ်။ သူ့နှုတ်မြွက် စကားတွေ အတိအကျဖြစ်တယ်လို့ ဆိုရပါမယ်။ ခရစ် (Christ) ရဲ့စကားက အတိအကျ မှတ်သားချက် မကျန်ခဲ့ပါ။ မူစလင်တွေမှာ ကိုရန်ဟာ အရေးပါအရာရောက်သလို ခရစ် သာသနာ၀င်တွေမှာလည်း သမ္မာကျမ်း (Bible) ဟာ အရာရောက်ပါတယ်။ ကိုရန်ကို အရင်းမူလပြုပြီး မိုဟာမက်ရဲ့စကား အလွှန်ဩဇာ သက်ရောက်တယ်။ အစ္စလာမ်မှာ မိုဟာမက်ရဲ့ ဩဇာကြီးမားပုံဟာ ခရစ်သာသနာမှာ ဂျီးစပ်စ်ခရိုက်နဲ့ စိန့်ပေါလ်နှစ်ဦး ပေါင်းရဲ့ ဩဇာ

ကြီးမားပုံထက် ပိုပါတယ်။ သာသနာ သက်ဝင်ယုံကြည်မှုအဆင့်နဲ့ပြောရရင် သမိုင်းမှာ မိုဟာမက်ရဲ့ လူသားများအပေါ်မှာ လွှမ်းမိုးပုံဟာ ဂျီးစပ်စ် လွှမ်းမိုးတာနဲ့ အဆင့်တူ ဖြစ်မယ် ထင်ပါတယ်။ အဲဒါထက်ပိုတာ ရှိသေးတယ်။ (ဂျီးစပ်စ်နဲ့မတူဘဲ) မိုဟာမက်ဟာ ယုံကြည်မှုခေါင်းဆောင် ဖြစ်သလို လူမှု ခေါင်းဆောင်လည်း ဖြစ်တယ်။ အာရပ်တွေရဲ့ နယ်မြေ သိမ်းယူအောင်မြင်မှုတွေမှာ သူက နောက်က တွန်းအားလို့ ဆိုရပါမယ်။ မိုဟာမက်ဟာ ခေတ်အဆက်ဆက် ဩဇာ အကြီးဆုံး နိုင်ငံရေး ခေါင်းဆောင် ဖြစ်ပါတယ်။ အဖိုးတန်တဲ့ သမိုင်းဖြစ်စဉ် အမျိုးမျိုးတွေထဲမှာ နောက်က ကြိုးကိုင်ပြီး စီမံခန့်ခွဲတဲ့ နိုင်ငံရေး ခေါင်းဆောင် တစ်ယောက် မပါပေမယ့်လည်း သူ့အလျောက် ဖြစ်သွားမယ်ဆိုတာမျိုး ရှိတတ် ပါတယ်။ (ဥပမာ) ဆိုင်မွန်ဘိုလီဗား (Simon Bolivar) လိုလူမျိုး မွေးဖွား ပေါ်ထွက် မလာ ပေမယ့်လည်း တောင်အမေရိက ကိုလိုနီတွေဟာ စပိန် လက်အောက်က ထွက်ပြီး လွတ်လပ်ရေး ရကြမှာ ဖြစ်ပါတယ်။

အာရပ်တွေနယ်ပယ် အများကြီး သိမ်းနိုင်တာ မှာတော့ ဒီလိုပြောလို့ မရနိုင်ပါ။ မိုဟာမက် မပေါ်ခင် ကလည်း ဒါမျိုးမရှိခဲ့ဖူးဘူး။ သူမပါဘဲနဲ့ ဒါမျိုးဖြစ်မယ်လို့ အကြောင်းပြစရာ မရှိပါ။ လူ့သမိုင်းမှာ နှိုင်းယှဉ်စရာ တစ်ခုတော့ ရှိဖူးပါတယ်။ တစ်ဆယ့်သုံးရာစုနှစ်မှာ မွန်ဂို (Mongols) တွေ နယ်မြေအများကြီး တိုက်ခိုက် အောင်မြင် သိမ်းသွင်းနိုင်ခဲ့တာဟာ အရင်းခံ ကြီးကြပ် ဆော်ဩတဲ့ ဂျန်ဂျစ်ခန် (Genghis Khan) ကြောင့် ဖြစ်ပါတယ်။ နယ်မြေ ကျယ်ပြန့်တာက အာရပ်တွေထက် ပိုကျယ်ပြန့် ပါတယ်။ ဒါပေမယ့် ကြာရှည် မတည်ပါ။ အခုဆိုရင် ဂျန်ဂျစ်ခန် မပေါ်မီက နေမြဲဖြစ်တဲ့ ဇာတိအရပ်မှာပဲ မွန်ဂိုတွေ နေကြပါတယ်။

အာရပ်ပိုင်ဆိုင်အုပ်စီးပုံနဲ့ သိပ်ကွာခြားပါတယ်။ အီရတ် (Iraq) က မော်ရိုကို (Morocco) အထိ အာရပ်နိုင်ငံတွေဟာ သံကြိုးကွင်းဆက်လို ဆက်နေတယ်။ အစ္စလာမ်အယူကြောင့် ဆက်နေတာမျိုး မဟုတ်ပါ။ အာရပ်ဘာသာ စကား၊ အာရပ်သမိုင်းနောက်ခံ၊ အာရပ် ဓလေ့တွေပါ အားလုံးပေါင်းစပ် ယှက်တွဲ နေပါတယ်။ မူစလင်အယူဝါဒမှာ ကိုရန်က အခရာ ဖြစ်နေတော့ ကိုရန်ကိုရေးထားတဲ့ ဘာသာစကား ဟာ အာရပ်ဖြစ်တာနဲ့ပဲ အာရပ်ဒေသိက စကား (dialects) တွေဟာ ပြီးခဲ့တဲ့နှစ် တစ်ထောင့်သုံးရာ အတွင်းမှာ တစ်နယ်နဲ့တစ်နယ် စကားပြော မပေါက် ပေါက်အောင်၊ ပွားများမလာအောင် ဟန့်တားပြီး ဖြစ်ခဲ့ရပါတယ်။ အာရပ်နယ်တွေ အချင်းချင်း ကွဲပြားခြားနားသလို ရှိတတ်ပါတယ်။ ဒါလောက်နဲ့ မျက်စိမလည်ပါနဲ့၊ သူတို့မှာ အမြရှိုင်းပင်း ညီညွတ် ရမယ်ဆိုတဲ့ အချက်ကြီး တစ်ခု အမြဲရှိနေပါတယ်။ ဥပမာ၊ အီရန် (Iran) နဲ့ အင်ဒိုနီးရှား နှစ်နိုင်ငံစလုံးဟာ အစ္စလာမ် အယူတူပြီး ရေနံအထွက်လည်း တူပေမယ့် ၁၉၇၃ – ၇၄ ဆောင်းရာသီရေနံမထုတ်ဘဲ ရပ်စဲခဲ့တာမှာ မပါဝင်ခဲ့ဘူး။ ဒါပေမယ့် ဒီလို ရေနံ မထုတ်ဘဲ ထားတာမှာ အာရပ်နိုင်ငံ အားလုံးပါတယ်။ အာရပ်နိုင်ငံတွေကသာ ဒီကိစ္စကို လုပ်တာဖြစ်တယ်။ အဲဒါ မတော်တဆ တိုက်ဆိုင်တယ် မထင်ပါနဲ့။

အာရပ်တွေရဲ့ ခုနစ်ရာစုနှစ်က တိုက်ခိုက် သိမ်းသွင်းခဲ့တဲ့စစ်ဟာ လူ့သမိုင်းမှာ အခုထိ အရာ ရောက်တုန်းပဲဆိုတာ မမေ့ထိုက်ပါ။ ယုံကြည်မှုနဲ့ နိုင်ငံအုပ်ချုပ်ရေးကို တွဲဖက်ပေးတဲ့နေရာမှာ ဘယ်သူမှ မယှဉ်နိုင်အောင် ကောင်းမွန် အောင်မြင်တယ်။ အဲဒါရဲ့အရင်းခံက မိုဟာမက်ရဲ့ အစွမ်းဖြစ်လို့ သူ့ကို လူ့သမိုင်းမှာ တန်ခိုးသြဇာ အကြီးမားဆုံးပုဂ္ဂိုလ်လို့ မှတ်ယူရခြင်းဖြစ်ပါတယ်။

# (၂) အိုက်ဆက်နယူတန် (၁၆၄၂ - ၁၇၂၇)

# ISAAC NEWTON (1642 – 1727)

သဘာဝနဲ့ သဘာဝ ဥပဒေ ညဥ့်မှာဖုံးလို့နေ

ဘုရားသခင်က၊ နယူတန်ကိုလွှတ်ပေးဟော့၊

လင်းစေ့မယ်။

အလက်ဇန်ဒါပိုး (Alexander Pope)

ပေါ်ထွန်းသမျှ အကြီးဆုံး၊ ဩဇာအရှိဆုံး၊ သိပ္ပံပညာရှင် တွေထဲမှာ ၁၆၄၂ ခရစ်စမတ်နေ့က အင်္ဂလန် ဝူးစကျုပ် (Woolsthorpe) မှာမွေးတဲ့ အိုက်ဆက်နယူတန် (Isaac Newton) ဟာ အကြီးတကာ့အကြီးဆုံး၊ ဩဇာအရှိတကာ့ အရှိဆုံး ဖြစ်တယ်။ သူ့ကိုမွေးတဲ့ ၁၆၄၂ မှာ ဂယ်လီလီယို (Galileo) သေဆုံးပါတယ်။ မိုဟာမက်လို ဖခင်ကွယ်လွန်ပြီးမှ သူ့ကိုမွေးတယ်။ ကလေးဘဝကပဲ စက်ယန္တရားလိုအတတ်မှာ ထူးခြားမယ့် လက္ခဏာကို မြင်နေရတယ်။ လက်မှုပညာ ကျွမ်းကျင်မယ့်ပုံ ရှိတယ်။ ဉာဏ်ထက်တယ်။ ကျောင်းစာကို မလေးစားဘူး။ စာတော်တယ်လို့ ထူးခြားချက် မပြပါ။ ဆယ်ကျော်သက်မှာ သူ့ကို မိခင်က ကျောင်းထုတ်ပြီး လယ်ယာမှာ သင့်တော်လေမလားလို့ စမ်းကြည့်သေးတယ်။ ဒီဘက်မှာ လည်း စွံမယ့်ပုံ မပေါ်တော့မှ မိခင်က သူ့အသက် တစ်ဆယ့်ရှစ်နှစ်မှာ ကိမ်းဘရစ်ချ် ယူနီဗာစီတီ (Cambridge university) ကို လွှတ်တယ်။ ရောက်လို့မကြာခင်မှာပဲ ဟိုခေတ် အခါက ရှိသမျှသိပ္ပံနဲ့ သင်္ချာကို ကြိုးစားလေ့လာပြီး သူ့ဘာသာ သီးခြား သုတေသနလုပ်ပါ တော့တယ်။ အသက်နှစ်ဆယ့်တစ်နှစ်နဲ့ နှစ်ဆယ့်ခုနစ် နှစ်အတွင်းမှာပဲ ကမ္ဘာကြီးကို တစ်မျိုးတစ်ဖုံ ဖြစ်အောင် ပြုနိုင်စွမ်းတဲ့ သိပ္ပံနည်းစနစ်သစ်တွေ ဖော်ထုတ်ဖို့ အစပျိုးပြီး ဖြစ်လာပါတယ်။

တစ်ဆယ့်ခုနစ်ရာစုနှစ်ဟာ သိပ္ပံပညာမှာ အသိပညာတွေ 'ကစော်လိုပွဖောက်ပြီး တက်လာသလို တက်လာတဲ့ကာလ' ဖြစ်ပါတယ်။ တယ်လီစကုတ် (Telescope) မှန်ပြောင်းကြောင့် ရာစုနှစ်စက နက္ခတ္တဗေဒမှာ အကြီးအကျယ် လှုပ်ရှားတိုးတက်ခဲ့ရဖူးပြီ မဟုတ်လား။ အင်္ဂလိပ် ဒဿနိကဆရာ ဖရန်စစ်ဘေကွန် (Francis Bacon) နဲ့ ပြင်သစ် ဒဿနိကဆရာ ရီနီဒေးကား (Rene Descarte)

တို့က **‘ဥရောပတစ်ခွင်မှာ သိပ္ပံပညာရှင်တွေဟာ အရစ္စတိုတယ် (Aristotle) ပြောသမျှနဲ့ တင်းတိမ်မနေကြပါနဲ့။ အဲဒီကလွန် ထွက်ပြီး ကိုယ့်ဘာသာ စမ်းသပ်ချက်တွေလုပ်ပါ။ ကိုယ့်ဘာသာ လက်တွေ့ကိုမှီပြီး ဆက်လက် တွေးတောကြံဆပါ’** လို့ တိုက်တွန်း ပါတယ်။ ဘေကွန်ရဲ့ ဒေးကားပြောသမျှကို ဂယ်လီလီယိုတို့က လိုက်လုပ်တယ်။ နက္ခတ်ကို သူကြည့်ရင်း တယ်လီစကုပ် မှန်ပြောင်းကို ထွင်တယ်။ နက္ခတ္တဗေဒကို အများကြီး တိုးတက် စေတယ်။ စက်ယန္တရားနဲ့ဆိုင်သမျှ လက်တွေ့ စမ်းသပ်ချက်တွေ လုပ်လာလို့ နယူတန်ရဲ့ လှုပ်ရှားမှု ဆိုင်ရာဥပဒေ (Law of Motion) ပေါ်လာခဲ့ရတယ်။

တခြားသိပ္ပံပညာရှင်ကြီးတွေထဲက လူ့ခန္ဓာမှာ သွေးလှည့်ပတ်နေပုံကို စတင်တွေ့ရှိတဲ့ ဝီလီယမ်ဟာဗေး (William Harvey)၊ နေကိုပတ်ပြီး ဂြိုဟ်တွေသွားလာပုံ ဥပဒေကို ဖော်ထုတ်နိုင်တဲ့ ဂျိုဟဲန်နစ်စ် ကက်ပလာ (Johannes Kepler) တို့ ကျေးဇူးကြောင့် သိပ္ပံပညာရှင် လောကမှာ အခြေခံ သဘောတရားတွေ တိုးတက် သိရှိနေပါပြီ။ ဒါပေမယ့် သိပ္ပံပညာ စစ်စစ်က ဉာဏ်ကြီးရှင်တွေ ဉာဏ်ကျက်စားရာ ကိစ္စလောက်ပဲ သဘောထား ကြတယ်။ အဲဒီအသိကို နည်းပညာအနေနဲ့ လက်တွေ့ လုပ်နိုင်ရင် လူ့ဘဝ တစ်ခုလုံးဟာ အကြီးအကျယ် ပြောင်းလဲသွားမယ်လို့ ဖရန်စစ် ဘေကွန် ကြိုတင် မှန်းဆချက်ကတော့ ထင်ထင်ရှားရှား မပေါ်လာသေးပါဘူး။

ကော်ပါးနိကပ်စ် (Copernicus) နဲ့ ဂယ်လီလီယို တို့က ရှေးခေတ်က သိပ္ပံနည်းနဲ့ သိတယ်ဆိုတဲ့ အကြောင်းအချက် တချို့ လွဲမှားနေတာတွေကို ချေဖျက်ပြီး စကြဝဠာ ဖွဲ့စည်းပုံကို အများကြီးပိုသိအောင် ဖော်ထုတ် ခဲ့တာတောင် ဟိုဟာလေးနည်းနည်းသိ၊ ဒီဟာလေး နည်းနည်း သိနဲ့ တစ်ခုနဲ့တစ်ခု တွဲဖက်ပြီး ဆက်သွယ် နေတယ်။ အဲဒါတွေရဲ့ အပေါင်းအဖွဲ့ တစ်ခုကို အခြေခံပြီး သိပ္ပံ သဘောတရားတစ်ခုကို ဖော်ထုတ်မယ်၊ အဲဒီသဘောတရားကို တွက်ဆချင့်ချိန်ပြီး လက်တွေ့ ဘယ်လို အသုံးချမယ်ဆိုတာ မသိသေးဘူး။ [ဆိုလိုတာက သိပ္ပံစစ်စစ် (Pure Science) ကို လက်တွေ့အကျိုး (Applied Science) မဖော်တတ်သေးဘူး။] အခုတော့ အိုက်ဆက် နယူတန်က သဘောတရားတွေ ပေါင်းစပ်ပြီး ခေတ်သိပ္ပံပညာရဲ့ လမ်းကြောင်းကို ဖော်ထုတ် ပေးတဲ့အတွက် အခုအထိ ဒီလမ်းကြောင်းမှာပဲ သိပ္ပံပညာဟာ ဆက်လက် ချီတက်နေပါတယ်။

နယူတန်ဟာ သူရှာဖွေ တွေ့ရှိတဲ့ အကြောင်းအရာကို ဖော်ထုတ်ပြောပြဖို့ ဝန်လေးတယ်။ ၁၆၆၉ လောက်ရောက်တဲ့အခါ သူ့လုပ်ငန်းတွေရဲ့ အခြေခံစိတ်ကူးတွေကို ပုံစံချပြီး ဖြစ်ပေမယ့် အဲဒီနောက် အတော်ကြီးကြာမှ လူအများကို အသိပေးပါတယ်။ ပထမဆုံး ဖော်ထုတ်တဲ့ အကြောင်းအရာကတော့ အလင်းရောင်ရဲ့ သဘာဝဖြစ်တယ်။ အဲဒီ သဘောတရားကို အရင်ကဘယ်သူမှ မထုတ်ဖော်ဘူး သေးပါ။ စမ်းသပ်ချက်များကို အစဉ်တစိုက် ပြုလုပ်ပြီးမှ နယူတန်က အလင်းရောင် အဖြူမှာ သက်တံ့ မှာပါတဲ့ရောင်စုံ ပေါင်းစပ်တဲ့အခါမှ ဖြစ်ပေါ်လာတဲ့ အလင်း ဖြစ်တယ်လို့ တင်ပြချက်ဖြစ်ပါတယ်။

အလင်းရောင်ပြန်ဟပ်ပုံနဲ့ ရောင်ပြန်ဟပ်လို့ ဆက်လက် ဖြစ်ပေါ်ပုံ အခြင်းအရာတွေကို ဥပဒေ ထုတ်ပြီး အသေအချာ ရှင်းလင်းပြောပြပါတယ်။ ဒီဥပဒေတွေကို အသုံးချပြီး ၁၆၆၈ မှာ ပထမဆုံး ရောင်ပြန်ဟပ်တဲ့ မှန်ပြောင်း (Telescope) ကို တကယ့်လက်တွေ့ ဖြစ်မြောက်အောင် ပြုလုပ် ပေးခဲ့ပါတယ်။ ယနေ့ နာမည်ကြီး နက္ခတ်ကြည့် မျှော်စင်တွေမှာ သူ့မှန်ပြောင်းမျိုးတွေပဲ သုံးနေကြ ပါတယ်။ ဒီလို ဖော်ထုတ်တဲ့ (အသစ်တွေ့ရှိချက်) တွေထဲမှာ မျက်စိ အမြင်ဆိုင်ရာ စမ်းသပ်ချက် တွေပါ ထည့်ပြီး နယူတန်က ဗြိတိသျှအသင်းတော် (British Royal Society) မှာ လာပြီးပြသတဲ့ အခါ သူ့အသက်က နှစ်ဆယ့်ကိုးနှစ်ပဲ ရှိသေးတယ်။

အမြင်ကြည်လင်ခြင်း(ပသာဒ) တစ်ခုတည်းကို ပိုင်ပိုင်နိုင်နိုင် ခွဲစိတ်ဖော်ပြနိုင်စွမ်း တစ်ခုတည်းနဲ့ နယူတန်ကို ကျော်စွာစာရင်းထဲမှာ ထည့်သွင်း သင့်နေပါပြီ။ ဒါပေမယ့် အဲဒီအမြင်လောက ဆိုင်ရာ တွေ့ရှိချက်ထက် သင်္ချာစစ်စစ် (pure Mathematics) ဆိုင်ရာ တွေ့ရှိချက်တွေက အများကြီး ပိုမို အရာရောက်ပါတယ်။

သင်္ချာမှာ အကြီးကျယ်ဆုံး အသစ် ရှာဖွေတွေ့ရှိချက် ကတော့ Integral Calculus ဖြစ်တယ်။ အဲဒါကို သူ့အသက် နှစ်ဆယ့်သုံး နှစ်ဆယ့်လေးကပဲ တီထွင်ခဲ့တာ ဖြစ်ပါတယ်။ ခေတ်သစ်သင်္ချာမှာ သိပ်အရာရောက်တဲ့ အသိသစ် ဖြစ်တယ်။ ခေတ်သစ်သင်္ချာမှာ သီအိုရီအဆန်းတွေ အများကြီး မွေးထုတ်နိုင်တဲ့ မျိုးစေ့ ဖြစ်တယ်လို့ ချီးမွမ်းတာတွေအပြင် ခေတ်သစ် သိပ္ပံမှာ အသိသစ်တွေ တူးဖော်တွေ့ရှိဖို့ လက်နက် ကောင်းကြီးတစ်ခု ဖြစ်တယ်လို့လည်း ပြောရမယ်။ နယူတန်ဟာ ဒါတစ်ခုပဲ လုပ်ဖြစ်ပြီး တခြား ဘာမှ ဆက်မလုပ်ဖြစ်တောင် သူ့ကို ကျော်စွာ စာရင်းမှာ ထိပ်နားကပ်ကပ်က တင်ပေးဖို့ ဖြစ်ပါတယ်။

နယူတန်ရဲ့ အရေးအပါဆုံး ရှာဖွေတွေ့ရှိချက် တွေက အမှန်မှာ ယန္တရားဆိုင်ရာ နယ်ပယ်မှာ များပါတယ်။ ရုပ်ဝတ္ထုတွေ ဘယ်လို လှုပ်ရှားတယ် ဆိုတာ ထင်ရှားသိသာအောင် ဖော်ထုတ်တဲ့ သိပ္ပံပညာ ဖြစ်ပါတယ်။

ဂယ်လီလီယိုက အပြင်အပက ခွန်အားမပါဘဲ အရာဝတ္ထုတွေ ရွေ့လျားတာရဲ့ ပထမ ရွေ့လျားဥပဒေကို ဖော်ထုတ်သွားတယ်။ လက်တွေ့မှာ ဝတ္ထု မှန်သမျှ အပြင်တွန်းအားပါမှ လှုပ်မှာပေါ့။ အဲဒီလို အပြင် ပယောဂပါရင် ရုပ်ဝတ္ထု တစ်ခုဟာ ဘယ်ပုံလှုပ်သလဲ သိပါရဲ့လား ဆိုတာက အရေးအပါဆုံး မေးခွန်းပါပဲ။ ဒီပြဿနာကို နယူတန်က သူ့ရဲ့ကျော်ကြားလှတဲ့ ဒုတိယရွေ့လျား ဥပဒေမှာ ရှင်းလိုက်ပါတယ်။ ဒီရှင်းလင်းချက်ဟာ ယခင်သိသမျှ ရူပဗေဒ ပညာမှာ အခြေခံအကျဆုံး ဥပဒေလို့ ခေါ်ရင်လည်း မှန်ပါတယ်။ ဒုတိယဥပဒေကို (သင်္ချာနည်းနာမှ F = ma ဆိုတဲ့ ညီမျှခြင်းနဲ့ရှင်းတယ်)၊ အရာဝတ္ထုတစ်ခုဟာ ပြောင်းလဲပုံ(velocity changes) ပိုလာလေ နှုန်းထား (Acceleration) မြင့်လေဖြစ်ပါတယ်။ နှုန်းကိုသိချင်ရင် အရာဝတ္ထုရဲ့ အားကုန်ကို အရာဝတ္ထုရဲ့ အစိုင် ပမာဏနဲ့ စားလိုက်ပါ။ အဲဒီအခြေခံဥပဒေနှစ်ရပ်မှာ နယူတန်က တတိယ ရွေ့လျား ဥပဒေကို ထပ်ပြီးဖြည့်ပေးပါသေးတယ်။ လှုပ်ရှားမှုမှန်သမျှ ရုပ်ဝတ္ထုအားဟာ အားညီတယ်၊ ဆန့်ကျင်ဘက် သွားတယ်။ နောက်တစ်ခါ

သိပ္ပံဥပဒေတွေမှာ အကျော်ကြားဆုံးဖြစ်တဲ့ မြေရဲ့ဆွဲအား ဥပဒေ (The Law of universal Gravitation) ကို ဖော်ထုတ်နိုင်ပါတယ်။

ဒီဥပဒေ လေးချက်ကို တွဲဖက်ပြီး ပေါင်းထားတဲ့ စနစ် ဖြစ်အောင် လုပ်ပြီး ပကတိမျက်စိနဲ့ မြင်နိုင်တဲ့ ယန္တရား နာရီချိန်သီးကစပြီး နေကို လှည့်ပတ်နေတဲ့ဂြိုဟ်တွေ လမ်းကြောင်း ဓာတိတွေရဲ့ လမ်းကြောင်း အထိ လှုပ်ရှားပုံတွေ ကို စုံစမ်းစစ်ဆေး လို့ရတယ်။ ဒီတော့ သူတို့ ဘယ်အခါ ဘယ်နေရာမှာ ဘယ်လိုဖြစ်မယ်ဆိုတာ တွက်ယူလို့ရပြီပေါ့။ ယန္တရားဥပဒေကို ဖော်ထုတ် ရုံမျှမဟုတ်။ ကဲကုလပ် (Calculus) သင်္ချာ လက်နက်ကို သုံးပြီး အခြေခံဥပဒေကို လက်တွေ့ရှာဖွေလို့ ပြဿနာတွေကို ဖြေရှင်း နိုင်ခဲ့ပါတယ်။

နယူတန်ဥပဒေတွေနဲ့ အင်မတန်ကျယ်ပြန့်တဲ့ သိပ္ပံကိစ္စ၊ အင်ဂျင်နီယာ ပြဿနာတွေကို အဖြေရှာ ပေးပါတယ်။ သူ့တစ်သက်တာမှာ သူ့ဥပဒေတွေကို သုံးပြီး ပြဇာတ်ထဲမှာ ထင်ရှား မြင်သာအောင် ကပြလို့ အင်မတန် အံ့ဩချီးမွမ်းကြရတဲ့ကိစ္စက နက္ခတ္တဗေဒ (Astronomy) ဖြစ်ပါတယ်။ အဲဒီပညာရပ် ဆိုင်ရာမှာ နယူတန်ဟာ ခေါင်းဆောင်ဖြစ်ပါတယ်။ ၁၆၈၇ လောကက သူရေးသားထုတ်ဝေတဲ့ ကြီးကျယ်တဲ့ ကျမ်းတစ်စောင်က သင်္ချာ၏ အခြေခံ သဘာဝအတွေးအခေါ် (Mathematical Principles of Natural Philosophy) အတိုအရကောက် (Principia) ခေါ်ပါတယ်။ အဲဒီမှာ ဆွဲအား (gravitation) နဲ့ လှုပ်အား(motion) အကြောင်းတွေကို ရှင်းပြ ခဲ့ပါတယ်။ ဒီဥပဒေတွေကို သုံးပြီး နေ၊ လ၊ နက္ခတ်တာရာတွေ သွားလာပုံမှာ ဘယ်နေ့ ဘယ်နေရာ ရောက်မယ်လို့ အတိအကျ ကြိုတင် တွက်ယူနိုင်ကြောင်း တစ်ချက်တည်း ပိုင်ပိုင်နိုင်နိုင် အပြည့်အစုံ ရှင်းခဲ့တယ်။ အဲဒါကြောင့် နယူတန်ကို နက္ခတ္တဗေဒအရာထဲမှာ အကြီးမြင့်ဆုံး ပုဂ္ဂိုလ်လို့ မကြာခဏ ချီးမြှောက်ပြောဆိုတာကို ခံခဲ့ရတာ ဖြစ်ပါတယ်။

သိပ္ပံမှာ နယူတန် ဘယ်လောက် ကြီးကျယ်တယ် ဆိုတာကို တွက်ပြနိုင်ပါ့မလား မေးပါ။ သိပ္ပံ စွယ်စုံကျမ်းရဲ့ အက္ခရာဝလိအညွှန်း (index) ကိုကြည့်ရင် တခြား သိပ္ပံပညာရှင်တွေရဲ့ နာမည်ထက် သူ့နာမည်ကို နှစ်ဆသုံးဆလောက် ရေးသားဖော်ပြတာကို တွေ့မယ်။ ပြီးတော့ တခြား သိပ္ပံပညာရှင်ကြီးတွေက သူ့အကြောင်းကို ဘယ်လို ပြောပါသလဲ ဆိုတာကို ကြည့်ပါ။ လိုက်ဗနစ်ဇ် (Leibniz)က နယူတန်ရဲ့ မိတ်ဆွေ မဟုတ်။ သူတို့နှစ်ဦး ကြီးကြီးကျယ်ကျယ် အချေအတင် ပြောခဲ့ကြဖူးတယ်။ အဲဒီလူက **'ကမ္ဘာအစ သင်္ချာပေါ်ချိန်က အခု နယူတန် ပေါ်လာတဲ့အချိန်ထိ သင်္ချာထုံးနည်းတွေမှာ သူရှာပေးတဲ့ထုံးနည်းက အများဆုံးလို့ ပြောပါလို့'** ပြောပါတယ်။ ထင်ရှားတဲ့ ပြင်သစ်သိပ္ပံပညာရှင် လက်ပလေ့ (Laplace) က **'အရကောက် (Principia) ဟာ တခြားဉာဏ်ကျယ်တွေ ရေးခဲ့သမျှထက် အများကြီးသာတယ်'** လို့ဆိုပါတယ်။ လာဂရန်း (Lagrange) က **'ဉာဏ်ကျယ် (Genius) တွေထဲမှာ နယူတန်က အကြီးကျယ်ဆုံး ပုဂ္ဂိုလ်ဖြစ်တယ်'** လို့ဆိုတယ်။ အန်းစ်မက် (Ernst Mach) က ၁၉၀၁ မှာ ဒီလိုရေးခဲ့တယ်။

**‘သင်္ချာမှာ သူပေါ်လာပြီးမှ သူ့(နယူတန်) ဥပဒေတွေကိုပဲ အခြေခံပြီး ယန္တရားတွေကို သင်္ချာနည်းအရ တွေးဆပုံဖော်ဖြစ်ထွန်းအောင် လုပ်လာနိုင်ကြပါတယ်။’**

အဲဒါတွေဟာ နယူတန် ဂုဏ်ကျေးဇူးကို အကြီးမြင့်ဆုံး အခေါင်အထွတ် ရောက်အောင် ချီးမြှောက်ကြတာ ဖြစ်ပါတယ်။ သူ့ခေတ်မရောက်မီက သိပ္ပံဆိုတာ တို့တို့တိတိ နည်းနည်းစီသိတဲ့ သား ငါး ဟင်းရွက်စုံပါတဲ့ ဟင်းလေး (hodgepodge) ဖြစ်တယ်။

တချို့ကိစ္စကို ဘာကြောင့် ဒီလိုဖြစ်ရတယ်လို့ ရှင်းပြ တတ်ပေမယ့် တချို့ကိစ္စကိုသာ ကြိုတင်ပြီး ပြောတတ်တယ်။ အခု နယူတန်ရဲ့ ကျေးဇူးကြောင့် ဖြစ်ရမယ့်ကိစ္စတွေကို ဥပဒေစဥ့်ပြီး ပေါင်းစည်း ပေးတယ်။ ရုပ်သဘာဝဖြစ်ပျက်ပုံတွေ အများကြီးကို သိအောင် သူထွင်တဲ့ဥပဒေတွေနဲ့ တွက်ချက် နိုင်တယ်။ ဒီဥပဒေတွေသုံးပြီး အတိအကျ ကြိုပြီး ဘာဖြစ်မယ်၊ ဘယ်လိုဖြစ်မယ်၊ ဘယ်အချိန် ဖြစ်မယ်၊ ဘယ်လို အကျိုးဆက်ရှိမယ် ဆိုတာမျိုးတွေ ဖော်ပြနိုင်ပါတယ်။

အခုလို အကျဉ်းချုပ်ရေးတဲ့စာမျိုးမှာ နယူတန် ရှာဖွေတွေ့ရှိသမျှ ကုန်အောင်ပြောဖို့ မဖြစ်နိုင်ပါ။ အဲဒါကြောင့် သိပ်အရေးမကြီးဘူး ထင်တာတွေ ဖြုတ်ခဲ့ရပါတယ်။ ဒီလိုပြောရပေမယ့် အဲဒီကိစ္စတွေ ဟာလည်း သူ့နေရာနဲ့သူ အရေးပါတဲ့ကိစ္စ၊ အသုံးဝင်တဲ့ ကိစ္စတွေ ဖြစ်ပါတယ်။ နယူတန်က အပူရှိန် (thermodynamics) အကြောင်း ဖော်ထုတ် ပြောခဲ့တာဟာလည်း အရေးပါအရာ ရောက်ပါတယ်။

အသံခရီးနှုန်း (acoustics) ကို ဖော်ထုတ် ခဲ့တာလည်း အသုံးဝင်ပါတယ်။ သင်္ချာမှာ လှုပ်အားအရှိန် (momentum) ကို ဘယ်လို ထိန်းမလဲ၊ တစ်ဆစ်ချိုး လှုပ်အားအရှိန် (Angular momentum) ကို ဘယ်လိုထိန်းမလဲ၊ နှစ်စွယ်နှစ်ခွ တွက်ပြင် (binomial) ကို နယူတန်ပဲ စတင်တွေ့ရှိတယ်။ ကြယ်တွေရဲ့သဘာဝကို ယုတ္တိရှိအောင် ဖော်ထုတ် ပြောပြနိုင်သူဟာလည်း သူပဲဖြစ်ပါတယ်။

ခုလောက်ပြောရင် သိပ္ပံပညာရှင်ထဲမှာ သူ့အမည်ကို ထိပ်ဆုံးထားရတာတော့ ဟုတ်ပါပြီ။ နိုင်ငံရေးမှာ သိပ်ဂုဏ်ကျေးဇူးကြီးတယ်လို့ ယူဆရတဲ့ မဟာအလက်ဇန္ဒား (The Great Alexandra) ၊ ဂျော့ဝါရှင်တန် (George Washinton) တို့ထက် ရှေ့ကိုပို့မယ် ဆိုတာရယ်၊ ကိုးကွယ်ယုံကြည်မှုတွေထဲမှာ ကြီးကျယ်တဲ့ ဂျီးစပ်စ်ခရိုက် (Jesus Christ) နဲ့ ဂေါတမဗုဒ္ဓ (The Buddha Gottama) မြတ်စွာဘုရား တို့ရှေ့မှာ သွားထားတာကော ဟုတ်နိုင်ရဲ့လား မေးစရာ ရှိပါတယ်။ ကျွန်တော်တွေးပုံကို ပြောပါ့မယ်။

နိုင်ငံရေး အပြောင်းအလဲ အရာရောက်တာ မှန်ပါတယ်။ ဒါပေမယ့် အလက်ဇန္ဒား နတ်ရွာစံပြီး နှစ် ၅၀၀လောက်အထိ လူတွေဟာ အလက်ဇန္ဒား လက်ထက်

မတိုင်မီ နှစ် ၅၀၀ လောက်က ဘိုးဘွားတွေလိုပဲ နေကြစားကြပါတယ်။ ဒီနည်းအတိုင်းပဲ လူအများစု ခရစ် ၁၅၀၀ (A. D 1500) အထိ ခရစ်မပေါ်မီ ၁၅၀၀ (1500 B.C) က နေပုံမျိုးပဲ နေခဲ့ကြပါတယ်။ အခုနှစ် ၅၀၀ လောက်ကတော့ ခေတ်သစ်သိပ္ပံ (Modern Science) လူ့နေ့စဉ်ဘဝဟာ အကြီးအကျယ် ပြောင်းလဲသွားပါတယ်။ ဝတ်ပုံစားပုံ၊ အလုပ်လုပ်ပုံ၊ အချိန်အနားယူပုံ။ ဆိုတာတွေမှာ ခရစ် ၁၅၀၀ ကလူနဲ့ သိပ်ကွားခြားသွားပါပြီ။ သိပ္ပံနည်းပညာ တွေ တိုးတက် ထွန်းကား လာတာနဲ့အမျှ လုပ်နည်းကိုင်နည်းတွေ တိုးတက်ပြီး စီးပွားရေး လည်း ထူးခြားလာတယ်။ နိုင်ငံရေးအမြင်၊ ယုံကြည်မှု၊ အနုပညာ၊ အတွေးအခေါ် အားလုံးပြောင်းတယ်။ ဒီလို သိပ္ပံ တော်လှန်ရေးကြောင့် လူ့ဘဝပုံစံ မပြောင်းတာ မရှိသလောက် ပါပဲ။ အဲဒါနဲ့ အခုရေးတဲ့စာအုပ်ရဲ့ ကျော်စွာ စာရင်းမှာ သိပ္ပံပညာရှင်နဲ့ နည်းသစ် ထွင်သူတွေရဲ့ အမည်က ရှေ့တန်းတင်လာရခြင်း ဖြစ်ပါတယ်။

နယူတန်ကတော့ သိပ္ပံသမားချင်းယှဉ်လည်း သူက ထိပ်ကပါပဲ။ သူ့ဩဇာကြောင့် သိပ္ပံသီအိုရီတွေ ပေါ်ထွန်း အရာရောက်လာတယ်။ ဒါကြောင့် ကမ္ဘာ့ကျော်စွာ စာရင်းမှာ သူက ထိပ်ဆုံးနဲ့အနီးစပ်ဆုံးနေရာကို ရောက်လာရခြင်း ဖြစ်ပါတယ်။

နယူတန် ၁၇၂၇ မှာ ကွယ်လွန်တယ်။ အလောင်းကို ဝက်စမင်စတာ အက်ဘေ (Westminster Abbey) မှာ မြှုပ်ထားတယ်။ ဒီလိုနေရာမှာ သိပ္ပံပညာရှင်ထဲက ဂုဏ်ပြုတဲ့ အနေနဲ့ သူ့အလောင်းကို ပထမဆုံး မြှုပ်ပေးခဲ့ခြင်း ဖြစ်ပါတယ်။

24, February, 2000.

# (၃) သခင်ယေရှု (ဂျီးစပ်စ်ခရိုက်) (၆ ဘီစီခန့် – အေဒီ ၃၀ ခန့်)

## JESUS CHRIST (c.6 B.C – c. 30 A. D.)

လူ့သမိုင်းမှာ သခင်ယေရှု (ဂျီးစပ်စ်) ရဲ့ လူများ အပေါ်မှာ ထားရှိခဲ့တဲ့ မေတ္တာတော် ကြီးမား ထင်ရှားလှလို့ အခုကျော်စွာစာရင်းမှာ ထိပ်ဆုံး နီးနီးလောက်က ထည့်ထားတာကို ကန့်ကွက်သူ မရှိသလောက် ဖြစ်မယ်လို့ ထင်ပါတယ်။ သမိုင်းမှာ ဩဇာအရှိဆုံး အယူဝါဒကြီးကို လှုံ့ဆော် ပြောဟော ခဲ့ပေမယ့် ဘာပြုလို့ နံပါတ်(၁) မထွက်သလဲလို့သာ မေးတဲ့လူရှိမယ် ထင်ပါတယ်။

အခုလို နှစ်ကာလရှည်ကြာလာတဲ့အခါ ခရစ်ဝါဒကို သက်ဝင်ယုံကြည်တဲ့ လူဦးရေ အများဆုံး ဖြစ်နေပြီဆိုတာလည်း ငြင်းဖွယ်မရှိပါ။ ဒါပေမယ့် ဒီစာအုပ်မှာတော့ အယူဝါဒတစ်ခုစီရဲ့ ဩဇာကို အခြေခံထားပြီး မတွက်ပါ။ လူပုဂ္ဂိုလ် တစ်ဦးချင်းရဲ့ စွမ်းရည်ကို စစ်ဆေး တွက်ချက် ဆုံးဖြတ်တာ ဖြစ်တယ်။ အစ္စလာမ် (Islam) နဲ့ မတူဘဲ ခရစ်ယာန် (Christian) က ဂျီးစပ်စ် (Jesus) နဲ့ စိန့်ပေါလ် (St. Paul) တို့နှစ်ဦး ထူထောင်ခဲ့တဲ့ သာသနာဖြစ်လို့ စွမ်းဆောင်ချက်ကို ဂုဏ်ပြုတဲ့အခါ တစ်ဦးစီ ပိုင်းခြားပြီး ထိုက်သင့်သလို ပြောရမယ့် သဘော ရှိပါတယ်။

ခရစ်သာသနာရဲ့ အခြေခံ ခြိုးခြံကျင့်ကြံရမယ့် သဘောထားနဲ့ ဝါဒပိုင်းဆိုင်ရာ အမြင်၊ ပြီးတော့ လူ့ကျင့်စဉ်သဘောထားအချုပ်ကို ဂျီးစပ်စ်က ပုံစံချ ပေးတယ်။ ခရစ်သာသနာကျမ်းစာ စည်းစနစ်ကျကျ ဖော်ထုတ်ပေးသူက စိန့်ပေါလ် ဖြစ်ပါတယ်။ ဂျီးစပ်စ်က စိတ်ပိုင်းဆိုင်ရာ ဟောပြော သွန်သင်တယ်။ ပေါလ်က ခရစ်ကိုးကွယ်မှုကို ပေါင်းစပ်ပေးတယ်။ အဲဒါအပြင် ဓမ္မသစ် (New Testament) ရဲ့ အများစုကို ရေးသားပေးသူ ဖြစ်တယ်။ ခရစ် ပထမ ရာစုနှစ်အတွင်းမှာ ခရစ်သာသနာကို ကူးပြောင်း ဝင်လာသူ များလာအောင် လုပ်နိုင်စွမ်းတဲ့ ပုဂ္ဂိုလ်လည်း ဖြစ်တယ်။

ဂျီးစပ်စ်ဟာ (ဗုဒ္ဓတို့ မိုဟာမက်တို့နဲ့မတူဘဲ) အသက်ငယ်ငယ်မှာ ကွယ်လွန်သူဖြစ်လို့ သူ့လုပ်ငန်းကို ဆက်ခံမယ့် (တပည့်) နည်းနည်းပဲ ကျန်ရစ်တယ်။ ကွယ်လွန်ချိန်မှာ အဲဒီတပည့် အုပ်စုကို ဂျူး (Jew) လူမျိုးဂိုဏ်း အငယ်ကလေး တစ်ခုလို့ပဲ ခေါ်နိုင်မယ်။ ပေါလ်ရဲ့ အရေးအသားနဲ့ မနေမနား ပြောဟောပြီး ခရစ်တော်ရဲ့ဝါဒ (အယူဟောင်းကိုစွန့်ပြီး အယူသစ်) ကို လက်ခံ

လာအောင် လုပ်နိုင်လွန်းလို့ ဂိုဏ်းငယ်ကလေးက အရှိန်အဟုန်နဲ့ အားကြိုးမာန်တက် လုပ်ရှားလာတဲ့ ဂိုဏ်းကြီး ဖြစ်လာပြီး ဂျူးတွေ သာမက ဘာ ဂျူးမဟုတ်သူတွေပါ ပါဝင်ပြီး၊ ကမ္ဘာ့ယုံကြည်မှု ဘာသာတရားကြီး တစ်ခု အပါအဝင် ဖြစ်လာခဲ့ရတာပါ။

ဒီအချက်တွေကြောင့် ဂျီးစပ်စ် မဟုတ်၊ ပေါလ်ကိုပဲ ခရစ်ယာန် အယူဝါဒကို ပြုစုပျိုးထောင်သူလို့ သတ်မှတ်ချင်သူတွေ ရှိပါတယ်။ ဒီအတိုင်းဆက်ပြီး ကြံဆပါရင် ကျော်စွာစာရင်းမှာ ပေါလ်ကို ဂျီးစပ်စ် အထက်က ထားရမလိုဖြစ်နေပြီ။ ဒီလိုပြောတာ အပြင် ပေါလ်သာ မပေါ်ပေါက်ခဲ့ပါရင် ခရစ်သာသနာ ဘယ်အခြေရှိမလဲလို့ ပြောဖို့ ခက်တယ်။ ပြီးတော့ ဂျီးစပ်စ် မရှိဘဲ ခရစ်သာသနာဟာ ဘယ်လိုမှ ပေါ်ထွန်းလာစရာ မရှိပါ။

ခရစ်ယာန်ကျောင်းတော်တွေမှာ ဆောင်ရွက်ဆဲ အပြောအဟော အကျင့်အကြံထုံးနည်းတွေနဲ့ ခရစ်သာသနာဝင်လို့ နာမည်ခံသူတချို့က ခရစ် အလိုတော်လို့ ခရစ်အမည်ကိုသုံးပြီး သူတို့ သဘောရှိရာ လုပ်နေတာတွေကို ဂျီးစပ်စ်သာ မြင်ရတွေ့ရရင် ဘယ်နည်းနဲ့မှ သဘောတူ ခွင့်ပြုမှာ မဟုတ်တာတွေ ရှိနေပါတယ်။ ဥပမာ နည်းနည်းပဲ ပြောပါမယ်။ ခရစ်ယာန်ဂိုဏ်း အချင်းချင်း သာသနာရေးစစ် (Religious War) အမည်ခံပြီး တိုက်ခိုက်နေကြတာ၊ ဂျူးတွေကို နှိပ်ကွပ်ဖို့ ကြမ်းတမ်း ရက်စက်တဲ့ သတ်ဖြတ်တဲ့ပွဲတွေ လုပ်ခဲ့တာတွေဟာ ဂျီးစပ်စ်ရဲ့ အရင်းမူလ သဘောထားနဲ့ ဆိုဆုံးမချက်တွေကို အထင်အရှား ဖြစ်လို့၊ ဂျီးစပ်စ်ကို အရင်းခံသွေးထိုး လှုံ့ဆော်ပေးသူလို့ ပြောဖို့ ခက်တယ်။

အလားတူ စဉ်းစားစရာအချက်တစ်ခုက ခရစ် သာသနာဝင် အနောက်ဥရောပနိုင်ငံတချို့မှာ ခေတ်သစ် သိပ္ပံပညာ စတင်ထွန်းကားတာ မှန်ပေမယ့် သိပ္ပံပညာ ထွန်းကားတာ ဂျီးစပ်စ်ကြောင့်လို့ မပြောသင့်ပါ။ ခေတ်ဦး ခရစ်သာသနာဝင်တွေက ဂျီးစပ်စ် ပြောသမျှဟာ ရုပ်လောကကို ပိုပြီးသိမြင်အောင် သိပ္ပံနည်းကျ စစ်ဆေးကြဖို့ တိုက်တွန်းခဲ့တာပါလားလို့ ယူဆကြမှာ မဟုတ်ပါ။ အဖြစ်မှန်က ရောမ (Roman) ကမ္ဘာက ခရစ်သာသနာကို လက်ခံ လာချိန်ဟာ လက်မှုအတတ်ပညာမှာရော သိပ္ပံကို ဝါသနာပါပြီး အများတကာ စိတ်ဝင်စားမှုမှာပါ နှစ်မျိုးစလုံး အကြီးအကျယ် ကျဆင်းချိန်နဲ့ တိုက်ဆိုင်နေပါတယ်။ နောင်တကယ် သိပ္ပံပညာ ဥရောပမှာ ခေါင်းထောင်တာဟာ ဥရောပဓလေ့အမွေ (Culture Heritage) ထဲမှာ သိပ္ပံနည်းကျ စုံစမ်း ရှာဖွေကြတဲ့အထိ ရောက်အောင် တွန်းပို့တဲ့ လှုံ့ဆော်ချက်တစ်မျိုးမျိုး ပါနေလို့သာ ဖြစ်ရမယ်လို့ ထင်စရာပဲ။ အဲဒီတစ်မျိုးမျိုးဆိုတာကတော့ ဂျီးစပ်စ်နဲ့ မဆိုင်ပါ။ ဂရိပညာရှင် အရစ္စတိုတယ် (Aristotle) တို့၊ ယူကလစ် (Euclid) တို့ ရှေ့ဆောင်ရှေ့ရွက်လုပ်တဲ့ ဂရိ အကျိုးအကြောင်း ဆက်စပ်တွေးတောကြံဆပုံနဲ့ ဆိုင်တယ်။ အထူး ဂရုထားပြီး မှတ်ရမှာက ခေတ်သစ်သိပ္ပံဟာ ခရစ် ကျောင်းတော် တန်ခိုး ထွန်းတောက်ချိန်မှာ ပေါ်လာတာ မဟုတ်ပါ။ ခရစ်သာသနာကို ကြည်ညို လေးစားစိတ်က ရှေ့ဆောင် လမ်းပြ လုပ်တာ မဟုတ်ပါ။ ရီနေးဆန့် (Renaissance) ခေါ်တဲ့

အသိဉာဏ်အရင်းအငှတ်ကို ပြန်ပြီး ဖော်ထုတ်တဲ့ အသိဉာဏ်ဟောင်း ဆန်းသစ်ခြင်း လှုပ်ရှားမှုနောက်က ကပ်လိုက်လာတဲ့ ကိစ္စ ဖြစ်တယ်။ အဲဒါအခါမှာ ခရစ်သာသနာရယ်လို့ မရှိခင်က ရေးက ထားရစ်ခဲ့တဲ့ အမွေအနှစ်ကို ပြန်လည် ဖော်ထုတ်ဖို့ ဥရောပတစ်တိုက်လုံး အားသွန်ကြိုးစားနေချိန်ပါပဲ။ ဂျီးစပ်စ်ဘဝဇာတ်လမ်းဟာ စာဖတ်သူတို့နဲ့ ရင်းနှီးပြီး ဖြစ်တဲ့ ဓမ္မသစ်နဲ့ ဆက်သွယ်နေတယ်။ ဒါကြောင့် ဒီမှာ ပြန်မပြောပါရစေနဲ့တော့။ ဒါပေမယ့် ဖော်ထုတ်သင့်တဲ့ အချက် နည်းနည်းရှိပါတယ်။ ပထမဦးဆုံး ဂျီးစပ်စ်ဘဝဆိုင်ရာ ပြောဆို မှတ်သားချက်တွေက သိပ်သေချာလှပြီလို့ မထင်ပါနဲ့။ ် သူ့နာမည်အရင်း ကိုတောင် မသိပါ။ ဖြစ်နိုင်တာက ဂျူးလူမျိုးမှာ အများဆုံး မှည့်လေ့ မှည့်ထရှိတဲ့ ယေဟောရှု (Yehoshua) (အင်္ဂလိပ်အသံနဲ့ ဂျူရှုဝါ Joshua) ဖြစ်နိုင်တယ်။ မွေးတဲ့နှစ်၊ လလည်း ဒီလိုပဲ မသေချာပါ။ ခရစ် မမွေးမီ ၆ ဘီစီဆိုရင် ဟုတ်နိုင်စရာ ရှိပါတယ်။ ကွယ်လွန်တဲ့နှစ်ကို သူနဲ့နီးစပ်ပြီး သူ့ကို ကြည်ညိုတဲ့သူတွေက အကျအန သိမှာ ဖြစ်ပေမယ့် အခု အသေအချာ မသိကြတော့ပါ။

ဂျီးစပ်စ် ကိုယ်တိုင်က ဘာစာ၊ ဘာမှတ်တမ်းမျှ မထားခဲ့ပါ။ ရိုးရိုး ပြောကြစို့ဆိုရင် ဓမ္မသစ် (The New Testament) ထဲပါသမျှပဲ တဆင့် ယူသုံးနေကြရပါတယ်။

ဒုက္ခပေးတဲ့ နောက်တစ်ချက် ရှိသေးတယ်။ နှုတ်ကပါဠ်တော်က မွက်ကြွားတဲ့စကားတွေပဲ မညီမညွတ် ရှိနေတယ်။ ဥပမာ ရှင်မဿဲ (Matthew) နဲ့ ရှင်လုကာ (Luke) တို့၊ ဂျီးစပ်စ် နောက်ဆုံးပြောစကားကိုပဲ နှစ်ယောက်ပြောတော့ နှစ်မျိုးထွက်နေတယ်။ သူတို့လည်း ဓမ္မဟောင်း (The Old Testament) ကို တိုက်ရိုက်ကိုးကားပြီး ပြောကြတာဖြစ်ပါတယ်။ ဂျီးစပ်စ်ဟာ ဓမ္မဟောင်းကို ကိုးကားတာမဆန်းပါ။ ခရစ်ဝါဒကို မွေးဖွားပေးသူ ကိုယ်တိုင်က ဂျူးဝါဒကို အလွန် လေးစားမြတ်နိုးသူ ဖြစ်ပါတယ်။ ဂျီးစပ်စ်ဟာ ဓမ္မဟောင်းထဲက ဟီးဘရူးပရောဖက် (Hebrew Prophet) ကြီးတွေနဲ့ တူလိုက်တာလို့ နှိုင်းယှဉ်ပြီး မကြာခဏ ပြောတာကို ကြားရမှာ ဖြစ်ပါတယ်။ အဲဒီ ရှေးပရောဖက်တွေကို သူက အများကြီး အတုခိုး ပြောဆိုပြုမူတာတွေ ရှိတယ်။ အဲဒီပရောဖက်တွေလိုပဲ သူ့ကို လူတွေက သိပ်ကြည်ညို ကြတယ်။ သူ့ကို တွေးဖူး မြင်ဖူး သူတိုင်း ကြာရှည်လေးမြင့် စွဲလမ်း ချစ်ခင် ကြည်ညိုလို့ ကျန်ရစ်မြဲပါပဲ။ ပုဂ္ဂိုလ်စွဲ (Charismatic) စစ်စစ် ဖြစ်ပါတယ်။ မိုဟာမက်လို ယုံကြည်မှုနဲ့ နိုင်ငံရေးတွဲပုံမျိုးတော့ ဂျီးစပ်စ် လုံးဝ မလုပ်ပါ။ နိုင်ငံရေးတွေ ဘယ်လိုပဲရှိရှိ လုံးဝ မပတ်သက်အောင် နေတယ်။ ကွယ်လွန်ပြီးနောက် နှစ်တစ်ရာ အထိပဲ ဆက်ပြီးတော့ နိုင်ငံရေးနဲ့ ကင်းရှင်းပါတယ်။ ရေရှည်မှာတော့ ဒီပုဂ္ဂိုလ်နှစ်ဦးစလုံးပဲ နိုင်ငံရေး အပြောင်းအလဲတွေမှာ တိုက်ရိုက် မဟုတ်ပေမယ့် သွယ်ဝိုက်ပြီး အကြီးအကျယ် သြဇာ လွှမ်းမိုး နိုင်တာကို တွေ့ရပါတယ်။ ဂျီးစပ်စ်က အကျင့်အကြံတွေမှာ အပြည့်အဝ ထိန်းချုပ်နိုင်တဲ့ သာသနာရေး ခေါင်းဆောင် ဖြစ်ပါတယ်။ တခြားဘာမှမပါဘဲ ကျင့်အကြံခေါင်းဆောင်ဆိုရင် ဘယ်လို အဆစ်အပိုင်းနဲ့ ကမ္ဘာကို လွှမ်းတာလဲလို့ မေးသင့် မေးထိုက်ပါတယ်။ ဂျီးစပ်စ်ရဲ့ အရင်းမူလ အကျဆုံး ဆိုးမချက်က ရွှေဥပဒေ (Golden Rule)

ဖြစ်တယ်။ ဒီရွှေဥပဒေကို ခရစ်သာသနာဝင်ရော ခရစ် သာသနာဝင် မဟုတ်သူပါ အလေးအမြတ် ထားပြီးအကောင်းဆုံး စာရိတ္တနီတိလို့ သဘော ထားပြီး လိုက်နာကြတယ်။ အမြဲသဖြင့် မသွေမဖည် လိုက်နာနိုင်တယ် မဟုတ်ပေမယ့် ဒီလိုပဲ လိုက်နာ ကျင့်ကြံချင်တဲ့စိတ်ဆန္ဒ ရှိကြပါတယ်။ ဒီထုံးနည်းကို တစ်ကမ္ဘာလုံး လိုက်နာ နိုင်အောင် သူက စတင်တီထွင်သူဆိုရင် သူ့ကို ဒီစာရင်း ထိပ်ဆုံးမှာထားဖို့ ထိုက်တယ်။

အမှန်က ဂျီးစပ်စ်မမွေးမီ ကာလကြာမြင့်စွာကပဲ ဒီဥပဒေ ထုံးနည်းဟာ ဂျူးလူမျိုးတွေမှာ ရှိနေပြီး ဖြစ်ပါတယ်။

ခရစ်မပေါ်မီ တစ်ရာစုနှစ် (1st century B.C) ကပဲ ရဗ္ဗီ (Rabbi ကျမ်းဂန်ဆရာ) တွေရဲ့ခေါင်းဆောင် ဟီလ္လဲ (Hillel) က ရွှေဥပဒေကို ပြဋ္ဌာန်းတယ်။ ဂျူးဝါဒ (Judaism) မှာ ဒါတွေဟာ အရေးအပါဆုံး ဆုံးမချက်တွေလို့ ပြောခဲ့တယ်။ အနောက်ကမ္ဘာ (Western World) မှာပဲ ဒါမျိုး ထွန်းကားသလား မေးရင် မဟုတ်ပါ။ တရုတ် ဒဿနိကပညာရှင် ကွန်ဖြူးရှပ် (Confucius) က ခရစ်မပေါ်မီ အနှစ် ၅၀၀ (500 B.C) က အဲဒါကို ဖော်ထုတ်ပြီးသား ဖြစ်တယ်။ ပြီးတော့ မဟာဘာရတ (Mahabharata) ဆိုတဲ့ ဟိန္ဒူ (Hindu) ကဗျာရှည်ကြီးမှာလည်း ပါတယ်။ အမှန်ပြောရရင် ဒီရွှေဥပဒေကို သာသနာ ယုံကြည်မှုကြီးတွေ မှန်သမျှက လက်ခံပြီး ရှိနေပါ တယ်။ ဒီလိုဆိုရင် ဂျီးစပ်စ်မှာ ကိုယ်ပိုင် စာရိတ္တ ဆိုင်ရာထုံးနည်း မရှိတော့ဘူးလား မေးပါ။ ရှိပါတယ်။ အယူအဆကို ထင်ထင်ရှားရှား တင်ပြတာကို ရှင်မဿဲ ၅း၄၃ – ၄၄ မှာ ဖတ်ပါ။

> ‘ကိုယ်နှင့်စပ်ဆိုင်သောသူကို ချစ်လော့။ ရန်သူကို မုန်းလော့ ဟူသော ပညတ်စကားကို သင်တို့ ကြားရပြီ။ ငါပညတ်သည်ကား၊ သင်တို့သည် ကောင်းကင်ဘုံ၌ ရှိတော်မူသော သင်တို့အဖ၏ သားဖြစ်လိုသောငှါ သင်တို့၏ရန်သူတို့ကို ချစ်ကြလော့။ သင်တို့ကို ကျိန်ဆဲသောသူတို့အား မေတ္တာ ပို့ကြလော့။ သင်တို့ကို မုန်းသောသူတို့အား ကျေးဇူးပြုကြလော့။ သင်တို့ကို နှောင့်ယှက်ညှဥ်းဆဲသောသူတို့အဖို့ ဘုရားသခင်ကို ဆုတောင်းကြလော့။’

အဲဒီစကားအထက်က (ရှင်မဿဲ ၅း၃၉)

> ‘နှောင့်ယှက်သောသူကို မဆီးတားနှင့်။ သင်၏ ပါးတစ်ဖက်ကို သူတစ်ပါးပုတ်လျှင် ကျန်ပါးတစ်ဖက် လှည့်၍ပေးဦးလော့။’

ဒီစိတ်ကူးမျိုး ဂျီးစပ်စ်လက်ထက်က ဂျူးဝါဒမှာ ပါရှိပြီး ဖြစ်နေတဲ့အပြင် အခြားယုံကြည်မှု အတော် များများမှာလည်း ပါရှိနေရင် ဒီလိုထူးခြား ကောင်းမွန် သိမ်မွေ့တဲ့ အယူအဆဟာ ရှေးကအစ ထာဝရ ရှိခဲ့ပါကလားလို့ သိပါ။

ဒီယုံကြည်ချက်ကို လိုက်နာ ကျင့်သုံးသူများရင် ဂျီးစပ်စ်ကိုပဲ ဒီစာရင်းမှာ ထိပ်ဆုံးက တင်ထားဖို့ ဝန်မလေးသင့်ပါ။ ဒါပေမယ့် အမှန်ကိုပြောရရင် လူအများ လိုက်နာခြင်း မရှိပါ။ ယေဘုယျ လိုက်နာတယ်လို့တောင် မပြောနိုင်ပါ။ ခရစ်သာသနာဝင်တွေက 'ရန်သူကိုချစ်ဖို့' ဩဝါဒဟာ အားလုံး ကောင်းမွန်ပြည့်စုံတဲ့ ကမ္ဘာဆိုရင် ငြင်းရန် မရှိပါ။ ငါတို့ကမ္ဘာမှာတော့ ဒီအတိုင်းဆိုရင် ဒုက္ခ လှလှကြီး တွေ့မှာပဲလို့ ပြောကြမယ်။ ဒီအတိုင်း လိုက်နာဖို့ခက်တယ်။ ငါလိုပဲ သူလည်း လိုက်နာနိုင်မှာ မဟုတ်လို့ တွေးတယ်။ ဒီတော့ သားသမီးတွေကိုလည်း ဒါကို လိုက်ပြီး ဆိုဆုံးမခြင်း မရှိနိုင်ပါ။ အဲဒါကြောင့် ဂျီးစပ်စ်ရဲ့ထင်ရှားလှတဲ့ ဆုံးမချက်ဟာ ကောင်း လိုက်တာလို့ ပြောပေမယ့် ဘယ်သူမှ စမ်းမကြည့်ဖူးတဲ့ အကြံဉာဏ် အဖြစ်ပဲ ရှိနေပါတယ်။

# (၄) ဗုဒ္ဓ (၅၆၃ – ၄၈၃ ဘီစီ)

# BUDDHA(563 B.C. – 483 B.C.)

ဂေါတမဗုဒ္ဓ (Gautama Buddha) အမည် တော်ရင်းက သိဒ္ဓတ္ထမင်းသား ဖြစ်ပါတယ်။ ကမ္ဘာ့အကြီးဆုံး ဘာသာအယူဝါဒတွေထဲမှာ ပါဝင်တဲ့ ဗုဒ္ဓသာသနာကို စတင်ပျိုးထောင်တဲ့ ကျေးဇူးရှင် ဖြစ်ပါတယ်။ နီပေါ (Nepal) နဲ့ နယ်ချင်း ယှက်တင်နေတဲ့ အရှေ့မြောက် အိန္ဒိယမြို့တော် ကပိလဝတ္ထု ဘုရင့်သားတော် သိဒ္ဓတ္ထဟာ ဂေါတမ (Gautama) အမျိုး သာကီယ (သကျ Sakya) အနွယ်ဝင် ဖြစ်ပြီး အခု နီပေါနယ်စပ်အဝင် လုမ္ဗိနီ (Lumbini) မှာ ခရစ်မပေါ်မီ ၅၆၃ (563 B.C) မွေးဖွားခဲ့ပါတယ်။ အသက် တစ်ဆယ့်ခြောက်နှစ်အရောက် ရွယ်တူ နှမတော်နဲ့ လက်ဆက်ပြီး ကြီးစွာသော မင်းစည်းစိမ်ကို ခံစားပြီးနေရသော်လည်း စိတ် မ ပျော်မွေ့ပါ။ လူသား အများစုဟာ ဆင်းရဲဒုက္ခ ကြုံနေကြရပြီး အမြဲသဖြင့် လိုရာမရ ဖြစ်ကြရတယ်။ လူတချို့ဟာ ချမ်းသာတယ်လို့ ဆိုရတာတောင် မကြာခဏ စိတ်ပျက်စရာ၊ မနှစ်သက်စရာ ကိစ္စတွေ ကြုံရသေးတယ်။ ရောဂါ ဝေဒနာ တစ်မျိုးပြီးတစ်မျိုး ကြုံရပြီး၊ သေခြင်းဆင်းရဲကို ဘယ်သူမှ မလွန်ဆန်နိုင်ပါ။ အခုလို အခိုက်အတန့် နှစ်သက်ဖွယ် တွေကို အိုနာသေဘေးတွေက မကြာမီ လွှမ်းမိုးသွားတာပဲ လို့ တွေးတယ်။

သက်တော်နှစ်ဆယ့်ကိုး၊ သားဦးရတဲ့အခါ ဂေါတမက အခုလက်ရှိအနေအထိုင်ကို စွန့်ချိန် တန်ပြီလို့ ဆုံးဖြတ်တယ်။ အမှန်တရားကို စူးစူးစိုက်စိုက် ရှာဖွေသင့်ပြီဆိုတဲ့ အကြံနဲ့ နန်းတော်ကို စွန့်တယ်။ ဇနီးကို ထားခဲ့တယ်။ သားကို ပစ်ခဲ့တယ်။ လူ့ဘဝ ပိုင်ဆိုင်သမျှ စည်းစိမ်ဥစ္စာတွေကို ထားခဲ့ပြီး ပစ္စည်းမဲ့ ခရီးလှည့် သွားလာနေသူ ဖြစ်ခဲ့တယ်။ ခေတ်အခါ အလျောက် ပညာရှိ၊ လူသူတော်ဆိုသူတချို့နဲ့ တွေ့ဖက်ပြီး ကျင့်စဉ်အချို့ကို လိုက်ကျင့်တယ်။ သူတို့နည်းကို သိတော့ အတိမ်အနက်ကို ကြံဆတယ်။ လူ့ဘဝဒုက္ခကို ဖြေဖျောက် ငြိမ်းအေး စေတဲ့နည်းတွေ မဟုတ်ဘူးလို့ သိတယ်။ အလွန်အကဲ ခြိုးခြံနိုင်မှ တရားမှန်ကိုရမယ်လို့ အများတကာ ထင်နေကြတာကို အရှင်ဂေါတမ လည်းလိုက်ပြီး သူတော်စင်တွေလိုပဲ နှစ်ပေါင်း များစွာ ပြင်းပြင်းထန်ထန် ခြိုးခြံတဲ့အကျင့်ကို ကျင့်ခဲ့တယ်။ ခန္ဓာကိုယ်ကို ညှဉ်းပန်းတဲ့အလုပ်တွေ အများကြီးပါတယ်။

နောက်တော့ ဒီလိုသာ ခန္ဓာကိုယ်ကို နှိပ်စက် နေရင် ဦးနှောက်အမြင်

မကြည်လင်ဘဲ သစ္စာတရားနဲ့ ဝေးသထက် ဝေးမယ်လို့ သိလာတယ်။ ဒါကြောင့် ပြင်းထန်လှတဲ့ သူတော်စင် ကျင့်ဝတ်ကို စွန့်ပြီး စားသောက်ဖွယ်တွေကို စားမြဲ မျှတအောင် မှီဝဲသုံးဆောင်ပါတယ်။ ဆိတ်ငြိမ်ရာမှာ တစ်ပါးတည်း အားထုတ်တာကတော့၊ ဘဝရဲ့ ချုပ်ငြိမ်းရာတရားပါပဲ။ နောက်ဆုံးတစ်ညနေ ညောင်ပင်ကြီး အောက်မှာ ထိုင်နေရင်း တစ်စစီ တစ်ပိုင်းစီ ဖြစ်နေတဲ့ သဘောတရားတွေဟာ အလိုလို အချိုးကျအောင် စီစဥ်ပြီးဖြစ်လာတယ်။ သိဒ္ဓတ္ထဟာ တစ်ညလုံး ပေါ်ပေါက် သိရှိလာတဲ့ တရားတော်ကို လေးလေးနက်နက် ပြန်လှန် ဆင်ခြင်ပြီး၊ ရှာနေတဲ့ အဖြေရပြီး နံနက်အရုဏ်လာတဲ့အခါ ‘ဉာဏ်ပွင့်လင်းပြီ’ ဗုဒ္ဓ ဖြစ်ပြီ။

အဲဒီအချိန်မှာ သက်တော်သုံးဆယ့်ငါးနှစ် ရှိပြီ။ ကျန်ရှိတဲ့ လေးဆယ့်ငါးနှစ်မှာ (မဇ္ဈိမဒေသ – Central India) မှာ ဒေသစာရီ (ခရီးလှည့်ပြီး) ဝါဒသစ်ကို နာလိုသူတိုင်း ဟောပြော ဆုံးမ တော်မူပါတယ်။

ပရိနိဗ္ဗာန်ယူတဲ့ ၄၈၃ ဘီစီမှာ ဘုရား တရားတော်ကို လက်ခံသူ ထောင်နဲ့ချီပြီး ရှိလာပြီ။ အစက တရားတော်တွေကို အက္ခရာ တင်ထားပြီး မရှိပါ။ တပည့် အရိယာ သံဃာတွေက နှုတ်တက် အာဂုံ ဆောင်ထား ကြတယ်။ ဒီလိုနဲ့ ဆရာစဥ်ဆက် ပေါ်လာပြီး တရားတော်ကို ထိန်းသိမ်း လာခဲ့ကြတယ်။

တရားအချုပ်ကို၊ ဗုဒ္ဓ သာသနာဝင်တွေ စကားနဲ့ ပြောရရင် ‘သစ္စာလေးပါး’ ဖြစ်ပါတယ်။

## သစ္စာလေးပါး

(၁) ဒုက္ခသစ္စာ၊ တဏှာလောဘကြောင့်ဖြစ်သော ဝဋ်ဆင်းရဲ အကျိုးတရားများ။
(၂) သမုဒယသစ္စာ၊ ဝဋ်ဒုက္ခကို ဖြစ်ပေါ်စေသည့် အကြောင်းကား တဏှာလောဘ။
(၃) နိရောဓသစ္စာ၊ ဆင်းရဲအပေါင်း၏ ချုပ်ငြိမ်း ကင်းပြတ်ရာ မဂ္ဂသစ္စာ၏အကျိုးကား နိဗ္ဗာန်။
(၄) မဂ္ဂသစ္စာ၊ နိဗ္ဗာန်သို့ရောက်စေနိုင်သည့် တရား လမ်းကောင်းဖြစ်သော မဂ္ဂင်ရှစ်ပါး။

## မဂ္ဂင်ရှစ်ပါး

(၁) သမ္မာဒိဋ္ဌိ၊ မှန်ကန်သော ရှုမြင်ခြင်း
(၂) သမ္မာသင်္ကပ္ပ၊ မှန်ကန်စွာ ကြံစည်ခြင်း
(ဒီနှစ်ပါးက ပညာစခန်း)
(၃) သမ္မာဝါစာ၊ မှန်ကန်စွာ ပြောဆိုခြင်း
(၄) သမ္မာကမ္မန္တ၊ မှန်ကန်စွာ ပြုလုပ်ခြင်း
(၅) သမ္မာအာဇီဝ၊ မှန်ကန်စွာ အသက်မွေးခြင်း

(ဒီသုံးပါးက သီလစခန်း)
(၆) သမ္မာဝါယမ၊ မှန်ကန်စွာ လုံ့လထုတ်ခြင်း
(ဒါက သီလ၊ သမာဓိ၊ ပညာစခန်း)
(၇) သမ္မာသတိ၊ မှန်ကန်စွာ အောက်မေ့ခြင်း
(၈) သမ္မာသမာဓိ၊ မှန်ကန်စွာ စိတ်တည်တံ့ခြင်း
(ဒီနှစ်ပါးက သမာဓိစခန်း)

ဗုဒ္ဓဝါဒရဲ့ ထင်ရှားမှတ်သားဖွယ်ဖြစ်တဲ့ အချက် နှစ်ချက်က လူမျိုးကန့်သတ်ချက်နဲ့ ဟိန္ဒူတွေလို ဇာတ် အကြီး၊ အလတ်၊ အညံ့ဆိုတာမျိုး မရှိပါ။

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံလွန်တော်မူပြီးနောက်၊ ဗုဒ္ဓဝါဒ ဆိုတဲ့အယူသစ်ဟာ တဖြည်းဖြည်း ပျံ့နှံ့လာပါတယ်။ နောက် ခရစ်မပေါ်မီ သုံးရာစုနှစ်မှာ အိန္ဒိယ ဧကရာဇ် အသောက (သီရိဓမ္မာသောက ၂၇၄ – ၂၃၂ ဘီစီ) မင်းတရားကြီး ဗုဒ္ဓသာသနာကို သက်ဝင် ယုံကြည် လာတယ်။ မင်းကြီးရဲ့ တိုက်တွန်း အားပေးချက်နဲ့ ဗုဒ္ဓသာသနာပြုတွေ ပေါ်လာပြီး၊ ဗုဒ္ဓသြဇာနဲ့ တရားတော် ဟာ အိန္ဒိယမှာရော အိမ်နီးချင်း နိုင်ငံတွေမှာပါ ပျံ့နှံ့ လာပါတယ်။ ဗုဒ္ဓဝါဒဟာ တောင်ဘက်ကို သီရိလင်္ကာ (Ceylon သီဟိုဠ်)၊ အရှေ့ဘက် မြန်မာ၊ အဲဒီကမှ အရှေ့တောင်အာရှ (South–east Asia)၊ မလေးယား (Malaya) နဲ့ အခု အင်ဒိုနီးရှား (Indonesia) ခေါ်တဲ့ နိုင်ငံတွေကို ရောက်ပါတယ်။ ဗုဒ္ဓဝါဒဟာ မြောက်ဘက်မှာ ဆိုရင် တိဘက်(Tibet) ကို တိုက်ရိုက်ရောက်ပြီး၊ အဲဒီကမှ အနောက်မြောက် အာဖဂန်နစ္စတန် (Afghanistan) နဲ့ ဗဟိုအာရှ (Central Asia) ကို ရောက်သွားပါတယ်။ တရုတ် (စိန China) ကို ရောက်ပြီး ကိုရီယား (Korea ကောရေယ)၊ ဂျပန် (Japan) ရောက်ပါတယ်။

အနှစ်ငါးရာ ကျော်တော့ အိန္ဒိယမြေပေါ်မှာ ဗုဒ္ဓ အယူသစ်ကို သက်ဝင်ယုံကြည်သူ လျော့နည်းလာတယ်။ အနှစ်တစ်ထောင့်နှစ်ရာ ရှိတဲ့အခါ ယုံကြည်သူ မရှိလို့ ပြောရမတတ် တိမ်ကောသွားတယ်။ ဒါပေမယ့် တရုတ်၊ ဂျပန်မှာတော့ ရှေ့ဆောင် ယုံကြည်မှု ဝါဒကြီး တစ်ရပ် အနေနဲ့ ရှိနေပါတယ်။ တိဘက်နဲ့ အရှေ့တောင်အာရှမှာ ဆိုရင် ထိပ်တန်း ကိုးကွယ် ယုံကြည်မှု ဘာသာတရား အဖြစ်နဲ့ ရာစုနှစ်ပေါင်း များစွာ ဖြစ်ထွန်းနေပါတယ်။

မြတ်စွာဘုရား ပရိနိဗ္ဗာန် စံလွန်တော်မူပြီး ရာစုနှစ်ပေါင်း အများကြီးကြာအောင် အက္ခရာ တင်ပြီး ရေးမှတ်ထားတာ မတွေ့ရပါ။ ဂိုဏ်းတွေ အများကြီး ကွဲသွားတာကတော့ မဆန်းလှပါ။ အကြီးအချုပ်လို့ ပြောရမယ့် ဂိုဏ်းကြီးနှစ်ခုက အရှေ့တောင်အာရှမှာ အားကောင်းပြီး အနောက်တိုင်း သုတေသီတွေက ဗုဒ္ဓ ဟောကြား တော်မူရင်းနဲ့ အနီးစပ်ဆုံးဖြစ်မယ်လို့ ယူဆတဲ့ ထေရဝါဒနဲ့ တိဘက်၊ တရုတ်နဲ့ အကြမ်းအားဖြင့် မြောက်ပိုင်းအာရှ (Northern Asia) မှာ ထင်ရှားတဲ့ မဟာယာန ဖြစ်ပါတယ်။

ဗုဒ္ဓမြတ်စွာဘုရားကို ကမ္ဘာ့အကြီးဆုံး အယူဝါဒ အပါအဝင် ဖြစ်တဲ့

ဗုဒ္ဓသာသနာကို စတင်ခဲ့လို့ ဒီစာရင်းမှာ ထိပ်ဆုံးတစ်နေရာက ပါရမှာ အမှန် ဖြစ်ပါတယ်။ လူဦးရေကို တွက်စစ်လိုက်တော့ ဗုဒ္ဓသာသနာဝင်က ၂၀၀,၀၀၀,၀၀၀ ကုဋေ နှစ်ဆယ်၊ မူဆလင်က ၅၀၀,၀၀၀,၀၀၀ ကုဋေ ငါးဆယ်၊ ခရစ်ယာန်က ၁,၀၀၀,၀၀၀,၀၀၀ ကုဋေ တစ်ရာ။ စာရင်း အရ မိုဟာမက်နဲ့ ကျိုးစပ်စ်လောက် အင်အား မရှိပါ။ ဒါပေမယ့် လူများတိုင်း သာတယ် ပြောဖို့ ခက်ပါတယ်။ အိန္ဒိယမှာ ဟိန္ဒူ (Hindu) က ဗုဒ္ဓဝါဒတွေ အများကြီး သူတို့ဝါဒထဲမှာ ထည့်သွင်း လိုက်တာရယ်၊ တရုတ်မှာ ဗုဒ္ဓ သာသနာဝင်လို့ နာမည်မခံသူတွေကလည်း ဗုဒ္ဓဒဿန ဆိုင်ရာ ဆိုဆုံးမချက်တွေ အများကြီးကို လိုက်နာ နေကြတယ် ဆိုတဲ့ အချက်တွေကို ထည့်သွင်း စဥ်းစားပါ။

ခရစ်ယာန်နဲ့ မူစလင်မှာထက် ဗုဒ္ဓတရားတော်မှာ ငြိမ်းချမ်းရေး အခြင်းအရာတွေကို ပိုမို တွေ့ရှိ ရပါတယ်။

အကြမ်းမဖက်တဲ့ လမ်းကြောင်းတွေကိုသာ ဗုဒ္ဓသာသနာဝင် နိုင်ငံတွေရဲ့ နိုင်ငံရေးမှာ အရေးထား လုပ်ဆောင်နေတာကို တွေ့မှာ ဖြစ်ပါတယ်။ လူပုံအလယ်မှာ မကြာခဏပြောလေ့ရှိတဲ့ စကားတစ်ရပ်မှာ....**“ခရစ်(Christ) သာ လူ့ပြည်ကိုတစ်ခေါက် ပြန်ရောက်မယ် ဆိုရင် (သူ့တပည့်တွေ ဖြစ်ပါတယ်။) သူ့ဝါဒကို ခံယူ ကျင့်သုံး နေပါတယ်ဆိုပြီး ဂိုဏ်းကွဲတွေ ပေါ်နေတယ်။ သူ့နာမည်ကို သုံးပြီး တစ်ဦးကိုတစ်ဦး သွေးချောင်း စီးအောင် သတ်ဖြတ်နေကြတယ်။ အဲဒါတွေကို တွေ့ရင် အကြီးအကျယ် ထိတ်လန့် အံ့သြသွားမယ် ထင်တယ်”** ဆိုတဲ့စကားပါပဲ။ ဗုဒ္ဓရှင်တော်ဘုရားလည်း ဗုဒ္ဓဝါဒီ လို့ပြောပြီး ပြုမူဆောင်ရွက်နေတဲ့ ပုံစံမျိုးစုံကိုတွေ့ရရင် အံ့သြသွားမှာ အမှန်ပါ။ ဗုဒ္ဓဂိုဏ်းကွဲတွေက များတယ်။ ကြီးကျယ်တဲ့ ခြား နားချက်တွေလည်း ရှိတယ်။ ဒါပေမယ့် ခရစ် သာသနာဝင်တွေပဲရှိတဲ့ ဥရောပမှာလို ရက်စက် ကြမ်းတမ်းတဲ့ သာသနာရေးစစ် (Religious War) ဆိုတာမျိုးကို မီဖို့ဝေးလို့ အနည်းအပါး နီးစပ်တဲ့ သတ်ဖြတ်မှု မျိုးတောင် နှိုင်းယှဉ်ပြစရာ ဗုဒ္ဓသာသနာဝင် တွေမှာ မတွေ့ပါ။ အဲဒီမှာ ခရစ်ဝါဒ ထက် ဗုဒ္ဓဝါဒက သက်ဆိုင်ရာ သာသနာဝင် လူအများပေါ်မှာ သြဇာ သက်ရောက် တယ်လို့ ဆိုရပါမယ်။

ဗုဒ္ဓနဲ့ ကွန်ဖြူးရှပ် (Kung’ Fu–tse ကုန်ဖုစီ) ရဲ့ အယူဝါဒ တွေဟာ ကမ္ဘာ့လူသားတွေအပေါ်မှာ အကြမ်း သဘောပြောရရင် သြဇာ ရှိပုံချင်း တူသလို ရှိတယ်။ ပေါ်ထွန်းခဲ့တဲ့ ခေတ်ချင်းလည်း တူတယ်။ လိုက်နာ ယုံကြည်သူ အရေအတွက် လည်း ဆတူနီးနီး ဖြစ်တယ်။ ဗုဒ္ဓကိုရှေ့၊ ကွန်ဖြူးရှပ်ကို နောက်ထားပြီး စီရတာမှာ အကြောင်း နှစ်ရပ် ရှိပါတယ်။ တရုတ်နိုင်ငံမှာ ကွန်မြူနစ်ဝါဒ ထွန်းကားလို့ ကွန်ဖြူးရှပ်ဝါဒ အများကြီး တိမ်မြုပ်ခဲ့ရတာက တစ်အချက်၊ တရုတ်နိုင်ငံ အပြင်ကို ကွန်ဖြူးရှပ်ဝါဒ ကျယ်ကျယ်ပြန့်ပြန့် မရောက်တာက နှစ်အချက် ဖြစ်ပါတယ်။ လက်ရှိ တရုတ်သဘောထားတွေမှာ ကွန်ဖြူးရှပ်ရဲ့ အတွေးအခေါ်တွေဟာ မြုပ်သွားပြီ။ ဗုဒ္ဓရဲ့ ဆိုဆုံးမချက်တွေကတော့ ယခင်ရှိပြီး အိန္ဒိယနယ်ကို ကျော်ပြီး ပြန့်ထွက်လာခြင်းက ဗုဒ္ဓတရားတော်ရဲ့ ပင်ကို အသိနဲ့ လူအများ လက်ခံ

ကျင့်သုံးနိုင်အောင် လေးနက်ခြင်း ကြောင့် ဖြစ်ပါတယ်။

# (၅) ကွန်ဖြူးရှပ် (၅၅၁ – ၄၇၉ ဘီစီ)

## CONFUCIUS (551 B.C. – 479 B.C.)

ကွန်ဖြူးရှပ် (Kong Fu–tse ကုန်ဖုစီ) တရုတ် ဒဿနိကပညာရှိကြီးဟာ တရုတ်တို့ အခြေခံ အယူအဆ အလေ့အထတွေကို ပထမဦးဆုံး အကြောင်း အကျိုးစဉ်ပြီး စုစည်းပေးခဲ့တဲ့ ပုဂ္ဂိုလ် ဖြစ်ပါတယ်။ သူ့ဒဿနဟာ လူပုဂ္ဂိုလ် တစ်ဦးစီရဲ့ ကောင်းမွန်ရေးနဲ့ လူအများစုအကျိုးအတွက် အုပ်ချုပ်သူ အစိုးရဆိုင်ရာ ထုံးနည်းများ စေ့စပ် သေချာရေး ကို အခြေခံပြီး ပြောဆို ဆုံးမတဲ့ အတွက် အနှစ် နှစ်ထောင်ကျော် တရုတ်ဘဝနဲ့ ဓလေ့ထဲမှာ ပျံ့နှံ့ပြီး ကမ္ဘာ့လူသား တော်တော်များများ အပေါ်မှာ အများကြီး လွှမ်းမိုးနေပါတယ်။

တရုတ်နိုင်ငံအရှေ့မြောက် ရှန်တုန် (Shan tung) ပြည်နယ်၊ လု (Lu) နိုင်ငံငယ်လေးမှာ ကွန်ဖြူးရှပ်ကို ၅၅၁ ဘီစီမှာ မွေးဖွားတယ်။ သူငယ်ငယ်ကပဲ သူ့ဖခင် သေဆုံး သွားလို့ မိခင် မုဆိုးမနဲ့ ကွန်ဖြူးရှပ်တို့ ဆင်းတောင့်ဆင်းရဲ နေခဲ့ရတယ်။ နောင် ဒဿဆရာ ဖြစ်လာမယ့် ကွန်ဖြူးရှပ် ဟာ လူငယ်လူရွယ်အချိန်ကပဲ အစိုးရ အရာရှိငယ် အဖြစ်နဲ့ ဝန်ထမ်းဖူးတယ်။ ဝန်ထမ်းသက် အတော်ရပြီးမှ အစိုးရ အလုပ်က နုတ်ထွက်ပြီး နောက်ပိုင်း တစ်ဆယ့်ခြောက်နှစ် အတွင်းမှာ သူ့ဒဿနကို ပြောဟောတဲ့အခါ သူ့ကို တပည့်များစွာ ဆည်းကပ်လာကြတာကို တွေ့ရပါတယ်။ အသက်ငါးဆယ် ရောက်တဲ့အခါ သူ့အစိုးရက သူ့ကို ရာထူးကြီးတစ်ခု ပေးအပ် ချီးမြှောက်ပေမယ့် လေးနှစ်ကြာ တာဝန် ထမ်းဆောင်ပြီးနောက် ကုန်းချောသူ တို့ဘက်က အောင်မြင်လို့ ရာထူးက နုတ်ပယ်ပြီး၊ ပြည်နှင် ဒဏ်ပေးခြင်း ခံရရှာပါတယ်။ နောက်တစ်ဆယ့်သုံးနှစ်မှာတော့ နယ်လှည့် တရားဟော လမ်းလျှောက်ဆရာဖြစ်ပြီး ဇာတိနယ်ကို ပြန်ရောက်တယ်။ ငါးနှစ်နေပြီး ၄၇၉ ဘီစီ(အသက် ၇၂ နှစ်) မှာ ကွယ်လွန်ပါတယ်။

ကွန်ဖြူးရှပ်ကို ကိုးကွယ်ယုံကြည်မှု ဘာသာ တစ်ရပ်ကို စတင်ခဲ့တဲ့ပုဂ္ဂိုလ် အဖြစ်နဲ့ ဖော်ပြ ခေါ်ဝေါ်လေ့ ရှိကြပေမယ့် ဒီလို မခေါ်သင့်ပါ။ သူ့ဟောပြောတဲ့အထဲမှာ အထက်နတ် အကြောင်း၊ တမလွန် ဘဝအကြောင်း၊ ရှေ့ဖြစ်နောက်ဖြစ်ဖတ်တာတွေ အကြောင်း မပါဘူး။ အခြေခံကျကျ လူ့လောက ဖြစ်တတ်သမျှ အကြောင်းတွေကို တွေးတောကြံဆ အဖြေ ရှာတယ်။ လူတိုင်းလူတိုင်း လူ့ကိုယ်ကျင့်တရားကို ထိန်းဖို့နဲ့ နိုင်ငံရေး စည်းစောင့်ဖို့ အရေးကိုသာ စိတ်ပါဝင်စားတယ်။

အရေးပါတဲ့ အရည်အသွေးကောင်းနှစ်ခုက 'ရဲန်' (jen) နဲ့ 'လီ' (li) လို့ ကွန်ဖြူးရှပ်က အမည် ပေးထား ပါတယ်။ အဆင့်မြင့်တဲ့လူတိုင်း ဒီနှစ်မျိုးကို ဂရုစိုက်ပြီး လက်တွေ့လုပ်ငန်းနဲ့ ညှိပါတယ်။ 'ရဲန်' udk အချစ် လို့ အဓိပ္ပါယ် ဖွင့်တယ်။ ပိုရှင်းအောင် 'လုပ်ဖော်ကိုင်ဖက် လူတစ်ဖက်သားကို ကောင်းစေလိုတဲ့စေတနာ' လို့ ဘာသာပြန်ပါမယ်။ 'လီ' ကတော့ ဟန်အမူအရာ၊ ပူဇော်ပသခြင်း၊ ထုံးနည်း၊ ယဥ်ကျေးဖွယ်ရာ ရှိခြင်း နဲ့ သင့်တင့်လျောက်ပတ်စွာ နေတတ်ခြင်း တွေကို စုပေါင်းရည်ညွှန်းပါတယ်။

ဘေး၊ ဘိုး၊ မိဘကို ပူဇော်ပသခြင်းဟာ တရုတ် ဘာသာ အယူဝါဒရယ်လို့ ကွန်ဖြူးရှပ် မပေါ်ခင်ကပဲ ရှိခဲ့ပါတယ်။ အဲဒီအပေါ်မှာ သူက ဆင့်ပြီး မိသားစုအပေါ်မှာ သစ္စာရှိပါ၊ မိဘကို ရိုသေပါလို့ သွန်သင်ပါတယ်။

အဲဒါအပြင် ရိုသေလေးမြတ်ခြင်း၊ စေခိုင်းသမျှ နာခံ ဆောင်ရွက်ခြင်းဆိုတာ လင်အပေါ်မှာ မယားက ထားရမယ့် တာဝန်၊ အစိုးရအပေါ်မှာ ပြည်သူက ထားရမယ့် တာဝန်ပဲလို့ ပြောပြန်တယ်။ ဒါပေမယ့် ကြမ်းတမ်း ရက်စက်တဲ့မင်း ကိုတော့ မထောက်ခံပါ။ နိုင်ငံအစိုးရဆိုတာ လူအများ အကျိုးကို ဆောင်ရွက်ပေးဖို့ တာဝန်ရှိတယ်။ အဲဒီလိုပဲ လူအများကလည်း အစိုးရ ကောင်းကျိုးကို ရှေးရှု ဆောင်ရွက်ပေးရမယ်။ အစိုးရက အုပ်ချုပ်တဲ့အခါ အာဏာသုံးခြင်းထက် စာရိတ္တ စံပြကောင်းခြင်းနဲ့ ရှေ့ဆောင်ရမယ် လို့လည်း ဆိုပါတယ်။

သူ့ဆုံးမချက်ထဲမှာ ရွှေဥပဒေ (Golden Rule) နဲ့ ခပ်ဆင်ဆင်တူတာ ပါတယ်။ **'ကိုယ့်ကို လာမလုပ် စေချင်တဲ့ကိစ္စ၊ သူများကို သွားမလုပ်ပါနဲ့'** တဲ့...။

ကွန်ဖြူးရှပ် အခြေခံအမြင်က အများကြီး ရှေးဆန်တယ်။ သူ့အလိုအရ ရွှေခေတ်က ရှေးကဖြစ်ပေါ်ခဲ့ပြီးပြီ။ ပြည်သူ၊ အစိုးရ နှစ်ဖက်စလုံး ရှေးထုံးကို ပြန်ကောက်ပါ။ ဒါပေမယ့် စာရိတ္တမကျင့်ငြိနဲ့ ရှေ့ဆောင် အုပ်ချုပ်တာမျိုး ရှေးက မရှိဘူးပါ။ အဲဒါကြောင့် ကွန်ဖြူးရှပ်ကို အသစ်ဘက်ကိုပို့တဲ့ ပြုပြင်ရေးသမားလို့ သူကိုယ်တိုင်က ဝန်မခံပေမယ့် ဒီအတိုင်းပဲ သူ့ကို မြင်ပါတယ်။

ကွန်ဖြူးရှပ်ဟာ တရုတ်နိုင်ငံမှာ ဉာဏ်ပညာ အများကြီး ပွင့်လင်းတဲ့ ကြို (Chou) မင်းဆက် ကာလက ပေါ်ပေါက်သူ ဖြစ်ပါတယ်။ ခေတ်ပြိုင် အစိုးရတွေ သူ့ပုံစံကို လက်မခံပါ။ သူ ကွယ်လွန်ပြီးခါမှ သူ့အတွေးအခေါ် အယူအဆတွေ တစ်နိုင်ငံလုံးမှာ ပျံ့နှံ့လာပါတယ်။ ဒါပေမယ့် ခရစ်မပေါ်မီ ၂၁၁ (211 B.C.) ဘီစီမှာ ချင် (Ch'in) မင်းဆက်လက်ထက်မှာ ကွန်ဖြူးရှပ် အယူဝါဒ အတွက် ခေတ်ဆိုးနဲ့ကြုံရပါတယ်။

ချင် ပထမ ဧကရာဇ် ရှီဟွန်တိ( Shih Huang Ti) က ကွန်ဖြူးရှပ် ဩဇာမှန်သမျှကို ပယ်ဖျက် ရမယ်လို့ ဆုံးဖြတ်တယ်။ နောက်ပိုင်းနဲ့ လုံးဝ အဆက်ဖြတ်တဲ့ သဘောလို့ ဆိုနိုင်ပါတယ်။ ကွန်ဖြူးရှပ်အယူဝါဒကို သင်ကြားပို့ချခြင်း မပြုရ၊ ကွန်ဖြူးရှပ် ကျမ်းစာ မှန်သမျှ အားလုံး မီးတိုက်

ရမယ်လို့ အမိန့်တော်ပြန်ပါတယ်။

ဒီလိုနိမိနင်းပေမယ့် မအောင်မြင်ပါ။ နောက်နှစ် သိပ်မကြာဘူး။ ချင်မင်းဆက် ကျဆုံးသွားတဲ့အခါ ကွန်ဖြူးရှပ် ပညာရှင်တွေက ကွန်ဖြူးရှပ်ဝါဒကို သင်ကြားကြပြန်တယ်။ ဟန် (Han) မင်းဆက် (၂၀၆ ဘီစီ – အေဒီ ၂၂၀) မှာ ကွန်ဖြူးရှပ်ဝါဒဟာ တရုတ်နိုင်ငံတော်ရဲ့ ဒဿနလို့ အခိုင်အမြဲ ဖြစ်လာခဲ့ပါတယ်။

ဟန်မင်းဆက် ခေတ်ကစပြီး တရုတ် ဧကရာဇ် တွေက အစိုးရ အရာရှိသစ်ရွေးဖို့ ပြည်သူ့ဝန်ထမ်း စာမေးပွဲ လုပ်စေတယ်။ စာမေးပွဲမှာ ကွန်ဖြူးရှပ် ကျမ်းရင်း အများကြီးကို သင်ကြားဖို့ ပြဋ္ဌာန်းထားတယ်။

အစိုးရ အုပ်ချုပ်ရေး ယန္တရားကိုဝင်ပါမှ စီးပွားရေး၊ လူမှုရေး အစစ တိုးတက်ကြီးပွားဖို့ လမ်းသာတဲ့ အတွက် တရုတ် ဧကရာဇ်နိုင်ငံကြီးမှာ ဝန်ထမ်းရွေး စာမေးပွဲ (Civil Service Examination) ဟာ ခေတ်စား လာတယ်။ အပြိုင်အဆိုင်များလို့ အောင်မြင်ဖို့ အင်မတန် ကြိုးစား အားထုတ်ရတယ်။ နှစ်ပေါင်း ရာထောင် ချီပြီး သားစဉ်မြေးဆက် သိပ်စာတော်ပြီး သိပ်ကြီးပွားချင်တဲ့ လူငယ်တိုင်း ကွန်ဖြူးရှပ် ကျမ်းဟောင်းတွေကို နှစ်အကြာကြီး လေ့လာပြီး အုပ်ချုပ်တဲ့ အရာရှိတွေ ဖြစ်ဖို့၊ ဒီဝန်ထမ်းရွေး စာမေးပွဲကို ဝင်ရောက်ဖြေဆို အောင်မြင် လာကြတာ ဖြစ်လို့၊ တရုတ်ပြည်ရွာ အုပ်ချုပ် အရာရှိတွေဟာ ကွန်ဖြူးရှပ်ဒဿနမှာ အမြင်သန်ပြီး၊ အခြေခံ အတွေးအခေါ် အပြုအမူတွေ မှာပါ ကွန်ဖြူးရှပ် အဆုံးအမကို အပြည့်အဝ ခံယူသူတွေ ဖြစ်လာခဲ့ပါတယ်။ ဒီစနစ်ဟာ တရုတ်နိုင်ငံမှာ (အနည်းအပါး အဆက်ပြတ် တောက်သွားသလို ရှိဖူးပေမယ့်) ၁၀၀ ဘီစီက အေဒီ ၁၉၀၀ အထိ ရှိခဲ့ပါတယ်။ ဒါပေမယ့် တရုတ် အုပ်ချုပ်ရေး တစ်ခုတည်းမှာပဲ ကွန်ဖြူးရှပ်ဝါဒ ဩဇာ ကြီးမားတာ မဟုတ်ပါ။ တရုတ်လူမျိုး အများစုက ကွန်ဖြူးရှပ်စကားကို အလေးဂရုပြုပြီး သူနေခိုင်းသလို လုပ်ခိုင်းသလို၊ တွေးခိုင်းသလို နေထိုင်လုပ်ကိုင်တွေးခေါ်ခဲ့ကြတာ အနှစ်နှစ်ထောင်ကျော်ခဲ့ပါတယ်။

တရုတ်တွေ ဘာကြောင့် ကွန်ဖြူးရှပ်ဝါဒကို နှစ်သက် ပါသလဲလို့ အကြောင်းရင်းကိုရှာရင်

(၁) သူကရိုးသားတည့်မတ်တယ်။ သံသယ ဖြစ်ဖွယ် မရှိ။
(၂) သူက အလယ်အလတ် အနေအထားနဲ့ လက်တွေ့သမား။

ခက်တာကို ဖြစ်အောင် ဇွတ်လုပ်လို့ ခိုင်းတာမျိုး မပါဘူး။ မလုပ်နိုင်တာကို မခိုင်းပါ။ 'မင်းတို့ လူလေးစားထိုက်အောင် နေပါ' ဆိုတာမှာ ဆရာတော်သမားတော်တွေလို၊ ရဟန္တာကြီးတွေလို အကြည်ညို ခံထိုက်အောင် နေပါလို့ မပြော။ တရုတ် စိတ်ထားနဲ့ ကိုက်ညီတာ တွေပဲ အရင်းထားပြီး ပြောခဲ့တာဖြစ်လို့ တရုတ်တွေက ကြိုက်တာဖြစ်တယ်။ အဲဒါ သူ့ အောင်မြင်ခြင်းမှာ သော့ချက်ဖြစ်တယ်။ တရုတ်တွေ ဘာကို အသစ်စမ်းကြည့်လို့ မခိုင်းဘဲ၊ **'မင်းတို့ ရှေးထုံးထဲက ဒါတွေ မေ့ထားကြတာကိုး၊ ပြန်လုပ်ကြည့်စမ်း။ လက်တွေ့မှာ**

**အောင်မြင် ရမယ်’** ဆိုတာမျိုးကို ရှင်းလင်းပြတ်သား သဘောပေါက်အောင် ပြောနိုင်လို့၊ သူ့ကို လူကြိုက် များတာဖြစ်ပါတယ်။ ဒဿနိက သမိုင်းမှာ ကွန်ဖြူးရှပ်လို လူအများနဲ့ဝင်ဆံ့အောင် ပြောဟောနိုင်သူ မပေါ်ဖူးသေးပါ။ ကွန်ဖြူးရှပ်ဝါဒမှာ **“ဒါ မင်းရဲ့ရပိုင်ခွင့်ဆိုတာမျိုး ထောက်မပြဘဲ၊ ဒါ မင်းလုပ်သင့်တာပေါ့”** ဆိုတာမျိုးကို ပြောလေ့ရှိတော့၊ အနောက်တိုင်း စံနှုန်းနဲ့ဆိုရင် အားမာန်နဲ့ လုပ်စရာမပါဘဲ ပျင်းစရာဖြစ်နေတယ်။ အုပ်ချုပ်ရေး ပိုင်းမှာတော့ ထင်ထင်ရှားရှား လက်တွေ့ အောင်မြင်တဲ့ အချက်တွေ အများကြီးပါပဲ။

တရုတ်ပြည်မှာ ပြည်တွင်းငြိမ်းချမ်းရေးနဲ့ သာယာဝ ပြောရေးကို နှစ်နှစ်ထောင် ပေးစွမ်းနိုင်လို့ ကမ္ဘာမှာ တရုတ်ဟာ အကောင်းဆုံး အုပ်ချုပ်ရေးကို ခံစားရတဲ့နိုင်ငံ ဖြစ်ခဲ့တယ်လို့ ပြောနိုင်ပါတယ်။

ကွန်ဖြူးရှပ်ရဲ့ စိတ်ကြိုက် အလေ့အလာ အတွေးအခေါ်တွေဟာ တရုတ်ဓလေ့ (culture)မှာ ခိုင်ခိုင်မြဲမြဲ အခြေခံထားတဲ့အတွက် အရှေ့အာရှကိုလွှမ်းပြီး ဩဇာ မသက်ရောက်နိုင်ပါ။ ကိုးရီးယား နဲ့ ဂျပန်မှာဆိုရင် တရုတ်ဓလေ့ ရောက်ပြီဖြစ်လို့ ကွန်ဖြူးရှပ်ဩဇာ ညောင်းပါတယ်။ အခုအခါ တရုတ်ကွန်မြူနစ်တွေကြောင့် ကွန်ဖြူးရှပ် ဝါဒကို အရေးပေးပြောဆို လိုက်နာခြင်း မရှိကြတော့ပဲ၊ အနိမ့်ဆုံးအခြေကို ကျရောက် နေပါတယ်။ အနာဂတ်နဲ့ အပြတ်ဖြတ်မယ် ဆိုပြီး ကွန်မြူနစ်တွေက ကွန်ဖြူးရှပ်ရဲ့ ဝါဒတွေကို ဦးတည်ပြီး တိုက်ခိုက်တဲ့ အတွက် သမိုင်းမှာ ကွန်ဖြူးရှပ် လွှမ်းမိုးချိန် ကုန်လွန်ခဲ့ပြီ လို့တောင် ပြောကြရပါပြီ။ ဒါပေမယ့် တစ်ခါက အကြာကြီး ထွန်းကား ခဲ့တဲ့ဝါဒဖြစ်လို့ နောက်ရာစုနှစ် အတွင်းမှာ ကွန်ဖြူးရှပ်ဝါဒ ပြန်လည်ရှင်သန်လာဦးမယ်ဆိုရင် မဆန်းပါ။

3, March, 2000.

# (၆) ရှင်ပေါလု (စိန့်ပေါလ်) (အေဒီ ၄ ခန့် – အေဒီ ၆၄ ခန့်)

## ST.PAUL (c. 4 A. D. – c.64 A. D.)

တမန်တော် ပေါလု (Paul) ဟာ ကြီးစပ်စ်နဲ့ ခေတ်ပြိုင် ဆိုပေမယ့် အသက်နည်းနည်း ငယ်တယ်။ ယုံကြည်မှု အသစ်ဖြစ်တဲ့ ခရစ် သာသနာထဲကို လွှဲပြောင်း ဝင်လာသူတွေ ထဲမှာ ထိပ်တန်းက ပါဝင်တယ်။

ခရစ်ဂန္ထဝင်မှာ သူ့လိုရေးနိုင်တွေးနိုင်သူမျိုး ခုထိ မပေါ်ထွန်းသေးပါ။ ပေါလုကို ဆောလ် (Saul) လို့လည်း ခေါ်ကြတယ်။ (ကနေ့ တူရကီ Turkey ဖြစ်လာတဲ့) စီလီစီယ (Cilicia) က တာစပ် (Tarsus) မှာ ခရစ်နှစ် ပေါ်ဦးပေါ်စကပဲ မွေးဖွားခဲ့သူ ဖြစ်ပြီး၊ ရောမ အမျိုးသားအမည်ခံတဲ့ ဂျူးဖြစ်တဲ့ အပြင်၊ ငယ်စဉ်ကပဲ ဟီးဘရူးကိုသင်ပြီး ဂျူးတွေရဲ့အသိပညာတွေကို ကောင်းကောင်းကြီး သင်ကြား တတ်မြောက်ခဲ့သူ ဖြစ်ပါတယ်။ တဲဆောက်တဲ့ အတတ်ပညာကို သင်ဖူးတယ်။ ငယ်ငယ်က ဂျေရုဆလမ် (Jerusalem) ကိုသွားပြီး၊ ဂျူးဆရာ နာမည်ကြီး ရဗ္ဗီ (Rabbi ဂျူးပညာရှိ) ဂမလိယယ် (Gamaliel) ဆီမှာ တပည့် ခံဖူးတယ်။ ပေါလ်နဲ့ ကြီးစပ်စ်ဟာ ဂျေရုဆလမ်ကို တစ်ချိန် တစ်ခါတည်းမှာ ရောက်နေကြ ပေမယ့် တစ်ယောက်နဲ့ တစ်ယောက် တွေ့ဖူးကြမယ် မထင်ပါ။

ကြီးစပ်စ် ကွယ်လွန်ပြီးစက ရှေးဦးခရစ် သာသနာဝင် တွေကို မိစ္ဆာဒိဋ္ဌိ ဆိုပြီး နှိပ်ကွပ်ခြင်းကို ခံရတယ်။

ပေါလု ကိုယ်တိုင် ဒီလိုနှိပ်ကွပ်သူတွေထဲမှာ ပါတယ်။ တစ်နေ့ ဒမတ်စကပ် (Damascus) ကို ခရီးသွားခိုက်၊ သူ့ကို ကြီးစပ်စ်ကလာပြီး စကားပြော တယ်လို့ အမြင် (Vision) ရတယ်။ အဲဒါနဲ့ သူကိုယ်တိုင် ခရစ်အယူဝါဒ ဘက်တော်သား ဖြစ်ခဲ့ရတယ်။ သူ့ဘဝမှာ ဒါဟာ အရေးကြီးဆုံး ပြောင်းလဲမှု ဖြစ်ပါတယ်။ တစ်ခါက ခရစ်ဝါဒကို ဆန့်ကျင်သူဟာ အဲဒီယုံကြည်မှု အယူဝါဒသစ်ရဲ့ စိတ်အတက်ကြွဆုံး ပြောဟော ထောက်ခံအား အကြီးဆုံး ပုဂ္ဂိုလ် ဖြစ်လာပါတယ်။ အယူကူးပြောင်းရက် ကစပြီး သက်ဆုံးတိုင်၊ တစ်ဘဝလုံး ခရစ်တော်အတိုင်း တွေးတော ကြံဆပြီး စာရေးနိုင်ခဲ့လို့ တပည့်နောက်လိုက်တွေ အများအပြားရရှိခဲ့တယ်။ ခရစ်သာသနာပြုလုပ်ငန်းအတွက် အာရှမိုင်နာ၊ ဂရိ၊ ဆီးရီးယားနဲ့ ပါလက်စတိုင်းအနှံ့ ခရီးသွား ခဲ့တယ်။ ဂျူးတွေထဲမှာ

ဟောပြောတဲ့အခါ သူ့အမူအယာကြောင့် အကြီးအကျယ် မကျေနပ် ဖြစ်ကြလို့ အသက် အန္တရာယ်ကိုပင် စိုးရိမ်ရတဲ့ အထိ ပဋိပက္ခ ဖြစ်ခဲ့ရဖူးတယ်။ ဒါပေမယ့် ဂျူးအပြင် တခြားလူထုနဲ့တွေ့တဲ့အခါ အကြီးအကျယ် အောင်မြင်လို့ သူ့ကို ဂျူးမဟုတ်တဲ့ လူတွေရဲ့ တမန်တော် (Apostle to the Gentiles) လို့ ခေါ်လေ့ရှိပါတယ်။ ခရစ်သာသနာ ပျံ့ပွားအောင် လုပ်တဲ့နေရာမှာ သူ့ထက်စွမ်းသူ မပေါ်ဖူးသေးပါ။

ရောမအင်ပိုင်ယာရဲ့ အရှေ့ဘက်ခြမ်းအတွင်း သာသနာပြု ခရီးဝေး သုံးကြိမ်သွားပြီးတဲ့နောက်၊ ပေါလုဟာ ဂျေရုဆလမ်ကို ပြန်လာတယ်။ ရောက်ရောက်ချင်း ဆီးဖမ်းတယ်။ နောက် ရောမကို တရားဆိုင်ဖို့ ပို့တယ်။ ဘယ်လို စီရင် ချက်ချတယ်၊ ရောမက ထွက်လာ နိုင်သေးရဲ့လား ဆိုတာတွေကို ကောင်းကောင်း မသိရပါ။

နောက်ဆုံး (ခရစ်နှစ် ၆၄ ဖြစ်နိုင်စရာရှိတဲ့အခါက) သူ့ကို ရောမ အနီးတစ်ဝိုက်မှာပဲ ကွပ်မျက် လိုက်တယ်လို့ သိရတယ်။ ခရစ်သာသနာရယ်လို့ ပေါ်ထွန်းလာစေဖို့ ပေါလု အကြီးအကျယ် ကြိုးစားအားထုတ်ရာမှာ ထင်ရှားတဲ့အချက် သုံးချက် ရှိတယ်။

(၁) သာသနာပြုလုပ်ငန်းမှာ တကယ်တော်တယ်။
(၂) ဓမ္မသစ် (The New Testament) ရေးတဲ့အထဲမှာ သူ့အပိုင်းက အထင်ရှားဆုံး၊ အရေးပါဆုံး ဖြစ်ပါတယ်။
(၃) ခရစ်ကျမ်းစာရယ်လို့ ဖြစ်ထွန်းလာတာမှာ သူ့ဆောင်ရွက်ချက် အများကြီးပါတယ်။

ဓမ္မသစ် နှစ်ဆယ့်ခွန်နစ်ခန်းမှာ တစ်ဆယ့်လေးခန်း ထက်မနည်း သူရေးတယ်လို့ လူတိုင်းက ယူဆကြတယ်။ အခု သုတေသီတွေက အဲဒီတစ်ဆယ့်လေးခန်း ထဲမှာ လေးအုပ် ငါးအုပ် ကတော့ သူရေးတာ မဖြစ်နိုင်လို့ ပြောနေကြပေမယ့် ပေါလုဟာ ဒီဓမ္မသစ်ပေါ်လာဖို့ ဆောင်ရွက် တဲ့နေရာမှာ အရေးပါဆုံး စာရေးဆရာ တစ်ဦးလို့ ပြောရမယ်။

ပေါလ် (Paul) ရဲ့ ခရစ်ဂန္တဝင်အတွက် အကျိုးပြုပုံ ကို ဘယ်လောက်ရှိတယ်လို့ ရေတွက် မပြနိုင် လောက်အောင် များပြားပါတယ်။ သူဆင်ခြင်ပုံတွေထဲမှာ…

> ‘ဂျီးစပ်စ်ဟာ အထက်နဲ့ဆက်သွယ်ထားတဲ့ လူပရောဖက် သာမည မဟုတ်၊ သူပဲ အထက်ကို တိုက်ရိုက် ပေါက်တဲ့ ပုဂ္ဂိုလ် (Divine) ဖြစ်တယ်။ ခရစ်ဟာ ငါတို့ အပြစ်(Sin) တွေအတွက် အသေခံတယ်။ အဲဒီနည်းနဲ့ ငါတို့ကို ကယ်တင် တယ်။ လူတစ်ယောက်ရဲ့ ဘဝလွတ်မြောက်ရေး (Salvation) ဟာ သမ္မာကျမ်းတွေရဲ့ ဖော်ပြချက်ကို လိုက်နာရုံနဲ့ မပြီး၊ ခရစ်တော်ကို တကယ် ယုံကြည်ရမယ်၊ အဲ့ဒါကို

ဖြောင့်ဖြောင့် ပြန်ပြောရင် ခရစ်ကို လက်ခံယုံကြည်ရင် အပြစ်ကင်းမယ်’

မူလအပြစ်ကို အသေအချာ ဖော်ထုတ် ပြောဆိုသူ မှာ ပေါလုဖြစ်ပါတယ်။

(ရောမ ဩဝါဒစာ ၅ း ၁၂ – ၁၉)

“ဥပဒေကို လေးစားရုံမျှနဲ့ ဘဝလွတ်မြောက်ရေး မရနိုင်၊ ဒါကြောင့် ပေါလုက ခရစ်သာသနာဝင် ဖြစ်လာသူတွေဟာ ဂျူးတွေသတ်မှတ်တဲ့ အစားအသောက် ခြိုးခြံမှုတွေ၊ မော့ဥပဒေ (Mosaic Code) အရ ပူဇော်ပွဲတွေဟာ အင်္ဂါဇာတ်ထိပ် အရေပြားလှီး (Circumcision) ဒါတွေလုပ်ဖို့ မလိုဘူးလို့၊ အတိအကျပြောတယ်။ ရှေးဦး ခရစ်ဝါဒီဆရာ အချို့က ပေါလု ဒီလိုပြောတာကို မကြိုက်၊ မထောက်ခံပါ။ သူတို့အယူအဆသာ အနိုင်ရခဲ့ရင် ရောမ အင်ပါယာတွင်းမှာ အခုလိုလူကြိုက်များပြီး အလျင်အမြန် ပျံ့နှံ့မယ် မထင်ပါ။”

“ပေါလုဟာ အိမ်ထောင်မရှိတဲ့ လူလွတ်ပဲ ဖြစ်ရမယ်။ အဲဒါကို သက်သေပြဖို့တော့ ခက်တယ်။ ဒါပေမယ့် မိန်းမနဲ့ မဆက်ဆံဖူးတာတော့ သေချာတယ်။ ကျမ်းစာထဲမှာပါတဲ့ အဖိုအမနဲ့ မိန်းမတွေ အပေါ်ထားတဲ့ သဘောထားတွေကို ကြည့်ရင် နောက်ပိုင်း သဘောထား ဘယ်လိုဖြစ်လာသလဲလို့ ထင်ရှားအောင် သိနိုင်ပါတယ်၊” သူ့ရဲ့ အလွန် ကျော်ကြားတဲ့ ဆုံးဖြတ်ချက်ကို ကြည့်ပါ။

> ‘ထို့ကြောင့် မယားမရှိသောသူတို့နှင့် မုဆိုးမတို့ကို ငါဆိုသည်ကား ထိုသူတို့သည် ငါကဲ့သို့နေလျှင် ကောင်း၏။ သို့သော် ကာမဂုဏ်ကို မချုပ်တည်း နိုင်လျှင် ထိမ်းမြားစုံဖက်ခြင်းကို ပြုကြစေ၊ ကိလေသာ စိတ်ပူပန်ခြင်းသည်ထက် ထိမ်းမြား စုံဖက်ခြင်းပြုသော် သာ၍ကောင်း၏။ (ကောရိန္တုဩဝါဒ – Corinthians– ပထမစာစောင် ၇း၈ – ၉)

ပေါလုက အမျိုးသမီးနဲ့ပတ်သက်ပြီး

> မိန်းမသည် အုပ်စိုးခြင်းကို အစဥ်ဝန်ခံ၍ တိတ်ဆိတ်စွာသင်စေ၊ မိန်းမသည် ဆုံးမဩဝါဒပေးခြင်း၊ ယောက်ျားကို အစိုးတရ ပြုစေခြင်းအခွင့်ကို ငါမပေး။ သူသည် တိတ်ဆိတ်စွာ နေအပ်၏။ အကြောင်းမူကား အာဒံကို ရှေးဦးစွာဖန်ဆင်းတော်မူ၍၊ နောက်မှ ဧဝကို ဖန်ဆင်းတော်မူ၏။ (တိမောသေဩဝါဒ –Timothy– ပထမစာစောင် ၂း၁၁ – ၁၃)

လို့ တွေ့ရတဲ့အပြင် အဲဒါထက်ပိုပြီး ပြင်းပြင်းထန်ထန် ပြောတာလည်း ရှိသေးတယ်။

ယောက်ျားသည် ဘုရားသခင်၏ ပုံသဏ္ဌာန် ဘုန်းအသရေတော်ဖြစ်သောကြောင့် မိမိခေါင်းကို မဖုံးရ၊ မိန်းမမူကား ယောက်ျား၏ ဘုန်းအသရေ ဖြစ်၏။ ယောက်ျားသည် မိန်းမကြောင့်ဖြစ်သည် မဟုတ်။ မိန်းမသည် ယောက်ျားကြောင့် ဖြစ်၏။ ယောက်ျားကို မိန်းမဖို့ ဖန်ဆင်းသည်မဟုတ်၊ မိန်းမကို ယောက်ျားဖို့ ဖန်ဆင်း၏။ (ကောရိန္သုဩဝါဒစာစောင် ပထမစာစောင် ၁၁း၇ – ၉)

ဒီစကားတွေဟာ သူနဲ့ခေတ်ပြိုင် သူတကာ ပြောလေ့ရှိတာတွေကို ပေါလုက ယူပြောတာ ဖြစ်မယ်။ ဂျီးစပ်စ်ကိုယ်တိုင် ဒီစကားမျိုး တစ်ခါမျှ မပြောတာကိုတော့ သတိပြုစေချင်ပါတယ်။ ပေါလုဟာ ဂျူးတွေရဲ့ယုံကြည်မှုကို ခရစ်ဝါဒ အဖြစ် ဖော်ထုတ်ပြီး ကမ္ဘာ့ကိုးကွယ်ယုံကြည်မှု ဘာသာကြီး တစ်ခု ဖြစ်အောင် လုပ်ဆောင်တဲ့ နေရာမှာ ဘယ်သာသနာပြုမျှ သူ့ကိုမမီပါ။

သူ့အတွေးအခေါ်မှာ အချက်အချာအကျဆုံး အကြောင်းအရာက ဂျီးစပ်စ်ဟာ ကောင်းကင်ဘုံနဲ့ တစ်ဆက်တည်း (divine) ဖြစ်တယ်လို့ ထင်ရှား ခိုင်မာအောင် ဖော်ထုတ်ခြင်း ဖြစ်တယ်။ အဲဒါပဲ ခေတ်အဆက်ဆက် ခရစ်ဝါဒရဲ့ အခြေခံ အတွေးအခေါ် ဖြစ်ပါတယ်။ နောက်ပိုင်း ပေါ်ထွန်းတဲ့ ခရစ်ကျမ်းတတ် အကျော်အမော်တွေ ဖြစ်တဲ့ ဩဂတ်စတင်း (Augustine)၊ အကွိနပ်စ် (Aquinas)၊ လူသာ (Luther) နဲ့ ကာလဗင် (Calvin) တို့ဟာ ပေါလု ရေးသား ဟောပြောချက်တွေကို အထူးအားထားတာကို တွေ့နိုင်ပါတယ်။ သူ့ကို သိပ်အားကိုးသူတွေက ခရစ်သာသနာကို စတင် အုတ်မြစ်ချသူဟာ ဂျီးစပ်စ်ထက် ပေါလုက သာပြီး ဖြစ်ထိုက်တယ်လို့ ပြောချင်ကြတယ်။ ဒါတော့ လွန်လွန်းပါတယ်။ ဒါကြောင့် ပေါလုရဲ့ ဩဇာဟာ ဂျီးစပ်စ်နဲ့ တန်းတူမထားတောင် ကျန်ရှိသမျှ ခရစ်သာသနာ ပညာရှင်တွေ ထက်တော့ ပေါလုက အများကြီးသာပါတယ်။

3, March, 2000.

# (၇) ဆိုင်လန် (အေဒီ ၁၀၅ ဝန်းကျင်)

# TS'AI LUN (fl.c. 105 A. D.)

ဒီစာကိုဖတ်တဲ့ လူများစုဟာ စက္ကူကို စတင် တီထွင်တဲ့ ဆိုင်လန် (Ts'ai Lun) ကို ကြားဖူးကြမှာ မဟုတ်ပါ။ သူတီထွင်တဲ့ ပစ္စည်းရဲ့ အရေးပါအရာ ရောက်ပုံကို ထောက်ပြီး ပြောရရင်၊ သူ့ကို အနောက်တိုင်းက လူတွေ မသိတာဟာ အများကြီး အရုပ်ဆိုး ပါတယ်။ စွယ်စုံကျမ်းကြီးတွေမှာတောင် သူ့အကြောင်း သုံးလေးကြောင်းလောက်တောင် မရေး၊ ခိုင်လုံတယ်လို့ ဆိုတဲ့ ကျောင်းသုံးသမိုင်း ဖတ်စာအုပ်တွေ ထဲမှာလည်း မပါ။ စက္ကူ သိပ်အရေးပါ တာတောင် စက္ကူကို စတင်လုပ်သူကို မသိကြ မပြောကြတာ ထောက်ရင် သူဟာ တကယ် မရှိတဲ့လူလားလို့ ထင်စရာ ဖြစ်နေပါတယ်။ သေသေချာချာ သုတေသန လုပ်တော့၊ သူဟာ တရုတ် နန်းတွင်းသား အရာရှိတစ်ဦး ဖြစ်တယ်။ ခရစ်နှစ် ၁၀၅ လောက်က ဧကရာဇ်ဟောတိ (Emperor Hoti) ကို စက္ကူနမူနာတွေ ဆက်သဖူးတယ်လို့ သိရပါတယ်။ (ဟန်မင်းဆက် မင်းသုံးရာဇဝင် Official History of the Han Dynasty) ထဲမှာ ဆိုင်လန်က တီထွင်ချက်တစ်ခုလုပ်ပုံကို တွေ့နိုင် ပါတယ်။ တရုတ်တွေက ဆိုင်လန်ဟာ စက္ကူကို တီထွင်တယ်လို့ သိကြပါတယ်။

ဆိုင်လန်ရဲ့ဘဝဇာတ်လမ်းကိုတော့ သိပ်မသိပါ။ တရုတ် မှတ်တမ်းအရ သူက မိန်းမစိုးတစ်ယောက် ဖြစ်ပါတယ်။ ဧကရာဇ်မင်းမြတ်က သူ့တီထွင်ချက်ကို နှစ်သက်မြတ်နိုးလို့ သူ့ကို ရာထူး တိုးပေးတယ်။ ဘွဲ့ထပ်ပေးတယ်။ ဒါနဲ့ သူဟာ လူချမ်းသာ တစ်ယောက် ဖြစ်သွားတယ်။ ဒါပေမယ့် နန်းတွင်းလုပ်ကြံမှုမှာ ပါတယ်ဆိုပြီး ပထုတ်လိုက်လို့ တိမ်မြုပ် သွားရတယ်။ တရုတ် မှတ်တမ်းထဲမှာတော့ သူ့ဂုဏ်သိက္ခာကျဆင်းလို့ ရေကောင်းကောင်းချိုး၊ အဝတ်ကောင်းကောင်း ဝတ်ပြီးမှ အဆိပ်သောက်တယ်လို့ ဖော်ပြ ထားတယ်။

တရုတ်နိုင်ငံအနှံ့အပြားမှာ စက္ကူကို ခရစ်နှစ်ရာစု နှစ်တွင်းမှာပဲ အသုံးပြုခဲ့ကြတဲ့အပြင် ရာစုနှစ် အနည်းငယ် အတွင်းမှာပဲ တရုတ်က တခြား အာရှနိုင်ငံတွေကိုပါ စက္ကူ တင်ပို့ ရောင်းချ ခဲ့ပါတယ်။ စက္ကူ လုပ်ငန်းကိုလည်း သူတစ်ပါးမသိအောင် လျှို့ဝှက် ထားပါတယ်။ ခရစ် ၇၅၁ မှာ စက္ကူလုပ်တတ်တဲ့ တရုတ်တွေကို အာရပ်က ဖမ်းသွားပြီး မကြာခင်မှာ စမာခန် (Samakhand) နဲ့ ဘဂ္ဂဒက် (Baghdad) မှာ စက္ကူ ပြုလုပ်တာကို တွေ့ရတယ်။ အာရပ်လောက (Arab World) မှာ ဒီစက္ကူလုပ်တဲ့ပညာ တဖြည်းဖြည်း ပျံ့နှံ့ပြီး ဂုတင်ဗတ်

(Gutenberg) က ခေတ်စာ ပုံနှိပ်စက်ကို တီထွင်တဲ့အခါ အနောက်နိုင်ငံ တွေမှာ သားရေချပ် (parchment) ပေါ် စာရေးတဲ့ အလေ့ တိမ်ကောပြီး၊ စက္ကူနဲ့ မှတ်သားတဲ့အလေ့ ရောက်လာ ပါတော့တယ်။

အခုတော့ စက္ကူသုံးတဲ့အလေ့အထ သိပ်တွင် ကျယ်ပြီးနေတော့၊ ဟိုအရင် စက္ကူမပေါ်ခင်က ဘယ်လိုများ နေပါလိမ့်လို့ ဘယ်သူမှမသိ၊ တွေးလို့လည်း မကြည့်ကြတော့ပါ။ တရုတ်နိုင်ငံမှာ ဆိုင်လန် လက်ထက် မရောက်မီ စာအုပ် မရှိသေးဘူး။ ဝါးပေါ်မှာပဲ ရေးတယ်။ အထားအသို အသိမ်းအဆည်း ခက်မယ်ပေါ့။ ဒါကြောင့် ကျမ်းဂန်အချို့ကို ပိုးပေါ်မှာ ရေးတယ်။ အဲဒါကျတော့ ကုန်ကျစရိတ်များလို့ အများ မသုံးနိုင်ပါ။ အနောက်တိုင်းမှာတော့ စက္ကူ မပေါ်ခင်က သားရေပြား ပေါ်မှာ ရေးတယ်။ သိုးရေခွံ၊ နွားကလေးရေကို အထူးပြုပြင်ပေးမှ မင်နဲ့ရေးလို့ရတယ်။ သားရေအစား ဂရိ(Greek)၊ ရောမ (Rome) နဲ့ အီဂျစ် (Egypt) မှာ ပက်ပီရပ် (papyrus) ကျူပင်ကို သုံးတယ်။ သူလည်း လုပ်ရတာ လက်ဝင်တယ်။ ဈေးကြီးတယ်။ ရှားတယ်။

ခုခေတ်မှာ စာအုပ်နဲ့ စာရေးကိရိယာတွေ သိပ်ပေါများ လာတာဟာ စက္ကူပေါ်လာတာကနေ ဆင်းသက်တဲ့ ရလဒ်လို့ ပြောနိုင်တယ်။ စက္ကူနဲ့ စာပုံနှိပ်စက် တွဲဖက်နေတော့၊ စက္ကူသာမရှိရင် အခက်သား လို့ပဲ ပြောမလား၊ အမှန်ကတော့ စက္ကူလို ပေါပေါ သုံးစရာ မရှိရင် ပုံနှိပ်စက်ဟာ သိပ်မတွင်နိုင်ပါ။

ဒီလိုဆိုရင် အခုစာရင်းမှာ ဆိုင်လန်နဲ့ ဂုတင်ဗတ် နှစ်ယောက်ထဲက ဘယ်သူ့ကို ရှေ့က ထားမလဲဆိုတဲ့ ပြဿနာ ဝင်လာပြီး၊ နှစ်ယောက် စလုံးကို အရည်တူလို့ ထင်မိပါတယ်။ နှစ်ယောက်စလုံး ထမ်းပိုးထမ်းဆိုတော့ ဆိုင်လန်ကို နည်းနည်းလေး အသာ ပေးချင်တဲ့ အကြောင်းက

(၁) စက္ကူဟာ စာရေးကိရိယာ အဖြစ် အသုံးချ တာထက် တခြားအသုံးတွေ အများကြီး ရှိပါသေးတယ်။ တခြား ဘာသုံးမလဲ စဉ်းစား ကြည့်စမ်းပါ။ အံ့သြသွားမယ်။
(၂) ဆိုင်လန်ပေါ်တာ ဂုတင်ဗတ် ထက်စောလို့ ပုံနှိပ်စက်က ပေါ်လာတာ၊ တကယ်လို့ စက္ကူသာ မပေါ်သေးဘူး ဆိုရင် ပုံနှိပ်စက် မလိုဘူးလို့ ပြောနိုင်ပါတယ်။
(၃) တကယ်လို့ တစ်မျိုးတည်းပဲ ပေါ်တယ် ဆိုပေမယ့် လည်း၊ စာအုပ်က ထွက်နေမှာပဲ။ ပုံနှိပ်စက်မရှိခင်က ဘလောက်တုံး (block) နဲ့ ရိုက်တယ်။ စက္ကူ မပေါ်မီက သားရေပြားနဲ့ ရိုက်တယ်။ စက္ကူကို ပေါပေါနဲ့ ရနိုင်ပြီဆိုမှ အက္ခရာတစ်လုံးချင်း လိုသလို ရွှေ့စီနည်း ထွင်ရတာ။

ဒီလိုဆိုရင် သူတို့နှစ်ဦးစလုံး ထိပ်တန်း ဆယ်ယောက်မှာ ထည့်ပါ။ စက္ကူက ပိုပြီး အရာရောက်တယ် ဆိုတာကို ထင်ရှားအောင် တရုတ်နဲ့ အနောက်တိုင်းခေလ့ ဖြစ်ထွန်း တိုးတက်ပုံကို ယှဉ်ကြည့်စေချင်တယ်။ ခရစ်နှစ် ရာစုနှစ် မတိုင်မီက ယဉ်ကျေးမှုအရာမှာ တရုတ်က အနောက်တိုင်းလောက် မမြင့်ဘူး။ အဲဒီက စွန်းထွက် လာတဲ့ နှစ်တစ်ထောင်တွင်းမှာ အနောက်တိုင်းထက်

တရုတ်ကသာတယ်။ ကမ္ဘာမှာ ဘယ်စံနှုန်းနဲ့တွက်တွက်၊ ခရစ်နှစ် ခုနစ်၊ ရှစ်ရာစုနှစ်လောက်မှာ တရုတ်ယဉ်ကျေးမှုက အမြင့်ဆုံးဖြစ်တယ်။

တစ်ဆယ့်ငါးရာစုနှစ် လွန်တဲ့အခါကျတော့မှ အနောက်ဥရောပက တရုတ်ထက် သာလွန်ခဲ့တာ ဖြစ်ပါတယ်။ အဲဒီလို ဘာဖြစ်လို့ဖြစ်ရသလဲဆိုတာ ဓလေ့ဆိုင်ရာ ရှင်းလင်းချက်တွေ ရှာကြတယ်။ အမျိုးမျိုး အခြေအရာတွေ ပြောကြပေမယ့် အရိုးဆုံး အလွယ်ဆုံး အကြောင်းအရာတစ်ခုကို ဘယ်သူမှ မပြောဘဲ လျစ်လျူရှုထားကြတယ်။ အနောက်အာရှမှာ စိုက်ပျိုးရေးနဲ့ စာရေး နည်းပညာ ထွန်းကားတာ တရုတ်ထက် စောပါတယ်။

အဲဒါလောက်ပြောရုံနဲ့ တရုတ်က အနောက်ဘက် နိုင်ငံတွေရဲ့ နောက်တန်းကို ရောက်ရတယ်လို့ ပြောလို့ မဖြစ်သေးဘူး။ ဆိုင်လန် မတိုင်မီက တရုတ်တွေမှာ အလွယ်တကူ စာရေးနိုင်အောင် သုံးစွဲစရာ ပစ္စည်းမရှိ၊ အနောက်ကမ္ဘာမှာ ပက်ပီရပ်ကျူရိုးနဲ့ လုပ်တဲ့ စက္ကူလိပ် ရှိနေပြီ။ သူကလည်း လွယ်လွယ်နဲ့ လုပ်ယူလို့ ရနိုင်တာ မဟုတ်။ ဈေးကြီးတယ်၊ ရှားပါးတယ်ဆိုတာ မှန်ပေမယ့် သစ်သားပြား၊ ဝါးခြမ်းပြားပေါ်မှာ မှတ်တမ်း ရေးရတာထက်တော့ လွယ်ကူ သက်သာသေးတယ်။ တရုတ်ဓလေ့ နှောက်ကျရတာမှာ ဒီအချက်ဟာ အရေးကြီးတဲ့ အချက်၊ ခလုတ်ကန်သင်း သေးသေးမဟုတ်။ လဲပြို သေဆုံးနိုင်လောက်တဲ့ ခလုတ်ဖြစ်နေတယ်။ တရုတ်ပညာရှာ(စာပေလေ့လာလိုက်စားသူ) တစ်ယောက်ဟာ အခုခေတ် ကျမ်းစာနည်းနည်းကို သယ်ယူ သွားချင်ရင် လှည်းတစ်စီးလိုလိမ့်မယ်။ ဒီပုံစံနဲ့ နိုင်ငံကြီးတစ်ခုကို ထိထိရောက်ရောက် ဘယ်မှာ အုပ်ချုပ်နိုင်မှာလဲ စဥ်းစားကြည့်ပါ။

ဆိုင်လန် တီထွင်တဲ့စက္ကူဟာ အခြေအနေကို လုံးဝ ပြောင်းလဲပေးနိုင်ခဲ့တယ်။ အလွယ်တကူ မှတ်တမ်း မှတ်ချက် ရေးနိုင်တယ်ဆိုတာနဲ့ တရုတ် ယဉ်ကျေးမှုဟာ သိပ်မြန်မြန်တိုးတက်လာပြီး၊ ရာစုနှစ် နည်းနည်း အတွင်းမှာပဲ အနောက် နိုင်ငံရေးကို မီတယ်။ (အနောက်ဘက်နိုင်ငံရေးမှာ အချင်းချင်း စိတ်ဝမ်းကွဲပြီး၊ သတ်ဖြတ်နေကြရလို့ တိုးတက်ရေး လေးဖင့်ရတယ် ဆိုပေမယ့် ဒါက အကြောင်းရင်း မဟုတ်ပါ။ လေးရာစုနှစ် အတွင်းမှာ နိုင်ငံရေးအရ တရုတ်လည်း ပြိုကွဲပျက်စီးတာ အနောက်တိုင်း ထက်ပိုမယ်။ ဒါပေမယ့် ဓလေ့မှာ အလျင်အမြန် တိုးတက်တာ အမှန်ပါပဲ။)

အဲဒီလေးရာစုနှစ် နောက်မှာ ရာစုနှစ်များအတွင်း အနောက်ဘက်မှာ တရုတ်ထက် တိုးတက်ပုံ နှေးသွားတယ်။ တရုတ်က အင်မတန်အသုံးဝင်တဲ့ မြောက်ဘက်ပြ ကွန်ပတ်စ်(Compass)၊ သေနတ် ယမ်း (Gun powder) နဲ့ ဘလောက်ပုံနှိပ်နည်း (Block Printing) တွေကို တီထွင်ခဲ့တယ်။ စက္ကူက သားရေပြားထက် ဈေးပေါတယ်။ အများကြီး ထုတ်လုပ်နိုင်တယ်။ အဲဒီတော့ တရုတ်က ပြန်ပြီး အသာရပြန်တယ်။

အနောက်နိုင်ငံတွေက စက္ကူထုတ်လုပ် အသုံးပြု နိုင်တဲ့အခါ တရုတ်နဲ့

မျက်နှာချင်း ဆိုင်တွေ့ဆိုင်ပြီး၊ သူတို့ဘက်က ဓလေ့အားနည်းချက်ကို ပြန်ဖြည့်လာတယ်။ မာကိုပိုလို (Marco Polo) ရေးတဲ့ မှတ်တမ်း တွေအရ ပြောရရင် ခရစ်တစ်ဆယ့်သုံး ရာစုနှစ်မှာပဲ တရုတ်က ဥရောပထက် အများကြီး ချမ်းသာကြွယ်ဝနေပါတယ်။

ဒီလိုဆိုရင် နောင်အခါ တရုတ်က အနောက်တိုင်းရဲ့ နောက်ကို ဘာဖြစ်လို့ ကျဆင်း ရသလဲ။ ဓလေ့ အထွေထွေကို မွှေနှောက်ပြီး အဖြေရှာ ကြတယ်။ ရိုးရိုးလွယ်လွယ် ပြောတတ်တာ ကတော့ နည်းပညာကွာ သွားတာကိုပဲ ပြောရင် ဖြစ်တယ်။ တစ်ဆယ့်ငါးရာစုနှစ် ဥရောပမှာ ဉာဏ်ပညာထက်မြက်တဲ့ ဂျူဟာန်ဂုတင်ဗတ်က စာအုပ်ကို အမြောက်အမြား ပုံနှိပ်ထုတ်ဝေ နိုင်တဲ့နည်းကို တီထွင်တယ်။ အဲဒီကစပြီး ဥရောပ ဓလေ့တွေဟာ အလျှင်အမြန် ပြောင်းလဲ တိုးတက်လာတယ်။ တရုတ်က ဂုတင်ဗတ်လို စွမ်းတဲ့လူ မရှိတော့၊ ဘလောက်ပုံနှိပ်နည်းနဲ့ပဲ ရှေ့မဆက်နိုင်ဘဲ ဓလေ့တိုးတက်နှုန်း နှိုင်းယှဉ်ပြီး ပြောရရင် နှေးသွားရတာပေါ့။

အခုပြောခဲ့တဲ့ စစ်ဆေးဝေဖန်တင်ပြချက်ကို လက်ခံမယ် ဆိုရင်၊ နိဂုံးစကားအနေနဲ့ ဆိုင်လန် နဲ့ ဂုတင်ဗတ် နှစ်ယောက် စလုံးဟာ လူ့သမိုင်းမှာ လူအများ ဝိုင်းပြီး လေးစားရမယ့်ပုဂ္ဂိုလ်တွေ ဖြစ်ပါတယ်။ တခြားအသစ်တီထွင်သူတွေနဲ့စာရင် ဆိုင်လန်က အများကြီး သာရတဲ့အကြောင်း ကတော့ ခေတ်ကာလကိုလိုက်ပြီး၊ ဒီလိုစွမ်းတဲ့လူ မပေါ်လာ ပေမယ့်လည်း ဒီလိုပညာ၊ ဒီလိုပစ္စည်း ဟာ၊ ဒီအချိန်၊ ဒီပတ်ဝန်းကျင်မှာ ပေါ်လာရမယ် ဆိုတဲ့ အခြင်းအရာနဲ့၊ စက္ကူပေါ်လာပုံဟာ ရှင်းရှင်းပြောတော့ မတူဘူး။ ဆိုင်လန်စက္ကူတီထွင်ပြီး နှစ်တစ်ထောင်ကျော်မှ ဥရောပမှာ စက္ကူ ပေါ်လာတယ်။ ပြီးတော့ ဥရောပ တိုက်သားက တီထွင်နိုင်တာ မဟုတ်ဘူး။ အာရပ် တွေကို ဆရာတင်ရတယ်။ ဒီနေရာမှာ ဆက်ပြော ရမှာက တရုတ်လုပ်ပေးတဲ့ စက္ကူကို မြင်ကြရပေမယ့် တခြား အာရှတိုက်သားတွေ ဘယ်သူတွေ ကမှ သူတို့ဘာသာ စက္ကူလုပ် မဖြစ်ဘူး။ အသေအချာပြောနိုင်တာက စက္ကူ စစ်စစ်ဖြစ်ဖို့ လုပ်နည်းဟာ ခက်ခဲလိုက်ပုံက အသင့်အတင့် တိုးတက်နေတဲ့ ဓလေ့မှာ ဉာဏ်မပွင့်နိုင်တဲ့ နည်းဖြစ်မယ်။

သိပ်ထူးခြားထက်မြက် စွမ်းဆောင်နိုင်သူက တီထွင် ပေးမှ ဖြစ်ပေါ်လာတာ။ ဆိုင်လန်က ဒီလိုလူစားဖြစ်ပြီး၊ သူချမှတ် ပေးတဲ့ စက္ကူ လုပ်နည်းဟာ (ခရစ်နှစ် ၁၈၀၀ မှာ စက်ရုံထွက် စက္ကူကလွဲလို့) လက်လုပ်စက္ကူဆိုရင် စတင် ပေါ်ပေါက်တဲ့အခါက သုံးတဲ့နည်းနဲ့ အခုနည်းဟာ အခြေခံအားဖြင့် အတူတူပါပဲ။ အခုပြောတဲ့ ဆင်ခြင်တုံ တရားတွေကြောင့် ဂုတင်ဗတ်နဲ့ ဆိုင်လန်တို့ နှစ်ယောက်စလုံးကို အခုစာအုပ်မှာ ရှေ့တန်း ဆယ်ယောက် ထဲမှာ ထည့်တယ်။ ထည့်တော့ ဆိုင်လန်ကို ရှေ့၊ ဂုတင်ဗတ်ကိုနောက် ထားရပါတယ်။

6, March, 2000.

# (၈) ဂျိုဟန်ဂုတင်ဗတ် (၁၄၀၀ – ၁၄၆၈)

# JOHANN GUTENBERG (1400 – 1468)

စာပုံနှိပ်စက်ကို စတင်တီထွင်သူလို့ ဂျိုဟန်ဂုတင်ဗတ် (Johann Gutenberg) ကို ခေါ်လေ့ရှိကြတယ်။ သူအမှန်လုပ်တာက တစ်လုံးစီ ဖြုတ်နိုင်တပ်နိုင်တဲ့ စာလုံးတွေနဲ့ ပုံနှိပ်စက်ကိုသုံးပြီး၊ လက်နဲ့ ရေးသားထားတဲ့ စာတွေတစ်ပုံကြီးကို မြန်မြန်နဲ့ မှန်ကန်စွာ ပုံနှိပ်ပေးနိုင်တဲ့နည်းကို တီထွင်ပေးခြင်း ဖြစ်ပါတယ်။ ဘယ်တီထွင်မှုမျိုးကိုမှ လူတစ်ယောက် တည်းက အပြည့်အစုံ လုပ်ပေးနိုင်ရိုး မရှိပါ။ ပုံနှိပ်ပညာ ကိုလည်း ဒီလိုပဲပြောရပါမယ်။ တံဆိပ် တုံးကလေးနဲ့ အမှတ်အသား တစ်ခုပါတဲ့ လက်စွပ်ကို အသုံးပြုသလို၊ ဘလောက်တုံးကို နှိပ်တဲ့နည်းနဲ့ ပုံနှိပ်နေခဲ့ကြတာ ရှေးရှေးကပဲ လုပ်တတ်ခဲ့ကြပါတယ်။

ဘလောက်ပုံနှိပ်နည်းကို တရုတ်တွေတတ်တာ ဂုတင်ဗတ် မပေါ်မီ ရှေးနှစ်ပေါင်းရာထောင်မက တတ်ကျွမ်း ခဲ့တယ်။ အမှန်က ခရစ် ၈၆၈ နှစ်က ပုံနှိပ်ခဲ့တဲ့ စာအုပ်ကို တရုတ်မှာ တွေ့ဖူးပါတယ်။ အနောက် နိုင်ငံမှာ လည်း ဂုတင်ဗတ် မပေါ်မီ အထက်ကပဲ ဒီပုံနှိပ်နည်းကို သိပြီးဖြစ်ပါတယ်။

ဘလောက် ပုံနှိပ်နည်းနဲ့ ကျမ်းစာအုပ်ကို အုပ်ရေ အများကြီးရအောင် ရိုက်ထုတ် နိုင်ကြပါတယ်။ ဒီနည်းမှာ ချွတ်ယွင်းချက်ကြီး တစ်ခု ရှိနေတာက စာတစ်အုပ် ပုံနှိပ် ချင်ရင် အဲဒီစာအုပ်အတွက် သစ်ထွင်း (woodcut) ဖြစ်စေ၊ သတ္တုပုံ (plate) ဖြစ်စေ တစ်စုံလုပ်ရတယ်။ ပထမကျမ်း အတွက် လုပ်ပြီးရှိနေတဲ့ဘလောက်ကို နောက်တစ်ကျမ်း ရိုက်ရာမှာ ရွှေ့ပြောင်းယူငင်ပြီး အသုံးမချနိုင်ပါ။

ဂုတင်ဗတ်ထွင်တဲ့နည်းက ရွှေ့ပြောင်း တပ်ဆင် ပေးနိုင်တဲ့ စာခွက် (movable type) ဖြစ်ပါတယ်။

ဒီရွှေ့ပြောင်းလို့ရတဲ့ စာခွက်ကို တရုတ်မှာ တစ်ဆယ့် တစ်ရာစုနှစ်ဝက်မှာ ပီရှဲန် (Pi Sheng) ဆိုသူက တီထွင်ပေးခဲ့ဖူးပါတယ်။ သူလုပ်ပေးတဲ့ စာခွက်က ရွှံ့ပြားနဲ့လုပ်လို့ ကြာကြာမခံပါ။ ဒါကြောင့် သူ့နည်းကိုမှီပြီး၊ တရုတ်နဲ့ ကိုရီးယားတွေက ကောင်းသထက်ကောင်းအောင် စီမံကြလို့ ဂုတင်ဗတ် မပေါ်မီ ရှေးရှေးကပဲ ကိုးရီးယားတွေက သတ္တုစာခွက်တွေကို အသုံးပြု ခဲ့ကြပါတယ်။ တကယ်က ကိုးရီးယားအစိုးရ ထူထောင်ပေးတဲ့ သတ္တုအရည်ကြိုစက် တစ်ခုက နေပြီး စာပုံနှိပ်စာခွက်တွေကို တစ်ဆယ့်ငါးရာစု နှစ်ဦးကပဲ ထုတ်လုပ်

စေခဲ့ပါတယ်။ အဲဒါတွေ စီတန်းပြီး ပြောတာနဲ့ ပိရဲန်ကို လူစွမ်းကောင်း တစ်ယောက်လို့ သတ်မှတ်လို့မရပါ။ ဥရောပမှာ ရွှေ့သုံးလို့ရတဲ့ စာခွက်ကို တရုတ်ဆီက ရတာ မဟုတ်၊ သူတို့လည်း သူတို့ဘာသာ စမ်းသပ် တီထွင်တာ ဖြစ်တယ်။ အဲဒါအပြင် တရုတ်ထွင်တဲ့ ရွှေ့သုံးစာခွက်ဟာ အများသုံးတဲ့ နည်းပညာတစ်ခု ဖြစ်မလာပါ။ အနောက်နိုင်ငံမှာ ခေတ်စာပုံနှိပ်စက် ပေါ်ပြီး အဲဒီကနည်းကို ရတဲ့အခါမှ တရုတ်မှ ရွှေ့သုံးစာခွက်ဟာ အများသုံးနိုင်တဲ့ နည်းဖြစ်လာ ပါတယ်။

ခေတ်စာပုံနှိပ်နည်းမှာ အရေးပါတဲ့ မရှိမဖြစ်နည်း အဆင့်လေးဆင့် ရှိတယ်။

(၁) ရွှေ့သုံးစာခွက်မှာ စာစီနည်း၊ စာကိုလိုသလို စွဲမြဲနေအောင် တပ်ဆင်နည်းရှိတယ်။
(၂) ပုံနှိပ်စက်လည်း လိုပါတယ်။
(၃) ဒီလိုပုံနှိပ်ရာမှာ လိုအပ်သလို သီးသန့် ဖော်စပ်ထားတဲ့မင်။
(၄) စာပုံနှိပ်စက်သုံး စက္ကူဆိုတာမျိုးလည်း တီထွင်ပြီး ရှိရပါတယ်။

တရုတ်မှာ ရှေးအခါကပဲ (ဆိုင်လန်က) စက္ကူ လုပ်ပေးထားလို့ အနောက်မှာ ဂူတင်ဗတ်ခေတ် မတိုင်မီကပဲ စက္ကူလုပ်ငန်း ရခဲ့ကြပါတယ်။ အဲဒီတစ်ခုပဲ ဂူတင်ဗတ်က အသင့်လုပ်ပြီးကို ရတာပါ။ အထက်ကဖော်ပြတဲ့ အခြားနည်း သုံးမျိုးကိုလည်း ဟိုကဒီက ရထားတာကိုလည်း ဂူတင်ဗတ်က အရေးပါတဲ့ပြုပြင်မှုတွေ လုပ်ရပါ သေးတယ်။ ဥပမာ စာပုံနှိပ်အက္ခရာ စာလုံးနဲ့ သင့်တော်မယ့် သတ္တုလောဟာကို ရအောင် လုပ်ရ သေးတယ်။ စာလုံးပုံစံ တညီတည်း ထွက်အောင် ပုံ(Mould) ကို လုပ်ရတယ်။ ဆီနဲ့ဖော်စပ်တဲ့ ပုံနှိပ်မင်လုပ်ရတယ်။ စာထင် အောင် ဖိပေးနိုင်တဲ့ နှိပ်စက်ကိုလည်း စီစဥ် ရသေးတယ်။

ဂူတင်ဗတ်က တစ်စစီတစ်ပိုင်းစီ တီထွင်ပြီးမှ အားလုံးပေါင်းပြီး စာကိုပုံနှိပ်နိုင်စွမ်းရှိတဲ့ စက်ကို လုပ်ရတယ်။

အဲဒီစက်ဟာ သူတီထွင်သမျှ နည်းတွေထဲမှာ အရေးပါဆုံးနည်း ဖြစ်ပါတယ်။ ပုံနှိပ်ပြီဆိုတဲ့အခါ အမြောက်အမြား ထုတ်လုပ်ခြင်း ဖြစ်အောင် လုပ်ရတဲ့အတွက် တစ်ခုချင်းပြုပြင် တီထွင် တာတွေထဲမှာ သူက အထူးခြားဆုံး၊ အစွမ်းထက်ဆုံး တီထွင်ခြင်း ဖြစ်လာပါတယ်။

ရိုင်ဖယ် (rifle) တစ်လက်ဟာ လေးတစ်စင်း၊ မြားတစ်လက်ထက် အများကြီး သာလွန် ထိရောက်တဲ့ ဖြစ်လာသလိုမျိုးလည်း မဟုတ်ပါ။ ပုံနှိပ်ပြီး စာတစ်အုပ်ဟာ လက်ရေးစာ တစ်အုပ်ထက် ပိုပြီးမစွမ်းပါ။

တကယ့် အစွမ်းက တစ်မျိုးတည်း အများကြီး ထုတ်လုပ်နိုင်ခြင်း (Mass Production) ဖြစ်ပါတယ်။ ဂူတင်ဗတ်ဆောင်ရွက်ချက်ဟာ နည်းတစ်နည်း (device)၊ စက်တစ်စက် (Gadget) လည်းမဟုတ်၊ ပြုပြင်ချက် တစ်သီကြီးလည်း

မဟုတ်၊ အစဥ်တစိုက် ထုတ်လုပ်ချက်၊ အပြည့်အစုံ (complete manufacturing process) ဖြစ်ပါတယ်။

ဂုတင်ဗတ်ရဲ့ အတ္ထုပ္ပတ္တိကို သိပ်မသိပါ။ သူ့ကို ၁၄၀၀ ပြည့်မှာ မွေးတယ်။ ဂျာမနီ၊ မိန့် (Mainz) မြို့သား၊ ပုံနှိပ်ပညာဆိုင်ရာ တီထွင်မှုကို တစ်ဆယ့်ငါးရာစုနှစ်လယ်မှာ လုပ်ခဲ့တယ်။ သူပုံနှိပ်တဲ့ စာအုပ်တွေထဲမှာ လူသိများတဲ့ စာအုပ်က ဂုတင်ဗတ်သမ္မာကျမ်း (bible) ဖြစ်တယ်။ အဲဒီကျမ်းကို ၁၄၅၄ လောက်က မိန့်မှာ ပုံနှိပ်တယ်။ အံ့သြစရာ အချက်တစ်ခုက သူ့ပစ္စည်းကိရိယာတွေနဲ့ အသေအချာပုံနှိပ်တဲ့ အဲဒီ သမ္မာကျမ်းကအစ သူပုံနှိပ်ပေးခဲ့တဲ့ တခြားဘယ်ကျမ်းမှာမှ သူ့နာမည် မပါပါ။ အောင်မြင်တဲ့ စီးပွားရေးသမားလည်း ဟုတ်ဟန် မတူပါ။ သူ့တီထွင်ချက်က ဝင်ငွေကောင်းကောင်း လည်း ရမယ်မထင်ပါ။ တရားရုံးမှာ အမှုစွဲဆိုချက် အများအပြား လုပ်ခဲ့ရဟန်ရှိတယ်။ အမှုတစ်ခုမှာ သူ့ပစ္စည်း တချို့ကို သူ့စီးပွားဘက် ဂျိုဟန်ဖတ်စ် (Johann Fust) က သိမ်းယူသွားတယ်လို့ တွေ့တယ်။ ၁၄၆၈ မိန့်မှာ ဂုတင်ဗတ် သေဆုံးပါတယ်။

ကမ္ဘာ့သမိုင်းမှာ ဂုတင်ဗတ်အစွမ်းရဲ့ အကျိုးသက် ရောက်ပုံကို သိချင်ရင် တရုတ်နဲ့ဥရောပမှာ ဆက်သွယ် ပေါ်ပေါက်လာပုံတွေကို နှိုင်းယှဉ် ကြည့်ရမယ်။ ဂုတင်ဗတ် မွေးတဲ့အချိန်က နှစ်ဌာနမှာ အသိပညာ အစွမ်းအစ ညီတူညီမျှ ရှိမယ်။ နောက် ဂုတင်ဗတ် ပုံနှိပ်စက်ကို တီထွင် အပြီးမှာ ဥရောပက သိပ်တိုးတက်သွားပြီး၊ တရုတ်က ဘလောက်ပုံနှိပ်နည်းကို နောက်နှစ်အတန်ကြာ ဆက်သုံး နေသေးတဲ့အတွက် တိုးတက်မှု နှေးသွားတယ်။ ပုံနှိပ်စက်ကြောင့် ဒီလို ကွာခြားသွားရတယ်လို့ ပြောလို့မဖြစ်ပါ။ ဒါပေမယ့် ဒီပုံနှိပ်စက်ကို ဥရောပမှာ ဖြစ်ပေါ်လာစေတာဟာ ဥရောပရဲ့ ရှေ့တိုးတက်ရေးမှာ သိပ်အရေးပါတဲ့ ကိစ္စတစ်ခု ဖြစ်ပါတယ်။

အခုစာအုပ်ပါ ကျော်စွာစာရင်းမှာ ဂုတင်ဗတ် မမွေးခင် ရှေးက နှစ်ငါးရာအတွင်း မွေးခဲ့တဲ့ ပုဂ္ဂိုလ်သုံးဦးပဲ ရှိတယ်။ သူသေပြီးမှ အနှစ်ငါးရာ အတွင်းမှာ ကျော်စွာ ခြောက်ဆယ့်ခုနစ်ယောက် ရှိပါတယ်။ အဲဒါ ဘာကို ပြသလဲဆိုရင် ဂုတင်ဗတ်တီထွင်ချက်ဟာ ခေတ်သစ်မှာ နောက်ထပ် နောက်ထပ် တီထွင်ချက်တွေကို စတင် လုပ်ဆောင်ကြပြီး၊ ခေတ်ပြောင်း တော်လှန်ရေး တွေ ဖြစ်ပေါ်စေဖို့ စက်ခလုတ်နှိပ်ကာ လမ်းဖွင့် ပေးသလို ဖြစ်ခဲ့တယ်။

အလက်ဇန္ဒားဂရေဟမ်ဘဲလ် (Alexander Graham Bell) မမွေးပေမယ့် ကမ္ဘာ့သမိုင်းမှာ အဲဒီအချိန် တယ်လီဖုန်း ပေါ်လာမှာ သေချာတယ်။ အဲဒီလိုပဲ တခြား တီထွင်ချက တွေလည်း ပေါ်လာမှာပဲ။ ဒါပေမယ့် ဂုတင်ဗတ် မရှိရင် စာပုံနှိပ်စက်ဟာ နောက်ထပ်နှစ်တွေ အများကြီး ကြာမှ ပေါ်မှာပါ။ ဒီစက်ကြောင့် ဖြစ်ပေါ်လာ ရတဲ့ တခြား ကိစ္စတွေလည်း နှေးကွေး နောက်ကျစရာ ရှိတယ်။ ဒါ့ကြောင့် ဂုတင်ဗတ်ကို အခုစာရင်းမှာ ထိပ်ကနေရာထဲမှာ ထည့်ဖို့ ထိုက်တန်သူ ဖြစ်ပါတယ်။

# (၉) ခရစ်စတိုဖာကိုလမ်ဘတ်စ် (၁၄၅၁ – ၁၅၀၆)

## CHRISTOPHER COLUMBUS (1451 – 1506)

ခရစ်စတိုဖာကိုလမ်ဘတ်စ်ဟာ အနောက်ကို ပတ်ပြီး၊ အရှေ့တိုင်းနိုင်ငံတွေကို ရောက်အောင် သွားနိုင်တဲ့ လမ်းကိုရှာရင်း အမှတ်မထင် အမေရိက (America) နှစ်တိုက်ကို တွေ့လို့ သူ့ကြောင့် ကမ္ဘာ့သမိုင်းမှာ ကြီးကျယ်တဲ့ ဖြစ်ရပ်တွေ ဆက်ကာဆက်ကာ ပေါ်လာ ရလိမ့်မယ်လို့ တွေးမိမှာမဟုတ်ပါ။ သူက ဒီလို နေရာသစ်တွေ တွေ့တာနဲ့ ဆက်ပြီး နယ်သစ်ရှာခြင်း (exploration) နဲ့ ပိုင်နက်သစ် ထူထောင်ခြင်း (colonization)တွေ ကမ္ဘာသစ် (New World) မှာ ခေတ်ကြီးတစ်ခေတ်အနေနဲ့ ဆူဆူဖြိုးဖြိုး ပေါ်ထွန်းခဲ့ရတယ်။ သမိုင်းမှာ အရေးပါတဲ့ တစ်ခေတ်ဆန်းချိန်ကြုံရတယ်။ ဥရောပမှာ လူဦးရေ များများလာနေတဲ့အခါမှာ ဥရောပတိုက်သားတွေ အတွက် အိုးသစ်အိမ်သစ်၊ တိုင်းပြည်နိုင်ငံသစ် တည်ထောင်ဖို့ တိုက်ကြီး နှစ်တိုက် ရရှိတာဖြစ်တယ်။ နေရာသစ်မှာ တွင်းထွက်ပစ္စည်းနဲ့ ကုန်ကြမ်းတွေက ပေါများလေတော့၊ ဥရောပ စီးပွားရေး အခြေအနေကို ပြောင်းလဲ စေခဲ့ပါတယ်။ အမေရိကမှာ ရှိရင်းစွဲအင်ဒီးယန်းတွေရဲ့ ယဉ်ကျေးမှု ကိုလည်း ဖျက်ဆီးလိုက်ကြတယ်။ ရေရှည် အကျိုးဆက်ကိုပြောရရင် အနောက် ကမ္ဘာတစ်ခြမ်း (Western Hemisphere) မှာ နိုင်ငံသစ်တွေ ပေါ်လာတဲ့အခါ ဒေသခံတွေလို့ ခေါ်ရမယ့် အင်ဒီးယန်းတွေရဲ့ဓလေ့ထုံးတမ်းတွေနဲ့ အများကြီးကွာခြားတဲ့ နိုင်ငံတွေ ဖြစ်ထွန်းတယ်။ ကမ္ဘာဟောင်း (Old World) က နိုင်ငံတွေကို လည်း ဂယက်ရိုက်ပြီး အပြောင်းအလဲတွေ ပေါ်ပေါက် စေပါတယ်။

ကိုလမ်ဘတ်စ် ဝတ္ထုအကြမ်းကိုတော့ သိပြီးသား ဖြစ်ကြမှာပါ။ သူ့ကို ၁၄၅၁ မှာ အီတလီနိုင်ငံ ဂျီနိုအာမြို့ (Genoa) မှာ မွေးတယ်။ ကြီးပြင်း လာတဲ့အခါ သင်္ဘောကပ္ပတိန် ဖြစ်လာတယ်။ ရေကြောင်း ကျွမ်းကျင်သူပေါ့။ သူ့အထင်က အနောက်ဘက်ကို သင်္ဘောရွက်ဖွင့်ပြီး အတ္တလန္တိတ် သမုဒ္ဒရာ (Atlantic Ocean) ကို ဖြတ်မိရင် အရှေ့အာရှကို အမှန်ရောက် သင့်တယ်။ ဒါ လက်တွေ့စမ်းသပ်လို့ရတဲ့ကိစ္စ ဖြစ်တယ် ဆိုပြီး၊ ဇွဲကောင်းကောင်းနဲ့ မဖြစ်မနေ လုပ်ပါတော့တယ်။ နောက်ဆုံး ကာ့စတီး (Castile) ဘုရင်မ ပထမ အစ္စဘဲလာ(Queen Isabella) က အရှာအဖွေ ထွက်မဲ့ သင်္ဘောခရီးမှာ ကုန်ကျစရိတ်ကို ထုတ်ပေး ပါတယ်။

စပိန်က သင်္ဘောတွေနဲ့ ၃ ဩဂုတ် ၁၄၉၂ မှာ ထွက်ခဲ့တယ်။ အာဖရိကကမ်းနဲ့ မကွာလှတဲ့ ကနေရီ (Canary) ကျွန်းမှာ ပထမရပ်နားတယ်။ ၆ စက်တင်ဘာမှာ ကနေရီကျွန်းတွေက အနောက်စူးစူးကို ထွက်တယ်။ အင်မတန် ဝေးကွာတဲ့ခရီး ဖြစ်ပါတယ်။ သင်္ဘောသား တွေတောင် ကြောက်စိတ် လွှန်ကဲပြီး နောက်ကြောင်း ပြန်ချင်ကြတယ်။ ဒါပေမယ့် ကိုလမ်ဘတ်စ်က မပြန်ရလို့ ဇွတ်ပြောတယ်။ ၁၂ အောက်တိုဘာ ၁၄၉၂ မှာ ကမ်းခြေကို မြင်ရပါတယ်။ စပိန်ကို ရှေ့နှစ် မတ်လမှာ ကိုလမ်ဘတ်စ် ပြန်ရောက်တော့၊ အောင်ပွဲရနယ်မြေသစ်ရှာသူ ကိုလမ်ဘတ်စ်ကို အမြင့်ဆုံး ဂုဏ်ထူးဘွဲ့ထူးတွေ ပေးသနားပါတယ်။ တရုတ်ကိုဖြစ်ဖြစ်၊ ဂျပန်ကို ဖြစ်ဖြစ် တိုက်ရိုက်ရောက်မယ် အထင်နဲ့ ထပ်ထပ်ပြီး အတ္တလန္တိတ်ကို ဖြတ်ကူးပေမယ့် မအောင်မြင်ပါ။ ကိုလမ်ဘတ်စ်က သူဟာ အရှေ့အာရှလမ်းကို တွေ့ခဲ့ပြီလို့ ထင်ပေမယ့် အများက သူထင်သလို မဟုတ်ဘူးလို့ သိနေကြပါပြီ။ အစ္စဘဲလာက ကိုလမ်ဘတ်စ်ကို သူတွေ့တဲ့ ဘယ်နယ်မှာမဆို ဘုရင်ခံလုပ်ပါလို့ ခွင့်ပြုတယ်။ အုပ်ချုပ်ရေးပိုင်းမှာ သူမအောင်မြင်ပါ။ နောက်ဆုံး သူ့ကို အချုပ်နဲ့ စပိန်ကို ပြန်ပို့ရပါတယ်။ စပိန်ကို ပြန်ရောက်ရောက်ချင်း သူ့ကို အကျဉ်းက လွှတ်ပါတယ်။ ဒါပေမယ့် နောက်ထပ်သူ့ကို အုပ်ချုပ်ရေးတာဝန် မပေးတော့ပါ။ သူ ဆင်းရဲပင်ပန်းစွာ နေပြီး ကွယ်လွန် သွားတယ် ဆိုတဲ့ သတင်းစကားကတော့ ဟုတ်မယ် မထင်ပါ။ သူသေဆုံးတဲ့ ၁၅၀၆ မှာ သူဟာ ကြွယ်ဝ ချမ်းသာသူ တစ်ဦး အဖြစ်နဲ့ပဲ သေဆုံး သွားပါတယ်။ ကိုလမ်ဘတ်စ်ရဲ့ ပထမခရီးဟာ ဥရောပ သမိုင်းကို အကြီးအကျယ် ပြောင်းလဲစေတာ မှန်တယ်။ အမေရိက သမိုင်းမှာ ပိုပြီး ထိရောက် ပါတယ်။ ကျောင်းသားလူငယ်တွေ အလွတ်ရတဲ့ ရက်စွဲက ၁၄၉၂ ဖြစ်တယ်။ ဒါပေမယ့် ကိုလမ်ဘတ်စ်ကို အခုလိုစာရင်းရဲ့ ထိပ်တန်း တစ်နေရာ ပေးတာကို ကန့်ကွက်သူများ ရှိပါတယ်။

ကန့်ကွက်ချက် တစ်ခုက ကမ္ဘာသစ်ကို ဥရောပ တိုက်သားထဲက ပထမဆုံးတွေ့ရှိသူမှာ ကိုလမ်ဘတ်စ် မဟုတ်။ (နော်ဝေး၊ ဆွီဒင် ဆိုတဲ့ စကန်ဒီနေဗီးယား ကျွန်းဆွယ်က) ၈-၉-၁၀ ရာစုနှစ်မှာ ဥရောပ ကမ်းခြေတစ်လျှောက် မင်းမူတဲ့ ဗိုက်ကင်း (Viking) ပင်လယ်ဓားပြ လေ့ဖ်အဲရစ်ဆင် (Leif Ericson) ဟာ ကိုလမ်ဘတ်စ်ထက် အထက်ရာစုနှစ် ပေါင်းများစွာက ရောက်ခဲ့တယ်။ အဲဒါအပြင် ဒီပင်လယ်ဓားပြနဲ့ ကိုလမ်ဘတ်စ် ကြားထဲမှာ လည်း တခြား ဥရောပတိုက်သားတွေလည်း အတ္တလန္တိတ် သမုဒ္ဒရာကို ဖြတ်ခဲ့ဖူးကြပါတယ်။ သမိုင်းမှာတော့ လေ့အဲရစ်ဆင်ဟာ ယှဉ်ပြိုင် ပြောရမယ့်ပုဂ္ဂိုလ် မဟုတ်တော့ပါ။

သူရှာဖွေတွေ့ရှိတယ်လို့လည်း အရေးတယူ အကျယ်တဝင့် အပုံ့အနှံ့ မပြောကြ။ နယ်သစ်တွေ့လို့ အလုအယက် ရွှေ့ပြောင်း နေထိုင်ကြ၊ ပိုင်နက်သတ်မှတ်ကြဆိုတာမျိုး ဥရောပ (Europe) မှာရော အမေရိကမှာပါ မရှိ။ ကိုလမ်ဘတ်စ် နယ်သစ်တွေ့ပြီ ဆိုတာကိုတော့ ဥရောပမှာ အများကြီး သတင်းပျံ့သွားတယ်။ သူ့ကိုအားကျလို့ သူပြန်ရောက်ပြီး နှစ်အနည်းငယ် အတွင်းမှာပဲ ကမ္ဘာသစ်ကို လူတွေ အများကြီး သွားကြ၊ နယ်မြေတွေ ပိုင်းဖြတ် သိမ်းယူကြ၊ နယ်သစ်မြို့သစ် တည်ကြပါတယ်။ ဒီစာရင်းမှာ

တခြားပုဂ္ဂိုလ်တွေအကြောင်း ဆွေးနွေးတဲ့ အခါ အဲဒီခေတ်မှာ အဲဒီလို မပေါ်လာလဲ၊ ဒီအဖြစ်အပျက်ကတော့ ဖြစ်မှာပဲ။ ကိုလမ်ဘတ်စ်ကို ဘာဖြစ်လို့ အထူးချီးမွမ်းပြီး လေးစားနေရမှာလည်း ဆိုတာမျိုး ပြောလို့ ဖြစ်ပါတယ်။ တစ်ဆယ့်ငါးရာစုနှစ်ဥရောပဟာ အချဉ်ပေါက်တဲ့ကာလ၊ အရောင်းအဝယ် စီးပွားရေး တိုးချဲ့တဲ့ခေတ်၊ အရောင်းစခန်း ဈေးကွက်၊ နယ်သစ် ပယ်သစ်ရှာတဲ့ ခေတ်စတင် ခါစ ဖြစ်တယ်။ စွန့်စားရှာဖွေခြင်းဟာ မလွဲမသွေ ဖြစ်ပေါ်မဲ့ အချိန်အခါ ဖြစ်ပါတယ်။ ပေါ်တူဂီတွေဟာ ကိုလမ်ဘတ်စ် ထက် အတော်လေးစောပြီး အင်းဒီး (Indies) ကျွန်းတွေကို ရှာခဲ့တယ်။ ရှာဆဲ ဖြစ်တယ်။

ဒုတိယအချက်က ဥရောပတိုက်သား (Europeans)တွေ အမေရိကကို တစ်နေ့နေ့ တွေ့ကြတော့မှာ မှန်တယ်။ အတွေ့ နောက်ကျတယ် ဆိုတောင် သိပ်မကွာဘူး၊ တွေ့ကြရမှာ ဖြစ်တယ်။ ဒါပေမယ့် ကိုလမ်ဘတ်စ် ၁၄၉၂ မှာ တွေ့မယ့်အစား ပြင်သစ်ဖြစ်စေ၊ အင်္ဂလန်ဖြစ်စေ ၁၅၁၀ မှာ တွေ့ပြီဆိုပါတော့၊ တွေ့ပြီး နောက်ပိုင်း ဆက်ဖြစ်ပေါ်လာမယ့် အဖြစ်အပျက်တွေ ကတော့၊ သိပ်ထူးခြားသွားမယ် ထင်ပါတယ်။

ဘယ်လိုပဲဖြစ်ဖြစ် ကိုလမ်ဘတ်စ်သာလျှင် အမေရိကကို တကယ်တွေ့သူဖြစ်ပါတယ်။

တတိယအချက်က ကိုလမ်ဘတ်စ်မပေါ်မီကဘဲ၊ တစ်ဆယ့်ငါးရာစုနှစ် ဥရောပတိုက်သားတွေဟာ ကမ္ဘာကြီးရဲ့ ပုံသဏ္ဍာန်ဟာ လုံးတယ်လို့ သိနေကြပါပြီ။ ယခင် ရာစုနှစ်ပေါင်း အတော်ကြာကပဲ ဂရိဒဿနိက ပညာရှင်တွေက ပြောထားပြီး ဖြစ်တဲ့အပြင် အရစ္စတိုတယ်လို ပုဂ္ဂိုလ်က ဒီတွေးတောကြံဆချက်ကို ထောက်ခံ ထားပြီးဖြစ်လို့ ခရစ်နှစ် ၁၄၀၀ ကျော်က ပညာတတ် ဥရောပတိုက်သားတွေက လက်ခံ ထားပြီး ဖြစ်တယ်။ ကိုလမ်ဘတ်စ်ကို ကမ္ဘာလုံးတယ် ဆိုတဲ့ အချက်ကို ဖော်ပြလို့ သူ့ကို ချီးမွမ်းကြတာ မဟုတ်ပါ။ (တကယ်က သူ့ဆောင်ရွက်ချက်က ဒီကိစ္စကို ပြီးမြောက် အောင် လုပ်ပြတာ မဟုတ်ပါ။) ကမ္ဘာသစ်ကို တွေ့တယ်လို့ ပြောရမယ့် ကိစ္စပါ။ အရစ္စတိုတယ်ရော တစ်ဆယ့်ငါးရာ စုနှစ်ထဲက ဥရောပ တိုက်သား တွေပါ အမေရိကတိုက် တွေ့ရှိတာကို မသိကြပါ။

ကိုလမ်ဘတ်စ်ဟာ အပြစ်ကင်းတဲ့ ကြည်ညိုစရာ ပုဂ္ဂိုလ်ကြီး မဟုတ်ပါ။ သူက သိပ်ငွေ မက်တဲ့လူပါ။ သူ့မှာ အခက်အခဲ တွေ့တယ်ဆိုတာ လောဘနဲ့ အစ္စဘဲလာလို့ မိဖုရားဆီက ရနိုင်သလောက် ငွေတောင်းယူဖို့ ကြိုးစား ရတာမျိုးကို ဆိုလို ပါတယ်။ ကနေ့ လူ့ကျင့်ဝတ်မျိုးနဲ့ သူ့ကို အကဲ မဖြတ်ပေမယ့်လည်း သူဟာ အင်ဒီယန်းတွေနဲ့ ဆက်ဆံတဲ့အခါ ထိတ်လန့် တုန်လှုပ်ဖွယ် ကောင်းအောင် ရက်စက်ကြမ်းကြုတ်တယ်။ အခု စာရင်းက လည်း လူသူတော်စာရင်း မဟုတ်ပါ။ သြဇာရှိတယ်၊ အောင်မြင် တယ်ဆိုတဲ့ စာရင်းပါ။ အဲဒီပေတံနဲ့ တိုင်းရင် သူက ထိပ်ဆုံးထဲမှာ ပါရမယ် အမှန်ပါ။

# (၁၀) အယ်လ်ဘတ်အိုင်စတိုင်း (၁၈၇၉ – ၁၉၅၅)

## ALBERT EINSTEIN (1879 – 1955)

နှစ်ဆယ်ရာစုနှစ်က အကြီးအကျယ်ဆုံး သိပ္ပံပညာရှင်ဟာ အယ်လဘတ်အိုင်စတိုင်း (Albert Einstein) ဖြစ်ပါတယ်။ ဘယ်ခေတ်ပဲ ဖြစ်ဖြစ် ပညာအရာမှာ အခေါင်အချုပ်စာရင်းဝင် ဖြစ်ပါတယ်။ သူတီထွင်တဲ့ ယှဉ်တွဲနှိုင်းဖက်ခြင်း သီအိုရီ (Theory of Relativity) အတွက် သူ့ကို လူသိများရတာဖြစ်တယ်။ တကယ်က သူ့အစွမ်းကို သီအိုရီနှစ်ခုက ဖော်ထုတ်တာ ဖြစ်တယ်။ ၁၉၀၅ ခုက အထူးယှဉ်တွဲနှိုင်းဆချက်သီအိုရီနဲ့ ၁၉၁၅ ခုက ယေဘုယျ ယှဉ်တွဲနှိုင်းဆချက် သီအိုရီ ဖြစ်တယ်။

အဲဒီသီအိုရီကို အိုင်းစတိုင်းရဲ့ ဆွဲငင်ခြင်းဥပဒေ (Law of Gravitation) လို့ ပြောရင်၊ လူတွေက ပိုပြီး သိလွယ်တယ်။ သီအိုရီနှစ်မျိုးစလုံးက သိပ်ရှုပ်တယ်။ ဒီမှာ ရှင်းအောင် မပြောနိုင်တော့ပါ။ ဒါပေမယ့် အထူး ယှဉ်တွဲနှိုင်းဆချက်ကိုတော့ ပြောပြဖို့ လိုပါတယ်။

ဆိုရိုးစကားလိုဖြစ်လာတဲ့ **“ဘာမဆို နှိုင်းယှဉ်ပြောမှ သိသာတယ်”** ဆိုတာ လူတိုင်းအဖို့ မဆန်းတဲ့ စကားပါ။ ဒဿနိက က ပြောစမှတ်ပြုတဲ့အချက်ကို အိုင်းစတိုင်းက ထပ်တူလိုက်ပြောတာ မဟုတ်ပါ။ သိပ္ပံမှာ တိုင်းထွာရင် မှီးရတယ်ဆိုတာကို သင်္ချာနည်းနဲ့ တိကျအောင် ဖော်ထုတ်ခြင်းကို ရည်ညွှန်းတယ်။ အချိန်ကာလနဲ့ အကွာအဝေး ဆိုတာ သတိထားပြီး ကြည့်ရှုမှတ်သားတဲ့ လူနဲ့ပဲဆိုင်တယ်။

အိုင်စတိုင်းမပေါ်မီက လူတိုင်းလိုလိုပဲ ဒီသဘောထားနဲ့ အပြောဟာ ခရီးအကွာအဝေးနဲ့ ကုန်သွားပုံကို ကိရိယာတစ်ခုနဲ့ တကယ့်လက်တွေ့ တိုင်းတာပြ နိုင်တယ်လို့ သဘောပေါက်ပြီး သားဖြစ်တယ်။

အိုင်စတိုင်းသီအိုရီကတော့ အဲဒီတိကျတဲ့ အချိန်ရယ်လို့ ဘယ်မှာမှ မရှိဘူးဆိုပြီး၊ အထက် အထက်က စွဲမြဲယုံကြည်ခဲ့တဲ့ သိပ္ပံအယူအဆကို တော်လှန် ပြောင်းလဲခဲ့တယ်။ အများတကာရဲ့ အချိန်နဲ့အကွာဆိုင်ရာ သဘောထားကို ရဲရဲ ဆန့်ကျင်ပြီး အသစ် သဘောထားကို ထင်ရှားစေဖို့ နမူနာ တစ်ခုတော့

ဖြစ်ဖို့လိုပါတယ်။ (သ) လို့သတ်မှတ်တဲ့ လဟာပြင် ခရီးသွားယာဥ်(Spaceship X) ဟာ တစ်စက္ကန့်ကို ကီလိုမီတာ ၁၀၀၀၀၀ နှုန်းနဲ့ ကမ္ဘာ(Earth) က ထွက်သွားတယ် ဆိုပါတော့။ ကမ္ဘာကလူတွေ အဲဒီနှုန်းနဲ့သွားပုံကို မှတ်သားထားသလို လဟာပြင်ယာဥ်ပေါ်က လူတွေကလည်း မှတ်သားမယ်ပေါ့။ နှစ်ဦးနှစ်ဘက် မှတ်သားချက် တူညီကြတယ်။ ဒီအတွင်းမှာ (ဟ) ဆိုတဲ့ လဟာပြင် ခရီးသွားယာဥ် (Spaceship Y) ဟာ (သ) ယာဥ်လိုပဲ ဦးတည်ပြီးသွားတဲ့ခရီး အတူတူ ထားပြီး ကမ္ဘာကထွက်တယ်။ ဒါပေမယ့် အမြန်နှုန်းကတော့ အများကြီးသာတယ်။ ကမ္ဘာပေါ် ကျန်ရစ်တဲ့ ပွဲကြည့်ပရိသတ်က (ဟ) ယာဥ်ဟာ ကမ္ဘာက တစ်စက္ကန့်ကို ၁၈၀၀၀၀ ကီလိုမီတာ နှုန်းနဲ့ထွက်ခွာသွားတယ်လို့ မှတ်ထား လိုက်သလိုပဲ ယာဥ်ပေါ်ကလူတွေကလည်း ဒီလိုပဲ မှတ်ယူထားကြမှာ ဖြစ်တယ်။ ယာဥ်နှစ်ခုစလုံး မျက်နှာမူရာ အရှပ်တူလို့ အမြန်နှုန်းထား တစ်စက္ကန့်မှာ ၈၀၀၀၀ ကီလိုမီတာ ကွားခြားချက် ရှိတယ်။ မြန်တဲ့ယာဥ်က နှေးတဲ့ယာဥ်ထက် ဒီနှုန်းအတိုင်း ဆက်ပြီး ကွာသွားမယ်လို့ ဆိုလိုတယ်။ ဒါပေမယ့် အိုင်စတိုင်း သီအိုရီအရ ယာဥ်နှစ်စင်း စလုံးပေါ်ကလူတွေဟာ သူတို့နှစ်စင်းရဲ့ ကွာခြားချက်နှုန်း ဟာ တစ်စက္ကန့်ကို ၈၀၀၀၀ ကီလိုမီတာ မဟုတ်ဘဲ၊ ၁၀၀၀၀၀ ကီလိုမီတာဖြစ်တယ်လို့ နှစ်ဖက်စလုံးက သတိပြုမိ ကြမှာဖြစ်တယ်။ ဒီအဖြစ်ကို ပြောတော့ ယုံရခက်တယ်။ လိမ်ညာ လှည့်စားတာ ဖြစ်တယ်။ ပြဿနာရဲ့ အရေးပါတဲ့ အချက်အလက်တစ်ခုကို ထိမ်ချန်ထားတာ များလား၊ ဘယ်ဟာမှ မဟုတ်ပါ။ လဟာပြင်ခရီးသွားယာဥ်တည်ဆောက်ပုံနဲ့ ပတ်သက်ပြီး အသေးစိတ် မပြောတာလည်း မဟုတ်ဘူး။ ယာဥ်ကို လည်ပတ် သွားလာအောင် လုပ်နိုင်တဲ့ စွမ်းအားကို ထိမ်ချန်ထား တာလည်း မဟုတ်ဘူး။ စောင့်ကြည့်တဲ့ လူတွေ မှားတာလည်း မပါဘူး။ တိုင်းတာတဲ့ ကိရိယာတွေမှာလည်း ချွတ်ယွင်းချက် မရှိဘူး။ မျက်လှည့်လက်လှည့်လည်း မဟုတ်ဘူး။ အိုင်စတိုင်းက အခုပြောပြီးခဲ့တဲ့ရလဒ်ဟာ (တွန်းအားဖြစ်ပေါ်ပုံကို ဖော်ထုတ်တဲ့ သူ့တွက်ပြင်နည်းအရ အဖြေလွယ်ပါတယ်။) အချိန်နဲ့ အကွာအဝေး သဘာဝသဘောတရားရဲ့ အလားအလာပဲ ဖြစ်ပါတယ်။ အဲဒါတွေ ပြောနေတော့ အကြီးအကျယ် သီအိုရီ ဆန်နေတယ်။ နှစ်ပေါင်းများစွာအတွင်း လူပေါင်းများစွာက ယှဥ်တွဲနှိုင်းဖက်ခြင်း သီအိုရီ (Theory of Relativity) ဟာ ‘ဆင်စွယ်ပြာသာဒ် ’ (Ivory Tower) စိတ်ကူးယဥ်လွန်းတယ်လို့ ကဲ့ရဲ့ကြမယ်။ တကယ့် လက်တွေ့နဲ့ မဆိုင်ဘူး။ မဖြစ်နိုင်တာကို ရှာရှာဖွေဖွေ ပြောနေတယ်လို့ ပြောပစ်လိုက်တယ်။ ဒါပေမယ့် ဟီရိုရှီးမား (Hiroshima) နဲ့ နာဂါစကီ (Nagasaki) မှာ အဏုမြူဗုံး ချလိုက်တဲ့ ၁၉၄၅ ခုနှစ်ကစပြီး၊ ဒီလို ပက်ပက်စက်စက် မပြောဝံ့ကြတော့ပါ။

အိုင်စတိုင်းရဲ့ ယှဥ်တွဲနှိုင်းဆချက် သီအိုရီမှာ ရုပ်ဝတ္ထု (Matter) နဲ့ စွမ်းအင် (Energy) ဟာ တစ်နည်း အားဖြင့် ညီမျှတယ်။အဲဒါကို ကိန်းသေနည်း (Formula) $E = Mc^2$ နဲ့ ဖော်ပြထားတယ်။ အဲဒီမှာ E က စွမ်းအင်၊ M က ထုထည်နဲ့ c က အလင်းမြန်နှုန်းဖြစ်တယ်။ ပြီးတော့ c က တစ်စက္ကန့်ကို ၁၈၆၀၀၀ မိုင်နဲ့ ညီမျှတယ်။ $c^2$(c ကို c နဲ့မြှောက်) ဆိုရင် ကိန်းဂဏန်းသိပ်ကြီးသွားပြီး၊

အကျိုးဆက်ကို ပြောပါဆိုရင် ရုပ်သတ္တုဝါန် အနည်းငယ်မျှကို အသင့်အတင့်ပြောင်းရုံမျှနဲ့ အင်အားအများကြီး ထွက်ပေါ် လာတာကို မြင်တွေ့နိုင်ပါတယ်။

အဏုမြူဗုံး (Atomic Bomb)၊ နျူကလီးယား ဓာတ်အားပေးရုံ (Nuclear Power Plant) ကို E = Mc$^2$ ကိန်းသေနည်းနဲ့တော့ တည်ဆောက်လို့ မဖြစ်ပါ။ ပြီးတော့ အဏုမြူအား (Atomic Power) ပေါ်ထွန်းလာဖို့ တခြားလူတွေရဲ့ ကြိုးစားကူညီချက်တွေလည်း ပါဝင် လာပါတယ်။ ဒါပေမယ့် အိုင်စတိုင်းရဲ့ တွေ့ရှိချက်ဟာ ထိပ်က ဦးဆောင်ချက် ဖြစ်တာကိုတော့ ငြင်းမရပါ။ နောက်ဆက်ပြောရရင် သမ္မတ ရုစဗဲ့ (Roosevelt) ကို အိုင်စတိုင်းက စာနဲ့ရေးပြီး၊ **“အဏုမြူလက်နက် (Atomic Weapon) ဖြစ်အောင် လုပ်နိုင်စရာ ရှိတယ်။ အမေရိက ကပဲ ဂျာမနီထက် လက်ဦးအောင် လုပ်ပါ”** ဆိုတာနဲ့ မန်ဟတ္တန် စီမံကိန်း (Manhattan Project) စတင်ပြီး ပထမ အဏုမြူဗုံး(Atomic Bomb) ပေါ်လာရတာ ဖြစ်ပါတယ်။ အထူးနှိုင်းယှဉ်ချက် (Special Relativity) အကြောင်းကို သိပ်ပြီးငြင်းခုံ ဆွေးနွေးကြတယ်။ ဒါပေမယ့် အားလုံး သဘောတူတဲ့ အချက် တစ်ချက်တော့ရှိတယ်။ ဘယ်လိုသဘောထားချင်း တူကြသလဲဆိုရင်၊ အခုအသစ်တီထွင်ပေါ်ထွန်းတဲ့ သိပ္ပံသီအိုရီတွေထဲမှာ အဲဒါကတော့ စိတ်ရှုပ်စရာ အကောင်းဆုံး ဖြစ်တယ်တဲ့။ အဲဒီလူတွေ အားလုံး မှားတယ်။ အိုင်စတိုင်းရဲ့ အထွေထွေယှဉ်တွဲ နှိုင်းယှဉ်ချက်သီအိုရီ (General Theory) ဟာ ဆွဲငင်အားဆိုတာ တကယ်ဆွဲတာ မဟုတ်ဘူး။ လဟာပြင်အကျယ် (Space) ရဲ့ ခုံးနေတဲ့သဘော (Curvature) ကြောင့် ပေါ်ပေါက် လာရခြင်းပါပဲတဲ့၊ မထူးဆန်းဘူးလား။ လဟာပြင် အကျယ်ရဲ့ ခုံးပုံ ကို ဘယ်လိုတိုင်းမလဲ။ လဟာပြင်ခုံးတယ်လို့ ဆိုတာ ဟုတ်ပါ့မလား၊ အိုင်စတိုင်းက ဒီသီအိုရီကို ထင်ရှားစေတဲ့အပြင် သင်္ချာနည်းနဲ့ ရှင်းပြတယ်။ ကြိုတင်ပြီး ဘာဖြစ်မယ်ဆိုတာ တွက်ပြတယ်။ သူ့အယူအဆ ကိုလည်း မှန်ကန်ကြောင်း လက်တွေ့ပြနိုင်တယ်။ သူညွှန်းတဲ့ လမ်းကြောင်းအတိုင်း လိုက်ပြီး ကြည့်ရှုမှတ်သား နိုင်ရင် နေကြတ် (Solar Eclipse) တာကို မှန်ကန်တိကျအောင် ကြိုတင် ပြောနိုင်တယ်။ အလီလီ မှန်ခဲ့တယ်။

အထွေထွေ ယှဉ်နှိုင်းဖက်သီအိုရီ (general theory of relativity) ဟာ တခြား သိပ္ပံဥပဒေတွေနဲ့ ဘယ်လိုမှ မဆိုင်၊ အများကြီး ကွဲပြားခြားနားတယ်။ အိုင်စတိုင်းက အသေအချာ စမ်းသပ်ချက် (Careful Experiment) လုပ်ပြီးမှ၊ သူ့သီအိုရီကို ဖော်ထုတ်တာ မဟုတ်ပါ။ ဂရိ(Greek) ဒဿနိကပညာရှင်တွေနဲ့ ခေတ်လယ် ကျမ်းတတ် အကျော် (Medieval Scholastics) တွေလုပ်သလို ဖြစ်နိုင်စရာလမ်းကြောင်းကို ဆက်ယူ တာပဲဖြစ်တယ်။ (ဒီလိုလုပ်လေ ခေတ်သစ်သိပ္ပံရဲ့ လက်တွေ့စမ်းသပ်နည်းရဲ့ အမြင် (Empirical outlook) နဲ့ ဆန့်ကျင် သွားပါတော့တယ်။) ဒါပေမဲ့ ဂရိတွေက အလှနဲ့ ဘယ်ညာပြေလည်ပုံကိုရှာရင်း တိကျတဲ့ လက်တွေ့ စမ်းသပ်ချက် ခံနိုင်တဲ့ ယန္တရား သီအိုရီကို မဖော်ထုတ်နိုင်၊ အိုင်စတိုင်းကတော့ အလီလီ အခေါက်ခေါက် စမ်းသပ်သမျှကို ခံနိုင်တဲ့ သီအိုရီကို ရထားနေပါပြီ။ အိုင်စတိုင်းရဲ့ အထွေထွေ

ယှဉ်တွဲနှိုင်းချက်သီအိုရီကိုတော့ အများကပဲ သိပ္ပံသီအိုရီတွေထဲမှာ အယဉ်ဆုံး၊ အလှဆုံး၊ အထက်ဆုံး၊ ဉာဏ်အပြည့်ဝဆုံးနဲ့ ကျေနပ်ဖွယ် အရှိဆုံးဖြစ်တယ်လို့ သတ်မှတ် ထားပြီး ဖြစ်ပါတယ်။

အထွေထွေနှိုင်းချက် သီအိုရီဟာ တခြား သီအိုရီတွေနဲ့လည်း မတူညီတဲ့သဘောက သိပ္ပံဥပဒေ အားလုံးလိုလိုပဲ အကြမ်းသဘောသာ မှန်တယ် (Approximately Valid)၊ အခြေအနေစုံအောင် လှည့်ပတ်ကြည့်ရင်တော့ မှန်တယ် ဆိုရပေမယ့် ဘယ်တော့မဆို မှန်တယ်လို့ မရှိဘူး။ သိရသလောက် အထွေထွေနှိုင်းချက်သီအိုရီမှာတော့ ခြွင်းချက် မရှိဘူး။ သီအိုရီပိုင်းမှာရော၊ လက်တွေ့ပိုင်းမှာပါ အထွေထွေနှိုင်းချက်သီအိုရီဟာ ရှေ့ဆက်ပြီး လက်တွေ့ လုပ်ဆောင်တိုင်း အပြည့်အဝ မှန်ကန်တယ်လို့ မရှိနိုင်အောင် အခုထိတော့ ဒီသီအိုရီဟာ အမှန်နိုင်ဆုံးမှန်တဲ့ သိပ္ပံနည်းတစ်ရပ် ဖြစ်ခဲ့ပါတယ်။

အိုင်စတိုင်းကို နှိုင်းချက်သီအိုရီတွေကြောင့် လူသိများပြီး ကျော်ကြားသလို တခြားသိပ္ပံဆိုင်ရာ ဆောင်ရွက်ချက် တွေကြောင့်လည်း သူ့ကို သိပ္ပံနယ်မှာ ထင်ရှားသူဖြစ်တယ်လို့ ဆိုရပါမယ်။ နိုဘယ်လ်ဆု (Noble Prize) ကို အိုင်စတိုင်းရပုံက ရူပဗေဒပညာရှင်တွေ အရင်က မရှင်းနိုင်တဲ့ လျှပ်စစ်ဓာတ်ပုံဖြစ်အောင် ရှင်းပြနိုင်တဲ့စာတမ်း (explaining the photoelectric effect) ကြောင့် ဖြစ်ပါတယ်။ အဲဒီစာတမ်းထဲမှာ အလင်းရောင်နဲ့ ပုံရိုက်နိုင်ပုံကို ထင်ရှားအောင် တင်ပြခဲ့တယ်။ ယခင်ရှေးကာလကပဲ တစ်ရစ်ပြီး တစ်ရစ် တက်လာတဲ့ လျှပ်စစ်ဓာတ်လိုက်တဲ့ စီးကြောင်း ရှိလို့ အလင်းတန်း ပေါ်တယ်ဆိုတာကို ရိုက်ခတ် သဘောထား (interference) စမ်းသပ်ချက်တွေနဲ့ ပြခဲ့ပြီးဖြစ်တယ်။ လှိုင်းနဲ့ဝတ္ထုတွေဟာ ယှဉ်ပြိုင် ထိတွေ့နေတယ် ဆိုတဲ့အချက်လည်း ထင်ရှား(Obvious) ပါတယ်။ ဒါပေမယ့် အိုင်စတိုင်းက ရှေးသီအိုရီက ထင်ထင်ရှားရှား ဖွဲ့ထွက်တဲ့ တွေးဆချက်ကို တင်ခဲ့တယ်။ ဓာတ်ပုံလျှပ်စစ်ဥပဒေကို လက်တွေ့ အသုံးချ လို့ရအောင် လုပ်ပေးတဲ့အတွက် သူ့ကိုအမှီပြုပြီး ကွမ်တမ်သီအိုရီ (quantum theory) ဆိုတဲ့ စီးကြောင်း ပြတ်တောင်ပြတ်တောင်းဖြစ်ပုံကို ဖော်ထုတ်တဲ့အတွက် ကနေ့ ဒီသဘောထားကိုပဲ အရင်းကျကျ ထားပြီး သုံးစွဲနေကြရပါတယ်။

အိုင်စတိုင်းရဲ့ ဂုဏ်ကျေးဇူးကြီးမားပုံကို ပိုပြီး ထင်ရှားအောင် သိချင်ရင် အိုက်ဆက် နယူတန် (Issac Newton) နဲ့ နှိုင်းယှဉ်ကြည့်ပါ။ နယူတန်ရဲ့ သီအိုရီတွေက အခြေခံအားဖြင့် နားလည်ဖို့ လွယ်တယ်။ ပြီးတော့ ဒီသီအိုရီတွေကို သူကပဲ စတင်ဖော်ထုတ် အသုံးချ နိုင်တဲ့အတွက် သူ့ကို မဟာပညာကျော် (genius) လို့ ခေါ်ကြရတာ ဖြစ်တယ်။ အိုင်စတိုင်းရဲ့ နှိုင်းချက် သီအိုရီတွေကတော့ အသေအချာ ဂရုတစိုက် ရှင်းပြတာတောင် နားမလည်နိုင်ဘူး။ အထူးခက်ခဲတယ်။ အဲဒါဆိုရင် စပြီးတွေးတော မြော်မြင်ဖို့ အဆပေါင်းများစွာ ပိုပြီးခက်ခဲမယ်လို့ သိနိုင်ပါတယ်။ နယူတန်ရဲ့ စိတ်ကူးတွေဟာ သူ့ခေတ်က သိပ္ပံဆိုင်ရာ အများယုံကြည်မှုတွေနဲ့ အထင်အရှား ဆန့်ကျင်တာ မှန်ပေမယ့် သူကတော့ အစဉ်တစိုက် မဖောက်မပြန်

တစ်သဘောတည်း ရှိနေတယ်။ တစ်ဖက်မှာတော့ ယှဉ်တွဲနိူင်းဖက် သီအိုရီဆိုရင် အချင်းချင်းဆန့်ကျင်တဲ့ ဝိရောဓိ (Paradox) တွေပါနေပြီး ထင်ရှားကြီးကျယ်ဖို့ အစပျိုးတဲ့ မထင်ရှားတဲ့ အညတရ ဆယ်ကျော်သက် အရွယ်ကစပြီး ဒီလို ဆန့်ကျင်ဘက်တွေကို သိနေပေမယ့် စိတ်ပျက်ပြီး စွန့်ပစ်ခြင်း မရှိပါ။ ဒီလို မူလအယူကို မစွန့်တဲ့အပြင် ဒီဆန့်ကျင်ဘက်တွေဟာ အပေါ်ယံမျှသာ ဖြစ်တယ်။ တဖြည်းဖြည်း တစ်စစီ တစ်ပိုင်းစီ သူ့အဖြေနဲ့ သူ ရှင်းလင်း သွားတဲ့အခါ ချောသွားမယ် ဆိုတာ သူပြနိုင်ပါတယ်။

ကနေ့အမြင်ကို ပြောရရင် အိုင်စတိုင်း သီအိုရီတွေဟာ နယူတန်သီအိုရီတွေထက် ပိုပြီးမှန်ကန် (Correct) ကြောင်း တွေ့ပါတယ်။ ကဲ ဒီလိုဆိုရင် အခုစာရင်းမှာ ဘာဖြစ်လို့ အိုင်စတိုင်းက အဆင့်နိမ့်ပါသလဲ။

အခြေခံအကြောင်းကတော့ နယူတန်ရဲ့ သီအိုရီတွေက ခေတ်သိပ္ပံနဲ့ အသိပညာ (Techanology) ရဲ့အခြေခံ (ground-mark) ဖြစ်နေလို့ပါပဲ။ ခေတ်အသိပညာဟာ နယူတန် ပြောသမျှပေါ်မှာ တည်မယ်။ အိုင်စတိုင်းနဲ့ မဆိုင်ပါ။

ဒီစာရင်းမှာ အိုင်စတိုင်းနေရာ အဆင့်နိမ့်ရတဲ့ နောက်တစ်ချက် ကတော့ ဆိုရှယ်လစ် သမိုင်းလိုပဲ လျှပ်စစ်နဲ့ သံလိုက်အသိပညာတွေမှာ တစ်ဦး တစ်ယောက်တည်းရဲ့ စွမ်းဆောင်ချက်လို့ ပြောရခက် ပါတယ်။ နှိုင်းချက်သီအိုရီကို ဖော်ထုတ်တဲ့နေရာမှာ အိုင်စတိုင်းက အများကြီး ဖော်ထုတ်ခဲ့တာ မှန်ပေမယ့် သူတစ်ဦးတည်း တွေ့ရှိချက်လို့ ပြောဖို့ ခက်တယ်။ တစ်မျိုးပြောရရင် အလားတူ အင်မတန် အရေးပါတဲ့ စိတ်ကူးတွေထဲမှာ ဒီနှိုင်းချက်သီအိုရီ ကတော့၊ အိုင်စတိုင်း တစ်ဦးတည်းနဲ့ အများကြီး ဆိုင်ပါတယ်လို့ပြောမှ တရားနည်းလမ်း ကျမယ် ထင်ပါတယ်။

အိုင်စတိုင်းကို ဂျာမနီနိုင်ငံ အယ်လမ် (Elun) မြို့တော်မှာ ၁၈၇၉ က မွေးဖွားတယ်။ ဆွစ်ဇာလန် (Switzerland) မှာ အထက်တန်းပညာ သင်ခဲ့ရတယ်။ ၁၉၀၀ ပြည့်နှစ်မှာ ဆွစ်နိုင်ငံသား အဖြစ် ပြောင်း ခဲ့တယ်။ ဇူးရစ်(Zurich) တက္ကသိုလ်က ၁၉၀၅ ခုနှစ်မှာ ပီအိပ်ချ်ဒီ (Ph.D) ဘွဲ့ရခဲ့တယ်။ တက္ကသိုလ် မှာတော့ ဆရာ မဖြစ်ခဲ့ဖူးပါ။ ဒါပေမယ့် အဲဒီနှစ်မှာပဲ သူက အထူးနှိုင်းချက်သီအိုရီ၊ ဓာတ်ပုံ လျှပ်စစ်အကျိုးသက် (Photoelectric Effect) နဲ့ ဗရောင်နီယန်လှုပ်ရှားမှု (Theory of Brownian motion) စာတမ်းတွေကို ပုံနှိပ်ဖြန့်ဝေ ခဲ့ပါတယ်။ ဒီစာတမ်းတွေကြောင့် အထူးသဖြင့် နှိုင်းချက်ဆိုင်ရာ စာတမ်းတွေကြောင့် ကမ္ဘာမှာ မူလအရင်းခံနဲ့ အထူးချွန်ဆုံး အပြောင်မြောက်ဆုံး သိပ္ပံပညာရှင်ရယ်လို့ သူ့ကို အခြေခိုင်ခိုင် ပြိုင်ဘက်မရှိ ကျော်ကြားထင်ရှားသူအဖြစ် အသိအမှတ် ပြုလာကြပါတယ်။

သူ့သီအိုရီတွေဟာ အင်မတန် ငြင်းခုံရလို့ ခေတ်သိပ္ပံပညာရှင်ထဲမှာ ဒါဝင်(Darwin) ကလွဲရင် သူ့ကိုပဲ အကြောင်းတစ်ခုခုရှာပြီး စွပ်စွဲ ပြောဆိုကြတယ်။ အဲဒီလိုဖြစ်ပေမယ့် ဒီအတောအတွင်း ၁၉၁၃ မှာ ဘာလင်

တက္ကသိုလ်က ပါမောက္ခခန့်တယ်။ တစ်ချိန်တည်းမှာပဲ ကိုင်ဇာဝီလျံ ရူပဗေဒတိုက် (Kaiser Wilheim Institute of Physics) မှာ ဒါရိုက်တာ၊ ပရပ်ရှား သိပ္ပံအကယ်ဒမီ (Prussian Academy of Science) မှာ အဖွဲ့ဝင်အဖြစ် ရွေးချယ် ခန့်ထားခဲ့ပါတယ်။ ဒီလိုနေရာမျိုးကို သူရောက်သွားတော့ လွတ်လွတ်လပ်လပ် အချိန်ပြည့် သူ့စိတ်ကြိုက် စွဲစွဲမြဲမြဲ မကြောင့်မကြ သုတေသန (Research) လုပ်နိုင်ပါတော့တယ်။

ဒီလိုအသိုင်းအဝိုင်းထဲ အိုင်စတိုင်းကို အရောက်ပို့ မိတဲ့အတွက် ဂျာမန် အစိုးရမှာ နောင်တရစရာ လုံးဝမရှိ။

နှစ်နှစ်ကြာတဲ့အခါ ယေဘုယျနှိုင်းချက်သီအိုရီကို ဖော်ထုတ်နိုင်တယ်။ ၁၉၂၁ မှာ နိုဘယ်လ်ဆု ရတယ်။ သူ့အသက် ထက်ဝက်ကျော်တဲ့အခါက စပြီး၊ သူဟာ ကျော်ကြားတဲ့ သိပ္ပံပညာရှင်တွေထဲမှာ အကျော်ကြားဆုံး ပုဂ္ဂိုလ်လို့ ဆိုနိုင်မယ်လို့ ထင်ပါတယ်။ အိုင်စတိုင်းဟာ ဂျူးလူမျိုးဖြစ်လို့ ဂျာမနီမှာ ဟစ်တလာကြီးစိုးတဲ့အခါ ဂျာမနီမှာ ဆက်နေဖို့ ဘေးအန္တရာယ် များလှတယ်။ ဒါနဲ့ သူက ၁၉၃၃ မှာ နယူးဂျာစီ (New Jersey)၊ ပရင်စတန် (Princeton) ကိုပြောင်းလာပြီး၊ ရှေ့စွန်ပညာတိုက် (Institute for Advanced Study) မှာ အလုပ်ဝင်လုပ်တယ်။ ၁၉၄၀ မှာ အမေရိကန် နိုင်ငံသား ဖြစ်လာပါတယ်။ ပထမ မယားနဲ့ ကွာရှင်းပြီး၊ နောက်မယားနဲ့ သာယာ ပျော်ရွှင်တာ ထင်ရှား ပါတယ်။ ကလေး နှစ်ယောက်၊ သားချည်း ထွန်းကားတယ်။ ပရင်စတန်မှာ ၁၉၅၅ က ကွယ်လွန် တယ်။

အိုင်စတိုင်းဟာ ပတ်ဝန်းကျင်ရှိ သူ့လောကကို စိတ်ဝင်စားတယ်။ မကြာခဏပဲ သူ့နိုင်ငံရေး အမြင်တွေကို ပြောပြတယ်။ နိုင်ငံရေးမှာ လူတစ်ဦးတည်း အာဏာ အကုန်ရထားတာမျိုးကို မနှစ်သက်ပါ။ ငြိမ်းချမ်းရေးကို သိပ်လိုလားတယ်။ ဇီယွန်ဝါဒ (Zionism) ကို ခိုင်ခိုင်မာမာ ထောက်ခံတယ်။ အဝတ်ဝတ်ပုံ၊ လူမှုကိစ္စ ဆောင်ရွက်ပုံက သူ့သဘောအတိုင်း ကြိုက်သလို နေတယ်။ ပြောတယ်၊ ပြုလုပ်တတ်တယ်။ ရယ်မောစရာ ပြောတတ်တယ်။ ရွှင်ဉာဏ်ရှိတယ်။ မိမိကိုယ်ကို နှိမ့်ချတယ်။ တယောထိုး ကောင်းတယ်။

နယူတန်ရဲ့သင်္ချိုင်းစာ **“Let mortals rejoice that so great an ornament to the human race existed!” (သေမျိုးထဲမှာပဲ အထွန်းတောက်ဆုံး ဒီလိုလူလည်း ရှိတယ်လို့ ဂုဏ်ယူကြပါ)** ဆိုတာဟာ အိုင်စတိုင်းနဲ့ ပိုပြီးဆီလျော်မယ်လို့ ထင်ပါတယ်။

23, March, 2000.

# (၁၁) လူဝီပါ့စချာ (၁၈၂၂ – ၁၈၉၅)

# LOUIS PASTEUR (1822 – 1895)

ဆေးသမိုင်းမှာ တစ်ယောက်တည်း အထူးချွန်ဆုံး ပုဂ္ဂိုလ်လို့ ပြင်သစ်ဓာတုဗေဒဆရာ၊ ဇီဝဗေဒဆရာ လူဝီပါ့စချာ (Louis Pasteur) ကို အသိအမှတ် ပြုထားကြပါတယ်။ သိပ္ပံမှာ အသစ်အဆန်းတွေ အများကြီး ပါ့စချာက ဖော်ထုတ်နိုင်တယ်။ အဲဒီအထဲမှာ အကျော်ကြားဆုံး အစွမ်းပြပညာက ဝေဒနာအစ ပိုးမွှားက ဆိုတဲ့ နှိုးဆော် သတိပေးချက် ဖြစ်ပြီး ဆေးထိုးခါမျှ (Inoculation) နဲ့ ရောဂါကို ကာကွယ် တားဆီး နိုင်တယ်ဆိုတဲ့ အချက်ဖြစ်ပါတယ်။

ပါ့စချာကို ၁၈၂၂ ခုမှာ အရှေ့ပိုင်းပြင်သစ် (Eastern France) ဒိုး (Dole) အမည်ရှိမြို့မှာ မွေးဖွားပါတယ်။ ပါရီမှာ ကောလိပ် ကျောင်းသား အဖြစ်နဲ့ သိပ္ပံသင်တန်း တက်ခဲ့တယ်။ ကျောင်းသားတုန်းကတော့ သူ့ကို မဟာ ပညာကျော် (Genius) ဖြစ်မယ့်လူလို့ ထင်မှတ် စရာမရှိ။ သူ့ပါမောက္ခက ဓာတုဗေဒ တပည့်တွေ ထဲမှာ သူလည်း အလယ်အလတ်တန်း ပါပဲလို့ ပြောခဲ့ဖူးတယ်။ ဒေါက်တာဘွဲ့ကို ၁၈၄၇ မှာ သူရပြီးတော့ သူ့ပါမောက္ခ လူကဲမခတ်တတ်ဘူး ဆိုတာကို သူက စတင်ပြသ လိုက်တယ်။ ပါ့စချာက တာတာရစ်အက်စစ် (Tataric acid) ရဲ့ မှန်ရိပ်သဖွယ် ထင်ဟပ်တဲ့ အိုင်ဆိုမား (Mirror–Image Isomers) ချင်း မတူဘူးလို့ သုတေသန ပြုပြီး ဖော်ထုတ် လိုက်တဲ့အခါ ပါ့စချာဟာ အသက်နှစ်ဆယ့်ခြောက်နှစ်မှာပဲ ထင်ရှားတဲ့ ဓာတုဗေဒ ဆရာတစ်ဆူ ဖြစ်ခဲ့ပါတယ်။

အဲဒီနောက် ဖာမင်တေးရှင်း (Fermentation) အချဉ်ဖောက်ပုံ ကို ထူးထူးခြားခြား ဆက်လက် လေ့လာပြီး၊ ဒီလိုလုပ်ရှားလာတာဟာ အဏုဇီဝရုပ် (microorganisms) သိပ်သေးငယ်တဲ့ ရုပ်တွေကြောင့် ဖြစ်ရတယ်လို့ ပြောပါတယ်။ တချို့အဏုဇီဝရုပ်ကြောင့် စိမ်ရည် ကစော် ဖောက်တာကို သူက လက်တွေ့ လုပ်ပြပါသေးတယ်။ ဒါနဲ့ တစ်ဆက်တည်း သူသိလာတဲ့အချက်က တချို့ အဏုဇီဝရုပ်တွေကြောင့် မဖြစ်သင့်တဲ့ပစ္စည်း ဖြစ်လာပြီး၊ လူနဲ့တိရစ္ဆာန်တွေကို အန္တရာယ် ပေးပါတယ်။ ပါ့စချာက ရောဂါပိုးမွှားကြောင့် ဖြစ်ရတယ်ဆိုတဲ့ အယူကို စတင်ပြောဆိုတဲ့ပုဂ္ဂိုလ် မဟုတ်ပါ။ ဒီအတွေးကို ရှေးအထက် ကပဲ တွင်တွင် ကျယ်ကျယ် တင်ပြတဲ့သူတွေက ဂီရိုလာမိုဖာရာကပ်စတိုရို (Girolamo Fracastoro)၊ ဖရက်ဒရစ်ဟဲန်လေ

(Friedrich Henle) စတဲ့လူတွေ ဖြစ်ပါတယ်။ ဒါပေမယ့် ပါ့စချာကတော့ ဒီအယူအဆကို ထက်ထက် သန်သန် လေ့လာလိုက်စားပြီး လက်တွေ့ စမ်းသပ်ချက်တွေနဲ့ သိပ္ပံပညာရှင် လောကကို သူပြောတာ မှန်ကန်တယ်လို့ ယုံကြည် လက်ခံလာအောင် စွမ်းဆောင် ခဲ့ပါတယ်။ ပိုးကြောင့် ရောဂါဖြစ်ပွားတယ်ဆိုရင် ယုတ္တိဗေဒ အရ လူ့ခန္ဓာကိုယ်ထဲကို ဘေးဖြစ်စေမယ့်ပိုး မဝင်အောင် တားနိုင်ရင်၊ ရောဂါ မရှိနိုင်တော့ဘူးလို့ ဆိုရမယ်။ ပါ့စချာက ဆေးဆရာတွေကို မန်းဆေး (Antiseptic) နည်းတွေရဲ့ အရေးပါပုံကို သင်ပေးတဲ့ အပြင် ခွဲစိတ်ကုသနည်းတွေမှာ မန်းကြေအောင် ဘယ်လိုလုပ်ရမယ်လို့ သင်ပေးတဲ့ ဂျိုးဆက်လစ်စတာ (Joseph Lister) ကို တတ်နိုင် သလောက် ရှေ့ဆောင်လမ်းပြ လုပ်ပေးခဲ့တဲ့သူပါ။ ဘေးဖြစ်စေမယ့် ပိုးဟာ လူ့ခန္ဓာကိုယ်ထဲကို အစားအသောက်က ဝင်တာ ဖြစ်ပါတယ်။ ပါ့စချာက ပါ့စချာနည်းတားမြစ်ပုံ (pasteurization) ခေါ်တဲ့ စိမ်ရည်မှာ အဏုဇီဝရုပ် ဖျက်ဆီးနည်းကို စတင်ဖော်ထုတ်ပေးပါတယ်။ သူ့နည်းကို လိုက်နာပါရင် နွားနို့ကြောင့် ရောဂါဖြစ်တာကို အမြစ်ပြတ်အောင် ဖြတ်ပေး နိုင်ပါတယ်။ အသက်ငါးဆယ့် ငါးလောက် ရောက်တဲ့အခါ ပါ့စချာက လူရော၊ ကျွဲနွားများစွာကိုပါ သေစေနိုင်တဲ့ ထောင့်သန်းနာ (Anthrax) ကို လေ့လာတယ်။ ဒီရောဂါကို ဖြစ်စေတတ်တဲ့ ပိုးတစ်မျိုးကို ပါ့စချာက အတိအကျ ဖော်ထုတ် ပေးနိုင်ပါတယ်။ ဒါ့ထက် အများကြီး ပိုပြီးအရေးပါတဲ့ ဆောင်ရွက်ချက်က အားပျော့ သွားတဲ့ ထောင့်သန်းနာ၊ တုတ်တံပိုး (bacillus) ကို ရှာဖွေ တွေ့ရှိခြင်း ဖြစ်ပါတယ်။ နွားလိုအကောင်မျိုးကို ဒီမျိုးညံ့ပိုးမျိုးကို ဆေးထိုးအပ်နဲ့ ထိုးသွင်းလိုက်ရင် အသက် မစိုးရိမ်ရ (mild form) ထောင့်သန်းနာ (anthrax) ရတယ်။ အဲဒါကို နည်းနည်း ဝေဒနာခံရပြီးတဲ့ အကောင်မှာ သေလောက်တဲ့ ထောင့်သန်းနာ မဝင်နိုင်တော့ပါ။ ဒီလို ပါ့စချာက ကျွဲနွားထောင့်သန်းနာ ပြီးအောင်လုပ်တဲ့နည်းကို လူသိရှင်ကြား အထင်အရှား လုပ်ပြတော့ လူတွေ အများကြီး စိတ်ဝင်စားပြီး တအံ့တသြ ဖြစ်ကြရပါတယ်။ အဲဒီကမှ သူလုပ်ပုံကို စံထားနည်းမီပြီး တခြား ကူးစက်တဲ့ ရောဂါတွေကိုပါ ဘယ်လိုကာကွယ်ရင် ဖြစ်နိုင်မယ် လို့ သဘောပေါက်လာကြပြီး၊ သူလုပ်သလို လိုက်လုပ်ကြပါတယ်။

ပါ့စချာတစ်ဦးတည်း လုပ်ပြီး လူသိများလှတဲ့ လုပ်ဆောင်ချက် ကတော့ သိပ်ကြောက်စရာ ကောင်းတဲ့ ခွေးရူးရောဂါ (rabies) ကို ကာကွယ်နည်း ထုတ်ပေးတာပဲ ဖြစ်ပါတယ်။ ပါ့စချာရဲ့ အခြေခံစိတ်ကူးကို လိုက်ပြီး တခြားသိပ္ပံဆရာတွေက ထိုးဆေး (Vaccine) အမျိုးမျိုး လုပ်လာကြတော့၊ ကြောက်စရာ ကပ်ရောဂါ တွေဖြစ်တဲ့ တိုက်ဖွိုက် (typhus) ရောဂါနဲ့ သွက်ချာပါဒ ပိုလီယိုရောဂါ (poliomyelitis) မျိုးကိုတောင် ကာကွယ် ပေးနိုင်တဲ့ ထိုးဆေးတွေ ပေါ်လာပါတော့တယ်။ ပါ့စချာက မကြုံဖူးလောက်အောင် ထူးခြားတဲ့ရွဲ၊ လုံ့လနဲ့ အလုပ်ကို ပြင်းပြင်းထန်ထန် မခိုမကပ် လုပ်တဲ့လူ ဖြစ်ပါတယ်။ သူ့ကိုပဲ ဦးတိုက် ကျေးဇူးတင်ပြီး သူလုပ်လို့သာ ဒါတွေ ပေါ်ပေါက် ခဲ့ရတယ်လို့ ပြောစရာ အတိုအထွာကိစ္စတွေလည်း အများကြီး ရှိပါတယ်။ အဏုဇီဝရုပ်ဆိုတာ အလိုအလျောက် မျိုးဆက်တစ်ခုစီ အလိုက် ပေါ်လာတာ မဟုတ်ဘူးလို့၊ သူကပဲ လက်တွေ့ စမ်းသပ်ချက်တွေ အရ ဖော်ထုတ်ခဲ့တာ ဖြစ်တယ်။ ပါ့စချာပဲ

တချို့အဏုဇီဝတွေဟာ လေမလို ဇီဝန (Anaerobiosis) ဖြစ်တယ်။ ဆိုလိုတာက လေမရှုရပဲ လွတ်လပ်တဲ့ အောက်ဆီဂျင် (free oxygen) မရဘဲ၊ အသက်ရှင်ပြီး နေနိုင်တယ်လို့ ပါ့စချာက ဖော်ထုတ် ပြောပြပါတယ်။ ပိုးမျှင်ထွက်တဲ့ အကောင် (silkworm) တွေမှာ ကျရောက် တတ်တဲ့ ရောဂါကို ရှာနိုင်တဲ့ အတွက်လည်း စီးပွားရေးမှာ အသုံးဝင်တဲ့ အသိဉာဏ် တစ်ခုကို ပေးခဲ့ပါတယ်။ ကြက်ကာလဝမ်းရောဂါ (Chicken cholera) အတွက် ထိုးဆေးလည်း သူ့ပညာပဲ ဖြစ်ပါတယ်။

ပါရီမြို့တော်ကြီးနားမှာပဲ ပါ့စချာဟာ ၁၈၉၅ မှာ ကွယ်လွန် ပါတယ်။

ပါ့စချာကို ကျောက်ရောဂါကာကွယ်တဲ့ ထိုးဆေးကို ဖော်ထုတ်တဲ့ အင်္ဂလိပ်သမားတော် အက်ဒွပ်ဂျဲန်နာ (EdWard Jenner) နဲ့ နှိုင်းယှဉ်ပြီး ပြောလေ့ရှိကြတယ်။ ဂျဲန်နာရဲ့ဆောင်ရွက်ချက်က ပါ့စချာထက် အနှစ်ရှစ်ဆယ်စောတယ် ဆိုပေမယ့် သူ့နည်းက ရောဂါ တစ်ခုတည်းကို ပြီးအောင် လုပ်တာ ဖြစ်တယ်။

ပါ့စချာရဲ့နည်းတွေက ရောဂါအမြောက်အမြားကို ကာကွယ် ပေးနိုင်တဲ့နည်းဖြစ်လို့ ဂျဲန်နာကို ပါ့စချာလောက် အရာရောက် တယ်လို့ မထင်ပါ။

၁၉ရာစု နှစ်လယ်လောက်ကစပြီး၊ ကမ္ဘာမှာ လူ့တွေရဲ့သက်တမ်းဟာ တစ်ဆတိုးတယ်လို့ ယေဘူယျ ပြောကြတယ်။ လူ့သမိုင်း တစ်ခုလုံး ထဲမှာ လူတစ်ဦးစီရဲ့ အသက်ပိုရှည်အောင် လုပ်ပေးနိုင်ခြင်းဟာ တခြား ဘာတွေ လုပ်ပေးတာနဲ့မှ မတူ၊ သူ့လောက်တန်ဖိုး မရှိဘူးလို့ ပြောချင်ပါတယ်။ တကယ်ကတော့ ခေတ်သိပ္ပံနဲ့ ဆေးပညာဟာ ကျွန်တော်တို့ရဲ့ အသက်ကို တစ်သက်မက နှစ်သက်နေရအောင် လုပ်ပေးတယ်လို့ ဆိုချင် ဆိုနိုင်တယ်။ ဒီလို အသက်ရှည်တာဟာ ပါ့စချာကြောင့်ပါပဲ။ ဒါပေမယ့် အသက်ရှည်တာဟာ တခြား အကြောင်းတွေကလည်း ရှိနေလေတော့၊ အခု ကျွန်တော်ရေးတဲ့စာအုပ်မှာ နံပါတ် (၁) နေရာ သူ့ကိုပေးချင်ပေမယ့် မပေးဖြစ်ပါ။ ပါ့စချာဟာ အခြေခံကိစ္စတွေကို အများကြီး ရှင်းလင်း ပေးခဲ့သူဖြစ်လို့ အရင် ၁၉ ရာစုနှစ်တုန်းက လူ့သက်တမ်း ရှည်အောင် လုပ်ကြတဲ့လူတွေထဲမှာ (သို့မဟုတ်) အသေနှုန်း ကျဆင်းအောင် လုပ်ကြတဲ့လူတွေထဲမှာ ပါ့စချာဟာ ရှေ့ဆုံးက ဖြစ်လို့ အခုစာအုပ်မှာလည်း သူ့ကို ရှေ့တန်းကျကျ နေရာမှာ ပေးထားတာ ဖြစ်ပါတယ်။

24, April, 2000.

# (၁၂) ဂယ်လီလီယို ဂယ်လီလေး (၁၅၆၄ – ၁၆၄၂)

# GALILEO GALILEI (1564 – 1642)

သိပ္ပံနည်း (Scientific Method) နဲ့ ရှာဖွေစူးစမ်းတဲ့ ကိစ္စအဝဝ ပုံစံချပေးတဲ့ လူတွေထဲမှာ အစွမ်းဆုံးဟာ အီတလီ နိုင်ငံ ပီဆာ (Pisa) မြို့ကြီးက ၁၆၅၄ မှာ မွေးဖွားသူ ဂယ်လီလီယို ဂယ်လီလေး (Galileo Galilei) ဖြစ်မယ်လို့ ကျွန်တော် ထင်ပါတယ်။ ငယ်စဥ်က ပီဆာ တက္ကသိုလ်မှာ သင်ကြားခဲ့ပေမယ့် ဘွဲ့ပိုက်ဆံ မတတ်နိုင် လို့ တက္ကသိုလ်က ထွက်ခဲ့ရတယ်။ ဒါပေမယ့် ပင်ကိုယ်စွမ်း ရှိသူမို့ ၁၅၈၉ မှာ အဲဒီတက္ကသိုလ်မှာပဲ ဆရာဖြစ်လာတယ်။ နောက် နှစ်နည်းနည်းကြာတော့ ပဒူဝါ (Padua) တက္ကသိုလ်မှာ ဆရာဖြစ်တယ်။ အဲဒီမှာပဲ ၁၆၁၀ ပြည့်နှစ်ထိ ဆရာ လုပ်သွားပါတယ်။ အဲဒီနှစ်တွေမှာပဲ သိပ္ပံတွေ့ရှိချက် အများအပြားကို ဖော်ထုတ် နိုင်ခဲ့ပါတယ်။

ဂယ်လီလီယိုရဲ့ အရေးပါတဲ့ ရှေးဦး လုပ်ဆောင်မှု တွေက စက်ယန္တရား (machine) နဲ့ဆိုင်တယ်။

ပစ္စည်းတစ်ခု အမြင့်ကအောက်ကိုကျရင် ပစ္စည်းရဲ့ အလေးအပေါ့ကိုလိုက်ပြီး အမြန် အနှေးနှုန်း ကွာမယ်လို့ အရစ္စတိုတယ် (Aristotle) ပြောတာကို မျိုးဆက်သစ် ပညာရှာသူတွေက အဆက်မပြတ် ဂရိဒဿနိကဆရာကြီး ပြောတဲ့ အတိုင်း မှတ်သားခဲ့ကြတယ်။ ဂယ်လီလီယိုက ဟုတ်မဟုတ် စမ်းသပ်ရမှ ကျေနပ်မယ် ဆိုပြီး၊ စမ်းသပ်ချက်တွေကို ဆက်တိုက် လုပ်ပါ တော့တယ်။ နောက်ဆုံး အရစ္စတိုတယ် မှားသတဲ့။ အလျင်နှုန်း (velocity) ဟာ အလေးအပေါ့နဲ့ မဆိုင်၊ လေနဲ့ပွတ်တိုက်တဲ့ အခါမှာတော့ ဆုတ်ရှိန် (retardation) ကွာမယ်ပေါ့။ (ဒီလို စမ်းသပ်စဥ်က ဂယ်လီလီယိုဟာ တိမ်းစောင်း ပြာသာဒ်ပီဆာ (Leaning Tower of Pisa) ပေါ်က ပစ္စည်းတွေ ပစ်ချခဲ့တာပေါ့ဆိုတဲ့ အစဥ်အလာ ပြောစကား တော့ ဟုတ်မယ် မထင်ပါ။)

အခုပြောသလို သိပြီးတဲ့နောက် ဂယ်လီလီယိုက အောက်ကို ကျသွားတဲ့ ပစ္စည်းတစ်ခုဟာ သတ်မှတ်ချိန် အတွင်း ဘယ်လောက် နိမ့်ဆင်း သလဲဆိုတာကို တိုင်းကြည့်ပါတယ်။ နိမ့်ကျ လျှောဆင်းချိန် စက္ကန့်ရဲ့ နှစ်ထပ်ကိန်း (square) ဟာ ပစ္စည်းပေါက်ရောက်တဲ့ အကွာအဝေး (distance traversed) ဖြစ်တယ်လို့ အဖြေ

ထွက်တယ်။ အဲဒီလို (အရှိန် Acceleration ဟာ တညီတည်း ပဲလို့ ထင်ရှားတဲ့အခါ) က ဘယ်လောက် အရေးပါ ထူးခြား (Significant) သလဲ ဆိုတာ ပြောဖို့ မလိုတော့ပါ။ အဲဒါထက်ပိုပြီး အရေးပါတာကတော့၊ ဂယ်လီလီယိုက သူ စမ်းသပ်သမျှ တွေ့ရှိချက်တွေကို စုရုံးပြီး သင်္ချာပုံသေနည်း လုပ်ပေး ထားခဲ့ပါတယ်။ သင်္ချာ ပုံသေနည်း (mathematical formula) တွေ၊ သင်္ချာတွက်ပြင် (mathematical method) တွေကို ကျယ်ကျယ်ပြန့်ပြန့် သုံးတာဟာ ခေတ်သစ် သိပ္ပံပညာရဲ့ ထူးတဲ့ အရည်အသွေး ဖြစ်ပါတယ်။

မရွေ့မလှုပ်ဆိုင်ရာဥပဒေ အင်နားရှားဥပဒေ (Law of Inertia) ကို ရှာဖွေတွေ့ရှိချက်ဟာ ဂယ်လီလီယိုရဲ့ နောက်ထပ် ကြီးကျယ်တဲ့ စွမ်းဆောင်ချက် ဖြစ်ပါတယ်။ အရင်တုန်းက လူတွေ အထင်မှာ ပစ္စည်းတစ်ခု ရွေ့တယ် ဆိုတာ တွန်းနိုင်မှ ဖြစ်တာ၊ တွန်းအားကုန်ရင် နေးပြီး ရပ်သွားတယ်။ ဂယ်လီလီယိုက သူ စမ်းသပ် ကြည့်တော့ ဒီလို လူအများ ပြောဆိုတာလည်း မှားတာပဲတဲ့။ ပွတ်တိုက်ခြင်း (Friction) ရဲ့ ဆုတ်ရှိန်အား (retarding force) သာမရှိရင်၊ လှုပ်ရှား ပစ္စည်းတစ်ခုဟာ သဘာဝ အတိုင်း ဘယ်တော့မှ မရပ်ဘဲ ဆက်ပြီးလှုပ်နေမှာပဲတဲ့။ ဒီလို အရေးပါတဲ့ အခြေခံမှုကို နယူတန်က သူ့ ပထမ ရွေ့လျားမှုနိယာမ (The First Law of Motion) မှာ ထည့်သုံးတယ်။ အဲဒါပဲ ရူပဗေဒမှာ အခြေခံ အကျဆုံး အရေးကြီးဆုံးမူတစ်ခု (Principles) ဖြစ်လာပါတယ်။

ဂယ်လီလီယိုမှာ ဂုဏ်ယူစရာ အကြီးမားဆုံး ရှာဖွေ တွေ့ရှိချက်တွေက နက္ခတ္တဗေဒ (Astronomy) နဲ့ ဆိုင်တယ်။ နက္ခတ္တဗေဒ သီအိုရီတွေက ၁၆၀၀ ကျော်က စပြီး၊ ငြင်းကြခုံကြနဲ့ ကစော်ပေါက်သလို စီစီ စီစီ ဖြစ်နေပါတယ်။ အရင်း မူလပြုပြီး ငြင်းကြတာကတော့ ကော်ပါးနိကပ်စ် (Copernicus) ရဲ့ နေကိုဗဟိုပြုသီအိုရီ (heliocentric theory) နဲ့ ရှေးအထက်ကစလို့ မှားနေခဲ့တဲ့ ကမ္ဘာကိုဗဟိုပြု သီအိုရီ (geocentric theory) ဖြစ်ပါတယ်။ အထက် ၁၆၀၄ လောက်စောတဲ့ ကာလကပဲ ဂယ်လီလီယိုက ကော်ပါးနိကပ်စ် မှန်တယ်လို့ ပြောပြီး သားပါ။ အဲဒီတုန်းကတော့ သူ့မှာ ဒီအယူသစ်ကို ထောက်ပံ့နိုင်တဲ့ သက်သေခံ အချက်အလက် မရှာရ မတွေ့သေးပါ။ ဒါပေမယ့် ၁၆၀၉ ခုရောက်တော့ ဟော်လန်မှာ အဝေးကြည့် မှန်ပြောင်း ပေါ်လာပြီလို့ သတင်းစကားရတယ်။ ဒီကြည့်မှန်ဟာ ဘယ်လိုဘယ်ဝါလို့ အသင့်အတင့် ကြားရရုံနဲ့ သူ့ပါရမီအရ ဂယ်လီလီယိုက သူသုံးဖို့ သူ့ဘာသာ အရည်အသွေး အများကြီးသာတဲ့ အဝေးကြည့် မှန်ပြောင်းကို တီထွင်လို့ ပြီးစီးတယ်။ ဒီလက်နက်သစ်နဲ့ ကောင်းကင်ကို ရှုမြင်ချက် အဖုံဖုံ ရအောင် စောင့်ကြည့်လေ့လာလိုက်တဲ့အခါ တစ်နှစ် အတွင်းမှာပဲ အင်မတန်ကြီးကျယ်ပြီး အရာ ရောက်တဲ့ တွေ့ရှိချက်တွေ တသီကြီး ဖော်ထုတ် လိုက်ပါတယ်။ လမင်းကိုကြည့်တဲ့အခါ ချောမွတ်နေတဲ့ အလုံးကြီး မဟုတ်၊ မီးတောင်ဝချိုင့် (Crator)တွေ၊ တောင်ကုန်းမြင့်တွေနဲ့ ကြည့်မကောင်းဘူး။ တခြား ကြယ်တာရာ (Celestial Objects) တွေဟာလည်း ဒီလိုပဲ အဖုအထစ်တွေနဲ့ ချောမွတ် လှပကြတာ မဟုတ်ဘူးလို့ သူက ကောက်ချက် ချတယ်။ နှိုင်းယှဉ်ချက်အနေနဲ့

ငါတို့ ကမ္ဘာမြေ မျက်နှာပြင်လည်း ဘယ်မှာ ညီညွတ်လှပလို့လဲလို့ သူကဆက်ပြောပါတယ်။ နဂါးငွေ့တန်း (Milky Way) ကိုကြည့်စမ်း၊ နှိုရည်တွေ ဖိတ်စင် (nebulous) နေတယ် မထင်နဲ့၊ ကြယ်ပွင့်လေးတွေ တစ်စုတစ်ဝေးတည်း ရာထောင်ချီပြီး ရှိနေတယ်။ တစ်စုတည်း ပြောရပေမယ့် တစ်ခုနဲ့ တစ်ခု အလှမ်းအင်မတန် ကွာဝေးပါတယ်။ ဒီက မျှော်ကြည့်တော့ ဝေးလွန်းလွန်းလို့ ပကတိ မျက်စိ အမြင်မှာ အတွဲလိုက်ကလေး ဖြစ်နေတယ်လို့ ထင်ရတာပါ။ ဂြိုဟ် (planets) ကိုကြည့်ပြန်တော့ ကြာသပတေးဂြိုဟ် (Jupiter) မှာ လလေးစင်းကို ဝိုင်းကြီး ပတ်ပတ်လှည့်နေတယ်။ ဒီမှာပဲ မှတ်စရာသာဓကတစ်ခု ထွက်လာတယ်။ ကမ္ဘာ ဆိုတဲ့ဂြိုဟ်မျိုးလို ဂြိုဟ်တိုင်းမှာ အာကာသဝတ္ထု (Astronomical bodies) တွေ အများကြီး ဝိုင်းရံနေပါတယ်။ နေကိုကြည့်ရင် နေကွက် (sunspot)တွေ အများကြီး တွေ့မယ်။ နေကွက်ကို တခြားပုဂ္ဂိုလ်တွေလည်း မြင်တယ်လို့ ပြောကြပါတယ်။ (ဒါပေမယ့် ဂယ်လီလီယိုက ဒါကို အများ ဂရုပြုအောင် ထင်ရှားစေပြီး၊ သိပ္ပံလောက က လူတွေကို ရည်ညွှန်းပြီး ဖော်ထုတ် ပြောပြ လေ့ရှိတယ်။) သူ့အမြင်မှာ သောကြာဂြိုဟ် (Venus) ဆိုရင်၊ လ (Moon) လိုပဲကာလ အပိုင်းအခြား အဆင့်ဆင့်ကို ကြုံတွေ့ခဲ့ရဖူးတယ်။ အဲဒါကိုမှီးပြီး ဘာကိုသိနိုင်သလဲဆိုရင် ကော်ပါးနိကပ်စ် သီအိုရီမှာ ကမ္ဘာ (Earth)နဲ့ တခြား ဂြိုဟ်တွေဟာ နေကို ပတ်ပြီးလှည့် နေကြတယ် ဆိုတဲ့ စကားကို ထောက်ခံတဲ့ သက်သေ တစ်ရပ်ကို သိရပါတယ်။

အဝေးကြည့်မှန်ပြောင်း (telescope) ကို တီထွင် နိုင်တဲ့အတွက် ဆင့်ကဲပေါ်လာတဲ့ တွေ့ရှိချက် အထောက်အထားတွေ ကြောင့် ဂယ်လီလီယိုဟာ သိပ်ပြီး ကျော်ကြားလာပါတယ်။ ဒါပေမယ့် ကော်ပါးနိကပ်စ်ကို ထောက်ခံလေလေ၊ အရေးပါပြီး တန်ခိုးဩဇာကြီးတဲ့ ခရစ် ကျောင်းတော် အသိုင်းအဝိုင်း (Church Circles) ကို ဆန့်ကျင် တိုက်ခိုက်သလို ဖြစ်နေလို့ ၁၆၁၆ မှာ ကော်ပါးနိကပ်စ်အဆိုကျမ်းကို ထောက်ခံ ပြောဟော မနေနဲ့လို့ အမိန့်ထုတ်ဆင့်ပြီး တားမြစ် တာကို ခံရပါတယ်။ ဂယ်လီလီယိုဟာ ဒီအမိန့် ကြောင့် နှစ်ပေါင်းများစွာ အောင့်သက်သက် ယားကျိကျိ နေရပုံရပါတယ်။ ရဟန်းမင်း (Pope) ၁၆၂၃ မှာ ပျံလွန်တော်မူတော့ ဆက်ခံတဲ့ ရဟန်းမင်းက ဂယ်လီလီယိုကို နှစ်သက် ထောက်ခံ ကြည်ညိုသူ ဖြစ်နေပါတယ်။ အဲဒါနဲ့ နောက်တစ်နှစ်မှာ ရဟန်းမင်းသစ် အဋ္ဌမမြောက် အာဗန် (Urvan VIII) က ယခင်တားမြစ်ချက်ကို မသိမသာ ဖာတ်မြှုပ် ထားလိုက်တဲ့သဘောကို အရိပ်အမြွက် ပြောပါတယ်။

နောက်ခြောက်နှစ်မှာ ဂယ်လီလီယိုဟာ ကမ္ဘာ စနစ်ကြီး နှစ်ခုဆိုင်ရာ အချေအတင် (The Dialogue Concerning the Two Chief World Systems) ကျမ်းကို ရေးသား ပြုစုတယ်။ ကော်ပါးနိကပ်စ်သီအိုရီကို ထောက်ခံတဲ့ သက်သေခံတွေကို ပိုင်ပိုင်နိုင်နိုင် တင်ပြထားပြီး၊ ၁၆၃၂ မှာ ကျောင်းတော်စိစစ်ရေးခွင့်ပြုချက် (Imprimatur) နဲ့ ပုံနှိပ်ရပါတယ်။ ဒါပေမယ့် စာအုပ် ထွက်လာတော့ ကျောင်းတော် အာဏာပိုင်တွေက သိပ်ပြီး အမျက်ဒေါသ

ထွက်တယ်။ မကြာခင်မှာပဲ ရောမ တရားဝင် စစ်ဆေးခြင်း ရုံးတော် (Inquisition) မှာ ၁၆၁၆ တားမြစ်ချက်ကို မထီမဲ့မြင်ပြုတယ်လို့ စွဲချက်တင် အမှုဖွင့်ပါတယ်။ အင်မတန် ထင်ရှားတဲ့ သိပ္ပံပညာရှင်ကြီးကို ပြစ်ဒဏ် ပေးဖို့ ဆုံးဖြတ်ရမှာကို ကျောင်းတော်ဆိုင်ရာ ပုဂ္ဂိုလ်ကြီးတွေ အတော်များများက မကြည်မသာ ဖြစ်လာ ကြတယ်။ ခေတ်ကာလ ကျောင်းတော်ဥပဒေ (Current Church Law) အရမှာပဲ အပြစ်ရယ်လို့ အတိအကျ ပြောဖို့ ခက်ပါတယ်ဆိုပြီး၊ ထောင်မချပဲ အာ့ခ်စက်တြီ (Arcetri) နေအိမ်မှာပဲ အိမ်တွင်းအချုပ် (house arrest) ချထား လိုက်ပါတယ်။

ဥပဒေသဘောအရ ဩွသည် လက်မခံရဘူး ဆိုပေမယ့်လည်း ဒါကို ဖြစ်ဖြစ်မြောက်မြောက် လိုက်နာ စေခြင်းမလုပ်ပါ။ သူ့ကိုပေးတဲ့ အပြစ်ဒဏ်မှာ နေကို ကမ္ဘာက လှည့်ပတ်တယ် ဆိုတဲ့ အချက်ကို လူသိရှင်ကြား ရုပ်သိမ်း (recant) ခိုင်းတယ်။ အဲဒါကို အသက်ခြောက်ဆယ့်ကိုးနှစ် ရှိပြီဖြစ်တဲ့ သိပ္ပံပညာရှင် အဘိုးအိုက ပရိသတ် စုံစုံ တက်တဲ့ ရုံးတော်မှာ ပြောရတယ်။ (အမိန့်တော်ကို နာခံပြီး ပြောခိုင်းတဲ့ အတိုင်း ပြောပြီးတဲ့အခါ ဂယ်လီလီယိုက မြေကြီးကိုငုံ့ကြည့်ပြီး ခပ်တိုးတိုး **'သူက လှုပ်လက်စ မရပ်ပါလားဟရို့.'** လို့ ပြောတယ် တဲ့။ အဲဒါကို လူပြောများတယ်။ ဟုတ် မဟုတ် မသိပါ။) အာ့ခ်စက်တြီမှာ ဆက်ပြီး ယန္တရားတွေ အကြောင်း ရေးသားရင်း ၁၆၄၂ (အသက် ၇၈ နှစ်) မှာ ကွယ်လွန်ရှာတယ်။

သိပ္ပံပညာတိုးတက်ကြီးပွားဖို့ ဂယ်လီလီယိုက အကြီးအကျယ် ကြိုးစားဆောင်ရွက်ခဲ့တာကို လူအများက အသိအမှတ်ပြုထားတာ ကြာပါပြီ။ သူ အရာရောက်ပုံကို သူတီထွင်ခဲ့တဲ့ မရွေ့မလှုပ် ဥပဒေ (Law of Inertia)၊ အဝေးကြည့်မှန်ပြောင်း (telescope)၊ နက္ခတ္တဗေဒ စောင့်ကြည့်ချက်တွေ (Astronomical Observation) နဲ့ ကော်ပါးနိကပ်စ် အဆိုကြမ်း (Copernican hypotheses) ကို ထောက်ခံတဲ့အခါတွေမှာ သူ့ရဲ့ ပါရမီ ရင့်သန်ပုံကို မြင်နေရပါတယ်။ အဲဒါ တွေထက် အရာရောက်တဲ့ အချက်က သိပ္ပံပညာ မှာ နည်းစနစ် (methodology)ဟာ သိပ် အရေးပါတယ်ဆိုတဲ့ အချက်ကို ဖော်ထုတ် ပေးနိုင်ခြင်းပဲ ဖြစ်ပါတယ်။

အရစ္စတိုတယ်ဆီက လမ်းစရပြီး၊ အရင် သဘာဝ ဒဿနိက ဆရာတွေဟာ အမျိုးအစားအလိုက် စောင့်ကြည့်ခြင်း (qualitative Observation) နဲ့ အမြင်အသွင်ကို အမျိုးအစားခွဲခြင်း (Categorizing the phenomena) ကိုပဲ လုပ်တတ် ကြတယ်။ ဂယ်လီလီယို ကတော့ အမြင်အသွင် ကိုရအောင် တိုင်းထွာတယ်။ အရေအတွက် လိုက်ပြီး စောင့်ကြည့်မှတ်သားခြင်း လုပ်တယ်။ အဲဒီကစပြီး သိပ္ပံသုတေသန (Scientific Research) မှာ ဂယ်လီလီယို ရဲ့နည်းဟာ အခြေခံ အင်္ဂါရပ်တစ်ခု ဖြစ်လာ ပါတော့ တယ်။ သိပ္ပံသုတေသနမှာ ကိုယ်တွေ့သဘောထား (empirical Attitude) ကို လိုလားအပ်တယ်လို့ ဖော်ထုတ်တဲ့ ပုဂ္ဂိုလ်တွေ ထဲမှာ ဂယ်လီလီယိုဟာ အရာရောက်ဆုံးပုဂ္ဂိုလ် ဖြစ်ပါတယ်။ သူဟာ ပထမဆုံး လက်တွေ့ စမ်းသပ်ချက် (experiments) ဟာ

သိပ်လိုအပ်တယ်လို့ ပြောသူ ဖြစ်ပါတယ်။ သူကပဲ သိပ္ပံပြဿနာကို ရှုံးမိန့်နဲ့ ဆုံးဖြတ်လို့ မရလို့ ပြောဆိုပြီး၊ ခရစ် ကျောင်းတော်ရဲ့ ကြေငြာချက်၊ အရစ္စတိုတယ်ရဲ့ ဖော်ထုတ်ချက် ဆိုရုံနဲ့ မနိုင်ဘူးလို့ ပြောတယ်။ အခြေခိုင်တဲ့ လက်တွေ့မပါဘဲ၊ ဒါဆို ဟိုလိုလဲ ဖြစ်နိုင်တယ် ဆိုတဲ့တွေးဆချက်တွေကို ပယ်ဖျက် ခဲ့ပါတယ်။ ခေတ်လယ် (medieval) ပညာရှင် လောကမှာ၊ ဘာဖြစ် သင့်တယ်၊ ဘာကြောင့် ဖြစ်ရတယ်လို့ အကျယ်တဝင့် ဆွေးနွေးချက်ကို သိပ် အားကိုးခဲ့ကြတယ်။ ဂယ်လီလီယိုက လက်တွေ့လုပ်ပြီး၊ ဒီလိုဖြစ်ပြီလို့ ဆိုရမှ နှစ်သက်တယ်။ သူ့သိပ္ပံအမြင်က အဘိဉာဉ်(maystic) နဲ့မဆိုင်၊ ဒီအချက်မှာ သူက သူ့ကို ဆက်ခံတဲ့ နယူတန် တို့ထက်တောင် ပိုပြီး ခေတ်ဆန် နေပါသေးတယ်။ မှတ်ရမယ့် တစ်ချက်ကတော့ ဂယ်လီလီယိုဟာ သိပ်ပြီး ကိုးကွယ် ယုံကြည်မှုကို အလေးပေးတယ်။ သူ့ကိုရုံးတင်ပြီး ဒဏ်ပေးပေမယ့် ဘာသာ အယူကို မပစ်ပယ်။ ကျောင်းတော်ကို မထိမဲ့မြင်မပြု။ ဒါပေမယ့် ကျောင်းတော်ဆိုင်ရာ အာဏာပိုင် တွေက သိပ္ပံကိစ္စ စူးစမ်းရှာဖွေချက်ကို အရှိန်အဟုန် ပျက်အောင် လုပ်ရက်တယ်လို့ပဲ အထင် ရှိပါတယ်။ နောက်ဆက်ခံတဲ့ မျိုးဆက် သစ်တွေက ဂယ်လီလီယိုကို တစ်ယူသန် အစွဲအလမ်းကို ပစ်ပယ်ပြီး၊ လွတ်လပ်တဲ့ အယူအဆကို အမိန့်နဲ့ တားမြစ်တာကို တွန်းလှန်တဲ့ မှတ်တိုင်အဖြစ် ကြည်ညို လေးစား ကြတယ်။ အဲဒါတွေအားလုံး အပေါ်မှာ ကျော်လွှားပြီး၊ သူ့ကို ကျေးဇူးတင်ရမယ့်အချက်က ခေတ်သိပ္ပံနည်းကို ဖော်ထုတ်ပေးတဲ့နေရာမှာ သူက ရှေ့က ဆိုတဲ့အချက်ပဲ ဖြစ်ပါတယ်။

24, April, 2000.

# (၁၃) အရစ္စတိုတယ် (ဘီစီ ၃၈၄ - ၃၂၂)

# ARISTOTLE (384 B.C. – 322 B.C.)

အရစ္စတိုတယ် (Aristotle) ဟာ ရှေးကမ္ဘာတုန်းက အကြီးဆုံး ဒဿနဗေဒနဲ့ သိပ္ပံပညာရှင် ဖြစ်ပါတယ်။

သူက ရိုးရိုး အတွေးအခေါ်ယုတ္တိဗေဒ (formal logic) နဲ့ စပြီး ကြံစည်အားထုတ်လာတဲ့အခါ ဒဿနဗေဒ (Philosophy) ရဲ့ အမျိုးမျိုး ရှုထောင့်မှာ သူမပါပဲ၊ သူမြေတောင်မမြှောက်ဘဲ၊ မရှိနိုင်ဘူးဆိုတဲ့ အချက်ဖြစ်တယ်။ ပြီးတော့ သိပ္ပံမှာ သူစတင် တီထွင်ပေးခဲ့တဲ့ အချက်တွေ အများကြီး ရှိခဲ့ပါတယ်။ ကနေ့ အခြေအနေအရတော့ အရစ္စတိုတယ်ရဲ့ စိတ်ကူးတွေဟာ ခေတ်မမီတော့ပါ။ ဒါပေမယ့် သူ့သီအိုရီ တစ်ခုစီမှာ အခြေခံအားဖြင့် အကြောင်းအကျိုး အမြဲဆက်စပ်ပြီး ရှိနေတာကို တွေ့နိုင်တာဟာ အရေးအပါဆုံး အချက် ဖြစ်ပါတယ်။ အရစ္စတိုတယ် ရေးသမျှမှာထည့်ပြီး အပီအသ မပြောပေမယ့် လူ့ဘဝ၊ လူ့အဖွဲ့အစည်းဟာ ဘာပဲဖြစ်ဖြစ် နက်နက်နဲနဲ နှိုက်နှိုက်ချွတ်ချွတ် အလေးထားပြီး၊ စဉ်းစား ဆင်ခြင် ဝေဖန်သင့်တယ်ဆိုတဲ့ အချက်ပါပဲ။ အခုတည်ဆဲ စကြဝဠာမှာ ဘာတစ်ခုမှ မဆက်စပ်ဘဲ ဖြစ်ချင်တာဖြစ်တယ်လို့ မရှိ။ မှော်အတတ်နဲ့ တင်ပြထားတာမရှိ။ စိတ်ကူး တည့်ရာ စွတ်လုပ်တဲ့ နတ်သိကြားကြောင့် ဖြစ်ရပျက်ရတယ် ဆိုတာလည်း မရှိ။ လူတွေဟာ ဒီလိုဆိုရင် သူတို့ဝန်းကျင်က သဘာဝ ဖြစ်စဉ် ဆိုတာတွေ အားလုံးကို တစ်ခုချင်း ဘာကြောင့် ဖြစ်ပေါ်ရသလဲလို့ စနစ်တကျ စုံစမ်း သင့်တာပေါ့ဆိုတဲ့ ယုံကြည်ချက်ကို စတင်ခဲ့တယ်။ စွဲမြဲတဲ့စိတ်ထားနဲ့ ကိုယ်တွေ့ (empirical) ကို ယုတ္တိဗေဒနဲ့ ယှဉ်ဟပ်ပြီးမှ ဆုံးဖြတ်ချက်ချဖို့ မသင့်ဘူးလား။ သမာရိုးကျကိစ္စ၊ အယူသီးခြင်းနဲ့ တန်ခိုးသိဒ္ဓိ အဘိညာဉ်နဲ့ဖြစ်တာ ဆိုတာတွေ ဆန့်ကျင်ပြီး၊ အနောက်တိုင်းယဉ်ကျေးမှု ပေါ်လာ အောင် သူ့သဘောထားတွေကို အစုအပြုံလိုက် အရစ္စတိုတယ်က ချပေးခဲ့တာ ဖြစ်တယ်။

အရစ္စတိုတယ်ကို ခရစ်မပေါ်မီ ၃၈၄ က မက်ဆီဒိုနိယ (Macedonia) နယ်၊ စတာဂီရာ (Stagira) မှာ မွေးဖွားခဲ့ပါတယ်။ အဖေက ထင်ရှား ကျော်ကြားတဲ့ ဆေးဆရာ ဖြစ်ပါတယ်။ သူ တစ်ဆယ့်ခုနစ်နှစ်သားမှာ ပလေတို (Plato) ရဲ့ အကယ်ဒမီ (Academy) ဆိုတဲ့ ပညာကြီး ပညာကျယ်တွေ လေ့လာရာအရပ်မှာ သူလည်း ပါဝင်သင်ကြားလေ့လာဖို့ ရောက်ခဲ့တယ်။ အဲဒီမှာ အနှစ်နှစ်ဆယ် နေခဲ့တယ်။ ပလေတို ကွယ်လွန်ပြီး နောက် ဆက်နေခဲ့သေးတယ်။ အဖေ

ဆေးဆရာ ဆီက ဇီဝဗေဒ (Biology) ကို နှစ်သက်စွဲလမ်းပြီး သိပ္ပံပညာရဲ့လက်တွေ့ (Practical Science) ကို ဦးစား ပေးရမယ်လို့ သိရှိလာ ဟန်တူတယ်။ ပလေတို လက်အောက်မှာ ပညာရှာစဉ်က ဒဿနိက ဗေဒဆိုင်ရာ စွေးကစားခြင်း (philosophical speculation) ကို အထုံ ရခဲ့ဟန်တူတယ်။

ခရစ်မပေါ်မီ ၃၄၂ ရောက်တဲ့အခါ မက်ဆီဒိုနီယကို သူပြန်သွားပြီး၊ အသက် တစ်ဆယ့်သုံးနှစ် သာရှိသေးတဲ့၊ နောင်သမိုင်းမှာ ကျော်ကြားလှတဲ့ မဟာအလက်ဇန္ဒား (Alexander the Great) ဆိုတဲ့ ဘုရင့်သားတော်ကို တစ်ဦးတည်း ပညာသင် ပေးတဲ့ ကျူရှင်ဆရာ ဖြစ်ခဲ့ပါတယ်။ အဲဒီလို နှစ်ပေါင်းအတော်ကြာအောင် သင်ကြား ပေးခဲ့ပြီး အလက်ဇန္ဒား မင်းဖြစ်လာတဲ့အခါ အေသင် (Athens) ကို ပြန်ခဲ့ပါတယ်။ လိုင်စီယမ် (Lyceum) ဆိုတဲ့ ကိုယ်ပိုင်ကျောင်းကို ထူထောင် တယ်။ အေသင်မှာပဲ နောက်ထပ်ဆက်ပြီး တစ်ဆယ့်နှစ်နှစ် နေခဲ့တယ်။ အဲဒီနှစ်တွေမှာ အလက်ဇန္ဒားကလည်း တိုက်ပွဲတွေတိုက်၊ နယ်မြေတွေသိမ်းနဲ့ သိပ်နာမည် ကျော်ထွက် လာတဲ့အချိန်နဲ့ တစ်ပြိုင်တည်းလောက်ဖြစ်မယ် ယူဆ ရပါတယ်။ အလက်ဇန္ဒားက သူ့ဆရာဟောင်းကို အကြီးအကျယ် တောင်းတယ်လို့ မရှိပါ။ ဒါပေမဲ့ သုတေသန အတွက် သူ့ဆရာကို ရက်ရက်ရောရော ပေးကမ်းထောက်ပံ့တယ်။ သိပ္ပံဆရာ တစ်ဦးဟာ မင်းအထောက်အပံ့တွေ အများကြီးရတဲ့ သာဓကတစ်ခုလို့ ဆိုရမယ်။ အရင်ကလည်း ဒါလောက် မင်းရဲ့အပူဇော် မခံရဖူးပါ။ ပြီးတော့ နောက်လည်း ရာစုနှစ်တွေ အကြာကြီးကြာအောင် ဘယ်အစိုးရကမှ ဒါမျိုး ထောက်ပံ့တာ မတွေ့ရတော့ပါ။ ဘယ်နည်းနဲ့မဆို အလက်ဇန္ဒားလို လူမျိုးနဲ့ တွဲဖက်ရတာ အန္တရာယ်ကြီးပါတယ်။ အရစ္စတိုတယ်က အလက်ဇန္ဒားရဲ့ အာဏာရှင် အမူအကျင့်ကို ဆန့်ကျင်သူ တစ်ယောက် ဖြစ်တယ်။ အရစ္စတိုတယ်ရဲ့ တူတစ်ယောက်ကို သစ္စာဖောက်တယ်လို့ မသင်္ကာတာနဲ့ ကွပ်မျက်တဲ့ အခါ အရစ္စတိုတယ်ကို တစ်ပါတည်း ကွပ်မျက်ဖို့ စဉ်းစားပါတယ်။ နောက်တစ်မျိုး ပြောစရာကတော့ အလက်ဇန္ဒားနဲ့ သိပ်ပူးပေါင်းနေတယ် ဆိုပြန်ရင် လူအများရဲ့ ဘက်တော်သား မဖြစ်နိုင်လို့ အေသင် မြို့တော်သား (Athenians) တွေက ထင်မယ် မဟုတ်လား။ အလက်ဇန္ဒား ခရစ်မပေါ်မီ ၃၂၃ က သေဆုံးတဲ့အခါ မက်ဆီဒိုနီယ ဆန့်ကျင်ရေးသမား တွေက အေသင်မှာ တန်ခိုးဩဇာရလာတော့ အရစ္စတိုတယ်ကို လေးစားကြည်ညိုလောက်သူ မဟုတ်လို့ စွပ်စွဲလာကြတယ်။ အသက် ခုနစ်ဆယ့်ခြောက်နှစ်က ဆိုကရေးတီး (Socrates) ကြုံရတဲ့ အဖြစ်မျိုးကို အမှတ်ရပြီး အေသင်သားတွေ ဒဿနိကကို နောက်တစ်ကြိမ် စော်ကားခွင့်မရအောင် ငါပြေးမှတော်မယ်လို့ အေသင်ကို စွန့်ခွာခဲ့ပြီး ပြည်နှင်ဒဏ်ခံရသလို ထွက်ပြေးပုန်းအောင်းရင်း လများမကြာမီ ခရစ် မပေါ်မီ ၃၂၂ က အသက် ခြောက်ဆယ့်နှစ်နှစ်မှာ သေဆုံးသွားပါတယ်။

အရစ္စတိုတယ် အလုပ်လုပ်နိုင်စွမ်း ရှိပုံကိုတော့ အံ့ဩ မချီးမွမ်းဘဲ မနေနိုင်ပါ။ သူရေးတဲ့ ကျမ်းပေါင်း လေးဆယ့်ခုနစ်ကျမ်း ကျန်ရစ်တယ်။ ရှေးကျမ်းစာရင်း (ဂန္ထဝင်) မှာ သူပြုစုတဲ့ကျမ်းဟာ ၁၇၀ ထက်မလျော့ပါ။ ကျမ်း အရေအတွက် များတာကို အလေးထားပြီး ပြောနေတာမဟုတ်ပါ။ ကျမ်းတွေမှာ စစ်ဆေး

တင်ပြချက် တွေက အံ့သြစရာ ဖြစ်တယ်။ သူ့ကျမ်းတွေဟာ ရှင်းရှင်း ပြောရရင် သူ့ခေတ်သူ့အခါက သိပ္ပံပညာကို လူတွေ သိရှိကြသလောက် အကုန်ပါဝင်အောင် သူက ရေးပြသွားတဲ့ စွယ်စုံကျမ်း (encyclopedia) ဆရာဆိုရင် ဖြစ်ပါတယ်။ အရစ္စတိုတယ်ဟာ ရှေးဂရိလူမျိုးတွေသိသမျှ နက္ခတ္တဗေဒ (Astronomy)၊ သတ္တဗေဒ (zoology)၊ သန္ဓေသား ဆောင်ခြင်း (embryology)၊ ပထဝီဝင် (geography)၊ ဇီဝကမ္မဗေဒ (physiology) အပြင် အခြား အကြောင်းအရာတွေကိုပါ ထည့်သွင်း ရေးသားခဲ့တယ်။

သူရေးတဲ့သိပ္ပံမှာ သူများတွေရဲ့ တွေ့ရှိချက် တွေကိုလည်း ပေါင်းစပ်ထည့်သွင်းရေးသားတယ်။ သူ့အတွက် အချက်အလက်ရှာပေးဖို့ ပညာရှင် လက်ထောက်တွေ ငှားထားလို့ သူတို့ ရှာဖွေ တွေ့ရှိချက်ကို ယူသုံးထားတယ်။ သူကိုယ်တိုင် အမြောက်အမြား တွေ့ရှိချက်တွေကိုလည်း ရေးခဲ့ပါတယ်။

သိပ္ပံပညာဆိုင်ရာနယ်ပယ်မှာ ရှေ့တန်းက နေရာ ယူပါဝင်နိုင်တာကိုပဲ မကြုံစဖူး ထူးတယ်လို့ ပြောရမယ်။ သူလိုလူ နောက်ပေါ်ဖို့လည်း သိပ်ခက်ပါတယ်။ အရစ္စတိုတယ်က ဒါမျှမက စွမ်းပါသေးတယ်။

သူ့ရဲ့မူလ အစွမ်းက ဒဿနိက ဗေဒ ဖြစ်လေတော့ ဘာမဆို ဈေးကစား သလို ဒဿနိကကို တင်ပြချက် (Speculative philosophy) ရဲ့ နေရာ ပေါင်းများစွာမှာ သူပါဝင်ခဲ့တယ်။ သူ့ ရေးသားချက်ကို လေးလေးစားစား နာယူမှတ်သား ကြရတယ်။ သူက လူ့ကျင့်ထုံး (Ethics)၊ တက္ကိကဗေဒ (Metaphysics)၊ စိတ်ပညာ (Psychology)၊ ဘောဂဗေဒ (Economics)၊ ထာဝရဘုရား လေ့လာခြင်း (Theology)၊ နိုင်ငံရေး (Politics)၊ နှုတ်စွမ်းရည် (Rhetoric) နဲ့ ရသပညာ (Aesthetics) အကြောင်းတွေကိုလည်း ရေးတယ်။ ပညာရေး (Education)၊ ကဗျာ (Poetry)၊ အရိုင်းဓလေ့ (Barbarian customs) နဲ့ အေသင်တွေရဲ့ ဖွဲ့စည်းအုပ်ချုပ်ပုံ (Athenian Constitution) ကိုလည်း ရေးတယ်။ သူ့ရဲ့ သုတေသန စီမံကိန်းတွေထဲမှာ နိုင်ငံပေါင်း များစွာက ဖွဲ့စည်းအုပ်ချုပ်ပုံတွေကို နှိုင်းယှဉ် လေ့လာချက် (Comparative Study) ပါဝင်တယ်။ သူရေးသမျှထဲမှာ အဖိုးအတန်ဆုံးက တက္ကဗေဒ သီအိုရီ (the theory of logic) ဖြစ်တယ်။ ဒဿနိကပညာမှာ ဒီလိုအရေးပါလှတဲ့ တက္ကဗေဒ (logic) ဟာ အရစ္စတိုတယ်ရဲ့ အထင်ရှားဆုံး ဆောင်ရွက်ချက်လို့ ပြောသင့်ပါတယ်။ သူကိုယ်တိုင်က တက္ကဗေဒကိုပဲ အမြဲစွဲမြဲ စိတ်ဝင် စားနေတယ်။ ဘာသာရပ်မျိုးစုံကို တက္ကဗေဒနဲ့ တိုင်းထွာ ဆင်ခြင်နိုင်တဲ့ အတွက်လည်း ဘာသာရပ် အစုံစုံကို အရစ္စတိုတယ် ပါဝင် စဥ်းစား ပေးနိုင်တာ ဖြစ်ပါတယ်။ သူ့မှာ အားကောင်းတဲ့ အစွမ်းက အတွေးကို တပေါင်းတစည်းတည်း အရာရောက်အောင် ဖွဲ့စည်းပေးတတ်တာ ဖြစ်ပါတယ်။ ပြီးတော့ အကြောင်းအရာတစ်ခုကို အမျိုးအမည်ထုတ်ခြင်း (definition)၊ သဘောတရား အလိုက်ခွဲခြင်း (category) ကို လုပ်ပေးတဲ့ အတွက် ပညာရပ်များများရဲ့ အကြောင်းအရာတွေကို ဆက်လက် စဥ်းစား နိုင်အောင် အခြေခံ

ချပေးနိုင်ခဲ့ပါတယ်။ သူက ဒါကြောင့် ဘယ်တော့မှ ဒါဟာ ဗျာန်တန်ခိုး ကြောင့် ဒါဟာ ဒါကလွဲလို့ တခြား မဖြစ်နိုင်ဆိုတဲ့ တစ်ယူသန် ဖြစ်မလာပါ။ အရစ္စတိုတယ်ဟာ အမြဲပဲ ကိုယ်ပိုင် အတွေးအခေါ်နဲ့ လက်တွေ့ စမ်းသပ်ပြီးမှ ပြောတဲ့လူဖြစ်လို့ ပင်ကိုယ်ဉာဏ် သုံးတဲ့လူတွေရဲ့ ခေါင်းဆောင် ဖြစ်ခဲ့ပါတယ်။ သူမှားတာလည်း ရှိတယ်။ ဒါပေမယ့် အခုလောက်များပြားတဲ့ ပညာရပ် တွေကို ပေါင်းစပ်ပြီးရေးခဲ့တဲ့ အတွေးစွယ်စုံကျမ်း (encyclopedia of thought) မှာ အရစ္စတိုတယ် ရက်ရက်စက်စက် မြင်မကောင်းရှုမကောင်းအောင် မှားတယ် (foolish error)လို့ ပြစရာ သိပ်နည်း ပါတယ်။ အရစ္စတိုတယ်ရဲ့ကျေးဇူးကတော့ အနောက်တိုင်း အတွေးအခေါ် ယုံကြည်မှုအပေါ်မှာ ကြီးမား လှပါတယ်။ ရှေးခေတ်နဲ့ အလယ်ခေတ်မှာတောင် သူရေးခဲ့တဲ့ ကျမ်းတွေကို လက်တင်၊ ဆီးရီးယား၊ အာရပ်၊ အီတလီ၊ ပြင်သစ်၊ ဟီးဗရူး၊ ဂျာမန်နဲ့ အင်္ဂလိပ် ဘာသာ ပြန်ကြပါတယ်။ နောက်ပိုင်း ဂရိ ကျမ်းပြု ပုဂ္ဂိုလ်တွေက သူ့ကျမ်းတွေကို လေ့လာကြတယ်၊ အံ့ဩ နှစ်သက်ကြတယ်။ ဘိုင်ဇန်တိုင်း (Byzantine) ဒဿနဆရာတွေကလည်း အလားတူ နှစ်သက် အံ့ဩကြတယ်။ သူ့ကျမ်းတွေက အစ္စလာမ်ဒဿန ကိုလည်း အများကြီး အထောက်အကူပြုတယ်။ ရာစုနှစ်တွေ အများကြီး အတွင်း ဥရောပ အတွေးအခေါ်မှာ သူ့ အရေးအသားတွေရဲ့ ဩဇာ ကြီးမားကြောင်း တွေ့ရှိနိုင် ပါတယ်။ အာရပ် ဒဿနဆရာတွေထဲမှာ ဩဇာ အကြီးဆုံးလို့ ယူဆရတဲ့ အဗာရို (Averroes)က အစ္စလာမ် ထာဝရဘုရားဝါဒနဲ့ အရစ္စတိုတယ်ရဲ့ ကျိုးကြောင်းဆက်စပ်မှုကို ညှိနှိုင်း ပေါင်းစပ်တဲ့ကျမ်း (Synthesis) တစ်စောင် ရေးဖို့ ကြိုးစားခဲ့ဖူးသေးတယ်။ အလယ်ခေတ် ဂျူး အတွေးအခေါ် ပညာရှင် တွေထဲမှာ အလယ်ခေတ်က ဩဇာအကြီးဆုံး မယ်မွန်နစ် (Maimonides) က အလားတူ စုပေါင်းကျမ်း (Synthesis) ကို ဂျူးဝါဒ (Judaism) အတွက် ရေးသားခဲ့ပါတယ်။ ဒါပေမယ့် အကျော်ကြားဆုံး အလားတူကျမ်းက ခရစ်ယာန် ပညာရှင် စိန့်သောမတ်အကွီနပ်စ် (St. Thomas Aquinas) ရေးတဲ့ စုမ္မသီအိုလောဂျီက (Summa Theologica) ဖြစ်ပါတယ်။ အလယ်ခေတ် ကျမ်းတတ်ပုဂ္ဂိုလ်တွေ အရစ္စတိုတယ်ကို အားပြုကိုးကားကြပုံကို စာရင်းတင် ရမယ် ဆိုရင် စာရင်းဇယား အများကြီး ရှည်မယ်။ အရစ္စတိုတယ်ကို အံ့ဩချီးမွမ်းကြတာ နောက်ပိုင်း၊ အလယ်ခေတ်က များပြားလွန်းလို့ ဘုရားတစ်ဆူကို ဝိုင်းရှိခိုးကြတဲ့ပုံစံ (Idolatry) တောင် ဝင်လာတယ်။ ပညာရှိ အသိုင်းအဝိုင်းမှာ ဘာမဆို သူ့စကားနဲ့ညှိကြည့် (strait jacket) ပါလားလို့ ပြောလေ့ရှိကြတယ်။ သူ့စကားကို မီးရှူးတန်ဆောင်လို့ မသုံး၊ ဆက်လက်ရှာဖွေဖို့ လှုံ့ဆော်တဲ့အနေနဲ့ သုံးလာကြတယ်။ အရစ္စတိုတယ်က သူကိုယ်တိုင် စောင့်ကြည့်ပြီး အဖြေရှာဆိုတဲ့ စံကိုထားတဲ့ ပုဂ္ဂိုလ်ဆိုတော့ နောင်လာ နောက်သားတွေက သူ့စကားကို မျက်ကန်းသဘော တထစ်ချ မှတ်သား လိုက်နာကြတာကို သိရင် သူ ဘယ်နည်းနဲ့မှ ကျေနပ် ထောက်ခံမှာ မဟုတ်ပါ။ အရစ္စတိုတယ်ရဲ့ တချို့အယူအဆတွေဟာ အခုအမြင်နဲ့ အရမ်းဖောက်ပြန် (reactionary) တယ်လို့ ဆိုနိုင်တာတွေရှိပါတယ်။ ဥပမာ၊ သူက ကျွန်စနစ်ကို သဘာဝကျတယ်လို့ ထောက်ခံ တယ်။ အမျိုးသမီးဆိုရင် ပင်ကိုသဘောအားဖြင့် အဆင့်နိမ့် တယ်လို့ ဆိုတယ်။ (ဒီယူဆချက်တွေဟာ သူ့ခေတ်က ဒီအတိုင်းပဲ လက်ခံ ထားပြီးဖြစ်တယ်။ သူကစပြီး ဒီလို ပြောဟောတာတော့ မဟုတ်ပါ။)

တစ်ဖက်မှာတော့ အရစ္စတိုတယ်ရဲ့ အယူဝါဒ တွေဟာ ထင်ထင်ရှားရှား ခေတ်ဆန်နေတာ တွေ့မယ်။ ဥပမာ၊ **'ဆင်းရဲလာပြီ ဆိုရင် တော်လှန်မယ်၊ ရာဇဝတ်မှုကျူးလွန်မယ်၊ ပြီးတော့ လူတွေကို ဘယ်လိုအုပ်ချုပ်သင့်သလဲလို့ တွေးလေ တွေးလေ လူငယ်တွေရဲ့ပညာရေးဟာ တကယ် အရေးကြီး ပါလားလို့ သဘောပေါက်မယ်'** လို့ပြောခဲ့တယ်။ (အရစ္စတိုတယ်ခေတ်က လူငယ် စာသင်ကျောင်းရယ်လို့ မရှိသေးပါ။) အခုရာစုနှစ်ပိုင်းတွေကို ဝင်လာတော့ အရစ္စတိုတယ်ရဲ့ ဩဇာဟာ သိသိသာသာကြီး ကျဆင်း လာတာကို တွေ့ရပါတယ်။ ဒါပေမယ့် သူ့ဩဇာဟာ ကြီးမားပြီး တာရှည်ခံတဲ့ အတွက် သူ့နာမည်ကို အခုစာအုပ်မှာ အခုထက်တိုးပြီး ထိပ်တန်းကိုပို့ချင်ပေမယ့် မပို့နိုင်လို့ စိတ် မကောင်းပါ။ ဒီလိုတန်းစီလိုက်တော့ သူ့ရှေ့က ပုဂ္ဂိုလ်ကျော်ကြီးတွေ တစ်ဆယ့်နှစ်ဦးတောင် ရှိနေတာကြောင့် သူက နံပါတ် (၁၃) ဖြစ်ရပါတယ်။

2, May, 2000.

# (၁၄) ယူကလစ် (ခရစ်မပေါ်မီ အနှစ် ၃၀၀ လောက်က ထွန်းကားသူ)

## EUCLID(fl.c. 300 B.C.)

အခု ကျော်စွာတစ်ရာ စာရင်းမှာ ဂရိဂျီသြမေတြီ ဆရာကြီး ယူကလစ် (Euclid) လို ဂုဏ်သတင်းကြီးမြင့် တာရှည်တဲ့ပုဂ္ဂိုလ်မျိုး နည်းနည်း ပဲရှိပါတယ်။ တစ်ဘဝ တစ်ခါဆိုသလို နပိုလီယန် (Napoleon)၊ မဟာအလက်ဇန္ဒား (Alexander the Great) နဲ့ မာတင်လူသာ (Martin Luther) တို့ဟာ ယူကလစ်ထက် နာမည် ကျော်ကြားတာ မှန်ပါတယ်။ ဒါပေမယ့် ကာလ ကြာမြင့်လေ အဲဒီပုဂ္ဂိုလ်တွေကို မေ့ပြီး ယူကလစ် ကိုတော့ လူသိများလျက် ရှိနေဦးမှာပါ။အဲဒီလောက် ထင်ရှားပေမယ့် သူ့ဘဝ အသေးစိတ် အဖြစ်အပျက်တွေကို မသိသလောက် တိမ်မြုပ် လှပါတယ်။ ခရစ်မပေါ်မီနှစ် ၃၀၀ လောက်က သူဟာ အီဂျစ်(Egypt) နိုင်ငံ၊ အဲလက်ဇန္ဒြီယ (Alexandria) မှာ ဆရာတစ်ဆူအဖြစ်နဲ့ တက်တက်ကြွကြွ ရှိခဲ့ဖူးတယ်။ ဒါပေမယ့် မွေးနှစ်၊ သေနှစ်ကို မသိ၊ ဘယ်နိုင်ငံသား လို့လည်း မသိ၊ ဘယ်မြို့ရွာ ဇာတိလို့လည်း မပြောနိုင်။ သူက ကျမ်းစာအုပ်တွေ အများကြီး ရေးဖြစ်မှာ ဖြစ်ပါတယ်။ ဒါပေမယ့် သမိုင်းမှာ သူ့နာမည် တွင်ရစ်စေမယ့် ကျမ်းကတော့ (The Elements) ဆိုတဲ့ ကျမ်းကြီး ဖြစ်ပါတယ်။ ဒီဒြပ်စင် (The Elements) ကျမ်းမှာ ရှင်းလင်း တင်ပြခဲ့တဲ့ သီအိုရမ် တစ်ခုစီကြည့်ရုံနဲ့ ဒီကျမ်းရဲ့ ကြီးကျယ်ပုံကို ထင်ရှား သိသာမယ် မဟုတ်ပါ။ တချို့သီအိုရမ်ကို ယူကလစ် မပေါ်မီကပဲ လူသိရှင်သိ ရှိပြီးဖြစ်တယ်။ သက်သေပြချက် တွေလည်း ဒီလိုပဲ သိကြပြီး ဖြစ်ပါတယ်။ သူ့ကို ချီးမွမ်းရမှာက သီအိုရမ်တွေကိုစုပြီး၊ အားလုံး ပြေပြစ် ညီညွတ်အောင် ရှေ့နောက် ဆက်ပေးတာဟာ သူ့ကို အများဆုံး ချီးမွမ်းရမယ့် ကျေးဇူး ဖြစ်ပါတယ်။ အဲဒီအခါ ပထမဆုံး ပြောစရာက သိဒ္ဓန္တ (Axiom) နဲ့ အနေအထား (postulates) တွေကို နေသားတကျ စီစဉ်ပေးခြင်း ဖြစ်ပါတယ်။ (အဲဒါလုပ်တတ်ဖို့ ဘယ်လွယ်မလဲ၊ ထိုးထွင်းဉာဏ် (insight) လည်း ရှိရမယ်။) အလွန် ထက်မြက်တဲ့ ဆုံးဖြတ်ချက်လည်း လုပ်နိုင်ရမယ်။ သူက အစဉ်အဆက် ပေါ်ခဲ့ပြီးဖြစ်တဲ့ သီအိုရမ်တွေကို ယုတ္တိဗေဒ (Logic) အရ အသေအချာ စစ်ဆေးပြီး တန်းစီပေးတယ်။ လိုအပ်ရင် ကြားထဲက ကွက်လပ် (missing steps) ကိုဖြည့်တယ်။ သက်သေပြချက် မရှိဘဲ ဖြစ်နေရင်လည်း လိုသမျှ (missing proofs) ကို ဖြည့်တယ်။ ဒီဒြပ်စင် (The Elements) ကျမ်းမှာ ပြင်ညီနဲ့ထု ဂျီသြမေတြီ (Plane and Solid geometry) ကို ပိုပြီး အသုံးဝင်အောင် လုပ်ပေးတဲ့ အပြင် အက္ခရာသင်္ချာ(Algebra) နဲ့ ဂဏန်း သီအိုရီ

(Number Theory) လည်း အများကြီး ထည့်သွင်း ရေးသား ပါတယ်။ ဒီဒြပ်စင်ကျမ်းကို ပြဋ္ဌာန်းစာအုပ် (Text book) အဖြစ်နဲ့ အနှစ်နှစ်ထောင်ကျော် သုံးခဲ့ကြတယ်။ ရေးဖူးသမျှ ပြဋ္ဌာန်းစာအုပ်တွေထဲမှာ အောင်မြင် အကျော်ကြားဆုံး ဖြစ်တာ သေချာတယ်။ ယူကလစ်က ဒီကျမ်းကို ဘယ်လောက်ထိ ကောင်းအောင် ရေးသလဲဆိုရင် ရှေးရှေးက ရှိနှင့်ပြီး ဂျီသြမေတြီ ပြဋ္ဌာန်းစာအုပ် အားလုံးကို ဘယ်သူမှ ဆက်မသုံးဘဲ၊ မေ့ပျောက်သွားအောင် ရေးခဲ့ပါတယ်။ မူလက ဂရိ (Greek) ဘာသာနဲ့ ရေးတယ်။ နောက်စကားမျိုးစုံနဲ့ ဘာသာပြန် ကြတယ်။ ပထမဆုံး ပုံနှိပ်စာအုပ်အဖြစ်နဲ့ ၁၄၈၂ ခုမှာ ပေါ်လာတယ်။ ဂုတင်ဘတ်(Gutenberg) ပုံနှိပ်စက်တီထွင်ပြီး အနှစ်သုံးဆယ် အကြာမှာ ဒီစာအုပ်ကို ပုံနှိပ် ဖြစ်တယ်။ အဲဒီကစပြီး အကြိမ် ထောင်ပေါင်းများစွာ ပုံနှိပ် ဖြန့်ဝေ ခဲ့ရပါတယ်။ လူတွေကို ယုတ္တိဗေဒနည်းနဲ့ တွေးစေတဲ့ သဘာဝကို လေ့ကျင့်ပေးတဲ့နေရာမှာ၊ ဒီကျမ်းဟာ အရစ္စတိုတယ် ရေးတဲ့ တက္ကဗေဒကျမ်းတွေ (treatises in Logic) ထက် အများကြီးပိုပြီး ထိရောက်ပါတယ်။ ထုတ်ယူဆင်ခြင်မှု တည်ဆောက်ပုံ (deductive structure) ကို ပြည့်ပြည့်စုံစုံဖော်ပြတဲ့ နေရာမှာ ဒီကျမ်းကို အလားတူ ဘယ်ကျမ်းမှမမီ၊ အဲဒီကျမ်း ပေါ်လာပြီးတဲ့နောက် အတွေးပညာရှင်တွေဟာ ဒီကျမ်းကိုပဲ စွဲလမ်းနေကြပါတယ်။ ခေတ်သိပ္ပံပေါ်လာဖို့ ကြီးမားဆုံး အခြင်းအရာဟာ ယူကလစ်ရဲ့ကျမ်း ဖြစ်တယ်လို့ပြောရင် ဒီလိုပြောတာ မှန်လိုက်လေလို့ ပြောဖို့ပဲရှိတယ်။ သိပ္ပံ ဆိုတာ တိကျ မှန်ကန်အောင် စောင့်ကြည့်ပြီး၊ အင်မတန်လျော်ကန်တဲ့ ကောက်ချက်ချ နိုင်တာထက် ပိုပါတယ်။ အခုခေတ်သိပ္ပံရဲ့ အထက်မြက်ဆုံး အစွမ်းဟာ တကယ့်ဖြစ်ပျက်ပုံနဲ့ လက်တွေ့စမ်းသပ်ချက် (experimentation) ကိုပေါင်းပြီး စေ့စေ့စပ်စပ် စိတ်ဖြာကြည့်ရတယ်။ ထုတ်ယူ ဆင်ခြင်နိုင်တဲ့အတွေး (deductive reasoning) ပါရမယ်။ဥရောပမှာသာ သိပ္ပံထွန်းကားတယ်။ တရုတ်၊ ဂျပန်မှာ ဘာဖြစ်လို့ မထွန်းကားသလဲမေးရင် ကျေနပ်အောင် မဖြေတတ်ပါ။ အလိုအလျောက် ဖြစ်ချင်လို့ ဖြစ်တာလို့တော့ မပြောသင့်ပါ။ လျှမ်းလျှမ်းတောက် ထင်ရှားကျော်ကြားတဲ့ နယူတန်၊ ဂယ်လီလီယို၊ ကော်ပါးနိကပ်စ်နဲ့ ကက်ပလာတို့ အစွမ်းတွေဟာ ကြီးမားတဲ့ အကြောင်းတရားတွေလို့ ထည့်တွက်ရမယ်။ ဒီလိုပုဂ္ဂိုလ်တွေ ဘာဖြစ်လို့ အရှေ့တိုင်း(Orient) မှာ မပေါ်ဘဲ၊ ဥရောပ (Europe) မှာသာ ပေါ်လာတာလဲဆိုတဲ့ အခြေခံ သဘောတရား ရှိရမယ်လို့ ထင်ပါတယ်။ သမိုင်းအရ ထင်ရှားတဲ့ အချက်ကတော့ အနောက် ဥရောပကို သိပ္ပံဘက် တိမ်းညွတ်လာအောင် မြှူဆွယ်တဲ့ အချက်တွေက ဂရိဆင်ခြင်ခြင်း အဓိကဝါဒ (Greek rationalism) နဲ့ ဂရိအမွေ ဂဏန်း သင်္ချာဗဟုသုတ ဖြစ်တယ်လို့ ထင်ပါတယ်။

ဥရောပတိုက်သားတွေက ဘယ်ပြဿနာမဆို အဖြေ သိချင်ရင် အခြေခံ ရူပဗေဒနည်းတချို့ကို မှီးပြီး ဖော်ထုတ်လို့ရမယ်။ အဲဒီလိုလုပ်နိုင်မှ သဘာဝ ကျမယ်။ လုပ်ပုံကိုတော့ ယူကလစ်ကို ဆရာတင်ကြမှာ ဖြစ်တယ်လို့ပဲ သူတို့ နားလည် နေကြပါတယ်။ ယေဘုယျအားဖြင့် ဥရောပ တိုက်သားတွေက ယူကလစ်ရဲ့ ဂျီသြမေတြီကို ဒြပ်မဲ့စိတ္တဇ အခြင်းအရာ တစ်မျိုးလို့ မယူဆပါ။

ယူကလစ်က ဇာစ်မြစ်ကို ဖော်ထုတ်ပြီးသား၊ သူ့သီအိုရမ်တွေက တကယ့်ကမ္ဘာကြီးရဲ့ အခြေအနေ မှန်ကို ထုတ်ဖော်ပြီးသားလို့ ယူဆကြတယ်။

အပေါ်မှာ ဖော်ပြခဲ့တဲ့ လူကျော်တွေဟာ ယူကလစ် အစဉ်အလာ ထဲမှာ ဆီစိမ်ပြီးသား၊ ဆီဝပြီးသား ဖြစ်နေကြလို့ တစ်ဦးချင်းလည်း ဒြပ်စင်ကျမ်းကို ကြေကြေ ညက်ညက် လေ့လာပြီးသား၊ သူတို့ရဲ့ သင်္ချာဆိုင်ရာ ဗဟုသုတဟာ အဲဒီကျမ်းထွက် ဖြစ်ပါတယ်။ အိုက်ဆက် နယူတန်ဆိုရင် ယူကလစ် တပည့်လို့ ပြောနိုင်စရာ ထင်ရှားတဲ့ သာဓကကို ပြစရာက နယူတန်ရဲ့ ကြောင်းရင်းမူလ (The Principia) ကျမ်းကြီးကို ဒြပ်စင်(The Elements) အတိုင်း ဂျီဩမေတြီ ပုံဖော် ထားပါတယ်။ အဲဒီလောက်ကစပြီး အနောက် ဥရောပ သိပ္ပံဆရာတွေက ယူကလစ်ကို အားကျ အတုခိုးပြီး သူတို့ရှာဖွေသိရှိတာတွေဟာ အစပျိုးယူဆချက်က ဆင့်ပြီး ယုတ္တိဗေဒနည်းနဲ့ ကောက်ယူ မှတ်သားတာ ဖြစ်တယ်လို့ တင်ပြကြတယ်။ ဒီလိုပုဂ္ဂိုလ်တွေထဲမှာ ဘာထရန်ရပ်ဆဲ (Bertrand Russell)၊ အယ်လ်ဖရက်နော့ဝိုက်ဟက် (Alfred North White Head) နဲ့ ဒဿနိကဆရာ စပင်နိုဇာ (Spinoza) တို့လည်း ပါတယ်။

တရုတ်နဲ့ ကွာခြားပုံကတော့ အင်မတန် သိသာပါတယ်။ ရှေးရာစုနှစ်ပေါင်းများစွာက တရုတ်က ဥရောပထက် နည်းပညာအရာမှာ အများကြီး သာခဲ့ဖူး ပါတယ်။ ဒါပေမယ့် ယူကလစ်လို စင်ပြိုင် တရုတ် သင်္ချာသမား ဘယ်တုန်းကမှ မပေါ်ခဲ့ဖူးပါ။ ပြီးတော့ တရုတ်တွေမှာ အနောက်မှာလို စာတွေ့သင်္ချာ အဆင့်ဆင့် လေ့လာချက် (theoretical structure of mathematics) တွေ ဆက်ပြီး မပေါ်ထွန်းပါ။ (လက်တွေ့ဂျီဩမေတြီကို တရုတ်တွေ ကောင်းကောင်း သိပါတယ်။ အဲဒါကို စုစည်းပြီး ထုတ်ယူပြင်ဆင်မှု စီမံကိန်း (deductive scheme) တစ်ခုဖြစ်အောင် မလုပ်ပါ။) ယူကလစ်ကျမ်းကို ခရစ်နှစ် ၁၆၀၀ လောက်ရောက်မှ တရုတ် ဘာသာပြန်တယ်။ နောက် ရာစုနှစ် အတော်ကြာတော့မှ တရုတ်ပညာတတ်တွေ ဂျီဩမေတြီရဲ့ ထုတ်ယူ ပြင်ဆင်မှု စီမံကိန်း(deductive scheme of geometry) ကို အတော်များများ သိလာကြပါတယ်။ အဲဒီအခါကျတော့မှ တရုတ်တွေ သိပ္ပံကို အရင်ထက်ပိုပြီး စိတ်ဝင်စားလာကြပါတယ်။

ဂျပန်နဲ့ ပတ်သက်လာရင်လည်း အထက်က ပြောသလိုပဲ ပြောရမှာပါ။ ယူကလစ်ကို ဂျပန်က တစ်ဆယ့်ရှစ်ရာစုနှစ် ရောက်မှ သိတယ်။ သိသာ သိတယ်။ ထူးခြား ကောင်းမွန်တယ်လို့ ချက်ချင်း နားမလည်သေးပါ။ ကနေ့ ဂျပန်မှာ တတ်သိ နားလည်တဲ့ သိပ္ပံပညာရှင်တွေ ရှိနေပါပြီ။ အဲဒီလိုလူမျိုး ယူကလစ် အကြောင်း မသိခင်က မရှိပါ။ ဥရောပမှာလည်း ယူကလစ်ကသာ လမ်းထွင်ပေး မသွားရင် အခုခေတ် သိပ္ပံလို တိုးတက် လာချင်မှ လာမယ်လို့တောင် ဆက်ပြီး စဉ်းစားစရာ ဖြစ်ပါတယ်။

ကနေ့သင်္ချာသမားတွေဟာ ယူကလစ် တစ်ဦးတည်းရဲ့ ဂျီဩမေတြီ တစ်ခုတည်းကို မယိမ်းမယိုင် တွေးတောကြံဆ ဖော်ထုတ်ထားတာ မဟုတ်။ နှစ် ၁၅၀ အတွင်း ယူကလစ်နဲ့မပတ်သက် (non-Euclidean) တဲ့ ဂျီဩမေတြီ

အများကြီး ရှိတယ် လို့လည်း သိကြပါတယ်။ အိုင်စတိုင်းရဲ့ ညှို့နှိုင်းလှေ့လာချက်သီအိုရီ (theory of relativity) ကို လက်ခံလိုက်ကြတဲ့အခါ ယူကလစ် ဂျီသြမေတြီဟာ စကြဝဠာ အားလုံး ပြဿနာတွေကို ရှင်းနိုင်တဲ့ နည်းလမ်း မဟုတ်ဘူးဆိုတာလည်း သိလာကြပါတယ်။ ဥပမာ တွင်းမည်းဝန်းကျင် (vicinity of black holes) နဲ့ နျူထရွန်ကြယ်တွေမှာ ဒြပ်ဆွဲ အားစက်ကွင်း Gravitational field) ဟာ အင်မတန် အားကောင်းတဲ့အတွက် ယူကလစ် ဂျီသြမေတြီနဲ့ ကမ္ဘာ့မြင်ကွင်းကို တိကျ မှန်ကန် အောင် မရှင်းနိုင်တာကို သိကြပါတယ်။ အဒါတွေက အထူးကိစ္စပါ။ များသောအားဖြင့် ယူကလစ်ရဲ့ ဂျီသြမေတြီဟာ အစစ်အမှန် ဖြစ်ရပ်တွေနဲ့ အလွန့်အလွန် နီးကပ်တဲ့အဖြေကို ပေးနိုင်စွမ်း ရှိပါတယ်။

လူ့အသိဉာဏ်ကျက်စားရာမှာ အခု သိပ်ရှေ့တန်း ရောက်လာတဲ့ တိုင်အောင် ယူကလစ်ရဲ့ ဉာဏ်စွမ်းအားဟာ ထိပါးလောက်အောင် နိမ့်ကျ မသွားပါ။ သင်္ချာရဲ့ တိုးတက်ခြင်း သမိုင်းကိုလည်း မထိခိုက်ပါ။ ခေတ်သိပ္ပံပေါ် ထွန်းဖို့ လိုအပ်တဲ့ ယုတ္တိဗေဒ ဘောင် (Logical Framework) ကို ပုံစံ ချပေးခဲ့တာကိုလည်း တိမ်မြုပ်အောင် မလုပ်နိုင်ပါ။

# (၁၅) မိုးဇက် (ခရစ်မပေါ်မီ ၁၃ ရာစုနှစ်က ပေါ်ထွန်းသူ)

## MOSESS (fl. 13th c. B.C.)

သမိုင်းမှာ ဟီးဗရူး (Hebrew) ပရောဖက် (propfet) မိုးဇက် (Mosses) လောက် လူ အကြည်ညို များတဲ့သူ မရှိလို့ ထင်ပါတယ်။ သူ့ကို ကျော်ကြားသတင်းနဲ့ သူ့ကို လေးစားတဲ့ သူတွေဟာ ခေတ်အဆက်ဆက်မှာ ပိုပိုပြီး များပြား လာပါတယ်။ မိုးဇက်ပေါ်တဲ့အချိန်ဟာ ခရစ်မပေါ်မီ တစ်ဆယ့်သုံး ရာစုနှစ်ဖြစ်ဖို့ များပါတယ်။ သူပြုလုပ်ခဲ့တဲ့ ‘ထွက်မြောက်ရာ အရေးအခင်း’ (Exodus) ပေါ်ပေါက်လာခဲ့တာ ဒုတိယရမ်စေ့ (Ranses II) လက်ထက်ဖြစ်တယ်။ အဲဒီဘုရင်ဟာ ခရစ်မပေါ်မီ ၁၂၃၇ က နတ်ရွာစံသွားပါတယ်။ ထွက်မြောက်ရာကျမ်း(The Book of Exodus) မှာ အထင်အရှား ဖော်ပြထားတာက မိုးဇက် အသက် ထင်ရှား ရှိစဉ်က သူ့ဝါဒတွေကို မနှစ်သက်တဲ့ ဟီဗရူး အများကြီး ရှိတယ်။ ဒါပေမယ့် နှစ်ငါးရာ ကြာတဲ့အခါ ဂျူးအားလုံးက သူ့ကို ကိုးကွယ် ကြတယ်။ ခရစ်နှစ် ၅၀၀ မှာ သူ့ရဲ့ကျော်စော သတင်း ဂုဏ်သတင်းဟာ ခရစ် အယူဝါဒနဲ့ အတူ ပူးတွဲပြီး ဥရောပ တစ်တိုက်လုံး နီးပါးလောက်မှာ ပျံ့နှံ့ခဲ့ပါတယ်။ နောက် နှစ်တစ်ရာ ရှိပြန်တော့ မိုဟာမက် (Muhammad) က မိုးဇက်ဟာ ပရောဖက် အဆိုကို အသိအမှတ် ပြုပြန်တယ်။ အစ္စလာမ် (Islam) ပျံ့နှံ့တာနဲ့အတူ မိုးဇက် ဟာလည်း အီဂျစ် (Egypt) အပါအဝင် မူစလင် (Muslim) ကမ္ဘာမှာ ကြည်ညို လေးစားတဲ့ ပုဂ္ဂိုလ် ဖြစ်လာပါတယ်။ ကနေ့ မိုးဇက် ကွယ်လွန် ပြီးနောက် နှစ် သုံးထောင့်နှစ်ရာ နီးပါးရှိတဲ့ အခါမှတောင် ဂျူး၊ ခရစ်ဝါဒီ (Christians) နဲ့ မူစလင် (Muslim) တွေ ညီတူညီမျှ ဂုဏ်ပြုကြတယ်။ ထာဝရဘုရား တကယ်ရှိတယ်လို့ ဘယ်သိမှာလဲ ဆိုတဲ့လူ (Agnustics) တွေတောင် သူ့ကို လေးစား ကြတယ်။ အခုခေတ် ဆက်သွယ်မှုတွေ လွယ်ကူတော့ အရင်က သူ့အကြောင်းကြားဖူး သိဖူးသူ လူဦးရေထက် အခုသိတဲ့လူက ပိုပြီး များလှပါသေးတယ်။ အဒီလို ကျော်ကြား ပေမယ့်လည်း သူ့အကြောင်း များများစားစား မသိနိုင်ပါ။ အချို့က ပညာရှင်တွေ လက်မခံ ပေမယ့် အမှန်းအဆနဲ့ နာမည် မိုးဇက်ကို စွဲပြီး ဒီနာမည်ဟာ ဟီးဗရူး နာမည် မဟုတ်၊ အီဂျစ် နာမည် ဖြစ်ဖို့များတယ်။ ဒါကြောင့် သူဟာ အီဂျစ် နိုင်ငံသား ဖြစ်မယ်တဲ့။ အဓိပ္ပာယ်ကတော့ ‘ကလေး’ ၊ ‘လူကလေး’ ဖြစ်တယ်။ နာမည်ကြီး ဖေရိုး (pharaoh) မင်းတွေရဲ့ဘွဲ့ နာမည်မှာ ထည့်ပြီး ရေးလေ့ရှိတယ်။ မူဟောင်း (The Old Testament) မှာ မိုးဇက် အကြောင်း ပါသမျှကို မစစ်ဆေးဘဲ အကြွင်းမဲ့ လက်မခံရဘူးလို့ ပြောတတ် ကြတယ်။

ဘာပြုလို့လဲ ဆိုတော့ သူနဲ့ ပတ်သက်ပြီး မဖြစ်ဖူး ထူးကဲတဲ့ အံ့ဖွယ်သရဲ အဖြစ်အပျက် (Miracles) တွေ များလွန်းလို့တဲ့။ ချိုက ထပြီး မီးလောင်တာ၊ တောင်ဝှေးကမြွေ ဖြစ်တာတွေဟာ အခြေခံ သဘာဝကို လွန်ကဲသွားတယ်။ ပြီးတော့ အသက်ရှစ်နှစ် ရှိပြီဖြစ်တဲ့ မိုးဇက်ဟာ ဟီးဗရူးတွေ ကို သဲကန္တာရထဲမှာ အနှစ်လေးဆယ်တိုင်တိုင် ရှေ့ဆောင် လမ်းပြလုပ်ပြီး ထွက်ပြေး လွတ်မြောက် (Exodus) စေခဲ့တယ် ဆိုတာလည်း လက်ခံဖို့ မခက်ပေဘူးလား။ ပုံပြင်တွေ တောင်လို မို့မောက်ပြီး အပြိုကြီးပြိုကျ (Avalanche) တဲ့အထဲမှာ ဒီပုံပြင်ဟာ ဘယ်အထိ မှန်သလဲ၊ မိုးဇက် တကယ် လုပ်ပေးနိုင်ခဲ့တာက ဘာလဲ ဆိုတာ သိအောင်လုပ်တာ ဖော်ထုတ်ဖို့ဆို သိပ်ခက်သွားပြီ။ တချို့လူတွေက သမ္မာကျမ်းပုံပြင်ဖြစ်တဲ့ ရောဂါ့န္တာ ရကပ် ဆယ်ခုအကြောင်း၊ ပင်လယ်နီကို ကုန်းကြောင်း ဖြတ်ဖူးတယ် ဆိုတဲ့ အကြောင်း တွေကို ဖြစ်နိုင်တဲ့ သဘာဝအဖြေ ရှာပေးကြ တယ်။ မိုးဇက်နဲ့ ပတ်သက်ပြီး ဓမ္မဟောင်း (The Old Testament) ထဲက လူကြိုက်များတဲ့ ပုံပြင်တွေဟာ ယုတ္တိနည်းတယ်။ တခြားပုံပြင်(Myths) တွေမှာလည်း ဒါမျိုး ဆန်ဆန် တွေ့ပါတယ်။ မိုးဇက်နဲ့ဘူးရွက် (bulrush) သစ်ပင်တွေ အကြောင်း ဆင်တူ ပုံပြင်ကို ဘေဘီလွန် (Babylon) မှာ ခရစ် မပေါ်မီ ၂၃၆၀ – ၂၃၀၅ က အုပ်စိုးသွားတဲ့ အက္ကတ်(Akkad) မင်းကြီး ဆာဂွန် (Sargon) လက်ထက် အဖြစ်အပျက်နဲ့ သိပ်တူနေတယ်။

မိုးဇက်နဲ့ ပတ်သက်ပြီး ခြုံငုံပြီးကြည့်လိုက်ရင် ထင်ရှား ကြီးကျယ်တဲ့ စွမ်းဆောင်ချက် သုံးခု တွေ့တယ်။ ပထမက၊ သူဟာ နိုင်ငံရေး ခေါင်းဆောင်အနေနဲ့ ဟီးဗရူးတွေကို အီဂျစ်က ထွက်ပြေး လွတ်မြောက်ခွင့် ရအောင် လုပ်ပေးနိုင်ခဲ့တယ်။ ဒီအချက်မှာ သူ့ကို တကယ် ချီးမွမ်းထိုက်ပါတယ်။

ဒုတိယ အချက်က၊ သူဟာ သမ္မာကျမ်း(Bible) မှာ ကမ္ဘာဦးကျမ်း (Genesis)၊ ထွက်မြောက်ရာကျမ်း (Exodus)၊ ဝတ်ပြုရာကျမ်း (Leviticus)၊ တောလည်ရာကျမ်း (Numbers)၊ တရားဟောရာ ကျမ်း (Deuteronomy) ဆိုတဲ့ ရှေးဦး မိုးဇက်ကျမ်း ငါးကျမ်းကို ရေးသူလို့ ထင်ရှားပါတယ်။ အဲဒါတွေဟာ ဂျူးတွေရဲ့ တိုရာ (Torah) ဖြစ်တယ်။ ဒီကျမ်းတွေထဲမှာ မိုးဇက် ကိုဥပဒေ (Mosaic Code) ခေါ်တဲ့ ဓမ္မကျမ်းခေတ်က ဂျူးတွေ လိုက်နာတဲ့ အခြေခံဥပဒေတွေပါတယ်။ ပညတ်ချက် ဆယ်ချက် (Ten Commandment) ပါတယ်။ တိုရာနဲ့ ပညတ်ချက်တစ်ဆယ်ဟာ လူပေါင်း အမြောက်အမြား အင်မတန်နှစ်သက် လေးစားတဲ့ ထုံးနည်းတွေဖြစ်လာတော့ ဒါတွေ ရေးသားပြုစုသူကို သြဇာ ကြီးမားသူအဖြစ်နဲ့ ဂုဏ်ပြု ထိုက်ပါတယ်။ ဒါပေမယ့် သမ္မာကျမ်းတတ် ပညာရှင်များစွာက ဒီကျမ်းတွေကို ရေးသူဟာ မိုးဇက် တစ်ယောက်တည်း မဖြစ်နိုင်ပါလို့ ပြောတယ်။ ရေးသူတွေ အများကြီး ဖြစ်နိုင်တယ်။ ပြီးတော့ မိုးဇက် အသက်ရှိစဉ်က ဒါတွေကို အက္ခရာ တင်ခဲ့တာ မဟုတ်ဘူး။ ဥပဒေကို သူကစပြီးမဖော်၊ ရှိပြီးကို သူကစုစည်းပြီး အသုံးလွယ်အောင် လုပ်ပေးတာမျိုးလည်း ဖြစ်နိုင်ပါတယ်။ ဒီကျမ်းတွေမှာ သူ့အစွမ်း ဘယ်လောက် ပါသလဲဆိုတာ အတိအကျ မှန်ကန်အောင် ဖော်ထုတ်ပြဖို့ သိပ်ခက်ပါတယ်။ တတိယ အချက်က၊ မိုးဇက်ကို လူတွေက

တစ်ဆူတည်းသော ဘုရားဆိုတဲ့ ဂျူးဝါဒကို စတင် ထူထောင်သူဖြစ်တယ်လို့ စွဲမြဲမှတ်ယူ ထားကြတယ်။ ရှင်းရှင်းပြောရရင် ဒီလို စွဲမှတ် ထင်မြင်အောင် သက်သေ အထောက်အထား မရှိပါ။ အထောက်အထား ရသမျှက ဓမ္မဟောင်းမှာ ပါသမျှပဲဖြစ်တယ်။

ဓမ္မဟောင်းက တည့်တည့် ထင်ထင်ရှင်းရှင်း ပြောတဲ့စကားမှာ တစ်ဆူတည်းသောဘုရားဝါဒ (Monotheism) ကို ဖော်ထုတ်သူဟာ အဗြဟမ် (Abraham) ဖြစ်တယ်တဲ့။ အဲဒီမှာ ထပ်ဆင့် စဉ်းစားရင် မိုးဇက်သာ မပေါ်လာရင်၊ ဒီဝါဒဟာ တိမ်မြုပ် သွားဖွယ်ရှိပါတယ်။ ဒီဝါဒကို တာရှည်ခံ အောင် အဆင့်ဆင့် လက်ဆင့် ကမ်းတဲ့နေရာမှာ သူဟာ သိပ်အရေးပါတဲ့လူ ဖြစ်တယ် ဆိုတာကိုတော့ ငြင်းလို့မရနိုင်ဘူး ထင်ပါတယ်။

အဲဒါပဲ မိုးဇက်ရဲ့အရေးပါဆုံး ဆောင်ရွက်ချက် ဖြစ်ပါတယ်။ ခရစ်၊ အစ္စလာမ်ဆိုတဲ့ ကမ္ဘာ့ အကြီးမားဆုံး ယုံကြည်မှု နှစ်ရပ်စလုံးဟာ ဒီဂျူးတွေရဲ့ တစ်ဆူတည်းသော ဘုရားဝါဒက ဆင်းသက် လာတာဖြစ်ပြီး မိုးဇက် (Moses) က နှစ်သက် စွဲလမ်းပြီး၊ ပိုင်ပိုင်နိုင်နိုင် ဟောပြောခဲ့လို့ ကနေ့ ကမ္ဘာ့အကြီးဆုံးအပိုင်းမှာ ဒီဝါဒ ထွန်းကား နေတာ ဖြစ်ပါတယ်။

6, May, 2000.

# (၁၆) ချားလ်စ်ဒါဝင် (၁၈၀၉ – ၁၈၈၂)

# CHARLES DARWIN (1809 – 1882)

ရုပ်ဒြပ်ဆင့်ကဲပြောင်းလဲခြင်း (Organic evolution) ဟာ သဘာဝ ရွေးချယ်ခြင်း (natural selection) ကြောင့် ဖြစ်ရတယ်လို့ စံတင် ပြောဆိုတဲ့ ချားလ်စ်ဒါဝင် (Charles Darwin) ကို အင်္ဂလန် (England)၊ ရှရူးဗရီ (Shrewsbury) မှာ (အေဗရာဟမ် လင်ကွန်းနဲ့ တစ်နေ့တည်း တစ်ရက်တည်း) ၁၂ ဖေဖော်ဝါရီ ၁၈၀၉ က မွေးဖွားပါတယ်။ အသက်တစ်ဆယ့်ခြောက်နှစ် ရောက်တော့ အီဒင်ဘာ့ တက္ကသိုလ် (Edinburgh University)မှာ ဆေးပညာ သင်ခဲ့တယ်။ ဒါပေမယ့် ဆေးပညာရော ခန္ဓာဗေဒ (Anatomy) ပညာပါ သိပ်ပျင်းစရာ ကောင်းတယ်လို့ ထင်တာနဲ့ ကိမ်းဗရစ်ချ် (Cambridge) ကိုပြောင်းပြီး၊ ကျမ်းစာ သင်ကြားဖို့ အားထုတ်ကြည့်တယ်။ ဒါပေမယ့် မြင်းစီးတယ်၊ သေနတ်ပစ်တယ် ဆိုတာကို စာပေကျမ်းဂန် ထက် ပိုပြီး နှစ်သက်လို့ ပါမောက္ခ တစ်ယောက်ကို အယုံသွင်းပြီး ဘီဂဲ (H.M.S Beagle) သင်္ဘောနဲ့ ရှာဖွေရေး ရေလမ်းခရီး (Exploratory voyage) ထွက်တာမှာ သူက သဘာဝပညာရှင် (naturalist) အဖြစ်နဲ့ လိုက်ပါခွင့် ရအောင် ထောက်ခံခိုင်းပါတယ်။ သူ့အဖေက ဒါကို မနှစ်သက်ပါ။ ဘာမှ စွဲစွဲမြဲမြဲ မလုပ်ဖြစ်ဘဲ ကလေကချေ နေတာ အဆုံးသတ်တော့မှာ မဟုတ်ဘူးလို့ ထင်သတဲ့။ ဒါပေမယ့် ကံအားလျော်စွာ ဖခင်ရဲ့ခွင့်ပြုချက် ရခဲ့ပါတယ်။ ဒီရေလမ်းခရီးဟာ အနောက်တိုင်း သိပ္ပံပညာမှာ သိပ်ပြီး အကျိုးရှိတဲ့ခရီး ဖြစ်ပါတယ်။ ဘီဂဲ သင်္ဘောပေါ်မှာ လိုက်ပါပြီး ဒါဝင်ဟာ ၁၈၃၁ က ခရီးထွက်ချိန်တုန်းက အသက် နှစ်ဆယ့်နှစ်နှစ်ပဲ ရှိသေးတယ်။ အဲဒီကစပြီး ငါးနှစ်တိုင်တိုင် တောင်အမေရိက (South america) ကမ်းခြေတွေကို ဝိုက်ပတ်ပြီး၊ တအေးတဆေး သွားခဲ့တော့ ပင်လယ်ထဲမှာ ထီးထီး ရှိနေတဲ့ ဂယ်လက်ပဂို (Galapagos Islands) ကျွန်းတွေကို တက်ရောက် ရှာဖွေ လေ့လာ ခွင့်ရသလို၊ အိန္ဒိယသမုဒ္ဒရာ (Indian Ocean) နဲ့ တောင်အတ္တလန်တစ်ကိုလည်း ဝင်ရောက် လေ့လာ ခဲ့ပါတယ်။ ဒီလို ပင်လယ် ခရီးရှည်ကြီး သွားတုန်းမှာ သဘာဝအံ့သြစရာတွေ အများကြီးကို ဒါဝင် တွေ့ခဲ့ရပါတယ်။ ရှေးကျ ကျန်ရစ်တဲ့ လူမျိုးစုတွေ (Primitive tribes) ကိုလည်း တွေ့ခဲ့ရတယ်။ ကျောက်ဖြစ် ရုပ်ကြွင်း (fossils) တွေလည်း ရတယ်။ အဲဒါအပြင် အပင် အမျိုးမျိုး၊ အကောင် အမျိုးမျိုးတွေကိုလည်း လေ့လာ ခွင့်ရခဲ့တယ်။ သူတွေ့မြင်သမျှကို အကျယ်တဝင့် စာအုပ်တွဲတွေ အများကြီး ရတဲ့အထိ ရေးသား မှတ်ယူ ခဲ့တယ်။ အဲဒီ မှတ်စုတွေကို သုံးပြီး အကြောင်းမျိုးစုံကို နောင်အခါ ရေးပါတယ်။ အခြေခံ

စိတ်ကူးတွေကို ဒီမှတ်စုတွေက ရတယ်။ ဒီဖော်ထုတ်လိုက်တဲ့ သီအိုရီ အတွက် သက်သေခံအချက်တွေကို ဒီမှတ်စုတွေကပဲ ရတာဖြစ်ပါတယ်။ ဒါဝင်ဟာ ၁၈၃၆ မှာ အိမ်ပြန်ရောက် တယ်။ နောက်အနှစ် နှစ်ဆယ်အတွင်းမှာ ကျမ်းစာအုပ်တွေ အများကြီး ရေးထုတ်နိုင်လို့၊ သူဟာ အင်္ဂလန်ရဲ့ ခေါင်းဆောင် ဇီဝဗေဒပညာရှင် (Biologist) တစ်ဦး ဖြစ်လာပါတယ်။ အဲဒီ ၁၈၃၇ လို ခပ်စောစော အချိန်ကပဲ ဒါဝင်က သတ္တဝါတွေ အပင်တွေဟာ ဘယ်တော့မဆို၊ ဒီပုံမျိုး တစ်ပုံတည်းက မပြောင်းမလဲ တည်မြဲနေတယ်လို့ မယူဆ နိုင်ကြောင်းသိတယ်။ ဘူမိသမိုင်း (Geologic history) မှာ တောင်က ချိုင့်၊ မြေက ရေ ဆိုသလို ပြောင်းတယ်။ ဒါကိုလိုက်ပြီး သတ္တဝါနဲ့ အပင်လည်း ပြောင်းမှာ ပဲပေါ့။ ဒါပေမယ့် အဲဒီအခါက ဘာကြောင့် ဒီလို ဆင့်ကဲ ပြောင်းလဲလာပါတယ်လို့ သူရှင်းပြီး မပြောတတ်ပါ။ နောက် ၁၈၃၈ လောက်မှာ သောမတ်စ်မေးလ်သပ်စ် (Thomas Malthus) ရေးတဲ့ လူဦးရေ အခြေခံ သဘောတရား အကြောင်း (An Essay on the Principle of Population) ကို ဖတ်မိတယ်။ အဲဒီအခါကျမှ မပျက်မစီး ဆက်လက် ရှင်သန်ဖို့ သဘာဝက ရွေးချယ်ပေးတဲ့ အခြေခံသဘော တရားရှိတယ်လို့ ဒါဝင် သိရှိပြီး၊ စနစ် တစ်ခုကို ဖော်ထုတ်ခဲ့ပါတယ်။ ဒီလို သဘာဝရွေးချယ်ခြင်း အခြေခံသဘော တရား (Principle of natural selection) ကို ဒါဝင်က ပုံစံ ချတယ်ဆိုပေမယ့် သူ့အယူအဆကို အလျင်စလို ပုံနှိပ်ဖြန့်ချိခြင်း မပြုပါ။ လူတွေအများကြီးက ဝိုင်းပြီး ကန့်ကွက်မယ် ဆိုတာ သိပြီးသား ဖြစ်ပါတယ်။ အဲဒါကြောင့် အချိန်အကြာကြီးဆွဲပြီး၊ သက်သေ အထောက်အထား စုတယ်။ ပြီးတော့ စနစ်တကျတင်သွင်းဖို့ သူ့အဆိုကြမ်း (hypothesis) ကို စီစဉ်ထားပါတယ်။

သူ့သီအိုရီ အကျဉ်းချုပ် (Outline) ကို ၁၈၄၂ ကပဲ ရေးသား ပြီးစီးခဲ့တယ်။ နောက် အကျယ်ကိုတော့ ၁၈၄၄ မှာ ရေးတယ်။ ဒါဝင်က သူ့ကျမ်းကို ၁၈၄၂ ဇွန်လထဲမှာ ဖြည့်ဆဲပြင်ဆဲမှာ အယ်ဖရက်ရပ်ဆဲ ဝေါလေ့စ် (Alfred Russel Wallace) အမည်ရှိတဲ့ ဗြိတိသျှ သဘာဝပညာရှင် (လောလောဆယ် အရှေ့အင်ဒီးစ် ရောက်နေသူ) ထံက ဆင့်ကဲဖြစ်စဉ်သီအိုရီ (Theory of Evolution) စာမူကြမ်း တစ်ခု ဒါဝင်ဆီကို ရောက်လာပါတယ်။ အရေးကြီးတဲ့ အချက်အလက်တိုင်းမှာ ဝေါလေ့စ်နဲ့ ဒါဝင် တူညီနေတယ်။ ဝေါလေ့စ်လည်း သူ့ဘာသာ တစ်သီးတခြား ရှာဖွေ တွေ့ရှိထားတာ ဖြစ်တယ်။ သူ့စာမူကို ပုံမနှိပ်ခင် ဒါဝင် ဆီပို့တဲ့သဘောက သိပ္ပံပညာရှင်ရယ်လို့ အများလေးစားတဲ့ ပုဂ္ဂိုလ်ဆီက ဝေဖန်ချက် ထင်မြင်ချက် ရယူလိုလို့ ဖြစ်တယ်။ အဲဒီမှာ ဒီသီအိုရီကို ဘယ်သူက စတွေ့သလဲဆိုပြီး၊ သူအရင် ငါအရင်နဲ့ ငြင်းခုံပွဲကြီး ဖြစ်ရတော့မယ့် စိတ်ရှုပ်စရာ အခြေအနေကို ရောက်နေပါပြီ။ ဒီအဖြစ်ကို အရောက်မခံပါ။ ဒါဝင်ရဲ့အကျဉ်းချုပ်နဲ့ ဝေါလေ့စ်ရဲ့စာမူ နှစ်ခု စလုံးကို ပူးတွဲပြီး (ဇူလိုင် ၁၈၅၈ မှာ) သိပ္ပံအဖွဲ့ကြီး တစ်ခုကို ပို့လိုက်ပါတယ်။ ထူးဆန်းတာက ဒီလိုသိပ္ပံအဖွဲ့ကြီးကို တင်ပြ လိုက်ပေမယ့် ဘယ်သူမှ သိပ်ပြီး ဒီအကြောင်းကို အရေးတယူ ပြောဆိုဆွေးနွေးခြင်း မရှိပါ။ ဒါပေမယ့် ဒါဝင်ရဲ့ မျိုးရိုးဗီဇ (The Origin of Species) ကို ၁၈၅၉ မှာ ပုံနှိပ်တယ်ဆိုတာနဲ့ တစ်ခါတည်း ပွက်လောရိုက်လာပါတော့တယ်။ အဖြစ်မှန်ကတော့ အရင်က ပေါ်ထွက်သမျှ ဘယ်သိပ္ပံ စာအုပ်မှ ဒီစာအုပ်လို သိပ္ပံသမားရော အလွတ်လူတွေကပါ အရေးတယူဖတ်ပြီး၊

အပြင်းအထန် ငြင်းခုံကြတယ်လို့ မရှိခဲ့ပါ။ စာအုပ် နာမည် အပြည့်အစုံက မျိုးရိုးဗီဇ၏ သဘာဝ ရွေးချယ်ခြင်း၊ သို့မဟုတ် ဘဝ မပျက်အောင် ထိန်းနိုင်ခြင်း (On the Origin of Species by Means of Natural Selection or the Preservation of Favoured Races in the Struggle for Life) ဖြစ်ပါတယ်။ ဒါဝင်ရဲ့ ၁၈၇၁ မှာ လူဆင်းသက် လာပုံနှင့် အဖိုအမ ဆက်ဆံရေးမှာ ရွေးကောက်ပုံ (The Descent of Man and Selection in Relation to Sex) စာအုပ် ထွက်လာတော့လည်း စောစောက ငြင်းခုံခဲ့တဲ့ အရှိန်ဟာ ကျန်နေပါသေးတယ်။ အဲဒီ နောက်စာအုပ်မှာ လူဟာ လူဝံ (Ape) လိုသတ္တဝါမျိုးက ဆင်းသက် ခဲ့တယ်ဆိုတာကို ဖတ်ကြရတဲ့အခါ စောစောကလောင်တဲ့မီးမှာ ဆီထပ်ထည့်လိုက်သလို ပွက်လောရိုက်အောင် ငြင်းကြပြန်တယ်။ ဒါဝင်ဟာ သူ့သီအိုရီနဲ့ ပတ်သက်ပြီး ပရိသတ်စုံမှာ အချေအတင် ပြောပွဲလုပ်ရင်၊ သူ ဘယ်တော့မှ မပါဘူး။ ဘီဂဲနဲ့ ပင်လယ်သမုဒ္ဒရာ အဝေးအလံ အကျယ်အပြော သွားခဲ့စဉ်က (မကြာခဏ ဖျားနာခဲ့ရတယ်၊ တောင်အမေရိကမှာ အဆိပ်ရှိတဲ့ ပိုးကိုက်လို့ရတဲ့ ရှာဂါရောဂါ Chaga’ disease ဖြစ်ခဲ့ရတယ်။) အဲဒါတွေစုပြီး ကျန်းမာရေး မကောင်းလို့ သိပ်ပြီး အပြင်ထွက်လေ့မရှိဘူး။ အဲဒါအပြင် သူ့ဘက်က ဆင့်ကဲပြောင်းလဲပုံ (Evolution) ကို ကောင်းကောင်း ရှေ့နေ လိုက်နိုင်တဲ့ သောမတ်စ်အိပ်ချ် ဟပ်စလေ (Thomas H.huxley) တစ်ယောက် ရထား လို့လည်း ဖြစ်တယ်။ သိပ္ပံပညာရှင် အများစုက ဒါဝင်သီအိုရီတွေ အခြေခံအရ မှန်ကန်တယ်လို့ သူကွယ်လွန်တဲ့ ၁၈၈၂ မှာ လက်ခံထားပြီး ဖြစ်ပါတယ်။ ဒါဝင်ဟာ မျိုးဗီဇနဲ့ ဆင့်ကဲပြောင်းလဲပုံကို သူက စတင် ဖော်ထုတ်သူ မဟုတ်ပါ။ သူ့ရှေ့က လူတချို့မှာ ဒီစိတ်ကူးရှိနေပါပြီ။ ပြင်သစ် သဘာဝပညာရှင် ဇန်လာမတ် (Zean Lamarck) နဲ့ သူ့အဘိုး အီရာစ်မော့စ်ဒါဝင် (Erasmus Darwin) တို့လည်း ဒီသီအိုရီကို ကြံဆ ခဲ့ကြပါတယ်။ ဒါပေမယ့် သူတို့ရဲ့ အဆိုကြမ်းတွေကို သိပ္ပံကမ္ဘာက လက်မခံဘူး၊ ဘာဖြစ်လို့လဲဆိုတော့ စတင် ဖော်ထုတ်သူ တွေက စိတ်ချလက်ချ လက်ခံယုံကြည် သုံးစွဲလောက်တဲ့ ရှင်းလင်းချက် မပေးနိုင်ကြလို့ ဖြစ်ပါတယ်။ ဒီနေရာမှာ ဒါဝင်ရဲ့အစွမ်းက ဖြစ်ပွားပုံ (Mechanism) ဆိုတဲ့ သဘာဝရွေးချယ်ခြင်းကို ပြောပြလိုက်တဲ့အခါကျမှ ဆင့်ကဲဖြစ်စဉ်ဆိုတာ ဒီလိုအဆင့်ဆင့် ဖြစ်ပွားပါပေတယ်လို့ သက်သေနဲ့တကွ သိလာပြီး၊ သူ့မူကြမ်းကို လက်ခံခဲ့ကြတာ ဖြစ်တယ်။

ဒါဝင်သီအိုရီ (Darwin’s Theory) နဲ့ပတ်သက်ပြီး အထူး သတိပြုသင့်တဲ့ အချက်ကတော့ သူ့သီအိုရီကို ပံ့စံချတော့ မျိုးရိုးပညာသီအိုရီကို သူမသိပါ။ ဒါဝင်တို့ခေတ်က မျိုးဆက်တစ်ခုရဲ့ အရည်အသွေး တစ်မျိုးကို နောက်တစ်ဆက်မှာ ဘယ်လိုအမွေပေးသလဲလို့ ဘယ်သူမှမသိပါ။ ဂရေဂိုမဲန်ဒဲလ် (Gregor Mendel) ဟာ အမွေဆက်ဥပဒေ (Laws of Heredity) တွေကို ဒါဝင်က ခေတ်ဆန်းတစ်ခေတ် ပေါ်စေတဲ့ (epohmaking) စာအုပ်တွေကို ရေးသား ပုံနှိပ်ဖြန့်ဝေနေစဉ်ကပဲ ရှာဖွေ ရေးသားခဲ့တယ်။ မဲန်ဒဲလ်ပြောသမျှဟာ ဒါဝင် ပြောသမျှကို ဖြည့်စွက် ထောက်ပံ့တာ ဖြစ်နေပေမယ့် ဒါဝင်ရဲ့သီအိုရီကို အများက ကောင်းကောင်း လက်ခံ အတည်ပြုပြီး ဖြစ်တဲ့၊ ၁၉၀၀ ထိ မဲန်ဒဲလ်ကို ဘယ်သူမှ

ဂရုမစိုက်ဘူး။ ခုတော့ ခေတ်လူတွေ ကံကောင်းတယ်လို့ ဆိုရမှာက ဆင့်ကဲဖြစ်စဉ်ကို ပြောရင် မျိုးရိုးအမွေဆက်ဥပဒေ (laws of genetic inheritance) နဲ့ တွဲလိုက်တဲ့အခါ ဒါဝင် ပြောခဲ့တာထက် အများကြီး ပြည့်စုံသွားတယ်။

လူ့တွေးခေါ်ပုံမျိုးစုံမှာ ဒါဝင်ရဲ့သြဇာဟာ သိပ်ပြီး စူးရောက်တယ်။ သိပ္ပံသဘောထားသက်သက် ပြောရရင် သူ့ကြောင့် ဇီဝဗေဒ (biology) ဟာ အများကြီး ပြောင်းလဲတိုးတက်ခဲ့ပါတယ်။ သဘာဝ ရွေးချယ်ခြင်းကို အများကြီးချဲ့ပြီး သုံးနိုင်တယ်လို့ သိလာကြပြီ။ ဥပမာ မနုဿဗေဒ (Anthropology)၊ လူမှုရေးပညာ (Sociology)၊ နိုင်ငံရေးသိပ္ပံ (Political Science) နဲ့ ဘောဂဗေဒ (Economics) တွေမှာ သုံးပါတယ်။ သိပ္ပံ၊ လူမှုရေး ဆိုတာတွေမှာ အသုံးဝင်တာထက် ဒါဝင်ရဲ့ပညာဟာ ပိုပြီး ထိရောက်တယ်လို့ ပြောရမယ့် ဘာသာရပ်ကတော့ ကိုးကွယ် ယုံကြည်မှု (Religious Thought) မှာ ဖြစ်ပါတယ်။ ဒါဝင်တို့ ခေတ်နဲ့ နောက်နှစ်ပေါင်းများစွာမှာ ခရစ်ဝါဒကို သက်ဝင်ယုံကြည်သူတွေက ဒါဝင်ရဲ့ သီအိုရီတွေကြောင့် ငါတို့ သာသနာကြီး ဆုတ်ယုတ်ပျက်ပြား ရတော့မယ်လို့ ယူဆတယ်။ သူတို့ ဒီလိုတွေးတာလည်း အပြစ်မဆိုသင့်ပါ၊ တွေးသင့်ပါတယ်။ ဒါပေမယ့် ဘာသာတရား ယုံကြည်စိတ်ဟာ တခြား အကြောင်း များစွာ ကြောင့်လည်း ကျဆင်းတာဖြစ်ပါတယ်။ (ဒါဝင်ကိုယ်တိုင်ကလည်း ဘာသာတရား ယုံကြည်မှု မရှိသူ Agnostic ဖြစ်ပါတယ်။) လောက အကြောင်းသက်သက် ပြောရရင်လည်း ဒါဝင် သီအိုရီက လူတွေရဲ့ ကမ္ဘာပေါ်မှာ ထားတဲ့ သဘောထားကို အများကြီးပြောင်းစေတယ်။ အရင်က သဘာဝစီမံကိန်း (Natural Scheme) မှာ လူက ထိပ်တန်းက ပါဝင်လှုပ်ရှား နေကြရတယ်ဆိုတဲ့ အစွဲပျောက်ခဲ့ပြီ။ သတ္တဝါမျိုးပေါင်းများစွာမှာ ငါတို့လည်း တစ်စိတ်တစ်ပိုင်းပါပဲလားလို့ သိလာကြပြီ။ တစ်နေ့နေ့မှာ တို့ထက်သာတဲ့ သတ္တဝါ ပေါ်နိုင်တယ်လို့ သိလာကြပြီ။ ဒါဝင်ရဲ့ ဆောင်ရွက်ချက် ရလဒ်ကတော့ ဟီရာကလိတပ်စ် (Heraclitus) ပြောခဲ့သလို **‘ ပြောင်းလဲခြင်းကလွဲလို့ ဘာမှပြောင်းလဲခြင်းမရှိ’** (There is nothing permanent except change)၊ ဆင့်ကဲဖြစ်စဉ်သီအိုရီ (evolution theory) က လူတို့ဗီဇကို ယေဘုယျ ရှင်းပြနိုင်သလို သိပ္ပံပညာ ဟာလည်း ရုပ်ဝတ္ထုဆိုင်ရာ ပြဿနာတွေကို ရှင်းနိုင်မယ်လို့ ခိုင်ခိုင်မြဲမြဲ တွေးထင်လာကြတယ်။ (မရှင်းနိုင်တဲ့ လူ့ပြဿနာ ရှိပါသေးတယ်။) ဒါဝင် ပြောနေကျ ဘဝရပ်တည်ဖို့ ရုန်းကန်ဆဲ ( The Struggle for existence) နဲ့ အတော်ဆုံးသာ ကျန်ရစ်မယ် (The survival of the fittest) ဆိုတဲ့စကားတွေဟာ ကျွန်တော်တို့ နေ့စဉ် ပြောမြဲ ဝေါဟာရတွေ ဖြစ်လာပါတော့တယ်။ ဒါဝင်ဆိုတဲ့ ပုဂ္ဂိုလ် မပေါ်ခဲ့ပေမယ့်လည်း သူ့သီအိုရီမျိုးတော့ ပေါ်မှာကေန်ပါ။ တကယ် ပြောတော့ ဝေါလေ့စ် (Wallace) ဆောင်ရွက် ချက်ဟာ ဒါဝင် မရှိလည်း၊ သူက ရှိနေပြီ ဖြစ်လို့ ဒီစာအုပ်ထဲမှာ တချို့ပုဂ္ဂိုလ်ကို သူ့ကို မမွေးလည်း၊ ဒီကိစ္စ ဖြစ်ကိုဖြစ်ရမယ်ဆိုတဲ့ စာရင်းထဲမှာ ဒါဝင်ကပါသွားပါပြီ။ သူနဲ့ ဒီစကားဟာ ပိုပြီး သက်ဆိုင် နေပါသေးတယ်။ ဒါပေမယ့် ဒါဝင် ကြောင့်သာ ဇီဝဗေဒ (Biology)၊ မနုဿဗေဒ (Anthropology) တွေဟာ အများကြီး တိုးတက်လာတယ်။ ကမ္ဘာမှာ လူသာပဓာန ဆိုတဲ့ အမြင်လည်း ပြောင်းသွားပါတယ်။

# (၁၇) ရှီဟွန်ဂ်တိ (ခရစ်မပေါ်မီ ၂၅၉ – ၂၁၀)

# SHIH HUING TI (259 B.C. – 210 B.C.)

တရုတ် ဧကရာဇ်ကြီး ရှီဟွန်ဂ်တိ (Shih Huing Ti) ဟာ ခရစ်မပေါ်မီ ၂၃၈ က ၂၁၀ ထိ တရုတ်ကို အုပ်စိုးချိန်မှာ လက်ရုံးအားကိုးနဲ့ တရုတ်ကို ပေါင်းစပ်စည်းရုံးခဲ့ပြီး၊ အပျံ့အနှံ့ ပြုပြင် ပြောင်းလဲရေးတွေ ပြုလုပ် ပေးခဲ့ပါတယ်။ တရုတ်တွေ အတွက် ကနေ့အထိ လေးစားတဲ့ ဓလေ့ မှန်သမျှကို တစ်စုတစ်စည်းတည်း ဖြစ်အောင် လုပ်ပေးနိုင်တဲ့ ပြုပြင်ရေးတွေထဲမှာ သူ့ပြုပြင်ရေးတွေက အရေးပါတဲ့ ပြုပြင်ရေးတွေ ဖြစ်ပါတယ်။

ရှီဟွန်ဂ်တိ (ချင်သျှီဟွန်ဂ်တိ လို့လည်းခေါ်) ဧကရာဇ်ဟာ ခရစ် မပေါ်မီ ၂၅၉ မှာမွေးဖွားပြီး၊ ခရစ်မပေါ်မီ ၂၁၀ မှာ နတ်ရွာစံတယ်လို့ သိရပါတယ်။ သူ့အရေးပါပုံကို အကဲဖြတ်ဖို့ သူ့ခေတ်သမိုင်း နောက်ခံကို သိဖို့လိုပါတယ်။ ခရစ်မပေါ်မီ ၁၁၀၀ လောက်ကစတဲ့ ကျို (Chou) မင်းဆက် နောက်ဆုံးရက်တွေမှာ သူ့ကို မွေးဖွား တာဖြစ်တယ်။ ကျိုမင်းတွေဟာ တန်ခိုးသြဇာ ပျော့ညံ့လာလို့ တရုတ်ဟာ ပဒေသရာဇ် နိုင်ငံငယ်တွေ နယ်အလိုက် အစိတ်စိတ် ကွဲနေတဲ့ အချိန်အခါ ဖြစ်ပါတယ်။ ပဒေသရာဇ် နယ်ရှင် ပယ်ရှင်တွေဟာ အချင်းချင်း စစ်ခင်းနေကြတယ်။ ဒီလိုနဲ့ တချို့နယ် ပဒေသရာဇ်တွေလည်း အပြီးတိုင် ဇာတ်သိမ်း သွားတာလည်း ရှိမယ်။ တစ်ဦးတလေ ကလည်း တန်ခိုး သတ္တိ သိပ်ပြီး ကြီးမားလာမယ်။ အားကြီးလာသူတစ်ဦးက တရုတ် အနောက်ခြမ်းက ချင် (Chin) မင်း ဖြစ်ပါတယ်။

ဒီချင်မင်းတွေက ဥပဒေကို အလေးထားတဲ့ တရုတ် ဒဿနိကသမားတွေရဲ့ ဆုံးမချက်ကို နိုင်ငံ အုပ်ချုပ်ရေး အခြေခံအဖြစ် သုံးမယ်လို့ ပြဋ္ဌာန်း တယ်။ ကွန်ဖြူးရှပ် အဆိုက လူကိုအုပ်ချုပ်ရင် လူမင်းက အကျင့်စာရိတ္တမှာ စံပြဖြစ်ရမယ်လို့ ဆိုတယ်။ ဒါပေမယ့် ဥပဒေကို အလေးထားတဲ့ ဒဿနအရ ပြောရရင်၊ လူအများစုဟာ ထင်သလောက် မကောင်းကြတာမို့ စံပြထားလည်း လိုက်နာကြမှာမဟုတ်လို့၊ ဥပဒေ ပြဋ္ဌာန်းပြီး အတိအကျ ကတိမလိုက်ဘဲ၊ ကွပ်ကဲမှ ဖြစ်မယ်လို့ ပြောပါတယ်။ ဥပဒေကို အုပ်ချုပ်သူက လုပ်ရမယ်။ အခါအားလျော်စွာ နိုင်ငံရဲ့ဝါဒနဲ့ ညီညွတ်အောင် ပြုပြင်ရမယ်။ ဥပဒေကို ကျန သေချာအောင် စည်းကြပ်လို့၊ တည်နေရာ အနေအထား ကောင်းလို့၊ ချင်မင်းတွေ တော်လို့ ချင်နယ်ဟာ တန်ခိုးသြဇာ ကြီးလာတဲ့ အချိန်မှာ (နောင် ရှီဟွန်ဂ်တိ

ဖြစ်လာမယ့်) ချဲန်ဂ်(Chang) ကိုမွေးပါတယ်။ ချဲန်ဂ်ဟာ အမည်ခံမင်း အဖြစ် ထီးနန်းကို ခရစ်မပေါ်မီ ၂၄၆ ကပဲ ရရှိပေမယ့် သက်တော် တစ်ဆယ့်သုံးနှစ်သာရှိသေးလို့ ရင်ခွင်ပိုက်မင်းအဖြစ်နဲ့ နေရ ပြီးနောက် ခရစ်မပေါ်မီ ၂၃၈ ရောက်တော့မှ မင်းအစစ် ဖြစ်ရရှာတယ်။ ပြည့်ရှင် မင်းသစ်ဟာ အစွမ်းထက်တဲ့ စစ်သူကြီးတွေကို ရွေးချယ် ခန့်ထားပြီး၊ ကျန်ရှိနေသေးတဲ့ ပဒေသရာဇ် နယ်ကလေးတွေကို ခပ်သွက်သွက် သိမ်းပိုက် လိုက်ပါတယ်။ နောက်ဆုံးနယ်ကို ခရစ်မပေါ်မီ ၂၂၁ ရောက်တဲ့အခါ သူ့ကိုပဲ တရုတ်နိုင်ငံ အားလုံးရဲ့ဘုရင် ဝမ် (Wang) လို့ ဘွဲ့တပ်ပြီး ခေါ်နိုင်ပါပြီ။ ခေတ်ဟောင်းနဲ့ ခွဲခြားပြီး ထင်ရှားအောင် သူ့ကို ရှီဟွန်းဂ်တီ ပထမ ဧကရာဇ်ဘွဲ့ ခေါ်တွင်စေပါတယ်။

ရှီဟွန်ဂ်တီဟာ ဧကရာဇ်ဖြစ်တာနဲ့ တပြိုင်နက် အရေးပါတဲ့ပြုပြင်ရေးတွေ အများကြီးလုပ်ပါတယ်။ ကျိူ (Chou) မင်းဆက်ပြုတ်သွားအောင် ဖျက်ဆီးတဲ့ မညီညွတ်မှုမျိုး ထပ်မဖြစ်ရအောင် ဆိုပြီး၊ ပဒေသရာဇ်စနစ် တစ်ခုလုံးကို ဖျက်လိုက်ပါတယ်။ သူ့ပိုင်နက်ကို ပြည်နယ် သုံးဆယ့်ခြောက်နယ် ခွဲလိုက်ပြီး၊ မင်းမျိုးက မဟုတ်ဘဲ အရပ်သားကို ပြည်နယ်ဘုရင်ခံ (Civilian Governor) ခန့်တယ်။ ဘုရင်ခံရာထူးမှာလည်း ဘုရင်ခံတစ်ဦးကို ပြည်နယ် တစ်နယ်မှာ နှစ်အနည်းငယ်သာ ခန့်ထားပြီး ကိုယ့်ရာထူး တည်မြဲအောင်၊ ကိုယ့်သြဇာ ကြီးမားအောင် မလုပ်နိုင်ဖို့ တားမြစ်တဲ့ သဘောနဲ့ မကြာခဏ နယ်ပြောင်းပေးတယ်။ ပြည်နယ်တစ်ခုစီမှာလည်း စစ်ခေါင်းဆောင် တစ်ယောက် ဧကရာဇ်ကိုယ်တိုင် ခန့်ထားပြီး၊ ဧကရာဇ်သဘောနဲ့ပဲ ရွှေ့တယ်၊ ဖြုတ်တယ်။ နောက် ဗဟိုအစိုးရရဲ့ကိုယ်စား နယ်မှာ အရာရှိတစ်ဦး ထားသေးတယ်။ ဒီတော့မှ စစ်သူကြီးနဲ့ ဘုရင်ခံကို ထိန်းပြီးသား ဖြစ်သွားတယ်။ ပြည်နယ်နဲ့ မြို့တော်အကြား ဆက်သွယ်ရေးကောင်းဖို့ လမ်းမကြီးတွေ ဖောက်တယ်။ ပြည်နယ်မြို့ တစ်ခုကို ဥပမာ သူပုန်က ဝိုင်းထားပြီဆိုရင် ဗဟိုတပ်မတော်ကို ချက်ချင်း စေလွှတ် နှိမ်နင်းနိုင်အောင် လမ်းကောင်းကောင်း ဖောက်ထားတာ ဖြစ်ပါတယ်။ အရင် မင်းညီမင်းသား မှူးမျိုး မတ်မျိုးတွေ သားမယားနဲ့တကွ အိမ်ထောင် တစ်ခုလုံး ဧကရာဇ် နေထိုင်ရာမြို့တော် စီယဲန်ယန်ဂ် (HsienYang) ကို လာနေစေတယ်။

သူတို့ကို အမြဲစောင့်ကြည့်ထားဖို့ လိုတယ်။

ရှီဟွန်ဂ်တီက နိုင်ငံရေး စစ်ရေးမှာ တရုတ်ကို တစ်ပေါင်းတည်းဖြစ်စေအောင် အုပ်စည်းတာ လောက်နဲ့ မကျေနပ်သေး။ ကူးသန်း ရောင်းဝယ်ရေး မှာလည်း ညီညွတ်စေလိုတယ်။ ဒီတော့ ကုန်ပစ္စည်း အလေးချိန် မှတ်ခြင်း၊ ဝန်မှတ်ခြင်း၊ ခရီး အကွာအဝေး တိုင်းခြင်းတို့ကို ညီညွတ်အောင် စံချိန်စံတာများ (Standard weights and Measures) (အလေး တင်းတောင်းများ) ညီအောင် လုပ်စေတယ်။ အားလုံး တညီတည်းသုံးဖို့ ပိုက်ဆံ (Coinage) လည်း ထုတ်တယ်။ လက်နက်ကိရိယာတွေလည်း တညီတည်း သုံးစေတယ်။

လှည်းဝင်ရိုး (Axel) ကိုလည်း စံထားပြီး အရှည်အတို ညီစေတယ်။ လမ်းဖောက်တဲ့အခါ ရေမြောင်း တူးတဲ့အခါ ညီအောင် ကြီးကြပ် ပေးတယ်။

တရုတ်နိုင်ငံကြီး အတွင်းမှာ တရား ဥပဒေ တူရမယ်။ စာရေးနည်းလည်း တူရမယ်။ ဧကရာဇ် ထုတ်ပြန်တဲ့ အမိန့်နဲ့ဥပဒေတွေထဲမှာ ချီးမွမ်း ရင်လည်းဖြစ်တယ်၊ ကဲ့ရဲ့ချင်လည်း ရတယ်ဆိုတဲ့ အမိန့်တော်က ခရစ်မပေါ်မီ ၂၁၃ မှာ ထုတ်ပြန်တဲ့ တရုတ်နိုင်ငံတွင်း ရှိသမျှ ကျမ်းစာအုပ်တွေ မီးရှို့ဖျက်ဆီး စေဆိုတဲ့ အမိန့်ပဲ ဖြစ်ပါတယ်။ ခြွင်းချက်ရှိပါတယ်။ စိုက်ပျိုးရေး ပညာ၊ ဆေးပညာ၊ ချင်နိုင်ငံတော်မှတ်တမ်းတွေ၊ ဥပဒေပြု (Legalist) အဖွဲ့သုံး ဒဿနိကကျမ်းတွေ မီးမရှို့ရပါ။ (ကွန်ဖြူးရှပ်ကျမ်းတွေ အပါအဝင်) တခြား ဒဿနိက ကျမ်းတွေကို မီးရှို့စေတဲ့ ။ တစ်ချက်လွှတ်အမိန့် (Draconian decree) ဟာ သမိုင်းမှာ ပထမဆုံး ပေါ်ပေါက်လာတဲ့၊ ကြီးကျယ်တဲ့ စိစစ်ရေး အမိန့် ဖြစ်တယ်။

အဲဒါမျိုးလုပ်ရင် ကွန်ဖြူရှပ် (Confucius) လို ရေးကျပြီး လူတွေစွဲလမ်းအားကြီးတဲ့ အတွေးအခေါ် ပပျောက်မယ်။ ခေတ်ဆန် တိုးတက်တဲ့ အသိအမြင်ကို မထိမ့်မြင် မလုပ်နိုင်တော့ဘူး ဆိုတာနဲ့၊ ဒီအမိန့်ကို ဧကရာဇ်က ထုတ်တာဖြစ်ပါတယ်။ ဒီမှာလည်း ခြွင်းချက် ရှိတယ်။ သူမီးရှို့ခိုင်းတဲ့ ကျမ်းဟောင်းတွေ တစ်မျိုးစီတော့ နေပြည်တော်ရဲ့ တော်သုံးပိဋကတ်တိုက်မှာ သိမ်းဆည်း ထားခိုင်း ပါတယ်။

ရှီဟွန်ဂ်တိရဲ့ နိုင်ငံခြားရေးဝါဒ အလားတူ ပြင်းထန်တယ်။ နိုင်ငံတော်ရဲ့တောင်ပိုင်းမှာ နယ်ပယ် အများကြီးကို ချဲ့ထွင်သိမ်းပိုက်တယ်။ အားလုံး သိမ်းမိသမျှကို တရုတ်နိုင်ငံထဲ ထည့်ပြီး ထားခဲ့တယ်။ အနောက်နဲ့ မြောက်မှာတော့ သူ့တပ်မတော်က တိုက်တိုင်းအောင်ဖြစ်ပေမယ့် နယ်မြေကိုတော့ အပိုင်သိမ်းယူခြင်း မလုပ်နိုင်တော့ပါ။ အဲဒီနယ်က လူတွေဟာ တရုတ် ပြည်မကြီးကို ဖျက်ဆီး လုယက် တိုက်ခိုက် ထွက်ပြေးကြသူတွေ ဖြစ်လို့၊ သူတို့ မလာနိုင်အောင် နံရံကြီး (The Great Wall of China) တည်ဆောက်ရမယ်။ ဒီစိတ်ကူးနဲ့ တရုတ် မြောက်ဘက် နယ်စပ်မှာ နံရံတွေ ဟိုတစ်စ ဒီတစ်စ ရှိပြီးသားဖြစ်တာကို ဧကရာဇ်က အားလုံးဆက်ပြီး နံရံကြီးလုပ်လိုက်တော့ ကနေ့အထိ ဒီနံရံကြီး တည်ရှိ နေတယ်။ ဒီလိုကြီးကျယ်တဲ့ ဆောက်လုပ်ရေး စီမံကိန်းရယ်၊ စစ်တွေ အဆက်မပြတ် တိုက်ခိုက်တာရယ်၊ အကုန်အကျ များလွန်းတော့ ရှိပြီးအခွန်တွေကို မြှင့်ကောက်၊ နောက်ထပ် အခွန်သစ်တိုးနဲ့ ဧကရာဇ်ကို အများ အကြည်ညိုကင်း လာတယ်။ သူက အုပ်ချုပ်ရေးကို အင်မတန် ခိုင်ခန့်အောင် လုပ်ထားတော့၊ သူပုန် ထဖို့ မလွယ်ဘူး။ ဒါနဲ့ သူ့ကိုလုပ်ကြံဖို့ အားထုတ်ကြတယ်။ ဒါလည်း မအောင်မြင်ပါ။ သူ့ဘာသာ သဘာဝအတိုင်း ရှီဟွန်ဂ်တိဟာ ခရစ်မပေါ်မီ ၂၁၀ မှာ နတ်ရွာစံပါတယ်။ ဒုတိယသားတော်က အာ့ရှီဟွန်ဂ်တိ (Erh Shih Huang Ti) ဘွဲ့နဲ့ အဖရာထူးကို ဆက်ခံတယ်။ အဖလို အရည်အချင်း မရှိတော့ သူပုန်ထ ကြတယ်။ လေးနှစ် အတွင်းမှာ အသတ်ခံရတယ်။ နန်းတော်ရဲ့ ပိဋကတ်တိုက်ပါ မီးလောင် ပျက်စီး တယ်။ ချင် (Chin) မင်းဆက် လုံးဝ ပျက်စီး ရပါတော့တယ်။ ဒါပေမယ့် ရှီဟွန်ဂ်တိလုပ်ခဲ့သမျှကို ဖျက်ဆီးဖို့ မလွယ်ပါ။ သူ့လို မင်းဆိုး မရှိတာကိုတော့ တရုတ်တွေ ကျေနပ်ပါတယ်။ အရင် မင်းမဲ့ကာလကို

ပြန်သွားလိုကြတဲ့ သူတွေလည်း ရှိပါတယ်။ နောက်တက် လာတဲ့ ဟန် (Han) မင်းဆက်က ရှီဟွန်ဂ်တီရဲ့ အခြေခံ အုပ်ချုပ်ရေး စနစ်ကို ဆက်ထိန်းနိုင်လေတော့၊ တရုတ် ဧကရာဇ်နိုင်ငံကြီးဟာ သူချမှတ်ထားတဲ့ ပုံစံအတိုင်း ဆယ့်တစ်ရာစုအထိ နှစ်ပေါင်း ကြာရှည်အောင် တည်တံ့ ခဲ့ပါတယ်။ ချင်မင်းတွေ အစချမှတ်တဲ့ ဥပဒေတွေဟာ ကြမ်းတယ်၊ ဟန်မင်းတွေက လျှော့တယ်၊ ပြင်တယ်၊ နောက်ဆုံး ဥပဒေ အချုပ်ဒဿနိက (Leaglist Philosophy) ကို ဖယ်ပြီး ကွန်ဖြူးရှပ်ဝါဒကို နိုင်ငံတော်ဝါဒ လုပ်လိုက်တယ် ဆိုပေမယ့် ရှီဟွန်ဂ်တီ လုပ်ခဲ့တဲ့ ဓလေ့နဲ့ နိုင်ငံရေး စည်းလုံးမှု မပျက်ဘဲ ဆက်လက်တည်ရှိခဲ့ပါတယ်။ တရုတ်အတွက်ရော ကမ္ဘာအတွက်ပါ ရှီဟွန်ဂ်တီ အရေးပါခဲ့ပုံကို စစ်ဆေးကြည့်ရင် ထင်ရှားအောင် သိမြင်နိုင် ပါတယ်။ အနောက်တိုင်းသားတွေက တရုတ်နိုင်ငံရဲ့ ကြီးမားကျယ်ပြန့်ပုံကို အံ့သြကြတယ်။ ဒါပေမယ့် သမိုင်း တစ်လျှောက်မှာ ဘယ်တုန်းကမှ တရုတ်လူဦးရေဟာ ဥရောပ (Europe) လူဦးရေထက် မပိုဘူး။ ကွာခြားချက်က ဥရောပ ဆိုရင် နိုင်ငံငယ်ကလေးတွေ အများကြီး ပါဝင်နေတယ်။ တရုတ်ကတော့ နိုင်ငံကြီးတစ်ခုပဲ စုစည်းထားတယ်။ ဒီလိုခြားနားတာဟာ နိုင်ငံရေး၊ လူမှုရေး ကြောင့် ဖြစ်တယ်။ ပထဝီနဲ့ မဆိုင်ပါ။ အတွင်းဘက်က သဘာဝ အကန့်အကွက်တွေ ဖြစ်တဲ့ တောင်တန်းတွေ ဥရောပမှာရှိသလို တရုတ်မှာလည်း ထင်ထင်ရှားရှား ရှိတာပါပဲ။ တရုတ်တွေ တစ်လုံးတစ်စည်းတည်း ရှိနေတာဟာ ရှီဟွန်ဂ်တီမင်း တစ်ပါးတည်းရဲ့ အစွမ်း လို့တော့ ပြောလို့မရနိုင်ပါ။ တခြားလူတွေလည်း ပါတယ်။ ဥပမာ စွီဝဲန်တီ (Sui Wen Ti) လည်း ဒီကိစ္စမှာ သိပ်အရေးကြီးတဲ့ အခန်းကပါတယ်။ ဒါပေမယ့် ရှီဟွန်ဂ်တီကတော့ အရေးပါဆုံး ပုဂ္ဂိုလ် ဖြစ်ပါတယ်။ ရှီဟွန်ဂ်တီရဲ့ အကြောင်းကို ပြောကြရင် သိပ်တော်တဲ့ သူ့အမတ်ချုပ် လိဆု (Li Tsu) အကြောင်း ထည့်မပြောလို့ မရပါ။ လိဆုက ဧကရာဇ်ရဲ့ဝါဒရေးရာကို ကြိုးဆွဲ နေခဲ့တာဖြစ်လို့၊ အရေးပါတဲ့ ပြုပြင်ရေးတွေမှာ မင်းကို ကျေးဇူး ဘယ်မျှ၊ အမတ်ကို ဘယ်မျှလို့ ကန့်သတ်ပေးဖို့ ခက်ပါတယ်။ အဲဒီလိုမခွဲခြမ်းဘဲ ရှီဟွန်ဂ်တီရဲ့ ကျေးဇူးလို့ပဲ ပြောရပါတော့မယ်။ (ဘာဖြစ်လို့လဲဆိုတော့ လိဆုရဲ့ အကြံဉာဏ် ဘယ်လောက် ကောင်းကောင်း ဧကရာဇ် ကသာ ဆုံးဖြတ်ခွင့်ရှိလို့ ဖြစ်ပါတယ်။)

ကျမ်းစာအုပ်တွေ မီးတိုက်လို့ နောက်ပိုင်း ကွန်ဖြူးရှပ် ကျမ်းဆရာတွေက ရှီဟွန်ဂ်တီကို ပြစ်တင်ကဲ့ရဲ့ ရှုတ်ချကြတယ်။ မင်းဆိုမင်းညစ်၊ အယူသီးသူ၊ စိတ်ကောင်း မရှိသူ၊ လင်ကောင် မပေါ်ဘဲ မွေးဖွားသူ၊ ကိုယ်စွမ်းမရှိ အလယ် အလတ်တန်းလောက်ပဲ အရည်အချင်းရှိသူလို့ ပြောဆိုကြတယ်။ တစ်ဖက်မှာ ကွန်မြူနစ်တွေက တိုးတက်တဲ့ အမြင်ရှိသူလို့ ချီးမွမ်းကြတယ်။ အနောက်တိုင်း စာရေးဆရာတွေက ရှီဟွန်ဂ်တီကို နပိုလီယန်နဲ့ နှိုင်းတယ်။ ရောမအင်ပါယာကို တည်ထောင်တဲ့ ဩဂတ်စတပ်ဆီဇာ (Augustus Caesar) နဲ့ နှိုင်းကြည့်ဖို့ပိုသန်တယ်လို့ ထင်ပါတယ်။ သူတို့နှစ်ဦးထူထောင်တဲ့ လက်နက် နိုင်ငံတွေဟာ အကျယ်အဝန်းရော၊ လူဦးရေပါ ဆတူလောက် ရှိမယ်။ ဒါပေမယ့် ရောမ အင်ပါယာက တရုတ် လက်နက်နိုင်ငံလောက် ရေရှည်မခံဘူး၊ ဩဂတ်စတပ်ဆီဇာ အုပ်ချုပ်တဲ့ လက်အောက်ခံ နိုင်ငံတွေဟာ အကြာကြီး

မညီညွတ်၊ မတည်မြဲပါ။ တစ်ဖက်က ရှိဟွန်ဂ်တိ နိုင်ငံတော်ကတော့ ကြာရှည်ခံတယ်။ ဒါကြောင့် အခုပုဂ္ဂိုလ် နှစ်ယောက်မှာ ရှိဟွန်ဂ်တိကိုပဲ ပိုပြီး တန်ခိုးဩဇာကြီးသူလို့ ဆိုရပါတယ်။

10, May, 2000.

# (၁၈) ဩဂတ်စတပ်ဆီဇာ (ခရစ်မပေါ်မီ ၆၃ ခုနှစ် – ခရစ်နှစ် ၁၄)

## AUGUSTUS CAESAR (63 B.C. – 14 A. D.)

ရောမအင်ပိုင်ယာကို တည်ထောင်သူ ဩဂတ် စတပ်ဆီဇာ (Augustus Caesar) ဟာ သမိုင်းမှာ စွယ်စုံရ ပုဂ္ဂိုလ်တွေ (Pivotal figures) ထဲမှာ တစ်ဦး အပါအဝင်ဖြစ်ပါတယ်။ ခရစ်မပေါ်မီ တစ်ရာစုနှစ်က ရောမသမ္မတနိုင်ငံ (Roman Republic)ကို လက်စသတ် ဖျက်ဆီးတဲ့ ပြည်တွင်းစစ် (Civil War) ကို သူက အပြီးသတ် နှိမ်နင်းပြီး၊ ရောမအုပ်ချုပ်ရေး ပြန်ထူထောင်လို့ ရာစုနှစ် နှစ်ခု (နှစ်ပေါင်း ၂၀၀) လောက် ပြည်တွင်း ငြိမ်းချမ်းရေးရပြီး စည်ပင်သာယာ တိုးတက် ခဲ့တယ်။

အော့တေဗီယန် (Octavian) လို့ အခေါ်များပြီး ဩဂတ်စတပ်ဆိုတဲ့ဘွဲ့ကို အသက် သုံးဆယ့်ငါးနှစ် ရှိမှရတဲ့ ဂေယာ့စ်အော့တေဗီယာ့စ် (Gaius Octavius) ဟာ ခရစ်မပေါ်မီ ၆၃ ခုနှစ်က မွေးဖွားသူဖြစ်တယ်။ သူ့အဘိုးရဲ့ အစ်ကိုဖြစ်တဲ့ ဂျူးလီးယာ့စ်ဆီဇာ (ခရစ်မပေါ်မီ Julius Caesar ခရစ်မပေါ်မီ ၁၀၀ – ခရစ်မပေါ်မီ ၄၄ ) ဟာ သူငယ်ငယ်ကပဲ ရောမ (Rome) မှာ ထင်ရှားတဲ့ နိုင်ငံရေးခေါင်းဆောင် ဖြစ်ခဲ့တယ်။ အဲဒီအဘိုးမှာ သားမရှိလို့၊ သူ့ကိုပဲ အရေးတယူမွေးပြီး ကြီးရင် နိုင်ငံရေးလုပ်ဖို့ အစစ သွန်သင်ခဲ့တယ်။ အဲဒီလိုနေတုန်းမှာပဲ သူ့အသက် တစ်ဆယ့်ရှစ်နှစ် ကျောင်းသားဘဝ( ခရစ်မပေါ်မီ ၄၄ ခုနှစ်) မှာ သူ့အဘိုး ဆီဇာက လုပ်ကြံခံခဲ့ရလို့ ကွယ်လွန်သွားပါတယ်။ ဆီဇာသေဆုံးပြီးနောက် ရောမစစ်ဘက်၊ နိုင်ငံရေးဘက် ပုဂ္ဂိုလ်များစွာက အာဏာလုကြလို့ နှစ်ရှည်လများ ပြင်းပြင်းထန်ထန် တိုက်ပွဲတွေ ရှိခဲ့ပါတယ်။ ဒီပွဲမှာ အော့တေဗီယန်လည်း ပါတယ်။ သူ့ကိုတော့ လူငယ်မို့ မမှုလောက်ဘူးလို့ သဘောထားကြတယ်။ သူ့မှာ အရည်အချင်း အဖြစ် ပြောစရာက ဂျူလီးယာ့စ်ဆီဇာက သူ့ကို သားအဖြစ် မွေးစားခဲ့တယ်ဆိုတာပဲ ပြောစရာ ရှိတယ်။ အဲဒီအချက်ကို လိမ္မာပါးနပ်စွာအသုံးချပြီး ဆီဇာ အမှုးအချုပ်လုပ်ခဲ့တဲ့ (မြင်းအမှုထမ်းပါ သူ့ရဲ့ ၃၀၀၀ – ၆၀၀၀) ရှိတဲ့ လီဂျင်(legions) တချို့ရဲ့ ထောက်ခံမှုကို ရရှိခဲ့ပါတယ်။ ဆီဇာ (Caesar) ရဲ့တပ် အများစုကတော့ ဆီဇာနဲ့ သိပ်ရင်းနှီးပြီး မိတ်ဆွေရောင်းရင်းတစ်ဦးဖြစ်တဲ့ မတ်အန်တိုနီ (Mark Antony) ကို ထောက်ခံကြတယ်။ တိုက်ပွဲတွေ အများကြီးတိုက်ပြီး ခရစ်မပေါ်မီ ၃၆ ခုနှစ် ရောက်တဲ့အခါ ရောမနဲ့ ရောမ အောင်နိုင်ခဲ့သမျှ နယ်တွေဟာ နှစ်ပိုင်း ဖြစ်သွား

တယ်။ အရှေ့ခြမ်းကို မတ်အန်တိုနီက ပိုင်ပြီး အနောက်ခြမ်းကို အော့တေဗီယန်က ပိုင်တယ်။ သူတို့နှစ်ဦး ရန်ဘက်ပြိုင်ခြင်း ခေတ္တရပ်စဲထားကြပေမယ့် နှစ်ယောက်စလုံး သတိထား နေကြရချိန် ဖြစ်တယ်။ အဲဒီအချိန်တုန်းက အန်တိုနီက ကလီယိုပါထရာ (Cleopatra)ရဲ့ မာယာစက်ကွင်း ကျဆင်းနေခိုက် အော့တေဗီယန်က သူ့ဘက်က ခိုင်လုံအောင် တဖြည်းဖြည်း ကြိုးစားနေခဲ့ပါတယ်။ သူတို့နှစ်ဦး ခရစ်မပေါ်မီ ၃၂ ခုနှစ်မှာ စစ်တိုက်ကြပြန်တယ်။ အက်တီယမ် (Actium) ရေကြောင်းစစ်ပွဲ (ခရစ်မပေါ်မီ ၃၂ ခုနှစ်) က အဆုံးအဖြတ် ပေးပါတယ်။ အော့တေဗီယန် နိုင်တယ်။ နောက်တစ်နှစ် ဆိုရင် အော့တေဗီယန်က အပြီးအပိုင်နိုင်ပြီး အန်တိုနီနဲ့ ကလီယိုပက်ထရာ တို့နှစ်ယောက်စလုံး ကိုယ့်ကိုယ်ကို အဆုံးစီရင် သွားကြတယ်။

အော့တေဗီယန်ဟာ အဲဒီအခါ အရင် တစ်ဆယ့် ငါးနှစ်က ဂျူလီးယပ်စ်ဆီဇာရရှိခဲ့တဲ့ တန်ခိုးဩဇာ အာဏာတွေကို ရရှိလာပါပြီ။ ဆီဇာ လုပ်ကြံခံရတဲ့ အကြောင်းက ရောမသမ္မတ နိုင်ငံအစိုးရကို ဖျက်သိမ်းပြီး သူကိုယ်တိုင် မင်းကေရာဇ်လုပ်ဖို့ ရည်ရွယ်လို့ဖြစ်ပါတယ်။ ခရစ်မပေါ်မီ ၃၀ ပြည့်နှစ်ရောက်တဲ့အခါ ပြည်တွင်းစစ်တွေ နှစ်ပေါင်းအကြာကြီးတိုက်ခဲ့ပြီး သမ္မတနိုင်ငံရဲ့ ထင်ရှားတဲ့ ချို့ယွင်းချက်တွေကို အထင်အရှား မြင်လာပြီးတဲ့အခါ ရောမသား (Romans)တိုင်း အများပြည်သူ ကောင်းကျိုး ချမ်းသာကို ရှေးရှုဆောင်ရွက်တဲ့ သက်ဦးဆံပိုင်မင်း (benevolent despot) ဟာ အများဆန္ဒနဲ့ အုပ်ချုပ်တယ် ဆိုတဲ့ ပြယုဂ်ကို မဖျက်ရင် လက်ခံမယ့် သဘောရှိလာတယ်။ အော့တေဗီယန်ဟာ အထွတ်အထိပ် မရောက်မီ ရက်စက်ပြတ်သားကြမ်းတမ်းပေမယ့် မိမိလက်မှာ တန်ခိုး အာဏာမြဲပြီလို့ သိတဲ့အခါကစပြီး အင်မတန် အံ့ဩစရာ ကောင်းလောက်အောင် လူအများနဲ့ လိုက်လျောအောင် ဆောင်ရွက် လာပါတယ်။ ဆီနိတ် (Senate) အဖွဲ့ဝင်တွေရဲ့ စိတ်ချမ်းသာမှုကိုရှေးရှုပြီး သမ္မတနိုင်ငံကို ပြန်လည် တည်ထောင်မယ်လို့ ကြေညာ ပြီးနောက် သူယူထားတဲ့ရာထူးအားလုံးက နုတ်ထွက် လိုက်တယ်။ သူ့လက်ထဲမှာ စပိန်၊ ဂေါလ်နဲ့ ဆီးရီးယားနယ်တွေနဲ့ ဆိုင်တဲ့ ရာထူးကိုပဲ ချန်ထားတယ်။ စင်စစ်မှာတော့ ဒီနယ်သုံးနယ်မှာ ရောမတပ်တွေ တပ်စခန်း ချထားတော့ သူ့လက်ထဲမှာပဲ တကယ့်အာဏာက လွတ်မ သွားဘူးပေါ့။ ဆီနိတ်က ဩဂတ်စတပ်စ်ဆိုတဲ့ ဂုဏ်ထူးဆောင် ဘွဲ့ကို ထည့်သွင်းပြီး သူ့ကို ပေးပါတယ်။ သူက ဘုရင် (King) ဆိုတဲ့ဘွဲ့ကို တစ်ကြိမ်တစ်ခါမျှ မယူပါ။

အမည်ခံအားဖြင့် ရောမဟာ သမ္မတနိုင်ငံ ဖြစ်တယ်။ ဩဂတ်စတပ်စ်ဟာ ပရင့်ဆက် (princeps ထိပ်ဆုံးက ပြည်သူ) လို့ အခေါ်ပွာယ် ရပါတယ်။ လက်တွေ့မှာတော့ ကျေးဇူးတင်ပြီး အင်မတန်နွံနာတဲ့ ဆီနိတ်က ဩဂတ်စတပ်စ်ကို ကြိုက်တာ လုပ်ခွင့်ပေးတယ်။ အသက်ရှိသရွေ့ လက်တွေ့အားဖြင့် အာဏာရှင် (dictator) ပဲ ဖြစ်ပါတယ်။ ခရစ်နှစ် ၁၄ ခုမှာ သူကွယ်လွန် တဲ့အခါ ရောမမှာ သမ္မတကဘုရင်စနစ် (monarchy)ကို ကူးပြောင်းပြီး ဖြစ်လို့ သူ့ မွေးစားသားက သူ့အမွေကို ဆက်ခံဖို့ ဘာမျှ အခက်အခဲ မရှိတော့ပါ။

သမိုင်းမှာ ပြည်သူကောင်းကျိုးကို ရှေးရှုတဲ့ မင်းတွေ ထဲမှာ ဩဂတ်စတပ်စ်ဟာ အကောင်းဆုံး စံပြမင်း ဖြစ်ပါတယ်။ နိုင်ငံရေးသမား (statesman) စစ်စစ် ဖြစ်ပါတယ်။ သူက လိုက်လျောရေးဝါဒ (Conciliatory policies) တွေကို လက်ကိုင်ထားတယ်။ အဲဒီဝါဒနဲ့ ရောမ ပြည်တွင်းစစ်တွေရဲ့ဒဏ်ကြောင့် အင်မတန် ဆိုးဝါးတဲ့ မညီညွတ်မှုတွေကို ပပျောက်အောင် လုပ်ပေးနိုင်ပါတယ်။

ဩဂတ်စတပ်စ်ဟာ ရောမကို အနှစ် လေးဆယ်ကျော် အုပ်စိုးသွားတယ်။ ရှေ့အဖို့ ဥရောပမှာ သူ့ဝါဒဟာ ပျံ့နှံ့လွှမ်းမိုးနေပါတယ်။ သူ့လက်ထက်မှာ ရောမတပ် (Roman Armies) တွေက စပိန်၊ ဆွစ်ဇာလန်၊ ဂလတိယ (Galatia အာရှမိုင်နာမှာရှိတဲ့နယ်) နဲ့ ဘောလကန် (Balkans) နယ်အများကြီးကို သိမ်းပိုက် နိုင်ခဲ့ပါတယ်။ သူ့အုပ်စိုးချိန် ကုန်ဆုံးတဲ့အခါ အင်ပိုင်ယာ (empire) ရဲ့မြောက်ဘက် နယ်နိမိတ်ဟာ ရိုင်း–ဒဲန်းနျူပ် (Rhine–Danube) မြစ်ကြောင်းတန်း အတိုင်းရှိခဲ့တယ်။ နောက်လည်း ရာစုနှစ်များစွာ ဒီအတိုင်း နယ်နိမိတ်ဟာ တည်မြဲ နေပါတယ်။

အုပ်ချုပ်ရေးမှာ ဩဂတ်စတပ်စ်ဟာ အင်မတန် ကျွမ်းကျင်သူ ဖြစ်ပါတယ်။ ပြည်သူ့ဝန်ထမ်း (civil service) ကို အင်မတန် အရာရောက်အောင် တည်ဆောက်ရာမှာ သူက ရှေ့တန်းက ပါဝင်ခဲ့ပါတယ်။ အခွန်ကောက်တဲ့ပုံစံကို ပြန်လည်ပြင်ဆင်တယ်။ ရောမနိုင်ငံရဲ့ ဘဏ္ဍာရေးစနစ်ကို ပြင်တယ်။ ရောမ တပ်မတော်ကို ပြန်လည်ဖွဲ့စည်းတယ်။ အမြဲတမ်း ထမ်းဆောင်ရတဲ့ ရေတပ် (Permanent navy) ကို ဖွဲ့ခဲ့တယ်။ ကိုယ်ရံတော်တပ် ပရေတိုရီးယားဂတ် (Praetoria Guard) ကိုလည်း စည်းစည်း ကြပ်ကြပ် ဖွဲ့ပေးတယ်။ ပရေတိုရီးယားဂတ်ဟာ နောင်ရာစုနှစ် များစွာမှာ ကေရာဇ် (emperor) အတင်အချကို အရင်းကျကျ ဆောင်ရွက်နိုင်တဲ့ အထိ အရေးပါလာပါတယ်။

ဩဂတ်စတပ်စ် လက်ထက်မှာ ပိုက်ကွန်လို များပြား ကျယ်ပြန့်တဲ့ လမ်းကောင်းကြီးတွေကို ရောမ အင်ပါယာအနှံ့ ဖောက်ခဲ့တယ်။ ရောမမြို့တော်မှာလည်း ပြည်သူ့ အဆောက် အအုံကြီးတွေ အများကြီး ဆောက်ပေးတယ်။ မြို့တော်ဟာ အင်မတန် လှပတင့်တယ်လာတယ်။ ကျောင်းတော်တွေ ဆောက်တယ်။ ဩဂတ်စတပ်စ် ကိုယ်တိုင် ရှေးရောမယုံကြည်မှု (Old Roman Religion) ကို လေးလေးစားစား လိုက်နာ တယ်။ လက်ထပ်ခြင်းနဲ့ သားသမီးကို ကောင်းစွာ မွေးမြူခြင်းကို အားပေးတဲ့ ဥပဒေတွေ ပြဋ္ဌာန်း ခဲ့တယ်။

ဩဂတ်စတပ်စ်လက်ထက် ခရစ်မပေါ်မီ ၃၀ ပြည့်နှစ် ကစပြီး ရောမမှာ ပြည်တွင်းငြိမ်းချမ်းရေး ရခဲ့တယ်။

အဲဒီတော့ အကောင်းဆုံးရလဒ်က နိုင်ငံတော်မှာ သိပ်ပြီး စီးပွားဥစ္စာ ဖြစ်ထွန်းပြီး ချမ်းသာလာ ပါတယ်။ အဲဒါနဲ့ဆက်သွယ်ပြီး အနုပညာ အများကြီး ထွန်းကားတယ်။ ဩဂတ်စတပ်စ် ခေတ်ဆိုရင် ရောမစာပေရဲ့ရွှေခေတ် (Golden age) လို့တောင် တင်စားပြီး ပြောဆိုခဲ့ကြပါတယ်။ ရောမရဲ့ အကျော်ကြားဆုံး

ကဗျာဆရာဗာဂျေးလ် (Virgil) ဆိုရင် ဒီခေတ်မှာ ထွန်းကားသူဖြစ်တယ်။ အလားတူပဲ ဟောရေ့စ် (Horace) နဲ့ လိဗီ (Livy) ကတော့ ဩဂတ်စတပ်စ် အလိုမကျလို့ ရောမက ပြည်နှင်ဒဏ် သင့်သွားပါတယ်။ ဩဂတ်စတပ်စ်မှာ သားမရှိပါ။ တူတစ်ယောက်နဲ့ မြေးနှစ်ယောက်က သူ့ထက်စောပြီး သေကြလို့ မယားပါသားကို မွေးစား လိုက်ပါတယ်။ မွေးစားသား တိဗာရိယပ်စ် (Tiberius)ကို သူ့ကို ဆက်ခံသူအဖြစ်နဲ့ ထားရစ် ခဲ့ပါတယ်။ ဒါပေမယ့် အဲဒီမင်းဆက်မှာ (နောင်အခါ ကယ်လီဂုလာ Caligula တို့လို၊ နီရို Nero တို့လို) ဆိုးယုတ်သူတွေ ပါလာပြီး မကြာမီ မင်းဆက် တိမ်ကောသွားပါတယ်။

ဒါပေမယ့် ဩဂတ်စတပ်စ် လက်ထက်ကစပြီး ပြည်တွင်း ငြိမ်းချမ်းရေးကတော့ နှစ်နှစ်ရာခန့် ဆက်လက် တည်ရှိခဲ့ပါတယ်။ အဲဒီကာလကို ရောမငြိမ်းချမ်းရေးကာလ (Pax Romana) လို့ ခေါ်ပါတယ်။အဲဒီလို အကြာကြီး ဖြစ်ထွန်းခဲ့တဲ့ ငြိမ်းချမ်းရေးနဲ့ သာယာဝပြောရေး ကျေးဇူးကြောင့် ဩဂတ်စတပ်စ်နဲ့ တခြားရောမ ခေါင်းဆောင်တွေ တိုက်ခိုက်သိမ်းသွင်းထားတဲ့ နယ်တွေ အားလုံးမှာ ရောမဓလေ့ (Roman Culture) ဟာ နက်နက်ရှိုင်းရှိုင်း စိမ့်ဝင်ပျံ့နှံ့ခဲ့ပါတယ်။ ရှေးခေတ်ဟောင်းက ရောမအင်ပါယာ (Roman Empire) ဟာ အင်မတန် ကြီးကျယ်ခမ်းနားတယ်။ အမှန်လည်း ကြီးကျယ် ခမ်းနားပါတယ်။ ရှေးခေတ် ယဉ်ကျေးမှု (Civilization) ရဲ့ အခေါင်အထွတ် ရောက်တဲ့ အချိန်လို့ ဆိုရပါမယ်။ ရှေးခေတ်ဟောင်းက (အီဂျစ် Rome၊ ဘေဘီလွန် Babylonians၊ ဂျူး Jews၊ ဂရိ Greeks စသဖြင့် နိုင်ငံများစွာရဲ့) စိတ်ကူး အတွေးအခေါ်တွေ၊ ဓလေ့ဆိုင်ရာ ကောင်းလှချည့်ဆိုပေ့အချက်တွေကို အနောက်ဥရောပ (Western Europe) ရောက်အောင် သွယ်ပေးတဲ့ပြွန်ဟာ ရောမ ဖြစ်ပါတယ်။

ဩဂတ်စတပ်စ်ကို သူ့ အဘိုး ဂျူးလီးယပ်စ်ဆီဇာနဲ့ နှိုင်းယှဉ်ကြည့်သင့်ပါတယ်။ ဩဂတ်စတပ်စ် က ရုပ်ဖြောင့်တယ်၊ ဉာဏ်ကောင်းတယ်၊ အကျင့် စာရိတ္တကောင်းတယ်၊ တိုက်ရေးခိုက်ရေး တော်တယ်၊ ဒါပေမယ့် သူ့အဘိုးလို ပါရမီ (Charisma) မပါဘူး။ ပါရမီ ဆိုတာက ဒီနေရာမှာ လုပ်ဖော်ကိုင်ဖက် လက်အောက် ငယ်သားတွေက သူ့ကိုအလိုလို ကြည်ညိုလေးစားချစ်ခင်ပြီး အမိန့်အာဏာကြောင့် မဟုတ်ဘဲ ကြည်ညိုစိတ်နဲ့ ခိုင်းသမျှ လုပ်မယ်လို့ စိတ်ဖြစ်ပေါ်နေကြတာကို ဆိုလိုပါတယ်။ ဂျူလီးယပ်စ်က သူနဲ့ ရွယ်တူတန်းတူတွေကို ဩဂတ်စ်တပ်စ် လွှမ်းဆော် နိုင်တာထက် ပိုပြီး လွှမ်းဆော်သွားနိုင်တယ်။ ပြီးတော့ သူ့ရဲ့ကျော်ကြားမှုဟာလည်း တိမ်ကော မသွားဘူး။ သမိုင်းတွင်အောင် ဩဇာ အရှိန်အဝါ ရှိပုံမှာတော့ ဩဂတ်စတပ်စ်ကသာ ပါတယ်။

ဩဂတ်စတပ်စ်ကို မဟာအလက်ဇန္ဒားနဲ့လည်း နှိုင်းယှဉ် ကြည့်သင့်ပါတယ်။ သူတို့နှစ်ဦးစလုံး အသက်ငယ်ငယ်နဲ့ ကြီးကျယ်တဲ့လုပ်ငန်းတွေမှာ စတင်ပါဝင်ခဲ့ကြတယ်။ ဒါပေမယ့် ထိပ်ရောက် အောင် တက်ရာမှာ ဩဂတ်စတပ်စ်က အပြိုင်အဆိုင် အခက်အခဲ ပိုများတယ်။ စစ်ရေးစစ်ရာမှာတော့

အလက်ဇန္ဒားလောက် မထူးချွန်ပါ။ ဒါပေမယ့် လေးစားခန့်ညားလောက်အောင် များပြားတဲ့ အပြင် အောင်နိုင်တဲ့ ဒေသကို ထိန်းရာမှာလည်း တာရှည် ခံအောင် ထိန်းနိုင်တယ်။ ဒီပုဂ္ဂိုလ်ကျော်နှစ်ဦးရဲ့ ခြားနားချက်ဟာ ဒီတစ်ချက်မှာ အသိသာဆုံး ဖြစ်ပါတယ်။ သြဂတ်စတပ်စ်ကက ရေရှည် စီမံကိန်းချပုံ သိပ်ကောင်းတယ်။ ဒါကြောင့်လည်း လူ့သမိုင်းမှာ သူ့ကျေးဇူးကို ကြာရှည်လေးမြင့်စွာ တွေ့နေရတာ ဖြစ်ပါတယ်။

သြဂတ်စတပ်စ်ကို ဂျော့ဝါရှင်တန် (George Washington) နဲ့လည်း နှိုင်းယှဉ် ကြည့်သင့်ပါတယ်။ ကမ္ဘာ့သမိုင်းမှာ သူတို့နှစ်ဦး စလုံး အရေးပါအရာ ရောက်အောင် တူညီတဲ့ ဇာတ်ခုံမှာ ကပြခဲ့ပါတယ်။ ဒါပေမယ့် သြဂတ်စတပ်စ်က စိုးမိုး အုပ်ချုပ်ရတဲ့နှစ်ကာလ ပိုရှည်တယ်။ သူ့ဝါဒတွေ အောင်မြင်တာ ပိုများတယ်။

ရောမ အင်ပိုင်ယာက ကမ္ဘာ့သမိုင်းမှာ ပိုပြီး အရေးပါတဲ့ အခန်းကဏ္ဍကို သူ့ကြောင့်ရရှိခဲ့ခြင်း ဖြစ်ပါတယ်။ အဲဒါကြောင့် သူတို့နှစ်ဦးယှဉ်ရင် သြဂတ်စတပ်စ်က သာတယ်လို့ ပြောရခြင်း ဖြစ်ပါတယ်။

12, May, 2000.

# (၁၉) နီကိုလာ့စ်ကော်ပါးနီကပ်စ် (၁၄၇၃ – ၁၅၄၃)

## NICOLAUS COPERNICUS (1473 – 1543)

ပိုလန်နိုင်ငံသား နက္ခတ္တဗေဒပညာရှင်ကြီး နီကိုလာ့စ် ကော်ပါးနီကပ်စ် (Nicolaus Copernicus, Mikdaj Kopernik) ကို ပိုလန် (Poland) နိုင်ငံ ဗစ်ကျူလာ (Vistula) မြစ်၊ တိုရုန် (Torun) မြို့မှာ ၁၄၇၃မှာ မွေးဖွားခဲ့ပါတယ်။ လူရတတ်မိသားစုက ပေါက်ဖွားတာ ဖြစ်တယ်။ လူရွယ်ဘဝက ကရာကိုး (Cracow) တက္ကသိုလ်မှာ နေစဉ်ကပဲ နက္ခတ္တဗေဒကို စိတ်ပါဝင်စား ခဲ့တယ်။ အသက်အစိတ်လောက်မှာ အီတလီကို သွားပြီး၊ ဗိုလိုညာ (Bologna) နဲ့ ပဒူဝါ (Padua) တက္ကသိုလ်တွေမှာ ဥပဒေနဲ့ ဆေးပညာ သင်တယ်။ နောက်ဆုံး ဖာရာရာ (Ferrara) တက္ကသိုလ်က ခရစ်သာသနာ့ဥပဒေပါရဂူဘွဲ့( doctorate of canon law) ကို ရခဲ့တယ်။ အဲဒီနောက် အရွယ်ကြီးရင့်တဲ့အထိ ဖရော့အင်ဘာ့ခ် (Frauenburg) ဘုရားကျောင်းတော် ဝန်ထမ်း ကျမ်းစာသင်ဆရာ ဖြစ်ခဲ့ပါတယ်။ ကော်ပါးနီကပ်စ်ဟာ နက္ခတ်ဆရာ အဖြစ်နဲ့ အသက် မွေးဝမ်းကျောင်း မပြုခဲ့ဖူးပါ။ သူ့ကို သိပ်နာမည်ကြီးစေခဲ့တဲ့ ကျမ်းကို သူက အချိန်ပိုမှာ ရေးခဲ့တာ ဖြစ်ပါတယ်။ အီတလီမှာ သူနေခဲ့စဉ်က ဂရိဒဿနိကဆရာ စမော့စ် (Samos) နယ်သား (ခရစ်မပေါ်မီ သုံးရာစုနှစ်က ထွန်းကားခဲ့သူ) အရိစ်တာကပ်စ် (Aristarchus) က နေကိုဗဟိုပြုပြီး ကမ္ဘာမြေကြီး အစရှိတဲ့ဂြိုဟ်တွေဟာ လှည့်ပတ် နေတယ်ဆိုတဲ့ စိတ်ကူး (Idea) ကို ပြောကြောင်း၊ သူ စတင် သိရှိခဲ့ပါတယ်။ အဲဒီနေကို ဗဟိုပြုမှုကြမ်း (heliocentric hypothesis) ဟာ မှန်ကန် ရမယ်လို့ ကော်ပါးနီကပ်စ် သေသေချာချာ ယုံကြည်တယ်။ နောက် အသက်လေးဆယ် လောက်မှာ ဒီအကြောင်းကို သူသိသမျှ ရေ့ပြေးဖော်ထုတ် ရေးသားတဲ့ လက်ရေးစာမူ တစ်ခုကို ရင်းနှီးတဲ့မိတ်ဆွေတွေ ဖတ်ဖို့ ပေးပါတယ်။ ကော်ပါးနီကပ်စ်ဟာ နှစ်ပေါင်းများစွာ အချိန်ယူပြီး စောင့်ကြည့်လေ့လာခြင်း၊ တွက်ချက်ခြင်းတွေ လုပ်ပြီးမှ အာကာသ စက်လုံးတွေရဲ့ လှည့်ပတ်ခြင်း အကြောင်း (On the Revolution of the Celestial Spheres) ကို ရေးသား ပြုစုပါတယ်။ အဲဒီစာအုပ်ကြီးထဲမှာ သူ့သီအိုရီကို အသေးစိတ် အထောက်အထား တွေနဲ့ ပူးတွဲဖော်ပြ ရေးသားခဲ့ပါတယ်။ အသက်ခြောက်ဆယ် အရွယ် ရောက်လာတဲ့ ကော်ပါးနီကပ်စ် ဟာ ရောမ (Rome) မှာသွားပြီး ဟောပြောပွဲတွေ အစဉ်တစိုက်လုပ်တယ်။ သူ့သီအိုရီမှာ အခြေခံကျတဲ့အချက်တွေကို ပုပ် (Pope) ရဟန်းမင်းကြီး မနှစ်သက်မှာကို မရွံ့မကြောက် တင်ပြခဲ့ပါတယ်။ ဒါပေမယ့်

အသက် ခုနစ်ဆယ်နီးခါမှ အဲဒီကျမ်းကြီးကို ပုံနှိပ်ဖို့ ဆုံးဖြတ်ပါတယ်။ ပုံနှိပ်ထုတ်ဝေသူထံက ပထမ စာအုပ်ကို သူသေတဲ့ ၂၄ မေ ၁၅၄၃ ရောက်မှ ရရှိသွားပါတယ်။

အဲဒီစာအုပ်ထဲမှာ ကော်ပါးနိကပ်စ် ပြောပြတဲ့ အတိုင်း နေဟာ သူ့ဝင်ရိုးတန်း (Axis) ပေါ်မှာ လှည့်နေတယ်။ လက မြေကမ္ဘာကိုပတ်ပြီး လှည့်နေတယ်။ မြေကမ္ဘာနဲ့တကွ အခြားဂြိုဟ်တွေ ကလည်း နေကို ဝိုင်းလှည့်နေကြတယ်ဆိုတာ အတိအကျ ဖော်ပြ ရေးသား ထားပါတယ်။ ဒါပေမယ့် သူ့ရှေ့ကသွားသူတွေ အတိုင်း နေအဖွဲ့အစည်း (Solar System) နဲ့ စကေး (Scale အချိုး) ကိုတွက်တာ မမှန်ဘူး။ ပြီးတော့ လှည့်တယ်ဆိုတိုင်း ပတ်လမ်း (Orbit) ဟာ တစ်ပြိုင်နက် စက်ဝန်းကြီး (circles) ၊ စက်ဝန်းငယ် (epicycles) လှည့်ပတ်နေတယ်လို့ ပြောတာတော့ မှားတယ်။ ဒါနဲ့ သူ့သီအိုရီဟာ သင်္ချာနည်း အရ ရှုပ်နေရုံမျှမက မှားနေတယ်။ ဒါပေမယ့် ဒီကျမ်းကို ချက်ချင်း စိတ်ပါဝင်စား သူတွေ ပေါ်လာတယ်။

တခြား နက္ခတ္တဗေဒဆရာတွေ၊ အထူးသဖြင့် ဒိန်းမတ်(Denmark) နက္ခတ္တပညာရှင်ကြီး တိချိုဗရတ် (Tycho Brahe) တို့ လှုပ်ရှားလာကြပြီး၊ ဂြိုဟ်သွား ဂြိုဟ်လာကို ပိုမို တိကျအောင် လေ့လာ တွက်ချက် ကြပါတယ်။ စောင့်ကြည့်လို့ သိရတဲ့အချက်တွေ (Observational data) ကို စုပေါင်းပြီးပေးသူက တိချို ဖြစ်မယ်။ ဂျိုဟန်နစ်ကက်ပလာ (Johannes Kepler) က ဂြိုဟ်သွားဂြိုဟ်လာ (planetary motion) ရဲ့ နောက်ဆုံးပုံစံ အမှန်ကို ဖော်ထုတ်ပေးပါတယ်။ စမော့စ်နယ်သား အရီစ္စ်တာကပ်စ် (Aristarchus) က စတင်ဖော်ထုတ်တဲ့ နေကိုဗဟိုပြုမူကြမ်းက ကော်ပါးနိကပ်စ်ထက် ရာစုနှစ် တစ်ဆယ့်ခုနစ်နှစ် စောပေမယ့် လူအများက ကော်ပါးနိကပ်စ်ကိုပဲ ဒီသဘောတရားကို စတင် ဖော်ထုတ်သူလို့ ဝိုင်းပြီး ဂုဏ်ပြုကြတာလည်း စင်စစ် မမှားပါ။ အရိစ်တာ့ကပ်စ်က ဒီစိတ်ကူးကို ကတ်သီးကတ်သပ် ကြံဆပြီး ဖော်ထုတ်ပေမယ့် သက်ဆိုင်ရာ အသေးစိတ် ဆွေးနွေးတင်ပြချက်ကို လုံလောက်အောင် မပေးနိုင်လို့ သိပ္ပံနည်းကျ အသုံးချမရဘဲ ရှိခဲ့ရတယ်။

ကော်ပါးနိကပ်စ်က မူကြမ်းကို သင်္ချာနည်းနဲ့ အသေးစိတ်တွက်ပြတော့မှ အသုံးဝင်တဲ့ သိပ္ပံသီအိုရီတစ်ခု ဖြစ်လာပါတယ်။ ရှေ့ကို တင်ကြိုပြီး ဂြိုဟ်သွားဂြိုဟ်လာကို တွက်ယူလို့ ရတယ်။ နက္ခတ္တဗေဒမျှော်စင်တွေက တွက်ယူကိန်းတွေ မှန်မမှန် စောင့်ကြည့်ပြီး စစ်ဆေး နိုင်တယ်။ အဲဒီတော့မှ ရှေးက အယူဖြစ်တဲ့ မြေကမ္ဘာ (Earth) ဟာ စကြဝဠာ (Universe)ရဲ့ ဗဟိုဖြစ်တယ် ဆိုတာကို အဓိပ္ပာယ်ရှိရှိ နှိုင်းယှဉ်ကြည့်ပြီး၊ မှန်မမှန် ပြောနိုင်တာ ဖြစ်ပါတယ်။

ကော်ပါးနိကပ်စ်ရဲ့ သီအိုရီကြောင့် စကြဝဠာ ဆိုင်ရာ အယူဟောင်းကို ဖယ်ထုတ်ပြီး၊ ဒဿနိက အမြင်အားလုံးကို အကြီးအကျယ် ပြောင်းလဲ စေခဲ့ပါတယ်။ ဒါပေမယ့် အကြောင်းတစ်ခု သတိထားစရာက နက္ခတ္တဗေဒ တစ်ခုတည်းကို ရူပဗေဒ၊ ဓာတုဗေဒနဲ့ သတ္တဗေဒတို့လို ကျယ်ကျယ်ပြန့်ပြန့်

လုပ်စရာကိစ္စမရှိပါ။ တစ်မျိုး ပြောရင် (ကမ္ဘာက နေကို ပတ်သလား စသဖြင့် ...) မှန်အောင် မသိလည်း ရုပ်မြင်သံကြားစက် (television set)၊ စက်မောင်းရထား (Automobile) နဲ့ ခေတ်ဓာတုဗေဒ စက်ရုံတွေက ကော်ပါးနိကပ်စ် သီအိုရီကို လုံးဝ မသိပေမယ့် ကောင်းကောင်း တပ်ဆင်နိုင်တယ်။ (ဖာရာဒေး၊ မက်စ်ဝဲလ်၊ လဗွိုင်ဆာနဲ့ နယူတန်တို့ စိတ်ကူးတွေ မပါဘဲ အပေါ်က ပြောခဲ့တဲ့ ပစ္စည်းတွေကို တည်ဆောက်လို့ မရပါ။) ကော်ပါးနိကပ်စ်ကြောင့် တိုက်ရိုက် အကျိုးသက်လားမှု ဘာရှိသလဲလို့ ရှာရင် တွေ့မှာ မဟုတ်ပါ။ ဒီလိုဆိုတိုင်း သူ့ဆောင်ရွက်ချက်ဟာ အလဟဿဖြစ်ရမှာလား၊ ကော်ပါးနိကပ်စ် ရေးတဲ့ကျမ်းဟာ ဂယ်လီလီယို (Galileo)နဲ့ ကက်ပလာ (Capler) တို့ရဲ့ကျမ်းတွေအတွက် တကယ် အသုံးကျတဲ့ အချီးနိဒါန်း ဖြစ်ပါတယ်။

အဲဒီနှစ်ကျမ်းကလည်း နယူတန် ပေါ်ထွန်းဖို့ လမ်းပြပေးခဲ့ပါတယ်။ အဲဒါတွေသုံးပြီး နယူတန်က လှုပ်ရှားမှုနဲ့ ဆွဲငင်မှုဥပဒေ (Laws of motion and gravitation)ကို ဖော်ထုတ်နိုင်ခြင်း ဖြစ်ပါတယ်။

သမိုင်းနည်းအရ ပြောရရင် အာကာသ စက်လုံးတွေရဲ့ လှည့်ပတ်ခြင်းအကြောင်းဟာ ခေတ်နက္ခတ္တဗေဒရဲ့ အစဖြစ်ပါတယ်။ ဒါထက်ပိုပြီး အရေးပါတာက ခေတ်သိပ္ပံရဲ့အစ ဖြစ်ပါတယ်။

# (၂၀) အန်တွိုင်းလော်ရင့်လဗွိုင်ဆာ (၁၇၄၃ – ၁၇၉၄)

# ANTOINE LAURENT LAVOISIER (1743 – 1794)

ဓာတုဗေဒ ပေါ်ထွန်းကြီးပွားစေဖို့ ဆောင်ရွက် ကြရာမှာ ပြင်သစ်သိပ္ပံပညာရှင်ကြီး အန်တွိုင်းလော်ရင့် လဗွိုင်ဆာ (Antoine Laurent Lavoisier) ဟာ အင်မတန် အရေးပါသူ တစ်ဦး ဖြစ်ပါတယ်။ ပါရီမှာသူ့ကို မွေးတဲ့ ၁၉၄၃ တုန်းက ဓာတုဗေဒဟာ ရူပဗေဒ၊ သင်္ချာနဲ့ နက္ခတ္တဗေဒတို့ထက် အများကြီး နောက်ကျနေတယ်။ ဆေးစပ်သူများ (Chemists) တွေ့ရှိထားတဲ့ အကြောင်းအရာတွေ အတော်များများရှိပေမယ့် အဲဒါတွေကိုခြုံပြီး သဘောတရားအချုပ်ဆိုတဲ့ ပေါင် (ဘောင်) တစ်ခုတည်း စုစည်းပြီးထည့်ပေးဖို့ လိုနေပါတယ်။ အဲဒီအချိန်က လေနဲ့ရေကို ဒြပ်ကြီး (elements) ထဲမှာ ထည့်မထားသင့်ဘဲ ထည့်ထားကြတယ်။ ဒါထက် ပိုဆိုးတာက မီးရဲ့သဘာဝကို ကောင်းကောင်း နားမလည်ကြပါ။ မီးတောက်တဲ့ ပစ္စည်းမှန်ရင် မူကြမ်းအရ 'တေဇောဓာတ် (phlogiston)' လို့ပဲ ယူဆကြတယ်။ မီးတောက်တဲ့အခါ လောင်စာက တေဇောဓာတ်ကို လေထဲမှာထုတ်လွှင့်တယ်လို့ သာမည ယူဆထား ကြပါတယ်။

အစွမ်းအစရှိတဲ့ ဂျိုဆက်ဘလက် (Joseph Black)၊ ဂျိုဆက်ပရီးစလေ (Joseph Priestley)၊ ဟာန်နရီကာဗန်ဒစ် (Henry Cavandish) စတဲ့ လူတော်ဆေးစပ်သူတွေဟာ ၁၇၅၄ – ၁၇၇၄ အတွင်းမှာ အရေးကြီးတဲ့ ဓာတ်ငွေ့တွေ ဖြစ်တဲ့ အောက်ဆီဂျင် (Oxygen)၊ ဟိုက်ဒရိုဂျင် (hydrogen)၊ နိုက်ထရိုဂျင် (nitrogen) နဲ့ ကာဗွန်ဒိုင် အောက်ဆိုဒ် (carbondioxide) တွေကို တစ်မျိုးစီ သီးသန့်ပြီး ခွဲထုတ် ပေးနိုင်ခဲ့တယ်။ ဒါပေမယ့် သူတို့ဟာ တေဇောဓာတ် သီအိုရီကို လက်ခံထားကြတော့၊ သူတို့ ရှာဖွေ တွေ့ရှိတဲ့ ဓာတ်ပစ္စည်း (chemical substance) ရဲ့သဘာဝ၊ သို့မဟုတ် အရာရောက်ပုံကို သဘောမပေါက်ဘဲ ရှိကြပါတယ်။ အောက်ဆီဂျင်ကို ဥပမာ အားဖြင့် တေဇောဓာတ်မရှိတဲ့လေ (dephlogisticated air) လို့ ထင်တယ်။ ဆိုလိုတာက ဒီလေထဲမှာ တေဇောဓာတ် အားလုံး မရှိ၊ ကင်းစင်တယ်လို့ ထင်တယ်။ (သစ်သား တစ်စဟာ ရိုးရိုးလေပြင်မှာထက် အောက်ဆီဂျင် ထဲမှာ ပိုပြီးမြန်မြန်

လောင်ကျွမ်းသွားတယ်လို့ တွေ့တော့၊ ဖလော်ဂျစ်တန် မရှိတဲ့လေဟာ လောင်နေတဲ့ထင်းက ဖလော်ဂျစ်တန်ကို ခပ်မြန်မြန် ယူလိုက်တာဖြစ်မယ်လို့ တွက်ကြ ပါတယ်။) သိသာထင်ရှားတဲ့ အချက်က ဓာတုဗေဒမှာ တကယ် တိုးတက်ဖို့ အခြေခံအချက်တွေကို မှန်အောင် သိထားပြီးမှ ဖြစ်နိုင်တယ်။ လဗွိုင်ဆာက အစအန တွေကို အချိတ်အဆက် ကျနအောင် ပေါင်းစပ်ပြီး၊ ရုပ်လုံး ဖော်ပေးသူဖြစ်ပါတယ်။ သူ့ကြောင့် ဓာတ်သဘာဝ သီအိုရီ(chemical theory) ဟာ လမ်းမှန် ရောက်တယ်လို့ ဆိုနိုင် ပါတယ်။ လဗွိုင်ဆာက ဖလော်ဂျစ်တန် သီအိုရီဟာ မှားတယ်လို့ စတင်ပြောပါတယ်။ ဖလော်ဂျစ်တန်ဟာ ဝတ္ထုပစ္စည်း (substance) မဟုတ်ဘူး။ တောက်လောင် တယ် (Combustion) ဆိုတာ လောင်စာ (burning substance) နဲ့ အောက်ဆီဂျင်ထိတွေ့တဲ့အခါ ဖြစ်ပေါ်တဲ့ကိစ္စ ဖြစ်တယ်။ ဆက်ပြီး ပြောပြန်တာက ရေ(water) ဆိုတာ အခြေခံဝတ္ထုပစ္စည်း (elementary substance) မဟုတ်။ အောက်ဆီဂျင်နဲ့ ဟိုက်ဒရိုဂျင် ပေါင်းစပ်ထားတဲ့ ဓာတ်ပဲဖြစ်တယ်။ အဲဒီလိုပဲ လေ (Air) က မူရင်းသဘောမှာ အောက်ဆီဂျင်နဲ့ နိုက်ထရိုဂျင်ဆိုတဲ့ ဓာတ်ငွေ့နှစ်မျိုး ပေါင်းစပ် နေတာ ဖြစ်တယ်။ ဒီလို ပြောပြချက်တွေဟာ အခုခေတ်မှာ ဘာမှ အဆန်းတကြယ် ပြောတဲ့စကားတွေ မဟုတ်ဘူးပေါ့။ ဒါပေမယ့် လဗွိုင်ဆာ ထက် အသက်ကြီးသူတွေနဲ့ သူ့ရွယ်တူတွေ အဖို့တော့ သိပ်ဆန်းတဲ့စကားတွေ ဖြစ်နေတယ်။ လဗွိုင်ဆာက သူ့သီအိုရီတွေက စနစ်တကျပေါင်းစပ်ပုံဖော်ပြီး သက်သေနဲ့ တကွ တင်ပြတာတောင် ထင်ရှားတဲ့ဆေးစပ်သူ (chemists) တွေက လက်မခံပါ။ ဒါပေမယ့် လဗွိုင်ဆာရဲ့ ဓာတုဗေဒ ဒြပ်စင် (Elements of Chemistry) စာအုပ်ဟာ သိပ်ကောင်းတဲ့ လက်ကိုင်စာအုပ် (text book) ဖြစ်တယ်။ သူ့အဆိုကြမ်းကို ရှင်းလင်းတင်ပြတယ်။ သက်သေ အထောက်အထားတွေ တန်းစီပြီး ဆိုင်ရာဆိုင်ရာ ဖက်တွဲပြသတယ်။ မျိုးဆက်သစ် (younger generation) ကတော့ သိပ်ကျေနပ်ပြီး သူပြောသမျှကို လက်ခံကပါတယ်။ ရေနဲ့လေဟာ ဒြပ်ကြီးတွေ မဟုတ်ဘူးဆိုတာကို သူ့စာအုပ်မှာ လဗွိုင်ဆာက ရှင်းပြတဲ့အပြင် ဒြပ်ကြီး စာရင်းဝင်ပစ္စည်း (elementary substances) တွေရဲ့ အမည်စာရင်းကိုလည်း ရေးပေးပါတယ်။ ဒီစာရင်းမှာ အမှားနည်းနည်း ပါပေမယ့် အခုခေတ်သုံးတဲ့ ဓာတုဒြပ်စင် (Chemical Elements) စာရင်းဟာ လဗွိုင်ဆာရဲ့ စာရင်းကို အခြေခံထားပြီး ပြင်ဆင်ဖြည့်စွက် ထားတာပဲ ဖြစ်ပါတယ်။ လဗွိုင်ဆာဟာ (ဗာထိုလေ Bertholle၊ ဖောခရွိုင် Fourcroi နဲ့ ဂိတုံဒေမောဗော Guytonde Morveau တို့တွဲပြီး) ဓာတုဆိုင်ရာ နာမည်စာရင်း (chemical nomenclature) ကို ပထမဆုံးအကြိမ် စနစ်တကျ ရေးဆွဲပြီးစီးတယ်။ အဲဒီလဗွိုင်ဆာရဲ့စနစ်ကို (အခြေခံအားဖြင့် ကနေ့ထိ သုံးစွဲနေကြပါတယ်။) ဓာတ်တစ်ခုမှာ ဘာတွေ ပါဝင်တယ်ဆိုတာ ဖော်ပြရင် ဒီစာရင်းမှာ ပေးထားတဲ့ နာမည်အတိုင်း ဖော်ပြမဲ့ ဖြစ်ပါတယ်။ ဒီလိုစနစ် တစ်ခုတည်းကို တစ်ကမ္ဘာလုံးက ဆေးစပ်သူတွေ သုံးတော့ ဓာတ်အသစ်တွေ့ရင် တစ်ဦးနဲ့တစ်ဦး ဆက်သွယ် အသိပေးဖို့ သိပ်လွယ်သွားတယ်။

ဓာတုတုံ့ပြန်ခြင်း (Chemical Reaction) မှာသုံးဖို့ ဒြပ်ထုတည်မြဲခြင်း

(conservation of mass) အခြေခံ အချက်တွေကို ပထမဦးဆုံး ရှင်းလင်းပြောပြနိုင်သူဟာ လဗွိုင်ဆာပဲ ဖြစ်ပါတယ်။ မူရင်း ဝတ္ထုပစ္စည်းမှာ ပါဝင်တဲ့ဒြပ်တွေဟာ ဓာတု တုံ့ပြန်မှု ကြောင့် အစီအစဉ်တစ်မျိုး ပြောင်းပေမယ့် ပျက်စီးမသွားပါ။ အဆုံးသတ်ပစ္စည်းကို ချိန်ကြည့်ရင် အစက ပါဝင်ခဲ့တဲ့ အတိုင်း အလေးချိန် ရှိတာကို တွေ့နိုင်ပါတယ်။ ဓာတ်တုံ့ပြန်တဲ့အခါ ပါဝင်တဲ့ဓာတ်တွေကို မဖြစ်မနေ သေသေချာချာ ချိန်တွက်ပါလို့ လဗွိုင်ဆာက တိုက်တွန်းတဲ့ အခါကစပြီး ဓာတုဗေဒဟာ တိကျတဲ့ သိပ္ပံပညာရပ်တစ်ခု အဝင်အပါ ဖြစ်လာပါတယ်။ နောက်ဆက်လက် တိုးတက်ဖို့ လမ်းပေါ်ရောက်ပြီ လို့လည်း တစ်နည်း ပြောနိုင်ပါတယ်။ လဗွိုင်ဆာဟာ ဘူမိဗေဒကို အနည်းအပါး ဝင်ရောက်လေ့လာပြီး အသိသစ်တွေရအောင် ရှာဖွေ ပေးခဲ့ပါ သေးတယ်။ အများကြီး ရှာဖွေပေးတာကတော့ ဇီဝကမ္မဗေဒ (Physiology) မှာ ဖြစ်ပါတယ်။ အသေအချာ စမ်းသပ်ချက်တွေကို (လက်ပလေ့ Laplace နဲ့ တွဲဖက် အလုပ်လုပ်ရင်း) ဇီဝကမ္မဗေဒ အားထုတ်ခြင်းတစ်ခုဖြစ်တဲ့ အသက်ရှူခြင်း (Respiration) ဟာ အခြေခံအားဖြင့် အပျော့စား လောင်ကျွမ်းတဲ့ တောက်လောင်ခြင်း (slow combustion) တစ်ခုဖြစ်တယ်လို့ ပြောပြ နိုင်ပါတယ်။ လူနဲ့တိရစ္ဆာန်တွေဟာ အသက်ရှူတဲ့အခါ လေထဲမှာ ပါသွားတဲ့ အောက်စီဂျင်ကြောင့် ဇီဝပစ္စည်း (Organic material) ကို ကိုယ်ခန္ဓာအတွင်းမှာ ဖြည်းဖြည်း လောင်ကျွမ်းတဲ့အခါ လှုပ်ရှားသွားလာဖို့ စွမ်းအင် (energy) ကိုရပါတယ်။ ဒီတွေ့ရှိချက်(discovery) ဟာ ဟာဗေး(Harvey) က ခန္ဓာကိုယ်တွင်းမှာ သွေးလှည့်ပတ် သွားလာပုံ (Circulation of the blood) ကို စတင်ဖော်ထုတ်နိုင်သလို အများကြီး အကျိုးရှိတဲ့ အသစ်တွေ့ရှိချက် ဖြစ်ပါတယ်။ အဲဒါကြောင့်လည်း လဗွိုင်ဆာရဲ့အကြောင်းကို ဒီစာအုပ်မှာ ထည့်တာဖြစ်ပါတယ်။ ပြီးတော့ လဗွိုင်ဆာဟာ ဘာကြောင့် ထိပ်တန်းက အရေးပါတဲ့ပုဂ္ဂိုလ် ဖြစ်ရသလဲဆိုတော့ သူပုံစံချပေးတဲ့ ဓာတုသီအိုရီကြောင့် ဓာတုဗေဒ ဆိုတဲ့ သိပ္ပံပညာဟာ လမ်းမှန်ပေါ်မှာ ရပ်တည်ခွင့် ရခဲ့တယ်။ ဒါကြောင့် အများအားဖြင့် သူ့ကို 'ခေတ်ဓာတုဗေဒဖခင်'လို့ ခေါ်ကြပြီး သူဟာ ဒီလိုပဲ အခေါ်ခံထိုက်သူ အမှန်စင်စစ် ဖြစ်ပါတယ်။

ဒီစာအုပ်ထဲက တခြားပုဂ္ဂိုလ်တွေလိုပဲ လဗွိုင်ဆာ ဟာ ငယ်ငယ်က ဥပဒေပညာ သင်ခဲ့တယ်။ ဥပဒေဘွဲ့ ရခဲ့တယ်။ ပြင်သစ်မှာ ရှေ့နေလိုက်ခွင့် ရခဲ့တယ်။ ဒါပေမယ့် သူက တကယ်တမ်းရှေ့နေ လုပ်မစားပါ။ သူပါဝင် ဆောင်ရွက်တဲ့ နေရာတွေက အုပ်ချုပ်ရေးနဲ့ ပြည်သူ့ဝန်ထမ်း ရာထူးတွေသာ များပါတယ်။ သူက အခွန်ကောက်တဲ့ အဖွဲ့မှာလည်း တာဝန်ထမ်းဆောင်ဖူးတယ်။ ဒါကြောင့် ၁၇၈၉ ပြင်သစ်သူပုန်အပြီး တော်လှန်ရေး အစိုးရက သူ့ကိုမသင်္ကာဖြစ်တာနဲ့ သူနဲ့အတူတူ အဲဒီအခွန်ကောက် အဖွဲ့ဝင် နှစ်ဆယ့်ခုနှစ်ဦးကို ဖမ်းတယ်။ တော်လှန်ရေး ခေတ်က အများသိကြတဲ့အတိုင်း စွပ်စွဲချက်မှန်ဖို့ သိပ်တိကျအောင် စစ်ဆေးမနေပေမယ့် ဆုံးဖြတ်ချက်ချ တာတော့ မြန်တယ်။ (၈ မေ ၁၇၉၄) တစ်ရက်တည်းမှာ သူတို့ နှစ်ဆယ့်ရှစ်ယောက် စလုံးကို ရုံးတင်စစ်ဆေး စီရင်ချက်ချပြီး ခေါင်းဖြတ်သတ်လိုက်ပါတယ်။ လဗွိုင်ဆာမှာ အင်မတန်ဉာဏ်စွမ်းရှိပြီး သူလုပ်သမျှ သုတေသနမှာ ကူညီတဲ့ မယား

ကျုန်ရစ်ပါတယ်။ ခုံအဖွဲ့က အမှုစစ်တဲ့ အခါမှာ လဗွိုင်ဆာကို သက်ညှာဖို့ သိပ္ပံနဲ့ပတ်သက်ပြီး သူ ဆောင်ရွက်ခဲ့သမျှတွေကို တင်ပြပါတယ်။ တရားသူကြီးက **'တော်လှန်ရေးမှာ ဉာဏ်ကြီးရှင်တွေ (geniuses) မလိုဘူး'** (The Republic has no need of Geniuses) လို့ တိုတိုပြတ်ပြတ် ပြောပစ်ပါတယ်။ သင်္ချာဆရာကြီး လာဂရန့် (Lagrange) က သူ့လုပ်ဖော်ကိုင်ဖက် ပညာရှင်အတွက် အမှန်ကန်ဆုံး မှတ်ချက်ကတော့ **'အဲဒီခေါင်းကို ဖြတ်ပစ်ဖို့ တစ်ခဏပဲကြာမယ်။ ဒါပေမယ့် နောက်နှစ်တစ်ရာ ကြာတောင် ဒီခေါင်းမျိုး နောက်တစ်လုံး မရနိုင်ဘူး'** ဆိုတဲ့ မှတ်ချက် ဖြစ်ပါတယ်။

14, May, 2000.

# (၂၁) မဟာကွန်စတဲန်တင်း (ခရစ်နှစ် ၂၈၀ ခန့် - ၃၃၇)

## CONSTANTINE THE GREAT (c. 280 – 337)

မဟာကွန်စတဲန်တင်း (Constantine the Great) ဟာ ရောမရဲ့ ပထမဆုံး ခရစ်ယာန်သာသနာဝင် ဧကရာဇ် (emperor) ဖြစ်ပါတယ်။ သူဟာ ခရစ်ယာန်သာသနာကို ကူးပြောင်း ဝင်ရောက် လာတော့ ခရစ်ယာန်သာသနာ ကြီးပွားအောင် အထောက်အကူမျိုးစုံ လုပ်ပေးတဲ့အတွက် အရင်က သတ်ဖြတ်နှိပ်ကွပ်ခြင်းခံရတဲ့ ယုံကြည်မှုဟာ ဥရောပ (Europe) မှာ ရှေ့ဆောင် သာသနာ ဖြစ်ခဲ့ရပါတယ်။

ခရစ်နှစ် ၂၈၀ လောက်က သူ့ကိုမွေးဖွားပါတယ်။ အခုယူဂိုစလားဗီးယား ခေါ်တဲ့နိုင်ငံ နဲစပ်စ် Naisus (အခု နစ်စ် Nis) မြို့မှာ မွေးတယ်။ ဖခင်က တပ်မတော် အရာရှိကြီးဖြစ်ပြီး ဧကရာဇ် ဒိုင်အိုကလေတန် (Emperor Diocletian) နန်းစံတဲ့ နိကောမေဒီးယား (Nicomedia) မှာ ကြီးပြင်းခဲ့ပါတယ်။ ဒိုင်အိုကလေတန် ထီးနန်း စွန့်လွှတ်တဲ့ ၃၀၅ ခုမှာ ကွန်စတဲန်တင်းရဲ့ဖခင် ကွန်စတဲန်တီယပ်စ် (Constantius)က ရောမ လက်နက်နိုင်ငံ အနောက်ခြမ်းကို စိုးမိုးအုပ်ချုပ်သူ ဖြစ်လာပါတယ်။ နောက်တစ်နှစ် ကွန်စတဲန်တီယပ်စ် ကွယ်လွန်တဲ့အခါ ကွန်စတဲန်တင်းကို သူ့တပ်သားတွေက ဧကရာဇ် တင်မြှောက်ပါတယ်။ ဒါကို တခြားဗိုလ်ချုပ်ကြီးတွေက မထောက်ခံဘဲ ပြည်တွင်းစစ်တွေ အများကြီး ပေါ်ပေါက် ခဲ့ပါတယ်။ ၃၁၂ ခုနှစ်မှာ နောက်ဆုံး ဘက်ပြိုင်သူ မက်ဇဲန်တီယပ်စ် (Maxentius) ကို ရောမ အနီး မီလ်ဗီယန် တံတား (Milvian Bridge) စစ်ပွဲမှာ အောင်နိုင် လိုက်ပါတယ်။ အဲဒီအခါကစပြီး လက်နက်နိုင်ငံရဲ့ အနောက်ခြမ်း (Western Half of the Empire) မှာ ကွန်စတဲန်တင်းကို ဘက်ပြိုင်သူ မရှိပေမယ့် အရှေ့ခြမ်းမှာ လီစီနီယပ်စ်(Licinius) အမည်ခံ နောက်ဗိုလ်ချုပ်ကြီး တစ်ယောက် စိုးမိုး နေပါတယ်။ ကွန်စတဲန်တင်းက လီစီနီယပ်စ် ကိုလည်း ၃၂၃ ခုမှာ တိုက်ခိုက် အောင်မြင်တဲ့ အတွက် အဲဒီကတည်းက ကွန်စတဲန်တင်းဟာ သူသေဆုံးတဲ့ ၃၃၇ ခုထိ ရောမ လက်နက်နိုင်ငံ (Roman Empire) တစ်ခုလုံးရဲ့ ဧကရာဇ် (emperor) ဖြစ်လာပါတယ်။ ကွန်စတဲန်တင်းဟာ ဘယ်အချိန်က ခရစ်သာသနာဝင် အဖြစ် ကူးပြောင်းတယ်ဆိုတာ မသိပါ။ လူပြောများတာကတော့ မီလ်ဗီယန်တံတား စစ်ပွဲမှာ ကွန်စတဲန်တင်းက ကောင်းကင်မှာ မီးလောင်နေတဲ့ လက်ဝါးကပ်တိုင်ကို

မြင်တယ်။ တိုင်နဲ့အတူ စာတစ်ကြောင်း ကိုလည်း ဖတ်ရသတဲ့။ စာက **‘ဒီလက္ခဏာအားကိုးနဲ့ မင်းနိုင်ရမယ်’** လို့ ရေးထား တယ်။ ဘယ်အချိန်က ဘယ်လိုခရစ်သာသနာဝင် ဖြစ်တယ်ဆိုတာ အရေးမကြီးပါ။ သူက စွဲမြဲယုံကြည်စိတ် ပြင်းထန်ပြီး ခရစ်သာသနာ တိုးတက်အောင် တကယ်ကြိုးစား ဆောင်ရွက် ခဲ့ပါတယ်။ ခေတ်ဦး သူ့ဆောင်ရွက်ပုံက မီလန် အမိန့်တော် (the Edict of Milan) ကို ထုတ်ပြန်တယ်။ အဲဒီအမိန့်တော်က ခရစ်ဝါဒဟာ တရားဝင်ယုံကြည်မှုဖြစ်လို့ နှိပ်ကွပ်ခြင်း မရှိရလို့ ပြဋ္ဌာန်းလိုက်တယ်။ အဲဒီအမိန့်တော်အရ အရင် အထက်ထက်က ခရစ်ဝါဒကို နှိပ်ကွပ်စဉ်အခါမှာ ကျောင်းတော် (Church) ပိုင်ပစ္စည်းတွေကို ပြန်ပေး စေတယ်။ ပြီးတော့ တနင်္ဂနွေနေ့ကိုလည်း ဝတ်ပြုနေ့လို့ သတ်မှတ်ပေးတယ်။ မီလန် အမိန့်တော်ကို သာသနာ နှိပ်ကွပ်ရေးတွေ မရှိရဆိုတဲ့ လူအများခံယူချက်ကို အရင်းမူလ ထားပြီး ထုတ်ပြန်ခဲ့တာ မဟုတ်ပါ။ ဒါရဲ့ဆန့်ကျင်ဘက်မှ မှန်တယ်။ ကွန်စတဲန်တင်း လက်ထက်က စပြီး ဂျူးနှိပ်ကွပ်ရေး တရားဝင် စပါတော့တယ်။ ဒီနှိပ်ကွပ်ရေးဟာ ခရစ်သာသနာဝင် ဥရောပ (Christian Europe) မှာ ရာစုနှစ်ပေါင်း များစွာ ပေါ်ပေါက်ခဲ့ပါတယ်။ ကွန်စတဲန်တင်းက ခရစ်ဝါဒကို နိုင်ငံတော် သာသနာ (state religion) လို့ မသတ်မှတ်ပါ။ ဒါပေမယ့် သူပြဋ္ဌာန်းတဲ့ဥပဒေနဲ့ တခြား ပေါ်လစီတွေအရ ခရစ်ဝါဒကြီးပွားပျံ့နှံ့ဖို့ အများကြီး ဆောင်ရွက်ပေးပါတယ်။

သူ့လက်ထက်မှာပဲ ခရစ်သာသနာဝင်ထဲကို ကူးပြောင်း နိုင်ရင် ရာထူးကြီးကြီး ရနိုင်တယ်။ သူ့အမိန့်နဲ့ ကျောင်းတော်ကအခွင့်အရေး (Privilege)တွေ အများကြီး ရတယ်။ အပြစ် ကင်းလွတ်ခွင့်တွေလည်း အများကြီးရတယ်။ ကမ္ဘာကျော် ဗက်သလေဟမ် ဖွားတော်မူရာ ကျောင်းတော်(Church of the Nativity in Bathelehem) နဲ့ ဂျေရုစလင် သင်္ချိုင်းတော်ရာ ကျောင်းတော် (the Church of the Holy Sepulchre)လို ကျောင်းတော်ကြီးတွေကို သူ့လက်ထက် ကစပြီး တည်ဆောက် ခဲ့ပါတယ်။

ပထမ ခရစ်အယူရှိတဲ့ ရောမဧကရာဇ်ဆိုရုံနဲ့ပဲ ကွန်စတဲန်တင်းကို ဒီစာအုပ်မှာ ထည့်သွင်း ဖော်ပြသင့်ပါပြီ။

ဒါပေမယ့် ရှေ့အဖို့ နှစ်ရှည်လများကြာအောင် အကျိုးရှိတဲ့ တခြားဆောင်ရွက်ချက်တွေကိုလည်း ဒီနေရာမှာ ထည့်သွင်း ဖော်ပြရမှာ ဖြစ်ပါတယ်။ ပထမအတွက်က ဗိုင်ဇန်တီယမ် (Byzantium) မြို့တော်ကို ကွန်စတဲန်တီနိုပယ် (Constantinople) အခုအခေါ် အီစတန်ဘူလ် (Istanbul) အမည်သစ်ပေးပြီး ပြန်ဆောက်တယ်။ အများကြီးချဲ့တယ်။ သူ့နေပြည်တော်အဖြစ် သတ်မှတ်တယ်။ ကွန်စတဲန် တီနိုပယ် (အခုအခေါ် အီစတန်ဘူလ်)ဟာ ကမ္ဘာ့အကြီးဆုံး မြို့တော်ကြီး တစ်ခု ဖြစ်လာပါတယ်။ ၁၄၅၃ခုအထိ ရောမ အရှေ့လက်နက်နိုင်ငံရဲ့ မြို့တော် ဖြစ်ခဲ့တယ်။ အဲဒီနောက် ရာစုနှစ်ပေါင်းများစွာ ဆက်ပြီး အော်တိုမန်လက်နက်နိုင်ငံ (Ottoman Empire) ရဲ့မြို့တော် ဖြစ်ခဲ့ပါတယ်။ ခရစ် ကျောင်းတော်တွင်း သမိုင်းမှာလည်း ကွန်စတဲန်တင်းဟာ အရေးပါတဲ့နေရာက ပါဝင် ခဲ့တယ်။

(ခရစ်ကျမ်းဆရာနှစ်ဦးက ဆန့်ကျင်တဲ့ဝါဒ နှစ်မျိုးတင်တဲ့) အရိယပ်စ် (Arius) နဲ့ အသန်နာစီယပ်စ် (Athanasius) တို့ တပည့်တွေ ကိစ္စနဲ့ နိကေယ ကောင်စီ (the council of Nicaea) ကို ၃၂၅ မှာ ခေါ်ပေးရတယ်။ ကျောင်းတော်ရဲ့ ပထမအထွေထွေဆွေးနွေးပွဲကြီး (the first council of the church) ဖြစ်ပါတယ်။ အဲဒီပွဲမှာ ကွန်စတဲန်တင်းဟာ အင်မတန် အားကြိုး မာန်တက် ပါဝင်ဆောင်ရွက်ပြီး ခေတ်ဟောင်း ကျောင်းတော်ဝါဒ (Orthodox church doctrine) အဖြစ်နဲ့ နိကေန အယူ (the Nicene Creed) ကို ပြဋ္ဌာန်းခဲ့ပါတယ်။ ဒါထက်ပိုပြီး အရေးပါတာတွေက သူထုတ်ပြန်တဲ့ လူအများဆိုင်ရာဥပဒေ (Civil Legislation) ဖြစ်တယ်။ တချို့အသက်မွေးဝမ်းကြောင်း (ဥပမာ အမဲသည် butchers၊ မုန့်ဖုတ်သမား bakers) တွေကို ရိုးရာအလိုက် လုပ်စေတယ်။ နောက်အမိန့်တော်တစ်ရပ်က ကိုလိုနီ (မြေငှား တစ်မျိုး) ကို မိမိစိုက်ပျိုးရာမြေက ထွက်သွားခွင့် မပေးပါ။ ခေတ်သစ်အခေါ်အရ ကိုလိုနီ(Colony) ဟာ မြေကျွန် (Serfs) တွေ ဖြစ်လာတယ်။ မြေနဲ့လူ မကွဲမကွာ တွဲပေးခြင်းဖြစ်တယ်။ အဲဒီဥပဒေမျိုးတွေနဲ့ ခေတ်လယ်ဥရောပ လူ့အဖွဲ့အစည်း တစ်ခုလုံးကို အခြေချပေးတဲ့ ဥပဒေတွေ ဖြစ်ပါတယ်။

ကွန်စတဲန်တင်းဟာ ခရစ်ယာန် သာသနာဝင် ဖြစ်ပေမယ့် သေခါနီး (death–bed) အထိ နှစ်ခြင်းမခံပါ။ ဒီလိုခံယူချက်မရှိပေမယ့် ခရစ် သာသနာဝင်ဖြစ်တာ ကြာပါပြီ။ ထင်ရှားတဲ့အချက် တစ်ခုက ခရစ်သာသနာရဲ့ အနှစ်သာရကို သူပြည့်စုံအောင် နားမလည်ဘူးလို့လည်း တွက်ဆစရာ ရှိပါတယ်။ သူ့ခေတ်သူ့အခါကပဲ သူ့ကို မညှာမတာရက်စက်လွန်းသူလို့ ခေါ်နိုင် ပါတယ်။ ရန်သူအပေါ်မှာသာမက သူ့မယားနဲ့ သားကြီးကို ၃၂၆ မှာ ကွပ်မျက်တာဟာ ဘာကြောင့်လည်းလို့ မပြောတတ်ပါ။ ကွန်စတဲန်တင်း ခရစ်ဝါဒီဖြစ်လာတာကြောင့် သမိုင်းပုံစံတစ်မျိုး ဖြစ်မသွားပါ။ မလွဲမသွေ ဖြစ်ပေါ်လာ ရမယ့် အချက်ကို ဖွင့်ပေးလိုက်ခြင်းသာ ဖြစ်ပါတယ်။ ဧကရာဇ် ဒိုင်အိုကလီတန် (Emperor Diocletan 283–305) လက်ထက်က ခရစ်သာသနာဝင်တွေကို ရက်ရက်စက်စက် ဖိနှိပ်ခဲ့ပေမယ့် အချုပ် ပြောတော့ မအောင်မြင်ပါ။ အဲဒီအချိန်မှာ ခရစ်ဝါဒီက သိပ်ပြီး ခိုင်မာနေပြီ ဖြစ်လို့ ဘယ်လောက်ပဲ ရက်ရက်စက်စက် ဖိနှိပ်ပေမယ့် ပျောက်ကွယ်သွားတော့မှာ မဟုတ်ပါ။ ခရစ် သာသနာဝင်တွေကို နှိပ်ကွပ်ဖို့ ဒိုင်အိုကလီတန်တောင် မတတ်နိုင်ရင် ကွန်စတဲန်တင်း ဝင်မလာလည်း ခရစ်ဝါဒက အောင်မြင်တော့မှာ ဖြစ်ပါတယ်။

ဒီလိုမှန်းဆတာမျိုးလုပ်ရပါတယ်။ ဒါပေမယ့် ပိုင်ပိုင်နိုင်နိုင် နိဂုံးချုပ် မပြောနိုင်ပါ။ ကွန်စတဲန်တင်း မပေါ်လာရင် ဘယ်လိုဖြစ်မလဲ ဆိုတာလဲ ပြောဖို့ခက်တယ်။ ထင်ရှားတာက သူဝင်လာတဲ့အခါ ခရစ်ဝါဒဟာ တစ်ဟုန်ထိုး သြဇာ ပျံ့နှံ့ပြီး သက်ဝင်ယုံကြည်သူ အများကြီး ဖြစ်လာ တာပါပဲ။ လူတစ်စုသာ ယုံကြည်တဲ့ဝါဒ ကနေပြီး ရာစုနှစ်တစ်ခုအတွင်း ကမ္ဘာမှာ အကြီးဆုံး လက်နက်နိုင်ငံ (Constantine empire) ရဲ့ အားအကြီးဆုံးနဲ့ အသိအမှတ်ပြု ယုံကြည်မှု ဖြစ်လာပါတယ်။

ရှင်းရှင်းပြောရရင် ကွန်စတဲန်တင်းဟာ ဥရောပ သမိုင်းကို လက်ဝါးက လက်ခုံဆိုသလို ချက်ချင်း ပြောင်းပြန် လှန်ပြီး ပြောင်းလဲပေးသူဖြစ်ပါတယ်။ သူ့ရဲ့အဆင့်ကို ဖော်ပြရမယ် ဆိုရင် မဟာအလက်ဇန္ဒား (Alexander the Great)၊ နပိုလီယန် (Napoleon) နဲ့ ဟစ်တလာ (Hitler) တို့ထက် ပေါ်လစီသြဇာကြီးသူ ဖြစ်ပါတယ်။

14, May, 2000.

# (၂၂) ဂျိမ်းစ်ဝပ် (၁၇၃၆ – ၁၈၁၉)

# JAMES WATT (1736 – 1819)

စကော့တလန်လူမျိုး ဂျိမ်းစ်ဝပ် (James Watt) ဟာ ရေနွေးငွေ့အင်ဂျင်စက်ကို တီထွင်တဲ့အတွက် စက်မှု တော်လှန်ရေး (Industrial Revolution) မှာ တကယ့်ထိပ်သီး ခေါင်းဆောင် ဖြစ်ခဲ့ရတယ်။ အမှန် ကတော့ ဒီရေနွေးငွေ့အင်ဂျင် (Steam Engine) စက်ကို စတင်တီထွင်တဲ့သူ မဟုတ်ဘူး။ အလားတူ ဖန်တီးမှုကို ခရစ်တစ်ရာစုနှစ်က ဟီရို(Hero)မှာနေတဲ့ အလက်ဇန္ဒရီယ (Alexandria)က ဖော်ထုတ် ဖူးပါတယ်။ ရေစုပ်ဖို့ သောမတ်ဆေဗာရီ (Thomas Savery) က ၁၆၉၈ မှာ ရေနွေးငွေ့အင်ဂျင်ကို လုပ်ပြီး မှတ်ပုံတင် ခဲ့ဖူးတယ်။ အင်္ဂလိပ်အမျိုးသား သောမတ်စ်နယူကိုမဲန် (Thomas Newcomen) က ပိုပြီးစနစ်ကောင်းတဲ့ အလားတူစက်ကို ၁၇၁၂ မှာ မှတ်ပုံတင် လိုက်တယ်။ နယူကိုမဲန်ရဲ့ စက်လည်း သိပ်အားကောင်းလှတာ မဟုတ်လို့ ကျောက်မီးသွေး တွင်းထဲက ရေစုပ်ထုတ် ဖို့လောက်ပဲ အသုံးကျပါတယ်။ ဝပ် (Watt) ကိုယ်တိုင်က ၁၇၆၄ ရောက်တဲ့အခါ ရေနွေးငွေ့ အင်ဂျင်မှာ နယူကိုမဲန်ရဲ့စက်ကို နည်းနည်း ပြင်ဆင် အသုံးပြုရာက ဒါကိုပဲ ကောင်းသထက် ကောင်းအောင် လုပ်ချင်လာ စိတ်ပေါ်ခဲ့တာ ဖြစ်တယ်။ ဝပ်ဟာ တစ်နှစ်လောက်ပဲ လက်နက်ကိရိယာကို အသင့်အတင့် လုပ်တတ်အောင် လေ့ကျင့်ဖူးတာ ဖြစ်ပေမယ့် ဒီဘက်မှာ တီထွင်ညာဏ်ကြီးသူ ဖြစ်လာပါတယ်။ သူက နယူကိုမဲန်ရဲ့စက်ကို အများကြီး တိုးတက် ကောင်းမွန် အောင် လုပ်နိုင်တဲ့အတွက် သူ့ကိုပဲ ရေနွေးငွေ့အင်ဂျင်ကို စလုပ်သူလို့ ပြောလို့ ဖြစ်နိုင်စရာ ရှိပါတယ်။

ဝပ်က ပထမအနေနဲ့ သိပ်ကောင်းအောင် ပြင်လိုက်တဲ့စက်ကို ၁၇၆၉မှာ မူပိုင်မှတ်ပုံတင် ပါတယ်။

သူ့လက်ရာက အငွေ့ကို သိပ်သည်းအောင်လုပ်တဲ့ စက်ခန်းကို သီးခြားတပ်ပေးတာပဲ ဖြစ်ပါတယ်။ ပြီးတော့ ရေနွေးငွေ့သိုလှောင်အိုး (steam cylinder) ကိုလည်း ခွာပြီးတပ်ပေးထားတယ်။ နှစ်ဖက်ခတ်တဲ့အင်ဂျင် (double-acting engine) ကိုလည်း ၁၇၈၂မှာ တီထွင်လိုက်တယ်။ နောက်အစိတ်အပိုင်း တချို့မှာ နည်းနည်းစီ ပြုပြင် ပေးလိုက်တဲ့အခါ ဒီလိုသစ်ဆန်းလာတဲ့ ပစ္စည်းတွေရဲ့ သတ္တိဂုဏ်ကြောင့် ရေနွေးငွေ့ အင်ဂျင်ဟာ အရင်ကထက် အချိုးလေးဆမျှမက ပိုပြီး အားကြီး ကောင်းမွန်လာပါတယ်။ အဲဒီအခါမှာ ညာဏ်စွမ်းညာဏ်စ ကြီးကျယ် ပါပေတယ်လို့ ချီးမွမ်းရပေမယ့် သိပ်ပြီး

အသုံးမဝင်လှပါဘူးဆိုတဲ့ လက်ရာဟာ အင်မတန် ကြီးမားတဲ့ စက်မှုစွမ်းအား ပစ္စည်းတစ်ခု ဖြစ်လာ ပါတော့တယ်။

ဝပ်ဟာ (၁၇၈၁ ကပဲ) အရင်က အပြန်အလှန် သွားတဲ့စက်ကို တစ်ပတ်လည်အောင် လှည့် (rotary motion) တဲ့စက် ဖြစ်ဖို့ ဂီယာ (gear) တွေ တပ်ပေး လိုက်တယ်။ ဒီနည်းတစ်ခုတည်းနဲ့ပဲ ရေနွေးငွေ့စက်ဟာ နည်းမျိုးစုံသုံးနိုင်တဲ့စက် ဖြစ်လာပါတော့တယ်။ ဝပ်က ၁၇၈၈မှာ ဘေးကို ပြန့်ပွားစေတဲ့အထိန်း(Centrifugal governor) တပ်ပေးလိုက်တဲ့အတွက် စက်ရဲ့အမြန်နှုန်းကို လိုသလို အလိုအလျောက် ထိန်းချုပ်နိုင်တဲ့ အဖြစ်ကို ရောက်အောင် စီမံပေးတယ်။ ဖိအားပြတဲ့ဒိုင်ခွက် (pressure gauge) ၁၇၉၀၊ ဂရိချိုးတဲ့ဒိုင်ခွက်(counter)၊ လက်ကျန်ပြ တဲ့ ဒိုင်ခွက် (indicator) နဲ့ အငွေ့လျှောက်တဲ့ ပိုက်ကို အဖွင့်အပိတ်လုပ်တဲ့ ကိရိယာ (throttle valve) အပါအဝင် ပြုပြင်ချက်တွေ အမျိုးမျိုး တပ်ဆင် ပေးလိုက်တယ်။ ဝပ်ကိုယ်တိုင်က စီးပွားရေးလုပ်ငန်းသဘောကို သိပ်နားလည်တာ မဟုတ်ပါ။ အဲဒါနဲ့ ၁၇၇၅ မှာ အင်ဂျင်နီယာ လည်းဖြစ်၊ စီးပွားရေးလည်း လာဘ်မြင်၊ မက်သယူးဘိုလ်တန် (Matthew Boulton) နဲ့ ဖက်စပ် (စီးပွားဖက်) လုပ်ခဲ့ပါတယ်။ အဲဒီကစပြီးနောက် နှစ်ဆယ့်ငါးနှစ်ကြာအောင် ဝပ်ဘိုလတန်လုပ်ငန်း (firm) က ရေနွေးငွေ့ အင်ဂျင်တွေ အများကြီး ထုတ်ရောင်းနိုင်လို့ သူတို့နှစ်ယောက် အတွဲလိုက် ချမ်းသာ ကြွယ်ဝသူတွေ ဖြစ်လာကြပါတယ်။

ရေနွေးငွေ့ အင်ဂျင်ရဲ့ အသုံးဝင်ပုံကို ကုန်စင်အောင် ဋီကာချဲ့ပြီးပြောနိုင်ဖို့ ခက်တယ်။ စက်မှုတော်လှန်ရေးမှာ တခြားတီထွင်မှု (Other inventions) တွေလည်း ပါတယ် ဆိုတာ မှန်ပါတယ်။ နောက်ပြီး သတ္တုတူးဖော်ရေးမှာ ရှေးက ထက်သာတယ်။ သတ္တုအရည်ကြိုပြီး ပုံလောင်းနည်း (metallurgy) စတဲ့ လုပ်ငန်းကြီး စက်မှုတွေ မျိုးစုံရှိနေပါပြီ။ လွန်းပျံ (fly shuttle) တီထွင်သူ ဂျွန်ကေး (John Kay 1733) ၊ ဝါဖန့်စက် တီထွင်သူ ဂျိမ်းစ်ဟာဂရိစ် (James Hargreares) ၁၇၆၄တို့၏ စက်ကိရိယာတွေဟာ ဝပ်စက် ထက်စောပါတယ်။ ဒါပေမယ့် အဲဒီတီထွင်ချက် အများစုက အနည်းအပါး ပြုပြင် မွမ်းမံထားတာတွေပဲ ဖြစ်တယ်။ စက်မှု တော်လှန်ရေးကို ဘယ်စက်ကမှ သူတစ်ခုတည်းနဲ့ တော်လှန်ရေးကို ချီးမြှောက် တင်ပို့နိုင်တဲ့ စွမ်းအား မရှိပါ။ ရေနွေးငွေ့စက်ကတော့ တခနက် ချုပ်ကိုင် ဆောင်ရွက်တဲ့ စွမ်းအား ရှိတယ်။ သူသာမပါရင် စက်မှုတော်လှန်ရေး ထွန်းကား လာပုံမှာ အများကြီး ကွာခြားသွားမယ်လို့ ဆိုနိုင်တယ်။ ရှေးရှေးက လေရဟတ် (windmill)၊ ရေဘီး(waterwheels) တွေကို လူ့ခွန်အား အစား လုပ်ရှားမှုကို ပေးနိုင်တဲ့ စွမ်းအားအဖြစ်နဲ့ သုံးခဲ့ပါတယ်။ ထုတ်လုပ်နိုင်တဲ့အားကို အကုန် ဖွင့်ထုတ် မပေးနိုင်ပါ။ ရေနွေးငွေ့စက် ပေါ်လာတဲ့အခါ ဘာ အကန့်အသတ်မှ မရှိပဲ၊ ထုတ်ကုန်စွမ်းအား မြင့်မားလာတယ်။ ကုန်ထုတ်ဖို့ စွမ်းအား လိုသလို ဖန်တီးယူနိုင်တယ်။ အဲဒီတော့ ထွက်ကုန်တွေ အများကြီးတိုးပွားလာပါတယ်။ ဆီ အထွက်ကို ၁၈၃၇ က ကန့်သတ်လိုက်တော့၊ အားကုန်ခန်းရင် စက်မှုလုပ်ငန်း အားလုံး ဘယ်လိုဖောက်ပြန် ဆုတ်ယုတ်ကုန်သလဲဆိုတာ သတိထား မိကြမယ်

ထင်ပါတယ်။ အဲဒါကို သဘော ပေါက်ရင် ဝပ်ရဲ့တီထွင်မှုသာ မပါရင် စက်မှုတော်လှန်ရေး ဘယ်အခြေအနေ ရောက်သွားမယ် ဆိုတာ မှန်းဆ သိမြင်နိုင်ပါတယ်။ စက်ရုံတွေ (factories) အတွက် လိုမယ့်အားကို ပေးနိုင်စွမ်းတယ်ဆိုတဲ့ အချက်ကို ခဏထားဦး၊ ရေနွေးငွေ့ အင်ဂျင်မှာ တခြားအသုံးတွေ အများကြီး ရှိသေးတယ်။ သူကောင်း ဂျော့ဖရွိုင် ဒက်ဗန်းစ် (the Marquis de Jouffroy d’abbans) က ၁၇၈၃ မှာ လှေကို ရေနွေးငွေ့စက် တပ်ပြီး မောင်းနှင်နည်းကို တီထွင် အောင်မြင် တယ်။ ပထမဆုံး ရေနွေးငွေ့စက်အားနဲ့ မောင်းတဲ့ ရထား (Locomotive) ကို ၁၈၀၄ မှာ ရစ်ချတ် ထရေဗီသစ်ခ် (Richard Trevithick)က ပထမ စတင် တည်ဆောက်တယ်။ ဒီလို စတင် ပေါ်ပေါက်လာတဲ့ (မီးသင်္ဘော၊ မီးရထား) နှစ်မျိုးစလုံးဟာ စီးပွားရေးမှာ တွင်ကျယ် အောင်မြင်တယ်လို့ မဆိုသာ။ ဒါပေမဲ့ ဆယ်စုနှစ်ပေါင်း နည်းနည်း ကွာခြားလာတဲ့ အခါမှာတော့ မီးသင်္ဘော၊ မီးရထားတွေဟာ ကြည်းလမ်း၊ ရေလမ်း ဆက်သွယ်ရေးမှာ တကယ့်ကို တော်လှန် ပြောင်းလဲ စေနိုင်ပါတယ်။ စက်မှုတော်လှန်ရေးနဲ့ အမေရိကသူပုန်၊ ပြင်သစ်သူပုန်တွေဟာ ခေတ်ပြိုင်ဖြစ်ပါတယ်။ အဲဒါတွေ ပေါ်ပေါက်တဲ့ အချိန်က ဒီလို တိုက်ဆိုင်တာက သိပ်အရေး မပါဘူး ထင်ပေမယ့် နိုင်ငံရေးတော်လှန်မှု (Political Revolution) ထက် စက်မှုတော်လှန်မှုက လူသားတွေရဲ့ နေ့စဉ်ဘဝ ခံစားမှုကို ပိုပြီးထိရောက်အောင် ပြုပြင်နိုင်စွမ်း ရှိတယ်ဆိုတာ အခုအခါမှာတော့ သိရှိလာကြပါတယ်။ အဲဒါတွေကြောင့် ဂျိမ်းစ်ဝပ် (James Watt) ဆိုသူဟာ သမိုင်းမှာ ဩဇာ အကြီးမားဆုံး ပုဂ္ဂိုလ်ဖြစ်တယ်လို့ သတ်မှတ်ရခြင်း ဖြစ်ပါတယ်။

16, July, 2000.

# (၂၃) မိုက်ကယ်လ် ဖာရာဒေး (၁၇၉၁ – ၁၈၆၇)

# MICHAEL FARADAY (1791 – 1867)

ခုခေတ်ဟာ လျှပ်စစ်ခေတ် (Age of Electricity) ဖြစ်ပါတယ်။ လေဟာပြင်ခေတ် (The Space Age) လို့ ခေါ်သူလည်း ရှိတယ်။ အဏုမြူခေတ် (နျူကလီးယားခေတ် The Nuclear Age) ခေါ်သူလည်း ရှိတယ်။ လေဟာပြင်ကို ခရီးဆန့်တယ်။ အဏုမြူလက်နက် ကိရိယာတွေ သုံးတယ်။ ဘယ်လောက်ပဲ စွမ်းအားကြီးကြီး လူအများရဲ့ နေ့စဉ်ဘဝမှာ အထင်အရှား လွှမ်းခြုံစိုးမိုး မလာသေးပါ။ ဒါပေမယ့် လျှပ်စစ်ပစ္စည်း အမြောက်အမြားကိုတော့ အမြဲသုံး နေကြတယ်။ အမှန်က ခေတ်သစ် ကမ္ဘာမှာ လျှပ်စစ် အသုံးလောက် ပညာရပ်တိုင်းမှာ အပြီးတိုင် စိမ့်ဝင်စွဲမြဲနေတာ ဖြစ်တယ်လို့ ပြောနိုင်တယ်။

ဒီစကား မှားတယ်လို့ မငြင်းနိုင်ပါ။ လျှပ်စစ်ကို နိုင်နင်းအောင် သုံးစွဲနိုင်ဖို့ ကြိုးစား တီထွင်ဆောင်ရွက်တဲ့ ပုဂ္ဂိုလ်တွေ များပါတယ်။ ဒီပုဂ္ဂိုလ်တွေထဲမှာ ချားလ်ဩဂတ်စတိုင် ဒေကောလုံး (Charles Augustine de Coulomb)၊ ကောင့် အလက်ဇန္ဒြိ ဗောလ်တာ (Count Alessandro Volta)၊ ဟဲန်စ် ခရစ်စတီယံ ဩစတက် (Hans Christian Oersted) နဲ့ အန္ဒြေမာရေအမ်ပဲ (Andre’ Marie Ampere) တို့က အရေးအပါဆုံးဖြစ်ပါတယ်။ ဒီလူတွေ အားလုံးထက် မိုက်ကယ်ဖာရာဒေးနဲ့ ဂျိမ်းစ်ကလပ် မက်စဝဲလ်ဆိုတဲ့ အင်္ဂလိပ် သိပ္ပံပညာရှင်ကြီးတွေရဲ့ ဆောင်ရွက်ချက်က ပိုပြီးကြီးကျယ် အရာရောက် ပါသေးတယ်။ သူတို့နှစ်ယောက် ရှာဖွေတွေ့ရှိချက်က တစ်ယောက်ကို တစ်ယောက် ဖြည့်စွက်ပေးတဲ့ သဘောက များတယ်။ သူတို့နှစ်ဦး လုပ်သမျှဟာ တစ်ယောက်ကို တစ်ယောက် ဖြည့်စွက်တဲ့ သဘောပါပေမယ့် သူတို့က ပေါင်းစပ်လုပ်ကြမယ် ဆိုတဲ့ စိတ်ကူး လုံးဝမရှိပါ။ ဒါပေမယ့် တစ်ဦးစီ လုပ်သမျှဟာ အခု သူ့အတွက် ကျော်စွာစာရင်းမှာ အဆင့်မြင့်မြင့် နေရာရဖို့ ထိုက်တန်နေပါတယ်။

မိုက်ကယ်လ် ဖာရာဒေးက အင်္ဂလန်၊ နယူဝင်တန် (Newington) ဇာတိ၊ ၁၇၉၁ မှာ မွေးဖွား ခဲ့ပါတယ်။ ငယ်ငယ်က ဆင်းရဲနွမ်းပါးလို့ ကိုယ်ထူကိုယ်ထ ပညာရှာ ခဲ့ရပါတယ်။ အသက် တစ်ဆယ့်လေးနှစ်မှာ စာအုပ်ချုပ်၊ စာအုပ် ရောင်းဆိုင် တစ်ဆိုင်မှာ လုပ်သားအဖြစ် ဝင်ရောက် လုပ်ခဲ့ရတယ်။ အဲဒီမှာ စာအုပ်တွေ အများကြီးကို ဖတ်ခွင့်ရခဲ့တယ်။ အသက်နှစ်ဆယ်မှာ အင်္ဂလိပ်လူမျိုး သိပ္ပံပညာကျော် ဆာဟမ်ဖရီဒေဗီ (Sir Humphry Davy) ဟောပြော

ပို့ချချက်တွေကို တက်ရောက် နားထောင်ခွင့် ရခဲ့လို့ သိပ်အားကျပြီး ဆက်လက်တပည့်ခံလိုစိတ်ပေါ်လို့ ဒေဗီဆီကို စာရေးမိတယ်။ ဒေဗီက လက်ထောက်ခန့်တယ်။ နှစ်တယ် မကြာဘူး။ ဖာရာဒေး ကိုယ်တိုင် အရေးပါတဲ့ အသစ်တွေ့ရှိချက်တွေ လုပ်နိုင်လာတယ်။ သင်္ချာအခြေခံမှာ ညံ့ပေမယ့် ရူပဗေဒ စမ်းသပ်ချက်တွေမှာ သူ့ကို ကျော်နိုင်သူ မရှိပါ။

ဖာရာဒေးရဲ့လျှပ်စစ်မှာအရေးပါတဲ့ ပထမဆုံး စမ်းသပ် တွေ့ရှိချက်ဟာ ၁၈၂၁မှာ ထွက်လာ ပါတယ်။

အရင်နှစ်နှစ်လောက်က သြစတက် (Oersted) က ရိုးရိုးမြောက်ဘက်ပြ အိမ်မြှောင် (Ordinary magnetic compass) တစ်ခုအနားမှာ လျှပ်စစ်ဓာတ်အား စီးနေတဲ့ ဝိုင်ယာကြိုး (wire) ရှိနေရင် အိမ်မြှောင်လက်တံ (needle) ရွေ့တယ်လို့ တွေ့ရှိခဲ့တယ်။ ဖာရာဒေးက အဲဒါကိုအခြေပြုပြီး သံလိုက်ကို မရွေ့အောင် ချုပ်နိုင်ရင် ဝိုင်ယာကြိုး လှုပ်ရမယ်လို့ တွေးမိတယ်။ အဲဒီတွက်ကိန်း (hunch) နဲ့ စိတ်ကူးကို ဖော်ထုတ်တဲ့အခါ တစ်ရံတစ်ဆစ်မျှ ကြံဆ စိတ်ကူး ဖော်ထုတ်နိုင်စွမ်း မရှိတဲ့ ပစ္စည်းတစ်မျိုး ရရှိခဲ့ပါတယ်။ သံလိုက်ဝန်းကျင်မှာ ဝိုင်ယာကြိုး အခွေကို လျှပ်စစ်ဓာတ် လွှတ်ပေးတဲ့ အခါ ဝိုင်ယာကြိုးက အဆက်မပြတ် လည်ပတ်ကြောင်း တွေ့ရှိပါတယ်။ ဖာရာဒေးက ပထမဆုံးပေါ်တဲ့ လျှပ်စစ်မော်တာ(electric motor) ထည့်သွင်းခြင်း ဖြစ်ပါတယ်။ အခုလို ဖာရာဒေး တွေ့တဲ့ ပစ္စည်းဟာ ရှေးကျပေမယ့် ကနေ့ကမ္ဘာမှာ သုံးစွဲနေသမျှ လျှပ်စစ် မော်တာတွေကို ဆင်းသက် ပေါက်ဖွား ပေးတဲ့ မူလပစ္စည်း ဖြစ်ပါတယ်။ ဖော်ပြခဲ့တဲ့ အတိုင်း (မော်တာပေါ်လာတာဟာ) အင်မတန် ကြီးကျယ်တဲ့ လမ်းမကြီးကိုတောင် ဆောက်လုပ်ခြင်း ဖြစ်တယ်လို့ ဆိုနိုင်ပါတယ်။ အဲဒီလိုပြောရပေမယ့် လျှပ်စစ်ဓာတ်အားကို စတင်ဖို့ လက်ရှိတတ်စွမ်းသမျှ ဓာတုပစ္စည်းနဲ့ လုပ်တဲ့ ဘက်ထရီတွေကိုပဲ အားကိုးနေရရင် ဘယ်မှ မည်မည်ရရ အသုံးချလို့ မရနိုင်သေးပါ။ ဖာရာဒေးက သံလိုက်ဓာတ်အား (magnetism) ကိုပဲသုံးပြီး လျှပ်စစ်ဓာတ်အား (electricity) ကို ရအောင်လုပ်ယူရင် ရနိုင်တယ်။ လုပ်နည်း ရှာရမယ်လို့ ဆုံးဖြတ်တယ်။ ခုထိသိရသမျှပြောရရင် မလှုပ်နိုင်တဲ့ သံလိုက်ဟာ အနီးအနားမှာရှိတဲ့ ဝိုင်ယာကြိုးကို လျှပ်စစ် ဝင်လာအောင် (မ)သွင်းနိုင်ပါ။ ၁၈၃၁ ရောက်တဲ့အခါ ဖာရာဒေး စတင်တွေ့ရှိတဲ့ အချက်က သံလိုက်ကို ဝိုင်ယာကြိုးကွင်း (wire loop) ထဲ ထည့်ထားရင် သံလိုက်လှုပ်ဆဲမှာ ဝိုင်ယာကြိုးကွင်းထဲကို ဓာတ်အားဝင်မယ်ဆိုတဲ့ အချက်ဖြစ်ပါတယ်။ ဒီလိုဖြစ်စဉ်ကို လျှပ်စစ်သံလိုက်ညှို့ခြင်း (electromagnetic induction) လို့ခေါ်ပါတယ်။ ဒီဖြစ်စဉ်ကို ထိန်းချုပ်တဲ့ဥပဒေကို ဖာရာဒေးရဲ့နိယာမ (Faraday’s Law) ခေါ်တယ်။

အဲဒီလိုနိယာမတစ်ခုကို ဖော်ထုတ်နိုင်တာကိုပဲ ဖာရာဒေးရဲ့ တစ်ဦးတည်းလုပ်တဲ့ အကြီးဆုံး စွမ်းဆောင်ချက်လို့ ချီးမွမ်းပြောဆိုလေ့ ရှိပါတယ်။

ကြီးမားတဲ့ အထိမ်းအမှတ်ပြာသာဒ်ကြီးလို့ တင်စား ပြောရလောက်အောင် အရေးပါတဲ့ တွေ့ရှိချက် (discovery) ရဲ့ အရေးပါပုံ အကြောင်းနှစ်ချက်

ရှိပါတယ်။ ပထမအချက်က ဖာရာဒေးရဲ့နိယာမဟာ လျှပ်စစ် သံလိုက်ပညာ (electromagnetism) သီအိုရီကို ကောင်းကောင်း နားလည်ဖို့ အခြေခံကိုပေးတယ်။ ဒုတိယ အချက်က လျှပ်စစ်သံလိုက်ညှို့ခြင်း (electromagnetic induction) ကို သုံးတတ်ရင် လျှပ်စီး (electric currents) အဆက်မပြတ် ပေးနိုင်မယ်။ ဒီလိုပြောတဲ့အတိုင်း မှန်ကြောင်းကို ဖာရာဒေးက ပထမလျှပ်စစ်ဒိုင်နမို (electric dynamo) လုပ်ပြခဲ့ပါတယ်။ အခုခေတ်သစ် လျှပ်ထုတ်စက်ခေါ်တဲ့ မြို့တော်ရဲ့စက်ရုံတွေကို စွမ်းအားပေးတဲ့ စက်တွေဟာ ဖာရာဒေးရဲ့ ပစ္စည်းကိရိယာထက် အများကြီးရှုပ်ထွေးပြီး ကြီးကျယ်ပေမယ့် အရင်းခံ သဘောတရား ကတော့ လျှပ်စစ်သံလိုက်ညှို့သွင်းခြင်း အပေါ်မှာ အခြေခံတာပဲ ဖြစ်ပါတယ်။

ဓာတုဗေဒ (chemistry) နယ်မှာလည်း ဖာရာဒေက အသိသစ်တွေ ဖြည့်စွက်ပေးခဲ့ပါသေးတယ်။ (gases) ဓာတ်ငွေ့တွေကို အရည် (liquefying) ဖြစ်အောင် လုပ်နည်း တီထွင် ပေးပါတယ်။ ပြီးတော့ ဘင်ဇင်း (benzene) အပါအဝင် ဓာတုပစ္စည်းတွေ အများကြီးကို ဖော်ထုတ်ပေးခဲ့ပါတယ်။ သူရေးသားတဲ့ ကျမ်းတွေထဲမှာ အဖိုးအတန်ဆုံး ကျမ်းကတော့ လျှပ်စစ်ဓာတုဗေဒ (electrochemistry) ဆိုတဲ့ လျှပ်စီးတွေကြောင့် ဓာတုအကျိုး (chemical effects) ဖြစ်ပေါ်ပုံကို လေ့လာချက် ဖြစ်ပါတယ်။

ဖာရာဒေးဟာ အသေအချာ စမ်းသပ်ချက်တွေ လုပ်ပြီးမှ လျှပ်လိုက် (electrolyte) ပစ္စည်းနိယာမ နှစ်ချက်ကို ဖော်ထုတ်ခဲ့တယ်။ ဒီနိယာမတွေကို သူ့နာမည်နဲ့ တွဲဖက် ခေါ်ပြောလေ့ရှိပါတယ်။ ဒီနိယာမ တွေလည်း လျှပ်စစ်ဓာတုဗေဒပညာရဲ့ အခြေခံ အကြောင်းခြင်းရာတွေ ဖြစ်ပါတယ်။ တချို့အရေးပါတဲ့ ဝေါဟာရ ဥပမာ– အန်နုတ် (Anode)၊ ကတ်သုတ်(Cathode)၊ အီလက်ထရုတ် (electrode)၊ အိုင်ယွန် (iron) တွေကို ဖာရာဒေး ထွင်တယ်။ အသုံးတွင် ကျယ်လာအောင် ပြောဟောပါတယ်။

ရူပဗေဒမှာ သံလိုက်ပိုင်းဆိုင်ရာအား (magnetic lines of force) နဲ့ လျှပ်စစ်ပိုင်းဆိုင်ရာအား (electric lines of force) ဆိုတဲ့ အဖိုးတန် စိတ်ကူးတစ်ခုကို စတင် ဖော်ထုတ်ပါတယ်။ သံလိုက်ကို ရှေ့တန်းမတင်ဘဲ ဝန်းကျင်နယ်ပယ် ဆက်စပ်ပုံကိုပြောရင်း မက်စ်ဝဲရဲ့ ညီမျှခြင်း (equations) တွေကိုပါထည့်ပြီး ခေတ်ရူပဗေဒ တိုးတက်ရေး လမ်းစကို ချပေးပါတယ်။ ဝင်ရိုးစွန်းအလင်း (polarized light) ကို သံလိုက်ပြင် (magnetic field) ပေါ်ဖြတ်ပြီး လွှတ်ရင် အလင်းသန့်ခြင်း (polarization) ပြောင်းမယ်တဲ့။ ဒီကိစ္စကို စတင်ဖော်ထုတ်နိုင်တာ သိပ်ကျေးဇူးရှိတယ်။ အလင်း (light) နဲ့ သံလိုက်ဓာတ် (magnetism) ဟာ ဆက်စပ်မှု ရှိပါကလားလို့ သူပြောတော့မှ စပြီးသိလာကြတာ ဖြစ်ပါတယ်။

ဖာရာဒေးဟာ သိပ်တော်တဲ့ပုဂ္ဂိုလ်ပါ။ ရုပ်လည်း ချောတယ်။ သိပ္ပံအကြောင်း ဟောပြောရာ မှာလည်း သိပ်လူကြိုက်များတယ်။ ဒါပေမယ့် မောက်မာတဲ့စိတ် မရှိဘူး။ အကျော်အစော၊ ငွေနဲ့ ဂုဏ်ပကာသနကိုလည်း ဂရုမစိုက်ပါ။ သူ့ကို ‘ဆာ’

ဘွဲ့ ပေးတယ်။ လက်မခံပါ။ ဗြိတိသျှ အသင်းတော် ဥက္ကဋ္ဌ (the British Royal Society) တင်တာလည်း ငြင်းတယ်။ ပျော်ပျော်ရွှင်ရွှင်နဲ့ အိမ်ထောင်သက် ရှည်တယ်။ သားသမီး မထွန်းကားပါ။ အသက် ၇၆၊ ၁၈၆၇ လန်ဒန်အနားက တစ်နေရာမှာ ကွယ်လွန်တယ်။

26, July, 2000.

# (၂၄) ဂျိမ်းစ်ကလပ်မက်စ်ဝဲလ် (၁၈၃၁ – ၁၈၇၉)

## JAMES CLERK MAXWELL (1831 – 1879)

အင်္ဂလိပ်အမျိုးသားကြီး ရူပဗေဒပညာရှင် ဂျိမ်းစ်ကလပ်မက်စ်ဝဲလ် (James Clerk Maxwell) ကို လျှပ်စစ်အားနဲ့ သံလိုက်အားတွေရဲ့ အခြေခံနိယာမကို ဖော်ထုတ်နိုင်တဲ့ ညီမျှခြင်း လေးချက်တစ်စုံကို စံနည်းချ ပေးသူအဖြစ်နဲ့ လူသိများပါတယ်။ မက်စ်ဝဲလ်မပေါ်မီ နှစ်ပေါင်းအတော်ကြာကပဲ ဒီလေ့လာရေးနယ် နှစ်နယ်မှာ ကျယ်ပြန့်အောင် စစ်ဆေးစုံစမ်းပြီး ဖြစ်နေပါတယ်။ အဲဒါအပြင် ဒီအခြင်းအရာနှစ်ခုဟာ အင်မတန် နီးစပ်တယ်လို့လည်း သိနေကြပါပြီ။ လျှပ်စစ်နဲ့ သံလိုက် နိယာမတွေ နီးစပ်လှပါတယ်ဆိုပေမယ့် ဘယ်လို အခြေအနေမျိုးမှာ ဘယ်လိုဆိုတာမျိုးမှာပဲ သိကြတာ။ မက်စ်ဝဲလ်မပေါ်မီက အကုန် ခြုံငုံပြီးတော့ ဖော်ပြတဲ့ သီအိုရီ မရှိသေးပါ။

(အများကြီး အဆင့်မြင့်ပေမယ့်) အချုပ် လုပ်ထားတဲ့ ညီမျှခြင်းလေးချက်နဲ့ လျှပ်စစ်နဲ့ သံလိုက်စီဇ သရုပ်ဟာ အပြန်အလှန် ဆက်စပ်နေပုံကို မက်စ်ဝဲလ်က အတိအကျ ဖော်ပြနိုင်ပါတယ်။ အဲဒီလိုနဲ့ အင်မတန် ရှုပ်ထွေ နေတဲ့ သဘာဝ အခြင်းအရာတစ်ခုကို သူက နားလည်လွယ်တဲ့ သီအိုရီတစ်ခုနဲ့ တိတိကျကျ ရှင်းပြနိုင်ပါတယ်။ မက်စ်ဝဲလ်ရဲ့ ညီမျှခြင်းတွေကို ယခင်ရာစုနှစ် (၁၉ ရာစုနှစ်) က သီအိုရီပိုင်းနဲ့ အပိုသိပ္ပံ (Applied Science)တွေမှာပါ အနှံ့အပြား သုံးစွဲခဲ့ကြပါတယ်။ မက်စ်ဝဲလ်ရဲ့ ညီမျှခြင်းတွေဟာ အကြမ်းဖျင်း (General) ညီမျှခြင်း (Equation) တွေဖြစ်လို့ ဘယ် အခြေအနေ မှာပဲဖြစ်ဖြစ် သူတို့ကို ယူငင် အသုံးချနိုင်တဲ့အတွက် သူတို့ရဲ့ အသုံးဝင်ပုံဟာ မြင့်သထက် မြင့်လာရပါတယ်။ အရင်သိဖူးသမျှ လျှပ်စစ်နဲ့သံလိုက်နိယာမတွေကို မက်စ်ဝဲလ်က ရှင်းပြနိုင်သလို အရင်က အဖြေမပေါ်တဲ့ အကြောင်းအချက်တွေကိုလည်း ဖော်ထုတ် နိုင်ခဲ့ပါတယ်။ မက်စ်ဝဲလ်ဟာ အင်မတန်အရေးကြီးတဲ့ အသိသစ်တွေကို သူကိုယ်တိုင်ပဲ ဖော်ထုတ် ပေးခဲ့တယ်။ သူ့ညီမျှခြင်းတွေနဲ့ ဖော်ထုတ်ပြနိုင်တဲ့ အချက်တစ်ခုက **'လျှပ်စစ်သံလိုက်ဆိုင်ရာကိစ္စ (electromagnetic field) မှာ အချိန်မှန် အနေအထား လွှဲပြောင်းခြင်း (periodic Oscillation) ရှိတယ်'** ဖြစ်ပါတယ်။ ဒီလိုလွှဲပြောင်းခြင်းကို လျှပ်စစ်သံလိုက်လှိုင်း (electromagnetic waves) လို့

ခေါ်ပါတယ်။ အဲဒီလှိုင်းဟာ စဖြစ်တဲ့နေရာကနေပြီး လဟာပြင် (Space) ထဲရောက်တဲ့ အထိ ပျံ့လွင့်သွားပါတယ်။ မက်စ်ဝဲလ်က ဒီလျှပ်စစ သံလိုက်လှိုင်းဟာ အကြမ်းဖျင်း တစ်စက္ကန့်မှာ အမြန်နှုန်း ၃၀၀,၀၀၀ ကီလိုမီတာ၊ ၁၈၆၀၀၀ မိုင်ရှိတယ်လို့ တွက်ပြပြန်တယ်။ ပြီးတော့ ဒီပျံ့နှံ့နှုန်းဟာ အလင်းရောင် (light) ရဲ့ပျံ့နှံ့နှုန်းနဲ့ တစ်ထပ်တည်း တူညီတယ်လို့ ပြောတယ်။ အဲဒါကိုပဲ ထောက်ပြီး သူက အလင်းရောင်လည်း လျှပ်စစ်သံလိုက်လှိုင်းတွေထဲမှာ ပါဝင်နေတယ်လို့ ပြောတာ မှန်ကန်တယ်လို့ ပြောပါတယ်။ မက်စ်ဝဲလ်ရဲ့ညီမျှခြင်းတွေဟာ လျှပ်စစ်နဲ့သံလိုက် အခြေခံနိယာမ (basic laws) တွေဖြစ်ရုံမက မြင်ကွင်း(Optics)ရဲ့ အခြေခံနိယာမတွေလည်း ဖြစ်ပါတယ်။ အဖြစ်မှန်ကိုပြောရရင် အရင်က သိသလောက် မြင်ကွင်းနိယာမတွေကို သူ့ညီမျှခြင်းတွေနဲ့ ကောက်ယူနိုင်တဲ့ အပြင် အရင်က မသိခဲ့တဲ့ သက်ဆိုင်ရာ အချက်အလက်တွေ အများကိုလည်း သူ့ညီမျှခြင်းတွေကို သုံးပြီး ဖော်ထုတ်နိုင်ပါသေးတယ်။ မျက်စိနဲ့မြင်နိုင်တဲ့အလင်း (visible light) တစ်ခုတည်းပဲ လျှပ်စစ်သံလိုက်ဖြန့်ချက် (electromagnetic radiation) ထဲမှာ ပါဝင်တာ မဟုတ်ပါ။ မက်စ်ဝဲလ်ရဲ့ညီမျှခြင်းအရ တခြား လျှပ်စစ်သံလိုက်လှိုင်းတွေလည်း သူတို့ရဲ့ အသီးသီးလှိုင်း အရှည်ပမာဏ (wavelength) နဲ့ ဖြစ်ပေါ်နှုန်း (frequency) တွေရှိပါတယ်။ ဒီလို သီအိုရီအရ ကောက်ချက် (theoretical conclusion) ဟာ တကယ်ဟုတ်တယ်လို့ အံ့သြလောက်အောင် လက်တွေ့ပြသနိုင်သူက ဟိန်းရစ်ချ်ဟာ့ဇ် (Heinrich Hertz) ဖြစ်တယ်။ ဒီပုဂ္ဂိုလ်က မက်စ်ဝဲလ် ကြိုတင်ပြောပြ (predict) ခဲ့သလို ဟုတ်တယ်လို့ ပြနိုင်သူဖြစ်ပါတယ်။ နောက်နှစ်နှည်းနည်းကြာတော့ ဂုဂလီယယ်လ်မိုး မာကိုနီ (Guglielmo Marconi) က အဲဒီမမြင်နိုင်တဲ့လှိုင်းတွေကို ကြိုးမဲ့ဆက်သွယ်ရေး (wireless communication) မှာ အသုံးပြုနိုင်တယ်လို့ လက်တွေ့ပြသခဲ့ပြီး ရေဒီယို အသံလွှင့်စက်ကို ဖြစ်မြောက်အောင် တီထွင် ခဲ့ပါတယ်။ ကနေ့တော့ ဒါကိုပဲ တီဗွီရုပ်သံလွှင့်မှာ သုံးနေပါပြီ။ ဓာတ်မှန် (X–ray)၊ ဂမ်မာရောင်ခြည် (Gummarays)၊ အင်ဖရာရက် ရောင်ခြည် (Infrared rays)နဲ့ ခရမ်းလွန်ရောင်ခြည် (Ultraviolet rays) တွေဟာလည်း ဒီလျှပ်စစ် သံလိုက်ဖြန့်ချက်ထဲမှာ ပါဝင်ပါတယ်။ အဲဒါတွေကို မက်စ်ဝဲလ်ရဲ့ ညီမျှချက် (Maxwell’s equation) တွေကို အသုံးပြုပြီး လေ့လာကြရမှာ ဖြစ်ပါတယ်။ မက်စ်ဝဲလ် ကျော်ကြားဖို့ အရင်းခံတဲ့အချက်က လျှပ်စစ်သံလိုက်နဲ့ မြင်ကွင်း ဆိုင်ရာ တွေ့ရှိချက်တွေ ဖြစ်ပေမယ့် နက္ခတ္တဗေဒသီအိုရီ (Astronomical theory) နဲ့ သာမိုဒိုင်းနမစ် (အပူရဲ့သဘောကို လေ့လာချက်) ဆိုင်ရာ အသိဉာဏ်တွေကို ရှာဖွေဖော်ထုတ်နိုင်တာ ကြောင့်လည်း အခုလောက် ကျော်ကြား လာရတာ ဖြစ်ပါတယ်။ သူ အထူးစိတ်ပါဝင်စားတဲ့ ကိစ္စတစ်ခုက ဓာတ်ငွေ့အစွမ်းဆိုင်ရာ သီအိုရီ (Kinetic theory of gases) ဖြစ်ပါတယ်။ မက်စ်ဝဲလ်က ဓာတ်ငွေ့မော်လီကျူး (molecules of a gas)တိုင်း ပျံ့ထွက်တဲ့အမြန်နှုန်း မတူဘူးလို့ သိတယ်။ တချို့မော်လီကျူးတွေက လှုပ်ရှားမှု နှေးတယ်။ တချို့က မြန်တယ်။ တချို့ကျတော့ အဆမတန်မြန် (extremely high speed) တယ်။ မက်စ်ဝဲလ်က ဘယ်အပူရှိန်ရောက်ရင် ဘယ်ဓာတ်ငွေ့ရဲ့မော်လီကျူး အစိတ်အပိုင်းတွေ (Fraction of the molecules) ဟာ ဘယ်အမြန်နှုန်း

(Velocity)နဲ့ ရွေ့လျားမယ်လို့ ကိန်းသေနည်း (Formula) ထုတ်ပေးခဲ့တယ်။

အဲဒီနည်းကို သိပ္ပံညီမျှခြင်း (scientific equation) တွေထဲမှာ အသုံးအတွင်ကျယ်ဆုံး ညီမျှခြင်းဖြစ်ပြီး ရူပဗေဒဆိုင်ရာ ဘာသာရပ် မျိုးစုံမှာ အများဆုံး ယူငင်သုံးစွဲကြပါတယ်။ မက်စ်ဝဲလ်ရဲ့ ဖြန့်ဖြူးခြင်း (Maxwell's Distribution) လို့ ဖော်ပြလေ့ ရှိပါတယ်။

မက်စ်ဝဲလ်ကို စကော့တလန် (Scotland)၊ အီဒင်ဘတ် (Edinburgh) မှာ ၁၈၃၁ က မွေးဖွားခဲ့တယ်။ အရွယ်နဲ့ မတန်အောင် ဉာဏ်စွမ်းထက်မြက် (precocious) သူ ဖြစ်တယ်။ အသက် တစ်ဆယ့်ငါးနှစ်ကပဲ အီဒင်ဘတ် အသင်းတော် (Edinburgh Royal Society) ကို သိပ္ပံပညာဆိုင်ရာ စာတမ်း တစ်စောင်တင်သွင်းခဲ့တယ်။ အီဒင်ဘတ် တက္ကသိုလ်မှာ တက်ရောက်ပြီး ကိမ်းဘရစ်ချ် တက္ကသိုလ်က ဘွဲ့ရခဲ့တယ်။ နောက်ဆုံး ကိမ်းဘရစ်ချ်မှာ အမှုထမ်းခဲ့ပါတယ်။ အိမ်ထောင်ပြုတယ်။ သားသမီး မထွန်းကားပါ။ **'နယူတန်နဲ့ အိုင်စတိုင်းရဲ့ကြားမှာ သူ့လောက်တော်တဲ့ ရူပဗေဒ သီအိုရီပညာရှင် တစ်ယောက်မှ မရှိ'** လို့ အများကပဲ ဂုဏ်ပြုပြောဆိုလေ့ ရှိပါတယ်။ ဒီလိုတောက်ပြောင်တဲ့ဘဝဟာ ကြီးရင့်တဲ့အထိ မနေရပဲ ၁၈၇၉ မှာ ကင်ဆာ (cancer) ရောဂါနဲ့ အသက်လေးဆယ့် ရှစ်နှစ်မပြည့်ခင် ကွယ်လွန် သွားပါတယ်။

2, August, 2000.

# (၂၅) မာတင်လူသာ (၁၄၈၃ – ၁၅၄၆)

# MARTIN LUTHER (1483 – 1546)

မာတင်လူသာ (Martin Luther)က ရောမ ကက်သလစ် ကျောင်းတော်ကို စတင် အာခံတဲ့အတွက် ပရိုတက်စတင့်တော်လှန်ရေး (Protestant Revolution) ပေါ်ပေါက် လာရပါတယ်။ သူ့ကို ဂျာမနီနိုင်ငံ အိုင်စဲဗဲန် (Eisleben) မြို့မှာ ၁၄၈၃ က မွေးဖွားခဲ့ပါတယ်။ တက္ကသိုလ်ပညာ ကောင်းကောင်းရခဲ့ပြီး ခေတ္တခဏလောက် (ဖခင်ရဲ့ တိုက်တွန်းချက် ကြောင့်) ဥပဒေပညာ သင်ခဲ့ဖူးတယ်။ ဒါပေမဲ့ ဥပဒေပညာကို ကုန်အောင်မသင်ပဲ ဩဂတ်စတိနိယန် (Augustinian) ရဟန်းဘောင်ကို ကူးပြောင်းဝင်ရောက်ခဲ့ပြီး ၁၅၁၂မှာ ဂုဏ်ထူးဆောင်ဘွဲ့ (Doctor of Theology) ကို ဝတ်တင်ဘာ့ခ် (Wittenberg) တက္ကသိုလ်က ရခဲ့ပြီး မကြာမီ အဲဒီတက္ကသိုလ်ပညာ အသိုင်းအဝိုင်း (faculty) ကို ရောက်သွားပါတယ်။

တဖြည်းဖြည်း ကျောင်းတော်အပေါ်မှာ မကျေနပ် ချက်တွေ ပွားများလာတယ်။ ရောမကို ၁၅၁၀ ပြည့်နှစ်မှာ ရောက်သွားတဲ့အခါ ရောမဘုန်းကြီး (Roman Clergy) တွေ လူ့ဝတ်ကြောင်နဲ့မခြား ပေါ့ပျက် ဆိုးသွမ်းနေတာတွေ တွေ့ရှိတဲ့အခါ အင်မတန် တုန်လှုပ်ချောက်ချားသွားတယ်။ ဒါပေမဲ့ ကျောင်းတော်လုပ်ပုံတွေကို စတင် ကန့်ကွက် ရမယ်လို့ နှိုးဆော်တဲ့ အကြောင်း ကတော့ ကျောင်းတော်က ခွင့်လွှတ်လွှာ (indulgence)တွေ ရောင်းတဲ့ကိစ္စဖြစ်ပါတယ်။ (ခွင့်လွှတ်လွှာ ဆိုတာက အပြစ်ရှိပေမယ့် ဒဏ်က ကင်းလွတ်စေသတည်းလို့ ကျောင်းတော်က ရွေးနုတ်ပေးတယ်။ ဒဏ်ကျရင်လည်း စတိလောက် အချိန်တိုတိုပဲ ခံရအောင် ပြောပေးမယ် ဆိုတဲ့ သဘောဖြစ်တယ်။) လူသာက ၃၁ အောက်တိုဘာ ၁၅၁၇ မှာ နာမည်ကျော် စွဲချက် ကိုးဆယ့်ငါးချက် (Ninety-five Theses) ရေးပြီး ဝတ်တင်ဘာ့ခ် ကျောင်းတော်တံခါးမှာ သွားပြီး ချိတ်ဆွဲခဲ့တယ်။ ကျောင်းတော်ရဲ့ သိမ်ဖျင်းယုတ်ညံ့တဲ့ အမူအကျင့်တွေကို အထွေထွေ စာရင်းလုပ်ပြီး အပြင်းအထန် ရှုတ်ချတဲ့အပြင် ခွင့်လွှတ်လွှာ ရောင်းချတာကို အတိအကျ ဖော်ထုတ် တိုက်ခိုက် ပါတယ်။ စွဲချက်ကိုးဆယ့်ငါးချက် မိတ္တူတစ်စောင် ရေးကူးပြီး မိန့်(Mainz) သာသနာပိုင်ချုပ် ဆီကိုပို့တယ်။ နောက်ဒီစွဲချက်တွေကို ပုံနှိပ်ပြီး နယ်တွင်း အနှံ့အပြား ပေးဝေ ပါသေးတယ်။ လူသာရဲ့ ကျောင်းတော်ကို ကန့်ကွက်ချက်ဟာ တဖြည်းဖြည်း ကြီးကျယ်လာပြီး ရဟန်းမင်းရဲ့ Pope ဩဇာကိုမခံလို့ အတိအလင်းပြောတဲ့ အထိ ဖြစ်လာပါတယ်။ ကျောင်းတော်ရဲ့

ကောင်စီချုပ် (General Church Council) တွေကိုပါ မလေးစားနိုင်တော့ပါ။ သမ္မာကျမ်းစာ တစ်ခုတည်းကိုသာ ရှေ့ဆောင်လမ်းပြသုံးမယ်၊ ရိုးရိုးအတွေးနဲ့ ဟုတ်မဟုတ် ဆုံးဖြတ်မယ်လို့ ပြောတဲ့အထိ ဖြစ်လာတယ်။ ကျောင်းတော်က ဘယ်နည်းနဲ့မှ ဒါမျိုးကို ကျေကျေနပ်နပ် လက်သင့်ခံမှာမဟုတ်ပါ။ လူသာကို ကျောင်းတော် အရာရှိတွေက ရှေ့မှောက်ကို လာရမယ်လို့ ဆင့်ခေါ်ပြီး အကြိမ်ကြိမ် စစ်ဆေးကြားနာပြီး အယူကိုစွန့် (recant) ဖို့ အမိန့်ချတယ်။ နောက်ဆုံး မိစ္ဆာဒိဋ္ဌိလို့ စွပ်စွဲပြီး ဝမ်းလွှတ်တော် (Diet of Worms)က ၁၅၂၁ မှာ ဥပဒေချိုးဖောက်သူ (outlaw) လို့ ဆုံးဖြတ်ပြီး သူရေးသမျှကို ဖျက်ဆီးရမယ်လို့ ကြေညာ ပါတယ်။ ဒီလိုအရေးယူခံရပြီဆိုရင် လူသာကို ကားစင် တင်ပြီး မီးလောင်တိုက်သွင်းဖို့ပဲ ရှိပါတော့တယ်။ ဒါပေမဲ့ ဂျာမန်လူမျိုး အများကြီးက သူ့ကို ထောက်ခံတယ်။ နယ်ရှင်ပယ်ရှင် တန်ခိုးကြီး မင်းသားကြီးတချို့လည်း သူ့ဘက်သားတွေ ဖြစ်နေတယ်။ လူသာဟာ တစ်နှစ်လောက် ထွက်ပြေး တိမ်းရှောင်နေရတယ်။ သူ့ကို ဂျာမနီမှာ အားပေးသူများလို့ ကြီးကျယ်တဲ့ အပြစ်ဒဏ် မပေးရဲပါ။

လူသာကလည်း စာရေးတဲ့နေရာမှာ သိပ်သွက် တယ်။ သူရေးသမျှဟာ လူအများ လိုက်နာအောင် ဆွဲဆောင်နိုင်တယ်။ ဩဇာ ရှိတယ်။ သူရေးတဲ့ ကျမ်းတွေထဲမှာ အရေးအပါဆုံး ကတော့ သမ္မာကျမ်းကို ဂျာမန်ဘာသာ ပြန်ဆိုတာပဲ ဖြစ်ပါတယ်။ အဲဒီကျမ်းကြောင့် စာတတ်သူတိုင်း ကျမ်းစာတွေကို ကျောင်းတော် (Church) နဲ့ ဘုန်းကြီး (Priests) မပါဘဲ ဖတ်နိုင်ပါတယ်။ လူသာရဲ့ ဘာသာပြန်ဟာ ဂျာမန်ဘာသာစကားနဲ့စာပေကို အများကြီး ကျေးဇူးပြုနိုင်တဲ့ ကျမ်းဖြစ်လာပါတယ်။ လူသာရဲ့ ကျမ်းဂန် အယူအဆကို အခုလို အတိုကလေး ရှင်းရုံနဲ့ ဘယ်လိုမှ နားမလည်နိုင်ပါ။

သူ့သော့ချက်ကတော့ **'ယုံကြည်ချက် တစ်ခုတည်းနဲ့ အရာရာကို ကောင်းလှပြီလို့ မဆုံးဖြတ်သင့်'** ဆိုတဲ့ အချက် ဖြစ်ပါတယ်။ အဲဒီတွေးတောချက်ကို လူသာက စိန့်ပေါလ် ရေးတဲ့ စာတွေ ထဲမှာ တွေ့ရှိတယ်။ ဒါကို ဆုပ်ကိုင်ထားတယ်။ လူသာက လူ့သဘာဝဟာ ပင်ကိုကပဲ အပြစ်နဲ့ ညစ်နွမ်းနေလို့ ကောင်းတဲ့ အလုပ်တစ်ခုတည်းနဲ့ ငရဲမှ ကင်းလွတ်တော့လို့ မကယ်နိုင်။ လွတ်မြောက်ခြင်း (Salvation)ကို ယုံကြည်မှုကရမယ်။ ထာဝရဘုရား (God selling indulgences) သာလျှင် ကယ်တင် နိုင်တယ်။ ဒီလိုဆိုရင် ကျောင်းတော်က ကင်းလွတ်ခွင့် ရောင်းနေဖို့ မသင့်၊ အကျိုးမရှိ။ အမှန်ကိုပြောရင် ခရစ်သာသနာဝင် တစ်ဦးနဲ့ ထာဝရဘုရားကြားမှာ ကျောင်းတော်ဟာ မရှိမဖြစ်၊ ကြားကနေရမယ်လို့ အစဥ်အလာ ယူဆတာဟာ မှားတယ်။ လူသာရဲ့အယူကို လိုက်ရင် ရောမ ကက်သလစ် ကျောင်းတော်ရဲ့ ဖြစ်ပျက်ခြင်း မူလ အကြောင်းအရာ (raison d'etre) ဟာ တစ်ခါတည်း ပျက်စီးတိမ်ကော သွားမယ်။ ကျောင်းတော် မရှိလျှင် ဖြစ်တယ်လို့ ပြောတဲ့အပြင် ကျောင်းတော်ရဲ့ ယုံကြည် ဆောင်ရွက်ချက် များစွာကို အတိအကျ ဖော်ပြပြီး ဆက်လက် မလုပ်သင့်ကြောင်း ပြောဆိုတယ်။ ဥပမာ – အပြစ်က စင်ကြယ်သွားအောင် ပြုပြင်ပေးတဲ့ နေရာရှယ်လို့ နေရာသီးခြားရှိ။ ဘုန်းကြီး (ကလာဂျီ clergy) တွေ အိမ်ထောင် မပြုရလို့

တားဆီးတာတွေကို မပြုရလို့ ပြောပါတယ်။ သူကိုယ်တိုင်လည်း အရင်က သီလရှင်နန်း (non) လူထွက်တစ်ယောက်ကို လက်ထပ်ပြီး ကလေး ခြောက်ယောက် ရပါတယ်။ လူသာဟာ သူ့ဇာတိမြို့ ဖြစ်တဲ့ အိုင်စဲဗန်မှာပဲ ၁၅၄၆ မှာ ကွယ်လွန် သွားပါတယ်။

မာတင်လူသာဟာ အမှန်ကတော့ ပေါ်ပေါက် လာတဲ့ ကန့်ကွက်သူ (protestant) အမည်ခံ တွေးခေါ်ပညာရှင် တစ်ယောက် မဟုတ်ပါ။ သူ့ထက် နှစ်တစ်ရာစောပြီး ကျောင်းတော်ကို ဝေဖန်သူ ယန်ဟာ့စ် (Jan Hus) ဟာ ဘိုးဟေးမီးယား (Bohemia) မှာ ပေါ်ခဲ့တယ်။ တစ်ဆယ့်လေး ရာစုနှစ်တုန်းက အင်္ဂလန်မှာ ပညာရှင် ဂျွန်ဝိုကလစ် (John Wycliffe) ဟာ ကျောင်းတော်ကို ဝေဖန်ဖူးတယ်။ တစ်ဆယ့်နှစ် ရာစုနှစ်က ပြင်သစ် အမျိုးသား ပီတာဝါလ်ဒို (Peter Waldo) ကို အစောဆုံး ကန့်ကွက်သူလို့ အမှန်တကယ် ခေါ်ရမှာပါ။ ဒါပေမယ့် အဲဒီလို ရှေးက ပြောဆိုလှုပ်ရှား ခဲ့တာတွေက မကျယ်ပြန့်၊ ဒေသအလိုက် ကွက်ကွက်ကလေးပဲ ရှိခဲ့တယ်။ ၁၅၁၇ ရောက်တဲ့ အခါမှာတော့ ကက်သလစ် ကျောင်းတော်ကို မကျေနပ်သူတွေက နေရာအနှံ့ဆိုသလို အများအပြား ရှိနေပြီဖြစ်လို့ လူသာ ပြောလိုက်တဲ့ စကားတွေက သံကြိုးကွင်းဆက်လို အနှံ့အပြား အကွာအဝေး မီးထတောက်အောင် မီးတို့ ပေးသလိုဖြစ်ပြီး ဥရောပအနှံ့ ပျံ့သွားပါတယ်။

ဒါကြောင့် လူသာကိုပဲ ပြုပြင်ရေးကို အစပြုတဲ့ ပုဂ္ဂိုလ်ဖြစ်ပါတယ်လို့ ခေါ်သင့်ခေါ်ထိုက် ပါတယ်။

ပြုပြင်ရေး (Reformation) ရဲ့အဆက်၊ အထင်ရှားဆုံး ဖြစ်ရပ်ကတော့ ကန့်ကွက်ဂိုဏ်း (Protestant Sect) တွေ အများကြီး ပေါ်ပေါက် လာပါတယ်။ အမှန်တကယ်က ကန့်ကွက်ဝါဒ (Protestantism) ဟာ ပင်မဖြစ်တဲ့ ခရစ်ဝါဒရဲ့ အကိုင်းအခက်တစ်ခု ဖြစ်တယ်။ ဒါပေမယ့် အကိုင်းအခက်တွေ အင်မတန်များတယ်လို့ မပြောနိုင်ပါ။ အဲဒါအပြင် ဗုဒ္ဓသာသနာကို ယုံကြည်တဲ့လူထက် ကန့်ကွက်ဝါဒကို လက်ခံသူက ပိုများတယ်။ တကယ် ကတော့ အခြားအယူဝါဒအများစုထက် ပိုပြီးများပါတယ်။ ပြုပြင်ရေးရဲ့ ဒုတိယ အရေးပါတဲ့ အကျိုးဆက်က ဥရောပမှာ သာသနာရေးစစ်ပွဲတွေ အနှံ့အပြား ပေါ်ပေါက်ခဲ့ပါတယ်။ (နမူနာပြောရရင် ၁၆၁၈က ၁၆၄၈ ထိ ဂျာမနီမှာ ပေါ်ပေါက်ခဲ့တဲ့) နှစ်သုံးဆယ်စစ် (Thirty Years War) ဟာ အင်မတန် ရိုင်းစိုင်းရက်စက်တဲ့ သတ်ဖြတ်ပွဲကြီး တစ်ခုဖြစ်ခဲ့ပါတယ်။ တကယ် တိုက်ခိုက်တဲ့ စစ်တွေ အပြင် ကက်သလစ်နဲ့ ပရိုတက်စတင့် နိုင်ငံရေးမှာ ပြိုင်ဆိုင်ကြတာတွေပဲ ဥရောပမှာ နောက်ထပ် နှစ်ပေါင်း ရာနဲ့ချီပြီး အချိန်အကြာကြီး ဖြစ်ပွားနေပါတယ်။ ပြုပြင်ရေးဟာ အနောက်ဥရောပမှာ ဉာဏ်ပညာ ထွန်းကားလာခြင်းကို ပေါ်ပေါက်စေတဲ့ အကြောင်းအချက် ထဲမှာ အရေးပါပြီး ထက်မြက်တဲ့ အကြောင်းရင်း တစ်ခု ဖြစ်ပါတယ်။ ရောမကက်သလစ်ကျောင်းတော်အမည်နဲ့ ၁၅၁၇ မတိုင်မီက အများ အသိမှတ်ပြုပြီး ခိုင်ခန့် တည်မြဲတဲ့ ကျောင်းတော်ဆိုလို့ ဒီတစ်ခုပဲရှိပြီး အဲဒီကျောင်းတော်က ဖဲ့ထွက်သူပေါ်ကို မိစ္ဆာဒိဋ္ဌိ (heretics) လို့ သတ်မှတ်

လိုက်တယ်။ ဒီအခြေအနေ အတိုင်းဆိုရင် လွတ်လပ်စွာ တွေးခေါ်လို့ မဖြစ်၊ ဒါမျိုးကို အားမပေး အခွင့်မပြု ဆိုသလို အဟန့်အတား ဖြစ်နေတယ်။ ပြုပြင်ရေး ပြီးချိန်ကစပြီး နိုင်ငံပေါင်း များစွာမှာပဲ ယုံကြည်မှုမှာ လွတ်လပ်စွာ တွေးခေါ်ရမယ်ဆိုတဲ့ အခြေခံ သဘောကို လက်ခံလာကြပြီး တခြား အကြောင်းအရာတွေမှာပဲ အနှောင့်အယှက်မရှိ၊ အန္တရာယ် ကင်းတယ်လို့ တွေးခေါ်လာကြတယ်။ သတိပြုသင့်တဲ့ တခြားအကြောင်းအချက် တစ်ခု ရှိပါသေးတယ်။ ဒီကျော်စွာ တစ်ရာစာရင်းမှာ အများစုက ဂရိတ်ဗြိတိန်က ပုဂ္ဂိုလ်တွေဖြစ်ပြီး ဂျာမနီက ဒုတိယ လိုက်ပါတယ်။ အဲဒါအပြင် ဒီစာရင်းပါလူတွေ အများစုက မြောက်ဥရောပနဲ့ အမေရိကမှာရှိတဲ့ ပရိုတက်စတင့် နိုင်ငံတွေက လူတွေပဲ များနေတယ်။ အဲဒါအပြင် (ဂုတန်ဗတ်) နဲ့ သျှာလမိန်တို့ နှစ်ဦးပဲ ၁၅၁၇ မတိုင်မီက ပေါ်ထွက်ခဲ့တာ ဖြစ်ပါတယ်။ အဲဒီရက် မတိုင်ခင်က ဆိုရင် ဒီကျော်စွာ စာရင်းထဲမှာ တခြားကမ္ဘာက လူတွေပဲ ပါဝင်ခဲ့တယ်။ အခု ပရိုတက်စတင့်နိုင်ငံတွေက လူတွေဟာ လူ့ဓလေ့ သမိုင်းမှာ ဘာမျှ ထွန်းထွန်းပေါက်ပေါက် လုပ်ခဲ့ဖူးပုံ မပေါ်ပါ။ အဲဒီတော့ ထင်ရှားလာတဲ့ အချက်က ပရိုတက်စတင့် ဝါဒခေါ်တဲ့ ပြုပြင်ရေးဟာ အရင်အနှစ် ၄၅၀ အတွင်းက အင်မတန် ထင်ရှားတဲ့လူတွေ အများကြီး ပေါ်လာအောင် စေ့ဆော် ပေးခဲ့တယ်လို့ တစ်နည်းတစ်လမ်း ပြောရမလို ဖြစ်နေပါတယ်။ ဒီဒေသတွေမှာ ဉာဏ်ကို လွတ်လပ်ကျယ်ပြန့်စွာ တွေးနိုင်ခွင့် ရှိလို့ဆိုတဲ့အချက်ဟာ အင်မတန် အရေးပါတဲ့ အခြင်းအရာ တစ်ခု ဖြစ်လာပါတယ်။ လူသာကို အပြစ်ကင်းစင်သူလို့ မပြောနိုင်ပါ။ သူကိုယ်တိုင်က သာသနာရေးမှာ အရာ ရောက်သူ၊ အာဏာပိုင်တွေကို တော်လှန် ပုန်ကန်ခဲ့ပေမယ့် သာသနာရေး ဆွေးနွေးရာမှာ သူနဲ့ သဘောမတူတဲ့ လူတွေကို နည်းနည်းမှ သည်းခံပြောဆိုလေ့ မရှိသူဖြစ်ပါတယ်။ သူ့ရဲ့ သည်းမခံစိတ်ကို အတုယူပြီး ဂျာမနီမှာ သာသနာရေး စစ်တိုက်ကြတဲ့အခါ သိပ်ပြင်းထန် ရက်စက်ကြတယ်လို့ ပြောရင် ဖြစ်နိုင်တယ်။ ဘာပြုလို့လဲဆိုတော့ အင်္ဂလန် လိုနေရာမှာတော့ ဂျာမနီမှာလောက် ပြင်းထန်ရက်စက်ခြင်း မရှိပါ။ ပြီးတော့ လူသာဟာ ဆီမိတစ်ဆန့်ကျင်ရေး (Anti-Semitic) မှာလည်း ပြင်းထန် ရက်စက်တယ်။ အဲဒါကြောင့် နောင်အခါ နှစ်ဆယ် ရာစုနှစ်အတွင်း ဂျာမနီမှာ ဟစ်တလာခေတ် အတွက် လမ်းခင်းပေးသလို ရှိမယ် လို့လည်း တွေးထင်နိုင်ပါတယ်။

လူသာဟာ မကြာခဏ တရားရုံးတော်ရဲ့ အာဏာကို လေးစားဖို့ လိုကြောင်း အလေးအနက် ပြောလေ့ရှိတယ်။ အဲဒါ ဘာကြောင့်လဲဆိုရင် ကျောင်းတော် (Church) က အစိုးရအုပ်ချုပ်ရေး အာဏာကို လွှမ်းမိုးချယ်လှယ်ခဲ့တာကို ဦးတည် တိုက်ခိုက်လိုတဲ့ အတွက် ဖြစ်ဟန်တူပါတယ်။ ပြုပြင်ရေး (reformation) ဟာ ဓမ္မသဘော ငြင်းခုံတင်သက်သက် မဟုတ်ဘူး။ ဂျာမနီ အမျိုးသား သူပုန်တွေ ရောမ လွှမ်းမိုးနေတာကို တိုက်ဖျက်တဲ့ပွဲ လို့လည်း ယူဆရမှာဖြစ်တယ်။ အဲဒါကြောင့် လူသာကို ဂျာမနီက မင်းသားတွေ ကူညီ ရိုင်းပင်းကြတာဖြစ်တယ်။ လူသာရဲ့ မူလ ရည်ရွယ်ချက်ကို ထောက်ထား နေစရာမလိုဘဲ သူပြောသမျှဟာ ဂျာမနီ ပရိုတက်စတင့် တွေကို နိုင်ငံရေးရာမှာ အာဏာရှင်စနစ် (Absolution) ကို လက်ခံကျင့်သုံးပါလို့ ပြောသလို ဖြစ်နေပါတယ်။ တစ်နည်းပြောတော့ လူသာ

ရေးသားခဲ့တာတွေဟာ ဟစ်တလာခေတ် ကို လမ်းခင်း ပေးသလို ဖြစ်လာပါတယ်။ တချို့လူတွေက မာတင်လူသာကို ဘာပြုလို့ ကျော်စွာစာရင်းမှာ ခုထက်မြင့်တဲ့နေရာကို မပေးသလဲလို့ မေးကောင်းမေးမယ်။ ဘာပြုလို့လဲ ဆိုရင် ပထမအချက်က လူသာဟာ ဥရောပ တိုက်သား၊ အမေရိကတိုက်သားတွေ အဖို့ သိပ်အရေးပါတာ မှန်ပေမယ့် အာရှတိုက်သား၊ အာဖရိက တိုက်သားတွေအဖို့ နှိုင်းယှဉ်ပြောရင် သူတို့အထဲမှာ ခရစ်ယာန်သာသနာဝင် နည်းတဲ့ အတွက် သိပ်ပြီးအရေးမပါဘူး။ တရုတ်၊ ဂျပန်၊ ကုလားဆိုရင် ကက်သလစ်ဖြစ်ဖြစ်၊ ပရိုတက်စတင့် ဖြစ်ဖြစ် တစ်ဦးနဲ့တစ်ဦး မတူ ကွဲပြားခြားနားတယ်လို့ မသိဘူး။ (ဥရောပ တိုက်သားတွေက အစ္စလာမ်ရဲ့ စွန်နီ (Sunni) နဲ့ ရှီအိုက် (Shiite) ခြားနားချက်ကို မသိကြသလိုရှိမှာပါပဲ။) ဒုတိယ အချက်က လူသာဟာ သမိုင်းစံနှုန်းအရပေါ်လာတာ မကြာသေးပါ။ ဒါကြောင့် လူ့သမိုင်းမှာ သူ့အရှိန်သြဇာဟာ မိုဟာမက်၊ ဗုဒ္ဓ၊ မိုးဇက် တို့လောက်မရှိနိုင်ပါ။ အဲဒါအပြင် အရင်ရာစုနှစ် တချို့မှာ အနောက်နိုင်ငံတွေမှာ ကိုးကွယ် ယုံကြည်မှုဘက်က အင်အားဆွဲဆောင်မှု ကျဆင်းပြီး၊ လူမှုရေး ကိစ္စတွေမှာ ယုံကြည်မှုကို အရင် အနှစ်တစ်ထောင် မှာထိ ပါထားခဲ့တာမျိုး နောက်နှစ်တစ်ထောင်မှာ မထားကြတော့ပါ။ ကိုးကွယ်ယုံကြည်မှု ဆက်လက်ပြီး ယုတ်လျော့နေရာ၊ လူသာကို အခုခေတ် သမိုင်းဆရာ တွေက အလေးဂရုထားတာထက်၊ နောက်တစ်ခေတ် သမိုင်းဆရာတွေက လေးစားမှု ဆက်ပြီး ပိုပြီးနည်းသွားမှာဖြစ်ပါတယ်။

နောက်ဆုံး ပြောရမယ့် အချက်က တစ်ဆယ့်ခြောက်၊ တစ်ဆယ့်ခုနစ်ရာစုနှစ်တွေက ကိုးကွယ်ယုံကြည်မှုနဲ့ ပတ်သက်ပြီး ငြင်းခုံကြတာနဲ့ ခေတ်အပြိုင်လူတွေအပေါ်မှာ ရေရှည် အကျိုးပြုတဲ့သိပ္ပံပညာ စတင်ထွန်းကား နေပြီဖြစ်လို့ ခေတ်ပြိုင်လူသာ (Luther) နဲ့ ကော်ပါးနီကပ်စ် ယှဉ်တဲ့အခါ လူသာဟာ တစ်ဦးချင်း အနေနဲ့ ပရိုတက်စတင့် ပြုပြင်ရေးမှာ တွင်ကျယ်ခဲ့ပေမယ့် သိပ္ပံတော်လှန်ရေးမှာ ကော်ပါးနီကပ်စ်က ပိုပြီးတွင်ကျယ်လို့ စာရင်းထဲမှာ ရှေ့ကို ရောက်သွားရပါတယ်။

3, August, 2000.

# (၂၆) ဂျော့ဝါရှင်တန် (၁၇၃၂ – ၁၇၉၉)

# GEORGE WASHINGTON (1732 – 1799)

ဗာဂျီးနီးယား (Virginia) ဝိတ်ခ်ဖီးလ် (Wakefield)မှာ ၁၇၃၂ က ဂျော့ဝါရှင်တန် (George Washington)ကို မွေးဖွားခဲ့ပါတယ်။ စိုက်ခင်းကြီးရှင် လူချမ်းသာ တစ်ဦးရဲ့သားဖြစ်လို့ အသက်နှစ်ဆယ်မှာ ကြီးမားတဲ့နယ်ကို အမွေ ရခဲ့ပါတယ်။ ဝါရှင်တန်ဟာ ၁၇၅၃ က ၁၇၅၈ ထိ စစ်မှုထမ်းခဲ့ပြီး ပြင်သစ်နဲ့ အင်ဒီးယန်း စစ်ပွဲတွေမှာ ပါဝင်တိုက်ခဲ့ဖူးတဲ့အတွက် စစ်ပွဲ အတွေ့အကြုံ လည်းရတဲ့ အပြင် တိုက်ခိုက်ရေးမှာ အောင်မြင်သူ အဖြစ်နဲ့ ဂုဏ်သတင်း ထွက်လာခဲ့ပါတယ်။ ဇာတိ ဗာဂျီးနီးယားကို ၁၇၈၅ခုနှစ် ကုန်ဆုံးခါနီး ပြန်လာတဲ့အခါ စစ်ဗိုလ် အဖြစ်က နုတ်ထွက်ပြီး ဖြစ်ပါတယ်။ နောက်မကြာမီ ကြွယ်ဝ ချမ်းသာတဲ့ ကလေး နှစ်ယောက်မိခင်၊ မုဆိုးမ မာသာဒဲန် ဒရစ်ချ်ကပ်စ်တစ် (Marthadantridge Custis) နဲ့ လက်ထပ်တယ်။ (သားသမီး မထွန်းကားပါ။) ဝါရှင်တန်ဟာ တစ်ဆယ့်ငါးနှစ်လုံးလုံး မိမိပိုင် စိုက်ခင်းကြီးကို နိုင်နိုင်နင်းနင်း စီမံ အုပ်ချုပ်ခဲ့ပါတယ်။

ဗာဂျီးနီးယားနယ်က ပထမ ကွန်တီနင်တယ် ကွန်ဂရက် (The First Continental Congress ပထမအကြိမ် အမေရိကတိုက် တစ်ခုလုံး စည်းဝေးပွဲကြီး)ကို ၁၇၄၄ မှာ ကျင်းပတဲ့အခါ အင်္ဂလိပ် လက်အောက်ခံ ပြည်နယ်တွေရဲ့ အချမ်းသာဆုံး ပုဂ္ဂိုလ်တွေထဲမှာ သူ့ကိုလည်း အပါအဝင် တစ်ယောက် ဖြစ်တယ်ဆိုပြီး ကိုယ်စားလှယ်တစ်ဦး အဖြစ် ရွေးကောက် စေလွှတ် ခဲ့ပါတယ်။ ဒါပေမယ့် **'ငါတို့ အမေရိက တိုက်သားတွေ အင်္ဂလိပ်လက်အောက်က လွတ်လပ်ရေး ရယူမယ်'** ဆိုပြီး စတင် ကြွေးကြော်တဲ့လူတွေထဲမှာ သူမပါ။ ဒါပေမဲ့ ဇွန်လ ၁၇၇၅ ဒုတိယ ကွန်တီနင်တယ် ကွန်ဂရက်မှာ နောက်တစ်ကြိမ် ကိုယ်စားလှယ် အဖြစ် တက်ရောက် တဲ့အခါ သူ့ကို ကွန်တီနင်တယ် တပ်မတော်ကို ဦးစီးဖို့ ကန့်ကွက်သူ မရှိ အများသဘောတူ ရွေးကောက် ခန့်ထားခဲ့ပါတယ်။ သူဟာ စစ်ပွဲ အတွေ့အကြုံလည်း များတယ်။ စီးပွားဥစ္စာလည်း ကြွယ်ဝတယ်။ (အရပ် ၆ ပေ ၂ လက်မရှိ) ခန့်ညားတဲ့ ဥပဓိရုပ် ရှိတာရယ်၊ ကျန်းမာရေး ကောင်းတာရယ်၊ စီမံအုပ်ချုပ်ဘက်မှာလည်း တော်တာရယ်၊ အဲဒါတွေအပြင် စာရိတ္တ ကောင်းတယ်၊ ကိုယ့်ရည်မှန်းချက်ကို မဖြစ်မနေ ဆောင်ရွက်နိုင်တဲ့အစွမ်း ရှိတယ်ဆိုတဲ့ အင်္ဂါရပ် တွေကြောင့် ဒီရာထူးမျိုးကို သူ့မှ မရွေးရင် ဘယ်သူ့ကို ရွေးမှာလဲ၊ သူ့ပဲ အထိုက်တန်ဆုံး ပုဂ္ဂိုလ် မဖြစ်ပေဘူးလားလို့ ဆိုနိုင်ပါတယ်။ စစ်တိုက်ခဲ့စဉ် လစာမယူဘူး။ လုံ့လဝီရိယမှာ စံပြအဖြစ် ကြိုးစားပြီး တာဝန်ထမ်းဆောင်

သွားပါတယ်။

ဝါရှင်တန်ရဲ့ အပြောင်မြောက်ဆုံး ဆောင်ရွက်ချက် တွေကို ဇွန် ၁၇၇၅ ကွန်တီနင်တယ်တပ်မတော်တွေရဲ့ ဗိုလ်ချုပ်ကြီး ဖြစ်တဲ့အချိန် ကစပြီး သမ္မတ ဒုတိယ သက်တမ်း ကုန်တဲ့ မတ် ၁၇၉၇ အတွင်းမှာ အထင်အရှား တွေ့နိုင်ပါတယ်။ ဗာဂျီးနီးယားဘာနွန်တောင် (Mount Vernon) နေအိမ်မှာ ဒီဇင်ဘာ ၁၇၉၉ မှာ ကွယ်လွန် ပါတယ်။

အမေရိကပြည်ထောင်စု တည်ထောင်တဲ့အခါ ဝါရှင်တန်ဟာ အကြီးမားဆုံး နေရာကပါဝင်ခဲ့ပုံကို ထင်ရှား စေတဲ့ အချက်ကြီး သုံးချက် ရှိပါတယ်။

ပထမ။ ။သူဟာ အမေရိကလွတ်လပ်ရေးစစ် (American War Of Independence) မှာ အောင်မြင်တဲ့ စစ်ခေါင်းဆောင် ဖြစ်တယ်။ သူ့ကို စစ်ဘက်မှာ သိပ်တော်တယ်လို့မပြောနိုင်၊ ထိပ်တန်း နာမည်ပေါက်တဲ့ မဟာအလက်ဇန္ဒား (Alexander the Great) လို၊ ဂျူးလီးယပ်စ်ဆီဇာ (Julius Caesar) လို စစ်ခေါင်းဆောင်ကြီးတွေနဲ့ နီးစပ်ဖို့ ဝေးပါတယ်။ သူ အောင်မြင်တာက သူတော်တာထက် သူ့ကိုလာတိုက်တဲ့ အင်္ဂလိပ်ဘက်က စစ်ဗိုလ်တွေ အဆမတန်ညံ့လို့ ဖြစ်တယ်လို့ ပြောနိုင်ပါတယ်။ အဲဒီအထဲမှာ တခြားအမေရိကန်စစ်ဗိုလ်တွေ အကြီးအကျယ် ရှုံးတဲ့အခါမှာ ဝါရှင်တန်လည်း ခံရတဲ့ အလှည့်ရှိပါတယ်။ ဒါပေမယ့် သူ့အစွမ်းနဲ့ အခြေအနေကို ကိုယ့်ဘက်က သိပ်မနာအောင် ထိန်းနိုင်လို့ နောက်ဆုံးပိတ် အောင်မြင်ရပါတယ်။

ဒုတိယ။ ။ဝါရှင်တန်ကို ဖွဲ့စည်းပုံ ဥပဒေပြု လွှတ်တော် (Constitutional Convention) ဥက္ကဋ္ဌ တင်မြှောက်တယ်။ အမေရိက ဖွဲ့စည်းပုံဥပဒေ ရေးဆွဲတော့ ဝါရှင်တန်ဟာ စိတ်ကူးအကြံဉာဏ် ဆိုတာမျိုးတွေမှာ သူက ရှေ့ဆောင် မဟုတ်ပေမယ့် သူထောက်ခံတယ် ဆိုရင် သူ့ရဲ့ကြီးမားတဲ့ ဂုဏ်ရှိန်ကြောင့် ပြည်နယ် အစိုးရတွေက အလွယ်တကူ လက်ခံကြပါတယ်။ အဲဒီအခါက ဖွဲ့စည်းပုံဥပဒေသစ်ကို ကန့်ကွက်သူ မနည်းပါ။ ဝါရှင်တန်ရဲ့ ဩဇာ အရှိန်သာ မပါရင် အဲဒီဥပဒေကို ဧကန် အမှန်လက်ခံကြမယ်လို့ မပြောရဲပါ။

တတိယ။ ။ဝါရှင်တန်က အမေရိကန် ပြည်ထောင်စုရဲ့ ပထမသမ္မတ ဖြစ်ပါတယ်။ ဂျော့ဝါရှင်တန်လို အရည်အချင်းကြီးပြီး စာရိတ္တ ကောင်းသူမျိုးကို ပထမသမ္မတ တင်မြှောက်နိုင်ခြင်းကို ကံကောင်းတယ်လို့ ဆိုနိုင်ပါတယ်။ တောင်အမေရိကနဲ့ အာဖရိက ပြည်နယ် တွေရဲ့ သမိုင်းကိုပြန်ကြည့်ရင် ပွဲဦးထွက်မှာ အများပြည်သူ အစိုးရနဲ့စပြီး မကြာခင် လက်နက်ကိုင်တွေ စီမံအုပ်စီးတဲ့ အခြေအနေကိုကူးပြောင်းသွားတာ တွေ့ရတယ်။ အဲဒီအခြေအနေမျိုးမှာ ဝါရှင်တန်က အင်မတန် အစွဲ အယူသန်တဲ့ ခေါင်းဆောင်ဖြစ်ပြီး မူလ ချမှတ်တဲ့ပုံစံကို မတိမ်းမယိမ်းအောင် ထိန်းမယ်။ ကိုယ်တိုင်ကလည်း တန်ခိုးအာဏာကို အကြာအရှည် ယူထားလိုစိတ် မရှိ။ သူက မင်း၊ အာဏာရှင် ဆိုသူမျိုး မဖြစ်လို၊ အာဏာကို အေးအေး သာသာ လက်လွှတ်တဲ့ အစဉ်အလာ လည်း သူကစပြီး ဖြစ်စေချင်တယ်။ သူဖြစ်စေချင်သလို ပြည်ထောင်စုမှာ

ကနေ့အထိ ဖြစ်ပါတယ်။

ဂျော့ဝါရှင်တန်ဟာ ဟိုခေတ်က တခြား အမေရိက ခေါင်းဆောင်ကြီးတွေဖြစ်တဲ့ သောမတ်စ် ဂျက်ဖာဆန် (Thomas Jefferson)၊ ဂျိမ်းစ် မက်ဒီဆင် (James Madison)၊ အလက်ဇန္ဒား ဟမ်မိလ်တန် (Alexander Hamilton) နဲ့ ဘင်ဂျမင်ဖရန့်ကလင် (Benjamin Franklin) တို့လို အတွေးအခေါ် ထိုးထွင်းဉာဏ် ကြီးမားတဲ့ ပုဂ္ဂိုလ် မဟုတ်ပါ။ ဒါပေမယ့် အခုပြောတဲ့ လူစွမ်းကောင်း ထက်မြက်သူတွေထက် သူကပိုပြီး အရေးပါ တယ်။ ဝါရှင်တန်ဟာ စစ်အတွင်းမှာရော စစ်ပြီးငြိမ်းတဲ့ အခါမှာပါ ဝန်ထမ်းတွေကို ကောင်းကောင်း ထိန်းသိမ်းကွပ်ကဲပြီး ရှေ့ဆောင် နိုင်တဲ့ ဂုဏ်သတ္တိကြီးမားသူပါ။ သူလို လူမပါရင် ဘယ်နိုင်ငံရေး လှုပ်ရှားမှုမှ အောင်မြင်နိုင်မှာ မဟုတ်ပါ။ အမေရိကပြည်ထောင်စု ဖြစ်မြောက်လာမယ့် ဒီအရေးမှာ မက်ဒီဆင်က အရေးပါတယ်။ ဝါရှင်တန်ကတော့ ဒီအရေးမှာ မပါလို့ကို မရတဲ့လူ ဖြစ်ပါတယ်။

ဂျော့ဝါရှင်တန်ကို အမေရိကန်ပြည်ထောင်စုရဲ့ အရေးပါပုံအပေါ် သမိုင်းအမြင်နဲ့ကြည့်ပြီး အခု ကျော်စွာ ၁၀၀ စာရင်းမှာ နေရာပေး ရတာ ဖြစ်ပါတယ်။အဲဒီခေတ်က အမေရိကသားတွေဟာ ဘက်မလိုက်ဘဲ တန်ဖိုး အမှန်ကို ပြောနိုင်မယ် မထင်ပါ။ နောက် ၂၀ ရာစုနှစ်လယ် ရောက်လာတော့ အမေရိကန်ပြည်ထောင်စုဟာ စစ်အင်အား မှာရော၊ နိုင်ငံရေးသြဇာမှာပါ ရောမအင်ပါယာ ပိုင်ဆိုင်တဲ့ အင်အားနဲ့ သြဇာထက် ပိုမိုကြီးမားပေမယ့် ရောမလောက် တန်ခိုးကြီးချိန် ကြာမြင့်မယ့် သဘောကို မတွေ့ရပါ။ တစ်ဖက်ကကြည့်ပြန်ရင် ပြည်ထောင်စုရဲ့ အစွမ်းနဲ့ (စက်မှုလက်မှု) အသိပညာပိုင်းက တိုးတက်ချက် တွေဟာ တခြားဓလေ့ (Culture) နဲ့ တခြားခေတ် (Times) တွေမှာ တန်ဖိုးသိပ်ကြီးတာကို တွေ့ရမှာ ဖြစ်ပါတယ်။ ဥပမာ၊ လေယာဉ်ပျံ တီထွင်ခြင်း၊ လကမ္ဘာကို လူလွှတ်ခြင်း ဆိုတာတွေလို ခေတ်အဆက်ဆက်က စိတ်ကူးယဉ် ခဲ့တာတွေကို ဖြစ်မြောက်အောင် လုပ်ဆောင်တာတွေကို အဏုမြူနျူကလီးယား လက်နက် တီထွင် နိုင်ချိန်မှာ မသိချင်ပြုပြီး၊ အရေးမပါဘူးပြောလို့ ဘယ်ဖြစ်နိုင်ပါ့မလဲ။

ဂျော့ဝါရှင်တန်က အမေရိကန်နိုင်ငံရေးမှာ ထင်ရှားသူမို့ ရောမရဲ့ သြဂတ်စတပ်စ်ဆီဇာ (Augustus Caesar) နဲ့ ခပ်လွယ်လွယ် ယှဉ်ကြည့်မယ်ဆိုရင် ဒီကျော်စွာ ၁၀၀ စာရင်းမှာ သူတို့နှစ်ဦးဟာ အနီးအစပ်မှာပဲ ပါဝင်လာကြမှာ ဖြစ်ပါတယ်။ ဆိုပါတော့၊ ဝါရှင်တန်ကို နည်းနည်း နိမ့်တဲ့ နေရာမှာ ပို့ထားရင် သူ့တန်ခိုးသြဇာရှိချိန်က သိပ်မရှည်လို့ ဒီလိုကွာတာဖြစ်မယ်လို့ ပြောရပါမယ်။ ပြီးတော့ (သောမတ်စ်ဂျက်ဖာဆင် နဲ့ ဂျိမ်းစ် မက်ဒီဆင်) တို့က အမေရိကပြည်ထောင်စု ဖြစ်ပေါ်လာရေးမှာ အရေးပါတဲ့ အဆင့်က နေရာယူပြီးဖြစ်နေလို့ ဖြစ်ပါတယ်။ ဘယ်လိုပဲ ဖြစ်ဖြစ် ဝါရှင်တန်ဟာ မဟာအလက်ဇန္ဒားနဲ့ နပိုလီယံတို့ထက် အဆင့်မြင့်တယ်။ ဘာပြုလို့လဲဆိုတော့ သူ့ဆောင်ရွက်ချက်က ပိုပြီး ရေရှည် တည်တံ့ပါတယ်။

9, August, 2000.

# (၂၇) ကားလ်မာ့က်စ် (၁၈၁၈ – ၁၈၈၃)

# KARL MARX (1818 – 1883)

သိပ္ပံနည်းကျဆိုရှယ်လစ်ဝါဒ (Scientific Socialism) ကို အရင်းမူလကျကျ ဖော်ထုတ် ပေးခဲ့သူ ကားလ်မာ့က်စ် (Karl Marx) ကို ဂျာမနီနိုင်ငံ ထရီယာမြို့ (Trier) မှာ ၁၈၁၈ ခုနှစ်က မွေးဖွားပါတယ်။ ဖခင်က ရှေ့နေ၊ ကားလ် တစ်ဆယ့်ခုနစ်နှစ်သားမှာ သူကိုယ်တိုင် ဘွန်းတက္ကသိုလ် (Born University) ကိုတက်ပြီး ဥပဒေပညာ သင်ယူပါတယ်။ နောက်တော့ ဘာလင် တက္ကသိုလ် (Berlin University) ကိုပြောင်းနေပြီး နောက်ဆုံး ဂျီနာတက္ကသိုလ် (Jena University) က ဒဿနိကဗေဒမှာ ပါရဂူဘွဲ့ကို ရရှိခဲ့ပါတယ်။

မာ့က်စ်ဟာ ဂျာနယ်သမား (Journalist) ဖြစ်လာပြီး အတော်ကြာကြာ ကိုလုံး (Cologne) ရဲ့ ရေနိုရှေးဇေတုန်း (Rheinische Zeitung) မှာ အယ်ဒီတာ လုပ်ခဲ့ပါတယ်။ ရဲတင်းတဲ့ နိုင်ငံရေး အယူအဆတွေကြောင့် သူ့မှာ ဘေးဒုက္ခ ကြုံတွေ့လာရပါတယ်။ ဒါနဲ့ ပါရီကို ပြောင်းရွှေ့ နေရပါတယ်။ အဲဒီမှာ ဖရက်ဒရစ် အိန်ဂျဲလ်စ် (Friedrich Engels) နဲ့ တွေ့ဆုံပါတယ်။ ပုဂ္ဂိုလ်ရေးအရရော နိုင်ငံရေးအယူအဆပါ သဘောကိုက်ညီတယ်။ ပုဂ္ဂိုလ်ရေးအရရော နိုင်ငံရေး အယူအဆပါ သဘောကိုက်ညီကြလို့ သေတဲ့အထိ ရင်းနှီးချစ်ခင်သွားကြပါတယ်။ တစ်ဦးစီ ကိုယ့်နာမည်နဲ့ကိုယ် ကျမ်းများစွာကို ရေးကြပေမယ့် ဉာဏ်စေစားရာမှာ အများကြီး တိုက်ဆိုင် ညီညွတ်နေတဲ့ အတွက် နှစ်ယောက်ပေါင်း ဖက်စပ်ဆောင်ရွက်ချက်လို့ ပြောနိုင်လောက်တဲ့အထိ ဖြစ်လာရပါတယ်။ အခု ကျော်စွာ ၁၀၀ ထဲမှာ မာ့က်စ်နဲ့ အိန်ဂျဲလ်စ် နှစ်ယောက်စလုံး ပေါင်းစပ်ပါဝင်နေတာ တွေ့မှာ ဖြစ်ပါတယ်။ ဒါပေမယ့် မာ့က်စ် နာမည်ကိုပဲ သုံးလိုက်ပါတယ်။ ဘာပြုလို့လဲဆိုတော့ အမှန်ပဲ မာ့က်စ်က ဦးဆောင်ဦးရွက်လုပ်တာများလို့ ဖြစ်ပါတယ်။ မကြာခင် မာ့က်စ်ကို ပြင်သစ်က နှင်ပြန်တော့ ဘရပ်ဆဲလ် (Brussels) ကို ရွှေ့ရပြန်တယ်။ အဲဒီမှာရေးရင်း ၁၈၄၇ ခုမှာ ဒဿနဗေဒရဲ့ ပျော့ညံ့ချက် (The Poverty Of Philosophy) အမည်နဲ့ သူ့ရဲ့ပထမဆုံး အရေးပါတဲ့ကျမ်းကို ထုတ်လိုက်တယ်။ နောက်တစ်နှစ်မှာ သူနဲ့ အိန်ဂျဲလ်စ် ပေါင်းပြီး လူဖတ်သိပ်များတဲ့ ကွန်မြူနစ် ကြေညာစာတမ်း (Communist Manifesto) ကို ထုတ်ပါတယ်။ အဲဒီနောက်ပိုင်း မာ့က်စ်ဟာ ကိုလုံးကို ပြန်လာပေမယ့် လပိုင်းအတွင်းမှာ ပြည်နှင်ဒဏ်ခံရပြန်တယ်။ ဒီတော့ လန်ဒန် (London) ကိုရွှေ့ပြီး သေတဲ့အထိ နေသွားပါတယ်။ ဂျာနယ်ဆရာအဖြစ်နဲ့ ဝင်ငွေအသင့်အတင့် ရှိဖူးပေမယ့် မာ့က်စ်ဟာ လန်ဒန်မှာ

အနေမျှားပြီး ရနိုင်သမျှ အချိန်မှာ သုတေသနလုပ်တယ်၊ နိုင်ငံရေး စီးပွားရေးကျမ်းတွေကို ရေးပါတယ်။ (အဲဒီနှစ်တွေအတွင်းမှာ မာ့က်စ်မိသားစုကို အိန်ဂျဲလ်စ်က ရက်ရက်ရောရော ထောက်ပံ့ ထားပါတယ်။ သူရေးသမျှ ကျမ်းတွေထဲမှာ အရေးပါ အရာရောက်ဆုံး အရင်းကျမ်း (Das Kapital) ပထမတွဲကို ၁၈၆၇မှာ ထုတ်နိုင်တယ်။ မာ့က်စ် ၁၈၈၃မှာ ကွယ်လွန်တဲ့အခါ ဒုတိယတွဲ၊ တတိယတွဲတွေက ရေးလက်စ၊ အဆုံးမသတ်ရသေးပါ။ အိန်ဂျဲလ်စ်ကပဲ သူထားရစ်တဲ့ မှတ်စုနဲ့ စာတမ်းစာစောင်တွေကို ယူပြီး ပေါင်းစပ် ဖြည့်စွက်ရေးသားပြီး တည်းဖြတ် ပုံနှိပ်ဖြန့်ဝေတယ်။ မာ့က်စ်ရေးသမျှဟာ ကွန်မြူနစ်ဝါဒရဲ့ အခြေခံ သီအိုရီ ဖြစ်တယ်။ နောက်ပိုင်းပေါ်တဲ့ ခေတ်သစ် ဆိုရှယ်လစ်ဝါဒ (Socialism) အမျိုးတွေကလည်း ဒီလိုပဲ (မာ့က်စ်ရေးသမျှကို) မှီးကြရပါတယ်။

မာ့က်စ် ကွယ်လွန်တဲ့အခါ ဘယ်ဒေသ ဘယ်နိုင်ငံမှာမှ သူ့အကြံဉာဏ်နဲ့ စိတ်ကူးတွေကို လက်တွေ့ စမ်းသပ် မကြည့်ဖူးသေးပါ။ အဲဒီနောက် နှစ်တစ်ရာအတွင်းမှာပဲ ကွန်မြူနစ် အစိုးရတွေကို ရှုရှုနဲ့တရုတ် အပါအဝင် နိုင်ငံ အများအပြားမှာ တည်ထောင်ကြပါတယ်။ သူ့နည်းတွေကိုသုံးပြီး နိုင်ငံရေး အာဏာကို အရ ယူနိုင်ခဲ့ကြပါတယ်။ မာ့က်စ်ဝါဒီ ပါတီတွေ ဆိုရင် အာဏာရဖို့ ဆောင်ရွက်ချက်မှာ ဝါဒဖြန့်ဖို့ ပြောဟောတယ်။ အပြတ်ရှင်းသင့်ရင်လည်း လက်မနှေးဘူး။ အကြမ်းဖက်တယ်၊ တော်လှန် ပုန်ကန်တယ်၊ စစ်ဖြစ်တယ်။ အာဏာရပြီးတော့ ဆန့်ကျင်ဘက်ကို ရက်ရက်စက်စက် နှိပ်ကွပ်တယ်။ မလိုအပ်ဘူး ဆိုရင်လည်း သွေးချောင်း စီးအောင် သတ်တာပဲ။ အဲဒီလိုနဲ့ ကမ္ဘာမှာ ဆယ်စုနှစ်တွေ အများကြီး ရှန်းရင်းဆန်ခတ်တွေ ပေါ်ခဲ့လို့ အကြမ်းဖျင်း လူသန်းတစ်ရာ (ဆယ်ကုဋေ) လောက် အသက် ဆုံးရှုံးကြရပါတယ်။ သမိုင်းမှာ ဘယ်ဒဿနပညာရှင်မှ သူစာတွေ ရေးပြီး နောက်နှစ်တစ်ရာ အတွင်းမှာ ဒီလိုလှုပ်ရှားမှုမျိုး မရှိခဲ့ဖူးပါ။ မာ့က်စ်ဝါဒ ဆိုရင် စီးပွားရေးမှာရော နိုင်ငံရေးမှာပါ ပျက်စီးဆုံးရှုံးနစ်နာခြင်း (disaster) တွေပဲဖြစ်တယ်လို့ ကျွန်တော်ယုံသလို အခုစာကို ဖတ်သူလည်း ယုံမှာဖြစ်ပါတယ်။ ဒါပေမယ့် ဘာမှ အကျိုးအမြတ် မပေါ်တဲ့ လှုပ်ရှားမှုတော့ မဟုတ်ပါ။ မာ့က်စ်ကို ဒီကျော်စွာ ၁၀၀ စာရင်းမှာ ဘာကြောင့် ထိပ်ဘက်မှာ ရောက်နေသလဲဆိုရင် ဖြစ်ပျက်သမျှ တွေဟာ ကောင်းတာဖြစ်ဖြစ် ဆိုးတာဖြစ်ဖြစ် ဒါသူ့လက်ချက်လို့ လက်ညှိုး ထိုးပြစရာဖြစ်တယ်။ တခြားမှတ်သားလောက်တဲ့ လီနင်(Lenin)၊ စတာလင် (Stalin) နဲ့ မော်စီတုန်း (Mao Zedung) တို့နဲ့ တွဲဖက်ပြီး ချီးမွမ်းကဲ့ရဲ့မှာလည်း ရှိနေလို့ ဖြစ်ပါတယ်။ ရှေ့ဆက်စကားတွေအရ မာ့က်စ်ဟာ ဒီစာအုပ်မှာ နေရာမြင့်မြင့် ရထိုက်မယ်ဆိုတာ ထင်ရှားပါတယ်။ ဘယ်လောက် မြင့်မြင့်လဲဆိုတာ ဆက်စဉ်းစား ကြည့်ပါ။ ကွန်မြူနစ်ဝါဒဟာ အင်မတန် ဩဇာကြီးတယ် ဆိုတဲ့ အချက်ကို လက်ခံကြပြီ ဆိုဦးတော့ ကွန်မြူနစ်လှုပ်ရှားမှုမှာ သူပါဝင်ပုံ ကိုကော အဆင့်အတန်း မပိုင်းဖြတ်တော့ဘူး လားလို့ မေးသင့်ပါသေးတယ်။ (နောက်တစ်မျိုး ပြောတော့ သူ့တပည့်လို့ နာမည်ခံသူတွေက သူပြောတဲ့အတိုင်း လိုက်နာရဲ့လားလို့ မေးပါ။) ဆိုဗီယက် (Soviet) အစိုးရ လက်တွေ့လုပ်ဆောင်ပုံ ကိုကြည့်ရင် မာ့က်စ်စကားကို

အတိအကျ မယူတာ တွေ့မယ်။ သူက ဟေဂဲလ် အမေးအဖြေ (Hegelian dialectic)၊ လုပ်အားအစွန်းထွက် (Surplus Value Of labour) နဲ့ အလားတူ ကောက်ချက် တွေကို ပြောပြထားခဲ့ပေမယ့် ရုရှနဲ့ တရုတ်တွေရဲ့ အခုခေတ် နေ့စဉ်နိုင်ငံရေး ညွှန်ကြားချက် (policies) မှာ (မလိုက်နာတော့ဘူးလို့ အပြီးသတ် မပြောနိုင်တောင်) သိပ်ဂရုမစိုက်တော့ဘူးလို့ တွေ့ပါတယ်။

စီးပွားရေး ဆိုင်ရာ မာ့က်စ်သီအိုရီဟာ ဆိုးဆိုးဝါးဝါး မှားတယ်လို့ မကြာခဏ ထောက်ပြနေကြပါတယ်။

မာ့က်စ်ရဲ့ အတိအကျ ကြိုတင် ဟောပြောချက်တွေ အများကြီး ပြောတိုင်း မဖြစ်လာတာကို အထင်အရှား တွေ့ကြရပြီးပါပြီ။ ဥပမာ၊ အရင်းရှင်နိုင်ငံတွေမှာ လုပ်သား တွေဟာ ဆင်းရဲတွင်းနက်သထက် နက်လာမယ် ဆိုတာ မဖြစ်လာပါ။ မာ့က်စ်က လူလတ်တန်းစားဟာ ပျောက်သွားမယ်၊ အများစုက ပစ္စည်းမဲ့ (proletariat) ဖြစ်သွားပြီး လူနည်းစုသာ မြင့်တက်ပြီး အရင်းရှင် (capitalist) ဖြစ်မယ်။ အဲဒါမဖြစ်တာလည်း အထင်အရှားပါ။ စက်မှုထွန်းကားလေလေ အရင်းရှင်အတွက် အမြတ်အစွန်း လက်ကျန်နည်းလေ ဖြစ်မယ်လို့ သူပြောတဲ့စကားဟာ မှားရုံသာမက မိုက်မဲ (stupid) တဲ့စကားလို့ ပြောချင် ပါတယ်။ စီးပွားရေး သီအိုရီမှာ မှားမှားမှန်မှန် မာ့က်စ်ရဲ့ ဩဇာနဲ့ မဆိုင်ပါ။ ဒဿနိက ပညာရှင်ရဲ့တန်ဖိုးဟာ အယူအဆ မှန်တာပေါ်မှာ တည်ရမယ် ဆိုတာထက် သူ့စကားပေါ်မှာ စွဲယူချက်ပြင်းထန်ပြီး လူတွေ ဘယ်လောက် အုံကြွသလဲဆိုတဲ့ အချက်ပေါ်မှာ တည်ပါတယ်။ အခုပြောသလို ဆုံးဖြတ်မယ်ဆိုရင် မာ့က်စ်ဟာ အထူးကြီးကျယ်တဲ့ ပုဂ္ဂိုလ် ဆိုတာကို ဘာမျှငြင်းစရာ မရှိပါ။

မာ့က်စ်လှုပ်ရှားမှုမှာ ယေဘူယျအားဖြင့် အချက်ကြီး လေးချက်ရှိတယ်။

(၁) လူချမ်းသာ (လက်တွင်းတစ်ဆုပ်) က သိပ်ကြွယ်ဝပြီး လုပ်သားအားလုံးက ဆင်းရဲတာချင်း ပြိုင် (comparative) နေကြမယ်။
(၂) အဲဒီလို မတရားသဖြင့် ဖြစ်နေတဲ့အချက်ကို ဘယ်လိုပြင်မလဲ ဆိုရင် ဆိုရှယ်လစ်စနစ် (Socialist System) ထူထောင်လိုက်ပါ။ ထုတ်လုပ်မှု မှန်သမျှ လူတစ်ဦးချင်းလက်ထဲမှ အစိုးရက သိမ်းလိုက်ပါ။
(၃) ဒါကို ဘယ်နည်းလုပ်မလဲ ဆိုရင် ပြင်းထန်တဲ့ တော်လှန်ရေးကြီးလုပ်ပါ။
(၄) ဒီဆိုရှယ်လစ်စနစ်ကို ကြာရှည်တည်မြဲအောင် ဘယ်လိုထိန်းရမလဲ ဆိုရင် ကွန်မြူနစ်ပါတီ (Communist Party) က အချိန် တော်တော် ကြာအောင် အာဏာရှင် နေရာကို ယူထားပါ။ ဆိုတဲ့အချက်တွေ ဖြစ်ပါတယ်။

ဒီအချက်တွေထဲက ပထမ သုံးချက်ကို မာ့က်စ် မပေါ်လာမီကပဲ ပြောဆိုနေကြတာကြာပြီ။ စတုတ္ထ အချက်က မာ့က်စ် စိတ်ကူး၊ ပစ္စည်းမဲ့အာဏာရှင် (the dictatorship Of the proletariat) ဖြစ်တယ်။

ဒါပေမယ့် ဆိုဗီယက် အာဏာရှင်စနစ်ဟာ မာ့က်စ် ရေးသား ခဲ့တာထက် လီနင် (Lenin) နဲ့ စတာလင် (Stalin) တို့ လက်တွေ့ လုပ်ဆောင်တဲ့အပေါ်မှာ ဖြစ်ပေါ်လာတာ ဖြစ်တယ်။ ဒါကြောင့် မာ့က်စ်ရဲ့ ကွန်မြူနစ်ဝါဒ အပေါ်မှာ ရှိတဲ့ဩဇာက လက်တွေ့ မဟုတ်၊ နာမည်ခံပဲ ဖြစ်တယ်လို့ ပြောကြတာ ဖြစ်တယ်။ သူ့စာကို ကိုးကားတာက နည်းနည်းပိုပြီး သိက္ခာရှိအောင်၊ မျက်နှာပန်း လှအောင် (window dressing) လုပ်တာ ဖြစ်တယ်။ စိတ်ကူးနဲ့ လက်တွေ့ဟပ်ပြီး **'တို့ ရမ်းလုပ်နေတာ မဟုတ်ဘူး'** လို့ ဆိုရုံသက်သက်ပဲဖြစ်တယ်။ မာ့က်စ်ပြောတာထဲ မပါလည်း သူတို့ လုပ်ချင်တာကို ဆွဲယူပြီး မဖြစ်ဖြစ်အောင် လုပ်မှာ ဖြစ်ပါတယ်။

ဒီလိုပြောတာတွေ မှန်သင့်သလောက် မှန်တယ်။ နည်းနည်း တစ်ဖက်စွန်းရောက် လွန်းတယ်လို့ ပြောလည်း ဖြစ်ပါတယ်။ လီနင်ဟာ မာ့က်စ် ပြောသမျှကို လိုက်နာ တယ်လို့ ပါးစပ်ပြော (ပေါ့ပေါ့) ပြောသူမဟုတ်ပါ။ တကယ်ဖတ်၊ တကယ်ယုံပြီး ပြောတဲ့အတိုင်း သူလိုက်နာ နိုင်တယ်လို့ ယုံတယ်။ မော်စီတုန်းလည်း ဒီလိုပဲယုံတယ်။ တခြား ကွန်မြူနစ်ခေါင်းဆောင် တွေလည်း ဒီအတိုင်းပဲ ပြောကြတယ်။

မာ့က်စ်ပြောတာကို ကောင်းကောင်း နားမလည် တာလည်း ဖြစ်မယ်။ အဲဒီလိုပါပဲ၊ ခေတ်အဆက်ဆက်မှာ ဂျီးစပ်စ်၊ ဗုဒ္ဓ၊ မိုဟာမက်တို့ ဆိုဆုံးမချက်တွေကို တပည့်တွေ နောက်လိုက်တွေက ဒီလို ဖြစ်တယ်၊ ဟိုလို ဖြစ်မယ် ငြင်းကြတာပါပဲ။ အခြေခံပေါ်လစီ (Main Policies) အားလုံးကို၊ မာ့က်စ်ဝါဒီ အစိုးရ အားလုံးနဲ့ လှုပ်ရှားမှု အစည်းအရုံးတွေက ကားလ်မာ့က်စ် ရေးသမျှကို တိုက်ရိုက် ယူသုံးကြမယ်ဆိုရင် သူ့ကို အခုကျော်စွာ ၁၀၀ စာရင်းမှာ ခုထက်မြင့်တဲ့နေရာကို ပို့ပေးရမှာ ဖြစ်ပါတယ်။

မာ့က်စ်ရဲ့ တွေးခေါ်ယူဆချက်တွေထဲမှာ တစ်ခုဖြစ်တဲ့ စီးပွားရေးနဲ့ အဖြေရှာတဲ့ သမိုင်း (economic interpretation Of history) ဟာ ကွန်မြူနစ်ဝါဒ (Communism) တစ်ခုလုံး တိမ်ကော ပပျောက်သွားတဲ့တိုင်အောင် သူက မတိမ်ကော မပပျောက်ဘဲ ကျန်ရှိနေဦးမှာ ဖြစ်ပါတယ်။

မာ့က်စ်ကို ဘယ်လောက်အဆင့်မြင့်မြင့်မှာထားပြီး ဂုဏ်ပြုရမလဲ ဆိုရင် **'ကမ္ဘာ့သမိုင်းကို အရှည်အဝေး ဆန့်ကြည့်ပြီး ကွန်မြူနစ်ဝါဒကို ဘယ်လောက်မြင့်မြင့် အဆင့်မှာ ထားပြီး လေးစားဦးညွှတ်ကြသလဲ'** ဆိုတာကိုကြည့်ပါလို့ လွယ်လွယ် ပြောကြမယ်။ မာ့က်စ်သေဆုံးပြီး အနှစ်တစ်ရာကြာတဲ့ အခါ မာ့က်စ်တပည့် (နာမည်ခံမျှဆိုသူတွေပါ) တစ်ကုဋေ (1Billion) ရှိတယ်။ အဲဒါ တခြားယုံကြည်မှုရှိတဲ့ဦးရေထက် အများကြီး ပိုတယ်။ အရေအတွက် သက်သက်ရော ကမ္ဘာ့လူဦးရေရဲ့ အစိတ်အပိုင်း တစ်ခု အနေနဲ့ပါ များပြားပါတယ်။ အဲဒါကြောင့် မာ့က်စ်ဝါဒ ကမ္ဘာကိုမျိုတော့မယ်လို့ ကွန်မြူနစ်တွေက ဝမ်းသာကြသလို ကွန်မြူနစ် မကြိုက်သူ (Anti–Communists) တွေက လန့်ကြတယ်။

အခုစာအုပ် ပထမအကြိမ်ရိုက်နှိပ်တုန်းက ကျွန်တော် ဒီလိုရေးခဲ့တယ်။

ကွန်မြူနစ်ဝါဒ (Communism) ဘယ်အထိ တိုးပွားအောင်မြင်မယ် ဆိုတာ အတိအကျပြောဖို့ ခက်တယ်ဆိုပေမယ့် ဒီဝါဒ (ideology) ဟာ အခုဆိုရင် အမြစ်ခိုင်သွားပြီ၊ နောက်ရာစုနှစ်တွေ အများကြီး (ဒီဝါဒပဲ) ကမ္ဘာမှာ အကြီးမားဆုံး ဩဇာအရှိဆုံး ဖြစ်နေလိမ့်ဦးမယ်လို့ သေချာသလို ရှိတယ်။

အဲဒါ သိပ်မဟုတ်တော့ဘူး။ အခု ရုရှ (Russia) မှာ ကွန်မြူနစ်ဝါဒ ပယ်လိုက်ပြီ၊ ဆိုဗီယက်ယူနီယံ အပါအဝင် တခြား နိုင်ငံတွေမှာလည်း ပယ်လိုက်ကြပြီ။ ဆိုဗီယက် ယူနီယံရဲ့ နောက်ဆွဲ အများစုမှာလည်း မလိုက်နာ တော့ဘူးလို့ သိရတော့ ကမ္ဘာမှာ မာ့က်စ်ဝါဒဟာ အခုနှစ်တွေ အတွင်း ဇောက်ထိုးမိုးမျှော် ကျသွားပြီ။ ဒါကို ပြန်ပြီး ဆွဲတင်နိုင်ဖို့လည်း မျှော်လင့်ချက်မရှိလို့ ထင်ပါတယ်။

အခုလိုပြောတာကြောင့် မာ့က်စ်ဝါဒ ရာစုနှစ်ပေါင်း အများကြီး လွှမ်းမိုးမယ့်အရိပ်အခြေ ရှိတယ်လို့ ပြောရာက တစ်ရာစုပဲခံတယ်လို့ ပြင်ပြောရတာ ဖြစ်ပါတယ်။ အခုစာအုပ် ပထမပုံနှိပ်စဥ်က အထင်ကြီးခဲ့တာကို ပြန်လျှော့ရမယ်။ ဒါပေမယ့် အခုထိ နပိုလီယန် (Napoleon) လို၊ ဟစ်တလာ (Hitler)လို ပုဂ္ဂိုလ်တွေထက် ပိုပြီးအရာ ရောက်သူတစ်ယောက် ဖြစ်ပါတယ်။ ဒီပုဂ္ဂိုလ်တွေရဲ့ လုပ်ဆောင်မှုနဲ့ အားထိရောက်မှုဟာ မာ့က်စ်ထက် ကာလ အပိုင်းအခြား တိုတယ်။ နယ်အကျယ်အပြန့် ကျဥ်းတယ်။

25, August, 2000.

## (၂၈) အောဗီလ်ရိုက် (၁၈၇၁ – ၁၉၄၈) ဝီလ်ဗာရိုက် (၁၈၆၇ – ၁၉၁၂)

## ORVILLE WRIGHT (1871 – 1948) WILBUR WRIGHT (1867 – 1912)

ရိုက် (Wright) ညီအစ်ကိုနှစ်ယောက်ရဲ့ ဆောင်ရွက်ချက်တွေဟာ အမြဲပူးတွဲယှက်တင် နေကြတာကြောင့် သူတို့နှစ်ယောက်ကို တစ်ပေါင်းတည်း ဖော်ပြလိုက်ပါတယ်။ ဝီလ်ဗာရိုက်(Wilbur Wright)ကို အင်ဒီယားနား (Indiana) ပြည်နယ်၊ မေဗိုင်း (Millvile) မှာ ၁၈၆၇ က မွေးဖွားတယ်။ ညီ အောဗီလ်ရိုက်(Orville Wright)ကို အိုဟိုင်းအိုး (Ohio) ပြည်နယ်၊ ဒေတန် (Dayton) မှာ ၁၈၇၁ ခုနှစ်က မွေးတယ်။

ညီနောင်နှစ်ယောက်စလုံး အထက်တန်းပညာကို ပြီးအောင် သင်ရဖူးပေမယ့် (တက္ကသိုလ်) ဘွဲ့ကိုတော့ မရဖူးပါ။ သူတို့နှစ်ယောက်စလုံး သင်္ချာမှာ ထူးချွန်တယ်။ နှစ်ယောက်စလုံးပဲ လူက စီမံပေးတဲ့ မိုးပျံနည်းကို စိတ်ဝင်စားကြတယ်။ ၁၈၉၂မှာ သူတို့ ဘိုင်စိုင်ကယ် (Bicycles စက်ဘီး) ဆိုင်ဖွင့်ပြီး လုပ်တယ်၊ ပြင်တယ်၊ ရောင်းတယ်။ အဲဒီက ရတဲ့ငွေနဲ့ သူတို့သိပ်စိတ်အပါဆုံးဖြစ်တဲ့ ကောင်းကင်ပျံ သုတေသန (Aeronautical research) ကိုလုပ်တယ်။ ကောင်းကင်ပျံ ဘာသာနဲ့ ပတ်သက်ပြီး အော့တိုလီလီယန်သာလ် (Otto Lilienthal)၊ အော့တေ့ဗ်ချာနုတ် (Octave Chanute) နဲ့ ဆယ်မြူရယ်ပီလ်လန်ဂလေ (Samuel P.Langley)တို့ ရေးသားဆောင်ရွက် သမျှကိုလည်း စိတ်ပါလက်ပါ ဖတ်ရှုမှတ်သား တယ်။ ၁၈၉၉ ကစပြီး ဒီမိုးပျံနည်းကို သူတို့ ကိုယ်တိုင် ရှာဖွေစမ်းသပ်ကြပါတယ်။ နောက် လေးနှစ် ကျော်ကျော်ကြာတဲ့အခါ ဒီဇင်ဘာ ၁၉၀၃ မှာ သူတို့ အောင်ပွဲခံခဲ့ကြပါတယ်။ သူများတွေ တွေးတောကြံဆလုပ်ကိုင်လို့ မအောင်မြင်တာကို ဒီရိုက်ညီနောင်ကမှ အောင်မြင်တာ၊ ဒါကို အံ့သြကြတယ်။ သူတို့ အောင်မြင်တာက ဘာ့ကြောင့်လို့ ပြောစရာ အချက်တွေ အများကြီးရှိပါတယ်။

ပထမ။ ။ခေါင်းနှစ်ခေါင်းက တစ်ခေါင်းတည်းထက် သာတာပေါ့လို့ ပြောရမယ်။ ရိုက်ညီနောင်ဟာ အလုပ် အတူတူလုပ်တယ်။ တကယ့်ကို ညီညီညွတ်ညွတ်

ဆွေးနွေးတိုင်ပင်ပြီး တစ်ယောက်ကို တစ်ယောက် ကူညီတယ်။

ဒုတိယ။ ။သူတို့က ပထမ လူပျံကြည့်မယ်။ ပြီးတော့မှ စက်အားကိုသုံးပြီး မိုးပျံနိုင်မယ့်ယာဥ် (a powered Airplane) လုပ်မယ် ဆုံးဖြတ်တာဟာ အင်မတန် မှန်တယ်။ ဒီစကားဟာ မဖြစ်နိုင် (paradoxical)တာဘဲလို့ ပြောကြမယ်။ လေယာဥ်ပျံရှိမှ ပျံနိုင်မှာ မဟုတ်လားလို့ မေးမယ်။ ရိုက်ညီနောင်က ကျွန်တော်တို့ လေဟုန်စီး တောင်ပံ (gliders)သုံးပြီး အပျံသင်ပါတယ်လို့ ဖြေပါတယ်။ တကယ်လည်း သူတို့ ၁၈၉၉ ကပဲစပြီး စွန်နဲ့လေဟုန်စီးတောင်ပံတွေ ကောင်းကင်မှာ လွှတ်ကြည့်တယ်။ (တောင်ထိပ်က တောင်ခြေမြေပြန့် ကိုရောက်အောင် လွှတ်ကြည့်တယ်။) နောက်တစ်နှစ်ကျတော့ မြောက်ကာရိုလိုင်းနား (North Carolina) က ကစ်တီဟောက် (Kitty Hawk) ကို (လူသယ်နိုင်အောင်) လေဟုန်စီး တောင်ပံကြီးကြီးကို စမ်းသပ်ကြည့်ဖို့ ယူလာပါတယ်။ သိပ်မကျေနပ်သေးပါ။ ၁၉၀၂ ခုမှာ ပိုပြီးကောင်းတဲ့ လေဟုန်စီးတောင်ပံ (glider) ကို စမ်းတယ်။ ၁၉၀၂ ခုမှာ တတိယ လေဟုန်စီးတောင်ပံကို သုံးတယ်။ ဒီ တတိယ လေဟုန်စီး တောင်ပံမှာ အထူးအရေးပါတဲ့ သူတို့ရဲ့နည်းသစ်နည်းဆန်းတွေကို တပ်ဆင် ပေးထားတယ်။ (၁၉၀၃ ခုနှစ်မှာ မှတ်ပုံတင်တဲ့ အခြေခံကိရိယာတွေဟာ ဒီလေဟုန်စီးတောင်ပံနဲ့ ပတ်သက်တယ်။ ပထမစက်အား လေယာဥ်နဲ့ မဆိုင်ပါ။) ဒီတတိယ လေဟုန်စီးတောင်ပံနဲ့ အကြိမ် တစ်ထောင်ကျော် ပျံသန်း အောင်မြင်ပါတယ်။ ရိုက်ညီနောင်ဟာ ကမ္ဘာမှာ အတော်ဆုံး ဝါအရင့်ဆုံး လေဟုန်စီးသူရဲများ ဖြစ်ပြီးမှ စက်အားနဲ့ မောင်းတဲ့လေယာဥ်ပျံ (Aircraft) ကို တည်ဆောက်ပါတယ်။

လေဟုန်စီး တောင်ပံနဲ့ ပျံသန်းနိုင်တဲ့ အတွေ့အကြုံဟာ သူတို့ အောင်မြင်ဖို့ ထောက်ပံ့ကူညီတဲ့ တတိယ အကြောင်းရင်း ဖြစ်ပါတယ်။

အရင်က လေယာဥ်ပျံတည်ဆောက်တဲ့လူတွေက သူတို့ရဲ့ယန္တရားကို မြေပြင်ကနေ လေထဲကို ကြွတက်အောင် ဘာလုပ်ပေးရမယ် မသိ။ ဒါဟာ ပြဿနာပဲလို့ ထင်တယ်။ ရိုက်ညီနောင်ကတော့ လေထဲရောက်မှ ဒီလေယာဥ်ကို ဘယ်လို ထိန်းမလဲ ဆိုတာကမှ တကယ့် ပြဿနာလို့ သိတယ်။ ဒါကြောင့် သူတို့အချိန်ကုန်ခံပြီး လေထဲမှာ ဒီလေယာဥ်ကို ဘယ်လို ငြိမ်အောင်ထိန်းရပါ့မလဲလို့ အမျိုးမျိုး အဖုံဖုံ ကြံစည် အားထုတ်တယ်။ ဒီလိုနဲ့ ဝင်ရိုးသုံးခုနဲ့ ထိန်းတဲ့စက်ကို ကောင်းကောင်း တီထွင်နိုင်လို့ လွယ်ကူပြေပြစ်အောင် နိုင်နိုင်နင်းနင်း မောင်းနှင် နိုင်ပါတယ်။

တောင်ပံပုံစံ (wing design) ကို ဖော်ထုတ်ရာမှာလည်း ရိုက်ညီနောင်ရဲ့ အရေးပါတဲ့ ဖြည့်စွက်ချက် တစ်ခုဖြစ်ပါတယ်။ အရင်က ဒီကိစ္စနဲ့ဆိုင်တဲ့ စာရင်းဇယား တိုင်းထွာတင်ပြချက်တွေဟာ မခိုင်လုံဘူးဆိုတာ သူတို့သိတဲ့အခါ သူတို့ဘာသာ လေလျှောက်လိုဏ် (wind tunnel) လုပ်ပြီးမှ လေတိုက်သွားမယ့်မျက်နှာပြင် (wing surface) ပုံစံကို အမျိုးနှစ်ရာကျော်လုပ်ပြီး စမ်းသပ်တယ်။ အဲဒီ စမ်းသပ်ချက်ကြောင့် သူတို့ကိုယ်တိုင်လုပ်တဲ့ စာရင်းဇယားအရ လေရဲ့ဖိအား (Air pressure) ကျရောက်ပုံဟာ တောင်ပံပုံစံ

(wing shape) ပေါ်မှာ တည်တယ်ဆိုတာ တွေ့တယ်။ ဒီလိုတွေ့ပြီးမှ လေယာဉ်ရဲ့ တောင်ပံပုံစံကို ဖော်ယူ ပါတယ်။

ရိုက်ညီနောင်ဟာ ခုပြောပြီးတဲ့ဟာတွေ လုပ်နိုင်တယ်ထား၊ ဆီလျော်တဲ့ သမိုင်းတစ်ခေတ်မှာ မပေါ်လာရင် ခုလို မအောင်မြင်နိုင်ပါ။ တစ်ဆယ့်ကိုးရာစုနှစ် ပထမထက်ဝက်က စက်အားနဲ့ ယာဉ်ပျံတွေ လုပ်သမျှ မအောင်မြင်ပါ။ ရေနွေးငွေ့စက်ကိုသုံးခဲ့ကြတော့ လိုအပ်တဲ့အားကိုရဖို့ စက်က လေးလွန်းနေတယ်။ ရိုက်ညီနောင်ပေါ်ချိန်မှာ အစွမ်းထက်တဲ့ အတွင်းတွန်း(ပွင့်)အားစက် (internal combustion engines) ကောင်းကောင်း ပေါ်နေပါပြီ။ ဒါပေမဲ့ အဲဒီအခါက သုံးစွဲနေသမျှ အတွင်းပွင့်အားစက်တွေဟာ မိုးပျံစက်မှာ တပ်ဆင်ပေးဖို့ အလေးချိန် များလွန်းတယ်။ ကြီးသလောက်လည်း အားမကောင်းဘူး။ ဒီတော့ ဘယ်တီထွင်ထုတ်လုပ်သူက အလေးချိန် သေးသေးနဲ့ အားကောင်းကောင်းစက်ကို လုပ်ပေးမလဲ၊ ရိုက်ညီနောင်က ယန္တရားပညာသည်တစ်ဦး အကူအညီနဲ့ သူတို့လိုတဲ့စက်ကို ပုံထုတ်ယူပါတယ်။ ဒါဟာ သူတို့ကို ပါရမီရှင်တွေပဲလို့ ပြောနိုင်စရာ အချက်တစ်ခုပါပဲ။ သူတို့ အချိန်နည်းနည်းပဲ အားထုတ်လိုက်တာနဲ့ တခြားတီထွင်သူတွေ စွမ်းသမျှစက်မျိုးထက်သာတဲ့ စက်ကို တီထွင် နိုင်ပါတယ်။ အဲဒါအပြင် ရိုက်ညီနောင်က ရှေ့ကလည်တဲ့ ရဟတ် (Propellers) ပန်ကာကိုလည်း စိတ်ကြိုက် ထွင်ယူပါသေးတယ်။ သူတို့တီထွင်တဲ့ ရဟတ်ဟာ အခု အသုံးပြုနေကြတဲ့ ရဟတ်အစွမ်းကို ၆၃ ရာခိုင်နှုန်း မီတယ်။ လေယာဉ်ကို မြောက်ကာရိုလိုင်းနား၊ ကစ်တီဟောက် အနီး ကေးဒက်ဗဲလ်တောင် (Kill Devil Hill) မှာ ၁၇ ဒီဇင်ဘာ၊ ၁၉၀၃ က ပထမဆုံး ပျံပြတယ်။ အဲဒီနေ့က ညီအစ်ကို နှစ်ယောက်ဟာ တစ်ယောက်စီ နှစ်ကြိမ် ပျံပြတယ်။ အောဗီလ်ရိုက် ပထမအကြိမ် ပျံသန်းချိန် ၁၂ စက္ကန့်၊ ခရီးအကွာအဝေး ပေ ၁၂၀၊ ဝီလ်ဗာရိုက် နောက်ဆုံးအကြိမ် ပျံတော့ ၅၉ စက္ကန့်မှာ ၈၅၀ ပေ ခရီးပေါက်တယ်။ သူတို့ယာဉ်ကို (၁) (Flyer–I) လို့ ခေါ်တယ်။ (လူအများကတော့ ကစ်တီဟောက် Kitty Hawk ခေါ်ကြတယ်။) ကုန်ကျစရိတ် ဒေါ်လာ တစ်ထောင်နီးပါးရှိတယ်။ တောင်ပံနှစ်ဖက် အလျားပေ ၄၀ လောက်ရှိမယ်။ အလေးချိန်ပေါင် ၇၅၀ ခန့်ရှိမယ်။ စက်က မြင်း ၁၂ ကောင်အား၊ အလေးချိန်ပေါင် ၁၇၀ ပဲရှိတယ်။ ကံအားလျော်စွာ ဒီပထမ လေယာဉ်ပျံဟာ ခုဝါရှင်တန်ဒီစီ (Washington D.C.) အမျိုးသားလေနဲ့ လေဟာပြင် ပြတိုက် (National Air And Space Museum) မှာ ရှိတယ်။

ဒီလို အစပထမပျံသန်းတဲ့အခါ မျက်မြင်သက်သေ ငါးယောက်ရှိပြီး၊ နောက်တစ်နေ့ သတင်းစာ ရှိသမျှထဲက တချို့ပဲ(ပေါ့တီးပေါ့ဆ) သတင်း စကားဖော်ပြရေးသားတယ်။ သူတို့နေတဲ့ အိုဟိုင်းအိုး (Ohio)နယ်၊ ဒေတန် (Dayton)မြို့ သတင်းစာက လုံးဝ မဖော်ပြပါ။ နောက်ငါးနှစ် နီးပါးကြာတော့မှ ကမ္ဘာတစ်ဝန်းမှာ လူပါတဲ့ စက်ဟာ၊ တကယ်တမ်း မိုးပျံလို့ရပြီလို့ သိကြပါတယ်။

ကစ်တီဟောက်မှာ ရိုက်ညီနောင် ပျံသန်း ပြပြီးတဲ့နောက် ဒေတန်ကိုပြန်လာပြီး

ယာဉ်ပျံ (၂) (Flyer II) ကို တည်ဆောက်ကြတယ်။ ၁၉၀၄ မှာ အဲဒီယာဉ်နဲ့ ၁၀၅ ကြိမ်ပျံတယ်။ ဘယ်သူမှ သိပ်ဂရုမစိုက်ဘူး။ ၁၉၀၅မှာ တကယ်စွမ်းအောင် ပြင်ဆင်ပြီး ယာဉ်ပျံ(၃) (Flyer III) ကို တည်ဆောက်ခဲ့တယ်။ ဒေတန်မှာ အကြိမ်ကြိမ် အစမ်းပျံနေကြပေမယ့် အများစုက လေယာဉ်ပျံ တကယ်ရှိနေပြီလို့ မသိကြပါ။ ဥပမာပြောရရင် ၁၉၀၆ ခုနှစ် ပါရီ (Paris)ထုတ် ဟဲရယ် (လ်ဒ်)ထရှိုင်ဗျွန်း (Herald Tribune – သံတော်ဆင့်ကြီး) သတင်းစာက **'ပျံသလား ညာသလား'** (Flyer or Liars ရှူးပျံလား အလံရှူးလား) ခေါင်းစီးတပ်ပြီး ရိုက်ညီနောင် အကြောင်း ဆောင်းပါးရေးတယ်။

ရိုက်ညီနောင်က ၁၉၀၈ ခုမှာ လူအများ နောက်ထပ် သံသယ မရှိနိုင်အောင် ဝီလ်ဗာရိုက်က သူတို့ယာဉ်ပျံတွေကို ပြင်သစ်ကို သယ်သွားပြီး အများပရိသတ် မြင်သာအောင် အကြိမ်ကြိမ် မောင်းနှင်ပျံသန်းပြပြီး လေယာဉ်ပျံကို ဈေးကွက်တင်ဖို့ ကုမ္ပဏီတစ်ခု တည်ထောင်ပါတယ်။ ပြိုင်တူပဲ အောဗီလ်ရိုက်က သူအများ ကြည့်ရှုနိုင်အောင် ပျံသန်းပြတယ်။ ကံဆိုးချင်တော့ ၁၇ စက်တင်ဘာ ၁၉၀၈ မှာ ပျက်ကျတယ်။ ဒီတစ်ကြိမ်ပဲ သူတို့ပြတဲ့ပွဲတွေမှာ ဒုက္ခကြုံရဖူးပါတယ်။ တက်ရောက်လိုက်ပါသူ တစ်ဦး သေတယ်။ အောဗီလ်ရိုက် ခြေတစ်ဖက်၊ နံရိုးတစ်ချောင်း ကျိုးပေမယ့် မသေဘူး။ တခြား အောင်မြင်တဲ့ပွဲတွေကြောင့် ပြည်ထောင်စု အစိုးရက အမေရိကန်စစ်ဌာနကို လေယာဉ်ပျံ သွင်းခွင့် ကံထရိုက် (contract) ကို လက်မှတ်ထိုး ပါတယ်။ ၁၉၀၉ ခုမှာ ပြည်ထောင်စု ဘဏ္ဍာရေးလျာထားချက် (Federal Budget) မှာ စစ်တပ်လေကြောင်းသုံးစရိတ် (Army Aviation) ဒေါ်လာ ၃၀၀၀၀ ချပေးလိုက်ပါတယ်။

ဒီအတွင်းမှာ မူပိုင်မှတ်ပုံတင်အတွက် တစ်ဖက် ပြိုင်ဆိုင်သူတွေနဲ့ အပြန်အလှန် ငြင်းဆိုချက် (Patent Litigation) တွေကြောင့် ရိုက်ညီနောင်တွေ ရုံးတက်ကြရသေးတယ်။ ၁၉၁၄ ရောက်တဲ့အခါ ရုံးတော်က သူတို့ကို အနိုင် ပေးခဲ့ပါတယ်။ ဒီအတောအတွင်း ဝီလ်ဗာရိုက်မှာ တိုက်ဖွိုက် (Typhoid – အူရောင်ငန်းဖျား) ရလို့ ၁၉၁၂မှာ ကွယ်လွန်တယ်။ အသက် လေးဆယ့်ငါးနှစ်ပဲ ရှိသေးတယ်။ အောဗီလ်ရိုက်က ၁၉၁၅ ခုနှစ်မှာ လေယာဉ်ကုမ္ပဏီနဲ့ဆိုင်တဲ့ ငွေကြေး အခွင့်အရေး (financial interests) အားလုံးကို ရောင်းချပြီး ၁၉၄၈ခုထိ နေသွားတယ်။ နှစ်ယောက်စလုံး အိမ်ထောင်မရှိပါ။

မိုးပျံပညာစမ်းသပ်တဲ့နယ်မှာ ရှေးရှေးကပဲ စိတ်ပါဝင်စားခဲ့ကြပြီး အဲဒီအခါတွေက ဘာကို လုပ်နိုင်ပြီ၊ ဘယ်သူက စပြီးလုပ်နိုင်တာ ဆိုပြီး နာမည်ခံကြတယ်။ ဒါပေမယ့် ရိုက်ညီနောင်သာ လေယာဉ်ပျံ တည်ဆောက်ရာမှာ အများဆုံး တီထွင်အောင်မြင်တာ ဖြစ်တယ်လို့ ဘယ်သူမှ မငြင်းနိုင်ပါ။ အခု ကျော်စွာ ၁၀၀ စာရင်းမှာ သူတို့ကို ဘယ်အဆင့်က ထားမလဲ စဉ်းစားရင် လေယာဉ်ပျံရဲ့ အဖိုးတန်ပုံ အရာရောက်ပုံကို ပထမ စဉ်းစားဖို့ လိုပါတယ်။ ကျွန်တော့် အယူအဆမှာ လူတွေရဲ့ဘဝကို အကြီးအကျယ် တော်လှန် ပြောင်းလဲစေနိုင်တဲ့ အသစ် တီထွင်ချက်ကြီးတွေမှာ၊ စာပုံနှိပ်စက် (printing press) နဲ့ ရေနွေးငွေ့စက် (steam engine) ပေါ်လာတဲ့အခါ ပြောင်းလဲပုံမျိုးကို မီအောင်၊

လေယာဉ်ပျံ ပေါ်လာတာက ပြောင်းလဲခြင်း အတိုင်း အဆမကြီးကျယ်ပါ။ အဲဒါပေမဲ့ စစ်အတွင်းနဲ့ စစ်လွန်ကာလတွေမှာ အကျိုးဆက်တွေ တကယ်များပါတယ်။ အခု ဆယ်စုနှစ် နည်းနည်းအတွင်းမှာပဲ ကမ္ဘာမြေ ကျယ်ပြန့်လှတယ်ပြောရာက ကျဉ်းသွားပြီလို့ ပြောလာကြပြီ။ လူတွေ မိုးပေါ်မှာ ကောင်းကောင်း ပျံနိုင်ပြီဆိုတာ လေဟာပြင်ခရီး (space travel) ရဲ့ရှေ့ပြေး မဟုတ်လား။

ရာစုနှစ်နဲ့ ပြောကြစို့ဆိုရင် အရင်နှစ်တွေ ရာပေါင်းရာပေါင်း မရေမတွက်နိုင်တဲ့ အထိ ရှေးကျတဲ့အခါကပဲ လူတွေက မိုးကောင်းကင်မှာပျံသန်း (ခရီးသွား) ချင်ကြတယ်။ အာရေဘီယံညဥ့် (Arabian Nights) တစ်ထောင့်တစ်ညပုံပြင်တွေမှာ မိုးပျံကော်ဇောအကြောင်း ပါတယ်။ ဒါတွေဟာ လက်တွေ့မဟုတ် အိပ်မက်တွေပဲလို့ နောက်ဆုံး မာန်လျှော့ကြရတယ်။ ပါရမီရှင် (genius) တွေဖြစ်တဲ့ ရိုက်ညီနောင်(Wrights) က လူသားတွေရဲ့ အိပ်မက်ကို တကယ်ဖြစ်အောင် လုပ်ပေးတယ်။ ပုံပြင်ဟာ တကယ်ဖြစ်ခဲ့ပြီ။

26, August, 2000.

# (၂၉) ဂျဲန်ဂျစ်ခန် (၁၁၆၂ – ၁၂၂၇) ခန့်

# GENGHIS KHAN (c. 1162 – 1227)

ဂျဲန်ဂျစ်ခန် ခေါ် မွန်ဂို (Mongol) အောင်နိုင်သူကြီးဟာ ခရစ်နှစ် ၁၁၆၂ လောက်က မွေးဖွားသူဖြစ်တယ်။ သူ့ဖခင်က မွန်ဂိုခေါင်းဆောင်ငယ် (petty chief) တစ်ယောက် ဖြစ်တယ်။ သူ့သားကို သူနိုင်လိုတဲ့ ခေါင်းဆောင်ငယ် တစ်ယောက်ရဲ့ နာမည်ကို ယူပြီး တေမုဂျိန် (Temujin) လို့ ခေါ်ပါတယ်။ တေမုဂျိန် ကိုးနှစ်သား ရောက်တော့ ရန်သူမျိုးတူ စုတစ်စုက လာသတ်သွားတယ်။ ဒါနဲ့ ကျန်ရစ်တဲ့ မိသားစုက ပုန်းအောင်းပြီး ကြောက်ကြောက် လန့်လန့် ဆင်းတောင့်ဆင်းရဲနေခဲ့ရတယ်။ အဲဒီလို အစမကောင်းတဲ့အပြင် ပြန်မကောင်းမီ အခြေအနေဟာ ပိုလို့ပိုလို့သာ ဆိုးခဲ့တယ်။ လူလားမြောက်စမှာ ရန်သူမျိုးတူစုက ဖမ်းပြီး ထွက်မပြေးနိုင်အောင် လည်ပင်းမှာ သစ်သားပြားကြီး တစ်ခုကို အပေါက်ဖောက်ပြီး ကော်လာ (Collar) တပ်ပေးထားတာကို ခံရတယ်။ ဘာဆိုဘာမှ ကောင်းဖို့ အလားအလာ မရှိ၊ အကျဉ်းသားဘဝ၊ စာမတတ်၊ ပတ်လည်မှာလည်း လူသူ စိုက်ခင်း ပျိုးခင်း မရှိ၊ အဲဒီကမှ ကမ္ဘာမှာ တန်ခိုးအကြီးဆုံး ပုဂ္ဂိုလ် ဖြစ်လာပါတယ်။ သူ့တက်လမ်းဟာ အကျဉ်းသားဘဝ ထွက်ပြေး လွတ်မြောက်ခြင်းက စတယ်။ အနီးအနားမှာ နေတဲ့ ဖခင်ရဲ့မိတ်ဆွေ၊ သွေးသားတော်စပ်တဲ့ အကြီးအကဲ တော့ဂရီလ် (Toghril) ဆီမှာ ခိုလှုံရင်း မွန်ဂိုမျိုးတူစု (Mongol tribes) တွေမပြတ်အောင် သတ်ကြ၊ ဖြတ်ကြတဲ့အထဲက တေမုဂျိန်ဟာ တဖြည်းဖြည်းထိပ်ကို တိုက်ခိုက်ရင်း ရောက်လာပါတယ်။ မွန်ဂိုမျိုးတူစုတွေဟာ အင်မတန် မြင်းစီးတော်ပြီး ထိတ်လန့်ကြောက်ရွံ့စရာ စစ်သူရဲတွေ ဖြစ်တယ်။ သမိုင်းတလျှောက်မှာ သူတို့က တရုတ်မြောက်ပိုင်းကို ရုတ်တရက် မကြာခဏ ဝင်ရောက်လုယက် ဖျက်ဆီးတတ်တယ်။ ဒါပေမယ့် တေမုဂျိန် ဘုန်းတန်ခိုး မကြီးထွားမီက မျိုးတူစုအချင်းချင်း တိုက်ခိုက်နေကြတာနဲ့ မောပန်း အင်အား ယုတ်လျော့နေပါတယ်။ စစ်အားသာခြင်း (military powers)၊ အသာတကြည် ပြောဟောဖျောင်းဖျခြင်း (diplomacy)၊ ရက်စက်စရာရှိရင် မညှာမတာ ရက်စက်ခြင်း (ruthlessness)၊ စည်းရုံးနိုင်စွမ်းရှိခြင်း (Organizational ability) တွေကြောင့် တေမုဂျိန်က မျိုးတူစုအားလုံးကို သူ့လက်အောက်မှာ စုစည်းမိအောင် လုပ်တယ်။ ၁၂၀၆ ပြည့်မှာ မွန်ဂိုအကြီးအကဲတွေ အားလုံးက သူ့ကို စကြဝဠာ ဧကရာဇ် အဓိပ္ပာယ်ရတဲ့ ဂျဲန်ဂျစ်ခန် (Genghis Khan) အဖြစ် ရွေးကောက် တင်မြှောက်ကြပါတယ်။ ဂျဲန်ဂျစ်ခန်စုစည်းထားတဲ့ သိပ်ကြီးမားတဲ့

စက်ယန္တရားကြီးနဲ့၊ အနီးအနား နိုင်ငံတွေကို တိုက်ခိုက်ရေး စပါတော့တယ်။ အနောက်မြောက် တရုတ်၊ ရှီရှား(His Hsia)နိုင်ငံနဲ့ အနောက် တရုတ် ချင်ကရာဇ်နိုင်ငံ (Chin Empire) တွေကို စတင် တိုက်ခိုက်တယ်။ ဒီလိုတိုက်ခိုက်ဆဲမှာပဲ ပါရှ (Persia) နဲ့ ဗဟိုအာရှ (Centra Asia) မှာ တော်တော်ကျယ်ပြန့်တဲ့ နိုင်ငံတော်ပိုင်ရှင် ခွာရက်ဇံရှား မိုဟာမက် (KhWarezm Shah Muhammad)နဲ့ အငြင်းအခုံဖြစ်ကြတယ်။ ဂျင်ဂျစ်ခန်က ခွာရက်ဇံရှားကို သွားရောက် တိုက်ခိုက်တယ်။ ဗဟိုအာရှနဲ့ ပါရှကို ချေမှုန်းပြီး ခွာရက်ဇံရှားရဲ့ လက်နက်နိုင်ငံကို အပြီးတိုင် ဖျက်ဆီး ပစ်လိုက်ပါတယ်။ မွန်ဂိုစစ်သည်တွေ ရုရှကို တိုက်ခိုက်ဆဲ ဂျင်ဂျစ်ခန် ကိုယ်တိုင် အာဖဂန်နစ္စတန် (Afghanistan)နဲ့ မြောက်အိန္ဒိယ (Nothern India) ကို ဝင်ရောက် လုယက် တိုက်ခိုက်တယ်။ မွန်ဂိုလီးယားကို ၁၂၂၅ခုမှာ ပြန်ရောက်လာပြီး ၁၂၂၇ မှာ ကွယ်လွန်ပါတယ်။ သူမသေမီကလေးမှာ ဂျင်ဂျစ်ခန်က သူ့တတိယသား အောဂဒဲ (Ogadai) ကို သူ့ရာထူး ဆက်ခံပါစေလို့ တောင်းဆိုတယ်။ အဲဒါလည်း အင်မတန်မှန်တဲ့ ရွေးကောက်ချက်ဖြစ်တယ်။ အောဂဒဲဟာ သူ့ပုံစံနဲ့ သူစွမ်းတဲ့ ဗိုလ်ချုပ်ကြီးတစ်ဦး ဖြစ်ပါတယ်။ သူခေါင်းဆောင်ပြီး မွန်ဂိုတပ်တွေဟာ တရုတ်မှာလည်း ဆက်တိုက်တယ်။ ရုရှ အားလုံးကိုလည်း ချေမှုန်းတယ်။ ပြီးတော့ ဥရောပ နိုင်ငံကိုလည်း တိုးဝင်တယ်။ မွန်ဂိုတပ်တွေဟာ ၁၂၄၁ မှာ ပိုလစ်ရှ်(Polish)၊ ဂျာမန် (German) နဲ့ ဟန်ဂေရီယန် (Hungarian) တပ်တွေကို လုံးဝချေမှုန်းပြီး ဘူဒါပက်စ် (Budapest)ကို ကျော်ပြီး ရောက်လာကြပါတယ်။ ဒါပေမယ့် အဲဒီနှစ်မှာပဲ အောဂဒဲ သေဆုံးပြီး မွန်ဂိုတပ်တွေဟာ ဥရောပက ဆုတ်ခွာသွားတယ်။ နောင်ဘယ်တော့မှ ပြန်မလာတော့ပါ။ မွန်ဂို အကြီးအကဲတွေဟာ အချိန် အကြာကြီး (အောဂဒဲကို) ဆက်ခံမယ့်သူကို ရွေးမရနိုင်အောင် ဖြစ်နေတယ်။ ပြီးမှ ဂျင်ဂျစ်ခန်ရဲ့မြေးတွေဖြစ်တဲ့ မန်ဂုခန် (Mangu Khan)နဲ့ ကူဗလိုင်ခန် (Kublai Khan) ဆိုတဲ့ ခန်(Khan) မင်းကြီးနှစ်ပါး လက်ထက်မှာ မွန်ဂိုတွေဟာ အာရှကို ဆက်လက် တိုက်ခိုက်ပြန်တယ်။ ၁၂၇၉ မှာ တရုတ် (China) အားလုံးကို ကူဗလိုင်ခန်က သိမ်းယူပြီးတဲ့အခါ မွန်ဂိုတွေဟာ သမိုင်းမှာ အကျယ်ပြန့်ဆုံး ကြည်းလက်နက်နိုင်ငံ (Land Empire) ကို အုပ်စိုးနိုင်သူဖြစ်လာပါတယ်။ သူတို့ပိုင်နက် (Domain) ထဲမှာ တရုတ်၊ ရုရှနဲ့ ဗဟိုအာရှတွေလည်း ပါတယ်။ ပါရှနဲ့ အရှေ့မြောက် အာရှအားလုံး နီးပါးလည်း ပါတယ်။ သူတို့တပ်တွေက ပိုလန်က မြောက်အိန္ဒိယအထိ အောင်မြင်စွာ လုယက် တိုက်ခိုက်နိုင်တယ်။ ကိုရီးယား (Korea)၊ တိဘက် (Tibet)နဲ့ အရှေ့တောင်အာရှ တချို့ ဒေသတွေက ကူဗလိုင်ခန်ရဲ့ လက်အောက်ခံ ဖြစ်ခဲ့တယ်။ ဟိုအချိန်အခါက ရှေးခေတ်ပုံစံ ခရီး လမ်းဆက်သွယ်ရေးအတိုင်း ဒီလောက်ကျယ်တဲ့ လက်နက်နိုင်ငံကို ဘယ်နည်းနဲ့မှ အကြာကြီး သိမ်းမထားနိုင်ပါ။ အဲဒါနဲ့ မွန်ဂိုလက်နက်နိုင်ငံဟာ မကြာမီ အစိတ်စိတ်ကွဲရပါတယ်။ ဒါပေမယ့် မွန်ဂိုမင်းဆက် (Mongol successor) ထူထောင်နိုင်တဲ့ နိုင်ငံတွေမှာ မွန်ဂိုစိုးမိုးခြင်း အကြာကြီး ဆက်လက်တည်တံ့တာကို တွေ့ရပါတယ်။ မွန်ဂိုတွေကို တရုတ်က ၁၃၆၈ မှာ တိုက်ထုတ် နိုင်ပါတယ်။ ရုရှမှာ သူတို့အုပ်ချုပ်ရက် ဒါထက်ပိုရှည်ပါတယ်။ ဂျင်ဂျစ်ခန်ရဲ့မြေး ဗတု (Batu) ထူထောင်တဲ့ ရွှေတပ်ဖွဲ့ (The Golden Hordo)ခေါ် ရုရှမွန်ဂိုနိုင်ငံ (Mongol

Kingdom Of Russia) ဟာ တစ်ဆယ့်ခြောက် ရာစုနှစ်အထိ ဆက်လက်တည်ရှိပြီး ကရိုင်းမီယ ခန်နိုင်ငံ (Crimea Khanate)ဟာ ၁၇၈၃ထိ မပျက်မစီး ရှိနေခဲ့ပါတယ်။ ဂျဲန်ဂျစ်ခန်ရဲ့ သားတွေမြေးတွေ ထူထောင်တဲ့ မင်းဆက်တွေဟာ ဗဟိုအာရှနဲ့ ပါရှမှာ ရှိတယ်။ အဲဒီနေရာတွေကို မွန်ဂိုသွေးပါတဲ့ တီမာရ်(Timur) ခေါ် တမာလိန်း (Tamerlaine) က တစ်ဆယ့်လေး ရာစုနှစ်မှာ သိမ်းယူတယ်။ သူက ဂျဲန်ဂျစ်ခန် အမျိုးဆက်လို့ ခံယူတယ်။ တမာလိန်း မင်းဆက်ဟာ နောက်ဆုံး တစ်ဆယ့်ငါး ရာစုနှစ်ရောက်မှ အဆက်ပြတ်သွားတယ်။ ဒါတောင် မွန်ဂို ပိုင်ဆိုင်အုပ်စိုးမှုတွေ ကြွင်းကျန် နေသေးတယ်။ တမာလိန်းရဲ့ မြေးရဲ့ မြေး (great–great–grandson) ဘာဘာ (Berber)က အိန္ဒိယကို ဝင်တိုက်ပြီး မဂို (Mogol, Mongol) မင်းဆက်ကို ထူထောင်ခဲ့ပါတယ်။ မဂို(Mogol) မင်းတွေဟာ အမှန်တကယ်ပဲ အိန္ဒိယ အားလုံး နီးနီးကို သိမ်းယူပြီး တစ်ဆယ့်ရှစ် ရာစုနှစ်ဝက်အထိ အာဏာကို ဆုပ်ကိုင် ထားနိုင်ကြပါတယ်။ သမိုင်းတစ်လျှောက်မှာ ကမ္ဘာကိုလွှမ်းမိုးတဲ့လူ (အရူးလို့ ခေါ်ချင်ခေါ်) တွေဟာ အများကြီး အောင်မြင်ကြတာကို တွေ့တယ်။ အဲဒီလို **'ငါ့ထက်သာ လူမှာမရှိ'** ဆိုတဲ့ အရူး (Megalomaniacs) တွေထဲမှာ မဟာအလက်ဇန္ဒား (Alexander The Great)၊ ဂျဲန်ဂျစ်ခန် (Genghis Khan)၊ နပိုလီယန်ဘိုနာပတ် (Napoleon Bonaparte) နဲ့ အဒေါ့ဖ်ဟစ်တလာ (Adolf Hitler) တို့က အထင်ရှားဆုံးပဲ။ အဲဒီပုဂ္ဂိုလ် လေးဦးစလုံး ဒီကျော်စွာ ၁၀၀ စာရင်းမှာ ရှေ့တန်း ရောက်နေတာ ဘာကြောင့်ပါလိမ့်လို့ မေးစရာ ရှိပါတယ်။ အတွေး (Idea)က၊ တပ် (Armies) ထက် မသာနိုင်ဘူးလား မေးပါ။ ရေရှည်မှာ **'ကလောင်က ဓားထက် ထက်တယ်'** ဆိုတာ ကျွန်တော်လည်း ယုံကြည်ပါတယ်။ ဒါပေမယ့် ရေတိုကိုလည်း မပစ်ပယ်ပါနဲ့။ ဒီပုဂ္ဂိုလ် လေးဦးစလုံး နယ်အကြီးကြီး လူအများကြီးကို လွှမ်းမိုးနိုင်တယ်။ သူတို့နဲ့ သက်တူရွယ်တူတွေ အများကြီးကို ညြဇာပေးနိုင်တယ်။ အဲဒါကြောင့် ဒီပုဂ္ဂိုလ်တွေကို ဓားပြတွေပဲလို့ ဘေးဖယ်လို့မရပါ။

27, August, 2000.

# (၃၀) အဒမ် စမစ် (၁၇၂၃ – ၁၇၉၀)

# ADAM SMITH (1723 – 1790)

ဘောဂဗေဒသီအိုရီ ထွန်းကားရေးမှာ ရှေ့ဆောင် ပုဂ္ဂိုလ်ဖြစ်တဲ့ အဒမ်စမစ် (Adam Smith) ကို စကော့တလန် (Scotland) ပြည်နယ်၊ ကာ့ခ်ကယ်လ်ဒီ (Kirkcaldy) မြို့မှာ ၁၇၂၃ က မွေးဖွားပါတယ်။ ငယ်စဉ်က အောက်စဖို့ဒ် (Oxford) တက္ကသိုလ်မှာ ပညာသင်ခဲ့ပြီး ၁၇၅၁ – ၁၇၆၄ အတွင်း ဂလပ်စ်ဂို (Glasgow) တက္ကသိုလ်မှာ ဒဿနိကဗေဒ ပါမောက္ခ ဖြစ်ပါတယ်။ အဲဒီတုန်းက ပထမဆုံးရေးတဲ့ အကျင့်စာရိတ္တ စိတ်ထားသီအိုရီ (Theory Of Moral Sentiments) ကျမ်းကို ရေးသားထုတ်ဝေ လိုက်တဲ့အခါ သူဟာ ပညာရှင် အသိုင်းအဝိုင်း ဝင်ပုဂ္ဂိုလ် ဖြစ်လာရတယ်။ ဒါပေမယ့် သူ့ကို အကြာကြီး ဝိုင်းချီးမွမ်းကြတဲ့ သူ့ကျမ်းကြီးက ၁၇၇၆မှာ ပုံနှိပ်တဲ့ နိုင်ငံစီးပွားရေးရဲ့ အကြောင်းရင်းနဲ့ သဘောသဘာဝကိုစူးစမ်းခြင်း (An Inquiry into The Nature And Causes Of The Wealth Of Nations) ဖြစ်ပါတယ်။ ဒီစာအုပ်စထွက်ကတည်းက သိပ်လူကြိုက်များတဲ့ စာအုပ် ဖြစ်ပြီး သူ့တစ်သက်မှာ ဒီကျမ်းကြောင့် လူတွေက သူ့ကို ကြည်ညိုလေးစား ကြပါတယ်။ ကာ့ခ်ကယ်လ်ဒီမှာပဲ ၁၇၉၀ မှာ ကွယ်လွန် သွားပါတယ်။ အိမ်ထောင်မရှိ၊ သားသမီး မရှိ။ အဒမ်စမစ်ဟာ စီးပွားရေးသီအိုရီကို စွဲစွဲမြဲမြဲ ကြံစည် အားထုတ်တဲ့ ပထမပုဂ္ဂိုလ် မဟုတ်ပါ။ လူသိများတဲ့ သူ့သီအိုရီတွေ ဆိုတာကလည်း သူစတင် စိတ်ကူးတဲ့ အကြောင်းအရာတွေ မဟုတ်ပါ။ ဒါပေမယ့် စီးပွားရေး သီအိုရီကို စနစ်တကျ စီစဉ်ပြီး နားလည်လွယ်အောင် တင်ပြနိုင်လို့ ဒီအကြောင်းအချက်တွေကို နောက်ထပ် တိုးပွားအောင် ပထမဦးဆုံး အခြေခံချပေးသူဟာ သူပဲဖြစ်ပါတယ်။ နိုင်ငံ့စီးပွားကျမ်း (the Wealth of Nation) ဟာ ဒါကြောင့် နိုင်ငံရေး ဘောဂဗေဒပညာမှာ ခေတ်မီအောင် လမ်းစဖော်ပေးတဲ့ကျမ်းလို့ ဆိုသင့်ဆိုထိုက်ပါတယ်။ ဒီကျမ်းရဲ့ အထက်မြက်ဆုံးအရည်အချင်းက အရင် လွဲချော်တဲ့ အယူအဆတွေကို ဖယ်ထုတ်ပစ်နိုင်တာပဲ ဖြစ်ပါတယ်။ စမစ်က ရေးကျတဲ့ ကုန်သွယ်ရေးသီအိုရီ (Older mercantilist theory) အရ နိုင်ငံတစ်ခုဟာ ရွှေအတုံးအခဲကို အများကြီး ပိုက်ထားနိုင်မှ အရေးပါ အရာရောက်တယ်။ အရင်းမူလ အကျဆုံး အဖိုးတန်ပစ္စည်းဟာ မြေကြီးသာဖြစ်တယ်လို့ ပြောလေ့ရှိတဲ့ သဘာဝစိုးမိုးရေးသမား (Physiocrats)တွေကို ဆန့်ကျင်ပြီး လုပ်အား (labour)သာ အခြေခံအချက်၊ အရေးအပါဆုံး အချက် ဖြစ်ကြောင်း

ထင်ရှားအောင် တင်ပြ ခဲ့ပါတယ်။ စမစ်က လေးလေးနက်နက် ထပ်တလဲလဲ ပြောတဲ့အချက်က တာဝန်ကို ခွဲပေးခြင်း (division Of labour) ကြောင့် ကုန်ပစ္စည်းထုတ်လုပ်ရာမှာ အများကြီး တိုးပွား လာနိုင်တယ်ဆိုတဲ့ အချက် ဖြစ်တယ်။ နိုင်ငံအစိုးရက ရှေးအယူအဆနဲ့ အာဏာသုံးပြီး စက်မှုတိုးတက်ရေးတွေကို ချုပ်ကိုင်ထားတာဟာ မမှန်ကြောင်း တိုက်ရိုက် ပြောဆိုပါတယ်။ နိုင်ငံ့စီးပွားကျမ်းရဲ့ အရေးပါဆုံး သဘောထားက စည်းကမ်းမရှိ ဖြစ်ကတတ်ဆန်း နိုင်တယ်လို့ ထင်ရတဲ့ ဈေးလွတ် (free market) ဟာ သူ့ပုံစံနဲ့သူ အလိုအလျောက် ထိန်းချုပ်လာတဲ့ စည်းကမ်းတွေနဲ့ ရောင်းဝယ်ကြတဲ့ ဈေးကွက် ဖြစ်လို့ လူအများ နှစ်သက်တောင့်တတဲ့ ပစ္စည်းမျိုးကို အရည်အသွေးရှိပြီး ဈေးနှုန်း အမျိုးမှန် ရနိုင်တဲ့သဘော ရှိပါတယ်။ ဥပမာ၊ လူနှစ်သက်တဲ့ ပစ္စည်းဟာ ရနိုင်ဖို့ခက်တယ်ဆိုရင် ဈေးတက်မယ်။ ရအောင်လုပ်ပေးနိုင်တဲ့လူက အမြတ်များများရမယ်။ ကုန်ထုတ်လုပ်တဲ့ လူတွေကလည်း ထုတ်လုပ်ပေးဖို့ ဆန္ဒရှိတဲ့အပြင် ပစ္စည်းရဲ့ အရည်အသွေးကိုလည်း မယိုယွင်းအောင် ထိန်းပေးဖို့ နားလည် လာကြတယ်။ များများထုတ်လာတဲ့အခါ ပစ္စည်း မရှားတော့ဘူး။ အပြိုင်အဆိုင် ထုတ်ကြတဲ့အခါ မျိုးကောင်းပြီး 'အဖိုးချို' လာနိုင်တယ်။ ဘယ်သူကမှ မေတ္တာရှေ့ထားပြီး ရှားကုန်ကို များအောင် လုပ်ပေးမှာ မဟုတ်ဘူးပြောရပေမယ့် လက်တွေ့မှာတော့ ဒီအကွက်မှာ ငါဝင်ရင် 'စားသာတယ်' ဆိုတဲ့အသိနဲ့ ဝင်လာကြတော့ ပြဿနာ ပြေလည်သွားတယ်။ စမစ်စကားနဲ့ ပြောရရင် **'လူတိုင်းဟာ ကိုယ့်အကျိုးအမြတ်ပဲ ကိုယ်တွက်တယ်'** ။ အဲဒီအထဲမှာပဲ **'မမြင်ရတဲ့လက်က သူတို့မတွေးမထင်တဲ့လမ်းကို ရောက်အောင်ခေါ်သွားတယ်'** ။ ကိုယ်ကျိုးစီးပွားကိုလိုက်ရင် လူ့အဖွဲ့အစည်းရဲ့ အကျိုးကိုလည်း မရည်ရွယ်ဘဲ လုပ်မိလျက်သား ဖြစ်သွားတယ်။ (နိုင်ငံ့စီးပွားကျမ်း၊ အတွဲ- ၄၊ အခန်း- ၂)

'မမြင်ရတဲ့လက်' က အမှုကိစ္စဆောင်ရွက်တဲ့အခါ၊ အထူးသဖြင့် လွတ်လပ်စွာ ပြိုင်ဆိုင်ခွင့် (free competition)ကို အဟန့်အတားရှိလာရင် အလွဲလွဲ အချော်ချော် ဖြစ်တတ်ပါတယ်။ ဒါကြောင့် စမစ်က လွတ်လပ်တဲ့အရောင်းအဝယ် ရရှိရမယ်လို့ ဖိပြောပြီး ကြီးလေးတဲ့ အကောက်ခွန်နှုန်း (high tariff) ကြီး မဆီးမတားရလို့ ပြင်းပြင်းထန်ထန် ပြောလေ့ ရှိပါတယ်။ လွတ်လပ်တဲ့အရောင်းအဝယ် (free market) နဲ့ စီးပွားရေးလုပ်ငန်းတွေမှာ အစိုးရက အနည်းနဲ့အများ ဝင်ရောက် စွက်ဖက်တာကို အပြင်းအထန် ကန့်ကွက်တယ်။ ဒါမျိုးတွေရှိနေရင် စီးပွားရေးလမ်း မဖြောင့်ဘူး။ အကျိုးယုတ်ဖို့ပဲ ရှိတယ်။ ဝယ်သူ (စားသုံးသူ အများပဲ) ကုန်ပစ္စည်း အတွက် ဈေးကြီးပေးရတာအဖတ်တင်တယ်လို့ ပြောပြတယ်။ သူ့ဘာသာသူနေပါစေ (laissez-faire) ဆိုတဲ့စကားစုကို စမစ်က တီထွင်သူ မဟုတ်ပါ။ ဒါပေမယ့် ဒီစကားစုကို တွင်ကျယ်လာအောင်၊ လူတကာထက်ပိုပြီး အများကြီး တွင်ကျယ်အောင် ဖြန့်သူဖြစ်ပါတယ်။ လူတချို့က အဒမ်စမစ်ဟာ စီးပွားရေး အမြင်တစ်ခုတည်းကို ရှေ့နေလိုက်သူလို့ ထင်မှတ် ကြတယ်။ အဲဒီလို မဟုတ်ပါ။ တစ်ဦးတစ်ယောက်တည်း ရောင်းဝယ်မှုကို လက်ဝါးကြီးအုပ် (monopolize business) ထားရင်၊ သူက ဒါကို အမြန်ဆုံးရုတ်သိမ်းပါလို့ ရှုတ်ချကဲ့ရဲ့ပြီး

အထပ်ထပ်အခါခါ ပြောလေ့ ရှိပါတယ်။ တစ်ဖက်ကလည်း စမစ်ဟာ လက်တွေ့စီးပွားရေး ဆောင်ရွက်ချက်မရှိလို့ လူညံ့ လူအလို့ မထင်သင့်ပါ။ နိုင်ငံ့စီးပွားကျမ်းမှာ **'လုပ်ငန်းတူတဲ့လူချင်း တွေ့ဆုံပြီး အလုပ်အကိုင် ညှိတယ်လို့ မရှိပါ။ ဒါပေမဲ့ ပြောကြဆိုကြတဲ့ အခါမှာပဲ အများနစ်နာအောင် ပစ္စည်းဈေးတင်ဖို့တော့ ပြောဖြစ်ကြတယ်'** လို့ ရေးသားထားပါတယ်။ အဒမ်စမစ်ဟာ သူ့စီးပွားရေးစနစ်နဲ့ အတွေးအခေါ်ကို နိုင်နိုင်နင်းနင်း ပြောဟောနိုင်တဲ့ အတွက်၊ သူပေါ်လာပြီး သိပ်မကြာပါဘူး ရှေးကျတဲ့ စီးပွားရေး အတွေးအခေါ်တွေ ပျောက်ကွယ် ကုန်ပါတယ်။ တကယ်ကတော့ နည်းကောင်းတွေဟာ စမစ်ရဲ့ အယူအဆတွေထဲပါကုန်တယ်။ စနစ်ဟောင်းတွေ ညံ့ကြောင်း၊ မှားကြောင်းကိုလည်း သူက ပိုင်ပိုင်နိုင်နိုင် ပြောနိုင်လို့လည်း ဒီလို အောင်မြင်တာ ဖြစ်တယ်။ စမစ်ကို ဆက်ခံတဲ့ စီးပွားရေးပါရဂူ သောမတ်စ် မေးလ်သပ်စ် (Thomas Malthus) နဲ့ ဒေးဗစ် ရီကာဒို (David Ricardo) တို့လည်း သူပြောခဲ့သမျှကို (အခြေခံအားဖြင့် ဘာမှမပြုဘဲ) ထပ်ရှင်း၊ ထပ်ဖြည့်ဘဲ လုပ်ကြပါတယ်။ အဲဒါနဲ့ သူ့စကားတွေဟာ မဟာစီးပွားရေးစံတင်ချက် (Classical Economics) လို၊ ကနေ့ ကိုးကား သုံးစွဲ နေကြပါတယ်။ ခေတ်စီးပွားရေး သီအိုရီတွေက အတွေးသစ် နည်းသစ်တွေ ပါရှိတာ မှန်ပေမယ့် မဟာစီးပွားရေးစံရဲ့ အတိုးအပွားအနေနဲ့ ဖြစ်မြဲအတိုင်း ဖြစ်ပေါ် လာတာတွေပဲ ဖြစ်ပါတယ်။ နိုင်ငံ့စီးပွားရေး (The Wealth Of Nations) ကျမ်းမှာ နောင်အခါ မေးလ်သပ်စ်ပြောမယ့် လူဦးရေသိပ်များ (over population) လာတဲ့ကျိုးပြစ်ကိုလည်း ကြိုပြီးမှန်းဆပြောဆိုခဲ့ ပါတယ်။ ဒါပေမယ့် ရီကာဒိုနဲ့ ကားလ်မာ့က်စ် နှစ်ယောက်စလုံးဟာ လူဦးရေများရင် မသေရုံစားရတာ (subsistence level) ထက် လုပ်ခဟာ ပိုလာဖို့ ခက်တယ်လို့ အစွဲကြီး စွဲနေတယ်။ လုပ်ခရဲ့ခိုင်မာလှတဲ့ ဥပဒေ (iron law Of wages) လို့ ဆိုလိုတယ်။ စမစ်ကတော့ ကုန်ပစ္စည်း အထွက်များလာရင် လုပ်ခ ပိုရနိုင်တယ်လို့ ဖော်ပြခဲ့တယ်။ လက်တွေ့မှာ စမစ်မှန်တယ်။ ရီကာဒိုနဲ့မာ့က်စ် မှားတယ်။ စမစ်မှန်တယ် မှားတယ်ကို ခဏထား၊ သူ့အယူအဆဟာ နောက်ပိုင်းသီအိုရီတွေကို သူက ဘယ်လောက် လွှမ်းမိုးခဲ့သလဲဆိုတာကို အစိုးရတွေရဲ့ပေါ်လစီတွေနဲ့ ဥပဒေပြု (legislations) တာတွေကိုကြည့်ပြီး ပြောနိုင်ပါတယ်။ နိုင်ငံ့စီးပွားရေးကျမ်းကို သိပ်ပြီး ပိုင်နိုင်တယ်။ ရှင်းလင်းပြတ်သားအောင် ရေးနိုင်စွမ်းရှိတဲ့အတွက် စာဖတ်ပရိသတ် သိပ်များခဲ့တယ်။ စမစ်က စီးပွားရေးလုပ်ငန်းနဲ့ ရောင်းဝယ်မှုတွေမှာ အစိုးရဝင်ရင်၊ အကောက်တံတိုင်း နိမ့်နိမ့် (tariffs) ထားပြီး လွတ်လပ်တဲ့ အရောင်းအဝယ် (free trade) ကို ခွင့်ပြုနိုင်ရင် ကောင်းတယ်ဆိုတဲ့ အချက်ဟာ ၁၉ ရာစုနှစ် အစိုးရတွေရဲ့ လက်သုံးဝါဒဖြစ်ခဲ့ပါတယ်။ ဒီအယူအဆတွေက ကနေ့အထိ ကောင်းနေ သေးတယ်လို့ ပြောနိုင်ပါတယ်။

စမစ်ခေတ်ကလွန်ပြီး အခုအခါ စီးပွားရေး သီအိုရီတွေ အများကြီး ပေါ်ပေါက်တိုးပွားခဲ့တယ်။ သူ့အတွေးအခေါ်တွေကို ကျော်လွှားပြီး တက်လာတယ် ဆိုတဲ့အခါ စမစ်ရဲ့ဩဇာဟာ ဆိုသလောက် မဟုတ်ပါဘူးလို့ ပြောရမလို ဖြစ်နေတယ်။ ဒါပေမယ့် စမစ်ဟာ စီးပွားရေး သီအိုရီကို စတွေ့သူ၊

အခြေခံသဘောထားကို တီထွင်သူ၊ စနစ်တကျ လေ့လာရေးကို လုပ်ခဲ့သူဖြစ်လို့ လူ့အတွေးအခေါ်သမိုင်းမှာ သူဟာ ကြီးမားတဲ့ပုဂ္ဂိုလ် ဖြစ်ကြောင်း ထင်ရှားပါတယ်။

2, September, 2000.

# (၃၁) ဝီလီယမ် ရှိတ်စပီးယား လို့ကျော်တဲ့ အက်ဒွပ် ဒေဗရာ (၁၅၅၀ – ၁၆၀၄)

# EDWARD DE VERE better known As WILLIAM SHAKESPEARE (1550 – 1604)

ဗြိတိသျှပြဇာတ်ရေးဆရာကြီး ကဗျာဆရာကြီး ဝီလီယမ်ရှိတ်စပီးယား (William Shakespeare) ကို ပေါ်ထွန်းဖူးသမျှ စာရေးဆရာတွေထဲမှာ အကြီးမြင့်ဆုံး ပုဂ္ဂိုလ်ဖြစ်တယ်လို့ အများတကာ အသိအမှတ်ပြုထားပြီး ဖြစ်ပါတယ်။ အဲဒီပုဂ္ဂိုလ်ရဲ့ နာမည်ရင်းဟာ ဘယ်သူလဲလို့ (အောက်မှာ ရှင်းထားပါတယ်။) ဒီလိုပုဂ္ဂိုလ်မှန်ကို ဖော်ထုတ်ကြပုံ မတူဘဲ အမျိုးမျိုး ပြောဆိုငြင်းခုံ ကြပါတယ်။ ဘာပဲပြောပြော ဒီစာရေးဆရာရဲ့ အစွမ်းသတ္တိ ကိုတော့ လူအားလုံးကပဲ ထိပ်တန်းထားပုံချင်း တူညီပါတယ်။

ရှိတ်စပီးယား (Shakespeare) နာမည်ခံပြီး ပြဇာတ် သုံးဆယ့်ခြောက်ဇာတ် ထက်မနည်း ရေးခဲ့တယ်။ အကောင်းဆုံးလို့ ကျော်ကြားတာတွေက ဟမ္မလက် (Hamlet)၊ မက်ဂဘက် (Macbeth)၊ ကင်းလီယာ(King Lear)၊ ဂျူးလီးယပ်စ်ဆီဇာ (Julius Caesar)နဲ့ ဩသဲလို (Othello) တို့ဖြစ်ပါတယ်။ အဲဒါအပြင် ကာရန်ညှိပြီး သံစဉ်ဆယ်မျိုးနဲ့ စာကြောင်း တစ်ဆယ့်လေး ကြောင်းရှိ ထူးခြား ပြောင်မြောက်တဲ့ ဆောနက်ကဗျာ (Sonnet) ၁၅၄ ပုဒ်၊ လင်္ကာရှည်ကြီး အနည်းငယ်ကို ရေးစပ် ခဲ့ပါသေးတယ်။ သူ့ပါရမီ သူ့အစွမ်းဟာ တကယ်ပဲ ချီးမွမ်းအံ့ဩ ထိုက်ပါတယ်။ ဒီလိုဆိုရင် အခု ရေးသားတဲ့ ကျော်စွာ ၁၀၀ စာရင်းမှာ ထိပ်ဆုံး ဘာကြောင့် မထားသလဲလို့ မေးစရာရှိပါတယ်။ စွမ်းပကား ထက်သူတွေ ပူဇော်တဲ့စင်မြင့်မှာ သူ့နေရာက နောက်နားရောက်နေရတာက သူ့အနုပညာစွမ်းကို လျှော့တွက်လို့ မဟုတ်ပါ။ လူ့သမိုင်းမှာ စာပေအနုပညာရှင်တွေရဲ့ ဩဇာဟာ (ကိုးကွယ်ယုံကြည်မှု ခေါင်းဆောင်၊ နိုင်ငံရေး ခေါင်းဆောင်တွေလို) လူရှိသမျှ အပေါ်မှာ ထိတွေ့ခံစားကျရောက်ပုံ မစူးရှလို့ ဖြစ်ပါတယ်။

သာသနာရေး ခေါင်းဆောင်၊ သိပ္ပံပညာရှင်၊ နိုင်ငံရေးသမား၊ ကမ္ဘာလှည့်ပြီး နယ်သစ်ပယ်သစ်ရှာသူ၊ ဒဿနိကဗေဒပညာရှင်၊ ဒီပုဂ္ဂိုလ်တွေဟာ လူ့အစွမ်းကျက်စားရာ နယ်ပယ် အလိုက် တိုးတက်အောင် အများကြီး

လုပ်ပေးနိုင်ပါတယ်။ ဥပမာ၊ သိပ္ပံစွမ်းနဲ့ စီးပွားရေး၊ နိုင်ငံရေးတွေမှာ အကြီးအကျယ် ဂယက်ရိုက် စေနိုင်ပါတယ်။ ဒီလိုပဲ ဘာသာရေးအယူဝါဒ၊ အတွေးအခေါ် သဘောထားနဲ့ အနုပညာ တိုးပွားပုံတွေကလည်း အကျိုးဆက်ကြီးမားအောင် ပို့ဆောင်နိုင်ပါတယ်။

နာမည်ကျော်တဲ့ ပန်းချီဆရာဆိုရင် သူ့ဆွဲပုံဆွဲနည်းနဲ့ နောက်ပိုင်းပန်းချီဆရာတွေကို ရှေ့ဆောင်လမ်းပြ ကောင်းကောင်း လုပ်နိုင်မယ် ဆိုပေမယ့် တေးဂီတတိုးပွားအောင်၊ စာပေ ဖြစ်ထွန်းအောင် သူ့အနေနဲ့ လုပ်နိုင်တယ်လို့ မတွေ့ပါ။ သိပ္ပံပညာ တိုးပွားရေး၊ နယ်သစ် ရှာဖွေ တွေ့ရှိရေးနဲ့ လူတွေကျိုးပမ်း ဆောင်ရွက်တဲ့ ကိစ္စတွေမှာ ဘာမျှအကျိုးသက်ရောက်မှု မရှိပါ။ ကဗျာဆရာ၊ ပြဇာတ်ရေးဆရာ၊ သီချင်း ရေးဆရာတွေနဲ့ ပတ်သက်ရင်လည်း ဒီစကားပဲ ပြောရမှာဖြစ်ပါတယ်။ အကြမ်းပြောရရင် အနုပညာရှင်ဟာ အနုပညာမှာပဲ ထင်ရှားတယ်။ အဲဒီမှာလည်း သူနဲ့ဆိုင်တဲ့ ပညာနယ်ကိုပဲ သူ လွှမ်းမိုးနိုင်ပါတယ်။ ဒါကြောင့် စာပေ၊ တေးဂီတနဲ့ ကပြအသုံးခံတဲ့ လူတချို့ပဲ ဒီကျော်စွာ ၁၀၀ စာရင်းမှာ ထည့်ပါတယ်။ ပါတယ်ဆိုပေမယ့် ထိပ်ပိုင်း နှစ်ဆယ်မှာ မထည့်နိုင်ပါ။

ဒီလိုဆိုရင် သူတို့ကို ဘာပြုလို့ထည့်နေသေးသလဲ မေးပြန်ရင်၊ လူ့ဓလေ့မှာ လူမှုရေးက အနုပညာကို အများကြီး အမှီပြုနေလို့ ဖြစ်ပါတယ်။ အနုပညာဟာ လူ့အဖွဲ့အစည်းကို ခိုင်မြဲအောင် တွဲဖက် ပေးနိုင်တယ်။ လူ့ယဥ်ကျေးမှုမှာ အနုပညာဟာ မတော်တဆ ပါနေတာ မဟုတ်ပါ။ သူပါမှ ယဥ်ကျေးမှု ထွန်းကားနိုင်တယ်။

လူတစ်ဦးစီရဲ့ဘဝမှာလည်း အနုပညာ ခံစားမှု အရေးပါပုံကို ထင်ရှားသိသာပါတယ်။ နောက်တစ်မျိုး ပြောရရင် လူတိုင်းပဲ စာဖတ်ချိန်၊ ပွဲလမ်းသဘင်ကြည့်ချိန်၊ ပန်းချီကားတွေ ကြည့်ပြီး ကြည်နူးချိန် ရှိဖို့လိုတယ်။ ဒါတွေကြောင့် နေ့စဥ်အလုပ်မှာ မထိခိုက်ဘူး ဆိုပေမယ့် နေ့စဥ် အချိန်တော်တော်များများဟာ သူတို့နဲ့ပဲ ကုန်ဆုံးသွားပါတယ်။ တခြားအလုပ်မှာ မထိခိုက်ဘူး ဆိုပေမယ့် သူ့အရိပ်နဲ့ ဘဝပုံစံ ပေါ်သွားတယ် ဆိုတာမျိုးလည်း ရှိပါတယ်။ အနုပညာဟာ စိတ်နဲ့ သက်ဆိုင်တယ်။ စိတ်အာရုံခံစားချက်ကို အလေးအနက် ထိခိုက် တယ်။ စိတ်ရဲ့ဆွဲဆောင်မှုကို သိသာ အောင် ပြနိုင်တယ်။

တချို့နေရာမှာ အနုပညာဟာ အတွေးအခေါ် ဘက်ကို တိမ်းညွတ်နေတဲ့ အတွက် ဘယ်ကိစ္စကိုဖြစ်ဖြစ် တွေးတောဆုံးဖြတ်တဲ့အခါ သူ့ဩဇာကို သိမြင်နိုင်ပါတယ်။ အဲဒီခံစားချက်ဟာ တေးဖွဲ့တဲ့အခါ၊ ပုံဆွဲတဲ့အခါ သိသာတာထက် စာရေးတဲ့အခါ ပိုပြီးသိသာပါတယ်။ ဥပမာ၊ ရိုမီယိုနဲ့ ဂျူးလိယက် (Romeo And Juliet) အခန်း ၃၊ ပြကွက် ၁ မှာ ရိုက်စပီးယားက **'သနားလို့သတ်တယ်ဆိုရင် သတ်သူကို ခွင့်လွှတ်ရမှာပေါ့'** လို့ မင်းသားအနေနဲ့ ပြောတဲ့အခါ ဒီအပြောကို ကြိုက်ကြိုက် မကြိုက်ကြိုက် ဒဿနိကသဘော ဆောင်တဲ့အတွက် မိုနာလီဇာ (Monalisa) ပုံကို ကြည့်တာမျိုး မဟုတ်ပဲ နိုင်ငံရေး အမြင်ကိုပါ လွှမ်းမိုး နိုင်တယ်။

စာပေပညာရှင်တွေထဲမှာ ရှိတ်စပီးယားဟာ အကြီးကျယ်ဆုံး ဆိုတာကို ငြင်းမရနိုင်ပါ။ နှိုင်းယှဉ်ပြီး ပြောကြစို့ဆိုရင် စာသင်ကျောင်းမှာ ပြဋ္ဌာန်းလို့ ချောစား(Chaucer)၊ ဗာဂျေလ် (Virgil) နဲ့ ဟိုမာ (Homer) ရေးတဲ့စာမျိုးကို ဖတ်ကြရတယ်။ ရှိတ်စပီးယားရဲ့ဇာတ်ကို ကပြနေပြီ ဆိုရင်၊ ခိုင်းဖို့ မလိုဘဲ ကြည့်တဲ့လူတော့ အသင့်အတင့် ရောက်လာဖို့ သေချာတယ်။ ရှိတ်စပီးယား စကားတန်ဆာဆင်ပုံကို ပြိုင်ဆိုင်ပြီး အနိုင်ရသူ မရှိပါ။ သူပြောပုံကို မကြာခဏ ကိုးကား ပြောဆိုကြတယ်။ သူ့ဇာတ်ကို မဖတ်ဖူး၊ မကြည့်ဖူးသူတွေကပါ သူ့စကားတွေကို ယူပြီး ပြောနေကြတယ်။ အခိုက်အတန့် ခေတ်စားတဲ့ ပေါ်ပင်စကားတွေ မဟုတ်ပါ။ သူ့ဇာတ်ကို ဖတ်သူကြည့်သူတွေကို ကုန်ခဲ့တဲ့ အနှစ်လေးရာက ကျေနပ်နှစ်သက်အောင် ရသ ပေးနိုင်ခဲ့တယ်။ ကြာလေကောင်းလေလို့ သိလာကြရိုး မှန်ရင် ရှေ့ဆက်ပြီး ရာစုနှစ်တွေ အကြာကြီး သူ့ကို နှစ်သက်နေကြဦးမှာ ဖြစ်ပါတယ်။

ရှိတ်စပီးယားလိုလူကို မမွေးလည်း သူ့ပြဇာတ်လို စာမျိုး ရေးကြမှာပဲလို့ ပြောမဖြစ်ပါ။ သူမပေါ်လာရင်လည်း သူ့ပြဇာတ်မျိုး မရှိနိုင်ပါ။ အဲဒီစကားနဲ့ပဲ သူ့အရေးပါပုံကို ထင်ရှား သိသာနိုင်ပါတယ်။ (တခြားအနုပညာရှင်တွေကိုလည်း ဒီလိုပြောလို့ ရနိုင်မယ် ထင်ကြပေမယ့် သူ့ကိုပြောသလောက် မဆီလျော်ပါ။)

ရှိတ်စပီးယားစာတွေကို အင်္ဂလိပ်ဘာသာ တစ်မျိုးတည်းနဲ့ ရေးခဲ့ပေမယ့် သူဟာ ကမ္ဘာကျော် ဖြစ်နေပြီ။ အင်္ဂလိပ်ဘာသာ စကားဟာလည်း တခြားဘယ်စကားနဲ့မှ မတူတဲ့ ကမ္ဘာသုံး စကား ဖြစ်နေပြီ။ အဲဒါအပြင် ရှိတ်စပီးယားရဲ့ ပြဇာတ်တွေကိုလည်း ဘာသာစကားစုံသလောက် ပြန်ဆိုပြီးသား ရှိကာ ဖတ်နေကြပြီး၊ နိုင်ငံ အများအပြားမှာ ရုံတင် ကပြဖူးပြီ။

လူကြိုက်များတဲ့ စာရေးဆရာတချို့ကို စာပေ ဝေဖန်ရေးသမားတွေက ကဲ့ရဲ့ ရှုတ်ချတာမျိုး တွေ့ရ တတ်ပါတယ်။ ရှိတ်စပီးယားကိုတော့ ဘယ်ဝေဖန်ရေးသမားကမှ ဒီလိုမပြောပါ။ သူ့စာတွေကို စာပေပညာရှင်တွေက တွန့်ဆုတ် မရှိ အံ့သြ ချီးမွမ်းကြတယ်။ နောက်ပေါက် ပြဇာတ်ဆရာ စဥ်ဆက်က သူ့လက်ရာတွေကို လေ့လာတယ်။ သူ့စာရဲ့ ဂုဏ်ကျေးဇူးကို ချီးကျူး ပြောဆိုကြတယ်။ တခြားစာရေးဆရာတွေ အပေါ်မှာ အခုလို လွှမ်းမိုးနိုင်တယ်။ ကမ္ဘာအနှံ့ ဆက်လက် အလေးထားဂရုပြုပြီး ဖတ်ရှုလေ့လာ နေကြတယ်ဆိုတဲ့ ဂုဏ်ပုဒ် (နှစ်ခု) ကြောင့် ဝီလီယမ် ရှိတ်စပီးယားကို ဒီစာအုပ်ရဲ့ အဆင့်မြင့်မြင့် နေရာမှာ တင်ထားတာ ဖြစ်ပါတယ်။ ဒါပေမယ့် ဒီနာမည်ဝှက်နဲ့ စာရေးသူဟာ ဘယ်သူလဲလို့ ရှေးရှေး ကစပြီး ခုထိ ငြင်းခုံနေကြဆဲ ဖြစ်ပါတယ်။

(အခုစာအုပ်ကို ကျွန်တော်ရေးသားပြီး ပထမ အကြိမ် ပုံနှိပ်ထုတ်ဝေစဥ်က မစူးမစမ်းဘဲ လက်ခံခဲ့တဲ့) အစဥ်အလာပြောစကားက စတြပ်ဖို့ဆိုတဲ့ အဗွန်မြစ်ရိုးပေါ်ကမြို့ (Strat Ford–On–Avon) မှာ ၁၅၆၄ ကမွေးပြီး အဲဒီမြို့မှာပဲ ၁၆၁၆ မှာ ကွယ်လွန်သွားတဲ့ နာမည်ရင်း ဝီလီယမ် ရှိတ်စပီးယားပဲ ဒီကျော်ကြားတဲ့ စာရေးဆရာကြီး ဖြစ်တယ်။ ဒါကိုမယုံတဲ့လူ၊ လက်မခံတဲ့လူတွေ အပြန်အလှန် ပြောကြားတာတွေကို အသေအချာ စစ်ဆေး လေ့လာတဲ့အခါ

သူတို့စကားက ပိုပြီး ယုတ္တိတန်တယ်။ သူတို့ကလည်း တော်တော်ခိုင်ခန့်အောင် သူတို့ ယုံကြည်ချက်ကို တင်ပြနိုင်တာ တွေ့ရပါတယ်။ တင်ပြလာတဲ့ သက်သေအများစုက ‘ဝီလီယမ် ရှိတ်စပီးယား’ ဆိုတဲ့နာမည်ဟာ တစ်ဆယ့်ခုနစ်ကြိမ်မြောက် အောက်စဖို့ မြို့စားကြီး (the 17th Earl Of Oxford) အက်ဒဝပ်ဒေဗရာ (EdWard de Vere) ရဲ့နာမည်ဝှက် ဖြစ်တယ်။ ဝီလီယမ် ရှိတ်စပီးယားက သူ့နာမည်ကို ရှက်ပဲယာ (Shazpere)၊ ရှက်စပေယ (Shakspeyr)၊ ရှက်ဂ်စပေယာ (Shagspere)၊ ရှဂ်ဗေယာ (Shaxbere) လို့ စတြပ်ဖို့မှာ အမျိုးမျိုးရေးတာကို တွေ့ပါတယ်။ ပထမ အီး သရ(e) ကို ဖြုတ်ထားလို့ ရှိတ်စပီးယား မဟုတ်ပါ။ အဲဒီလူက ကြွယ်ဝ ချမ်းသာတဲ့ကုန်သည် ဖြစ်လို့ လန်ဒန်ကို မကြာခဏ အလုပ်ကိစ္စနဲ့ ရောက်ပါတယ်။ ပြဇာတ်နဲ့ ဘယ်လိုမှ မပတ်သက်ပါ။ ဒီလိုပြောလို့ အဲဒီအချိန်က အများပရိသတ်ဝိုင်းပြီး ချီးမွမ်းနေတဲ့ ရှိတ်စပီးယားဟာ ဒေဗရာ (de Vere) ရဲ့ကိုယ်ယောင်ဖျောက် စာရေးဆရာ ဖြစ်ရမယ်လို့ ကျွန်တော်က ညွှန်းနေတာ မဟုတ်ပါ။ သူ့ (ရှိတ်စပီးယား) ကို အသက်ရှိစဉ်က စာရေးဆရာရယ်လို့ ဘယ်သူမှ မသိ၊ ဆိုလိုတာက သူ့ဘာမှ စာမရေး၊ သူကလည်း ‘ကျုပ်ဘာရေးဖူးတယ်’ လို့ မပြောဖူးပါ။ ရှက်စပယာဟာ ပြဇာတ်ရေးဆရာကြီး ဝီလီယမ် ရှိတ်စပီးယား ဖြစ်တယ်လို့ ပြောစမှတ် ပြုကြတာကလည်း ၁၆၂၃ ခုနှစ်မှာ ရှိတ်စပီးယား သေပြီး ခုနစ်နှစ်အကြာ ရှိတ်စပီးယားရဲ့ပြဇာတ်ကို ပထမဆုံး စာတစ်ရွက်ချင်းရိုက်ပြီး စာအုပ်လို ချုပ်မထားတဲ့ စာစောင် (folio) ထွက်တဲ့အခါမှ ဒီလိုဖော်ပြတာဖြစ်တယ်။ အဲဒီစာစောင်တွေ ထုတ်တဲ့စာတည်း (editor) တွေကလဲ အမှာစာ ရေးတဲ့အခါ (တိုက်ရိုက် မရေးပေမယ့်) အဗွန် (Avon) မြစ်ရိုးက စတြပ်ဖို့ (Stratford) သားပဲ ရေးတယ်လို့ ပြောဆို ရေးသားခဲ့ပါတယ်။ ရှက်စပယာဟာ ပြဇာတ်ရေးဆရာ မဖြစ်နိုင်ကြောင်း မတင်ပြမီ မူလရှေးရိုး လူပုဂ္ဂိုလ် အတ္ထုပ္ပတ္တိရေးသူတွေက ဘယ်လို ရေးခဲ့သလဲ ဆိုတာကို သိသင့်ပါတယ်။ ရှက်စပယာရဲ့အဖေ ဂျွန် (Jonh) ဟာ တစ်ခါက အတော်အတန် ကြွယ်ဝချမ်းသာသူတစ်ယောက် ဖြစ်ပေမယ့် စီးပွားရေး ဆုတ်ယုတ်လို့ ဝီလီယမ်(William) ငယ်ငယ်က ဆင်းတောင့်ဆင်းရဲ နေခဲ့ရတယ်။ ဒါပေမယ့် သူ့ကို စတြပ်ဖို့ သဒ္ဒါကျောင်းမှာ ထားတယ်။ လက်တင်နဲ့ ရှေးခေတ် စာကြီးပေကြီးတွေကို သင်ရတယ်။ ဝီလီယမ် တစ်ဆယ့်ရှစ်နှစ်သားရှိတော့ သူနဲ့ယဉ်ပါးလို့ အဲန်နီဟက်သဝေး (Anne Hathway) မှာ ကိုယ်ဝန်ရှိတာနဲ့ လက်ထပ်လိုက်ရပြီး လမကြာမီ (ကလေး တစ်ယောက်) မွေးဖွားပါတယ်။ နောက်နှစ်နှစ်ခွဲကြာပြန်တော့ ကလေးအမွှာ တစ်စုံ မွေးပြန်တယ်။ ဝီလီယမ် အသက် နှစ်ဆယ့်တစ်နှစ် မရှိခင် မယားနဲ့ ကလေး သုံးယောက် အဖေ ဖြစ်လာပါတယ်။ နောက်ခြောက်နှစ်လောက်အတွင်း သူဘယ်သွား နေပြီး၊ ဘာအလုပ်လုပ်နေတယ်လို့ မသိတော့ပါ။ ဒါပေမယ့် ၁၅၉၀ ကျော်စလောက်မှာ သူ လန်ဒန်မှာ ရှိတယ်။ ဇာတ်သဘင်သည် တစ်ယောက် ဖြစ်နေပါတယ်။ လူကြိုက်များတဲ့ ဇာတ်လိုက်လို့ ဆိုပါတယ်။ တစ်စတစ်စနဲ့ ပြဇာတ် ကဗျာရေးတဲ့ဘက်ကို ရောက်သွားတယ်။ ၁၅၉၈ ရောက်တော့ ကွယ်လွန်ပြီးနဲ့ သက်ရှိ အင်္ဂလိပ် စာရေးဆရာတွေထဲမှာ သူဟာ အတော်ဆုံး အကျော်ဆုံး ဖြစ်တယ်လို့ ချီးမွမ်း လေးစားခြင်းကို ခံနေရပါပြီ။ ရှက်စပယာဟာ လန်ဒန်မှာ

အနှစ်နှစ်ဆယ်လောက် နေသွားချိန်မှာ ပြဇာတ် သုံးဆယ့်ခြောက်ဇာတ်နဲ့ တစ်ရာ့ငါးဆယ့်လေး ဆောနက် (Sonnet) ကဗျာတွေ အပြင် ကဗျာရှည်ကြီးတွေလည်း ရေးခဲ့တယ်။ သူလည်း ချမ်းသာလာပြီး ၁၅၉၇ မှာ အဖိုးထိုက်တန်တဲ့ အိမ်နေရာသစ်တစ်လုံးကို စတြပ်ဖို့မှာ ဝယ်ပြီး သူ့သားမယားကို ပေးထား တယ်။ သူ့အိမ်ထောင်က စတြပ်ဖို့မှာပဲနေပြီး သူက လန်ဒန်မှာ ဆက်နေပြီး အိမ်ထောင်ကို ထောက်ပံ့ပါတယ်။ သူရေးတဲ့နာမည်ကျော် ပြဇာတ်ကြီးတွေကို သူကိုယ်တိုင်တစ်ခုမှ ပုံနှိပ်ရောင်းချတယ်လို့ မရှိဘူး။ မသမာတဲ့ ပုံနှိပ်ဖြန့်ဝေသူတွေက ရောင်းကောင်းမှန်း သိလို့ စာမူတွေခိုးယူပြီး စာမူ ထက်ဝက်လောက်ကို တိတ်တဆိတ် ပုံနှိပ်ပြီး ရောင်းစားကြတယ်။ ပုံနှိပ်တဲ့အခါမှာလည်း **'ပြင်၊ ဖြုတ်၊ ဖြည့်'** လုပ်ချင်သလိုလုပ်မှန်း သိပေမယ့် သူက နည်းနည်းမှ အရေးမယူတာတော့ ဆန်းတယ်လို့ ထင်စရာရှိပါတယ်။ အသက်လေးဆယ့်ရှစ်၊ ၁၆၁၂ ခုနှစ်မှာ ရုတ်တရက် စာရေးတာကို ရပ်စဲလိုက်ပြီး၊ စတြပ်ဖို့ကို ပြန်လာပြီး သားမယားနဲ့ အတူနေပါတယ်။ ဧပြီ ၁၆၁၆ မှာ စတြပ်ဖို့မှာ သေတယ်။ ဘုရားကျောင်းဝိုင်းထဲမှာပဲ သူ့အလောင်းကို မြေမြှုပ်သင်္ဂြိုဟ် လိုက်ကြ ပါတယ်။ သူ့အုတ်ဂူလို့ထင်ရတဲ့ သင်္ချိုင်းမှာ သူ့နာမည် ရေးမထားပါ။ နောက်အချိန်အတော်ကြာတော့မှ အနားကနံရံမှာ အထိမ်းအမှတ် (monument) တစ်ခု လုပ်ထားပါတယ်။ မသေမီ သီတင်းသုံးပတ်က သေတမ်းစာ ရေးခဲ့တယ်။ သူ့ပစ္စည်း အားလုံးနီးပါးကို သမီးကြီး စူဆန်းနာ(Susanna) ရစေတဲ့။ ဒီသမီးနဲ့ သူ့သားစဉ်မြေးဆက်ဟာ နေရာသစ်မှာပဲ နောက်ဆုံး အနွယ်ဝင်သေတဲ့ ၁၆၇၀ ထိ နေသွားကြပါတယ်။ (ဒီစာမှာ) သတိမူစရာအချက်က ရှေးအတ္ထုပ္ပတ္တိ ဆရာတွေက စာကို စိတ်မှန်းနဲ့ ရေးတယ်လို့ ထင်ရပါတယ်။ ဥပမာ၊ စတြပ်ဖို့သဒ္ဒါကျောင်း (Stratford Grammar School) မှာ ရှက်စပယာ တက်ခဲ့တာကို အထောက်အထား မရှိပါ။ အဲဒီကျောင်းက ဒီလိုကျော်ကြားတဲ့ ပြဇာတ်ရေး ဆရာကို ငယ်စဉ်က ဆရာအဖြစ် သင်ကြားပေးခဲ့ရတဲ့လူ၊ ဒီလိုထူးချွန်သူနဲ့ ကျောင်းနေဖက် ဖြစ်ဖူးသူလို့ စုံစမ်း မေးမြန်းတဲ့အခါ တစ်ယောက်မျှ မပေါ်ထွက် လာပါ။ အဲဒီလိုပဲ သူ ဇာတ်လိုက်လုပ်စဉ်က အပေါင်းအဖော်လို့လည်း ရှာမတွေ့ပါ။ ဒါပေမယ့် အမှတ်တမဲ့ဆိုရင် ဒီအတ္ထုပ္ပတ္တိဟာ သိပ်ဟုတ်တယ်လို့ ထင်ရပါတယ်။ အသေးစိတ် မေးတဲ့ အခါတော့ ချွတ်ယွင်းချက်တွေအများကြီး ပေါ်လာပါတယ်။ ပထမ ပြဿနာ၊ ရှေးအတ္ထုပ္ပတ္တိဆရာတွေက ရှက်စပယာ အကြောင်း တို့သိတာနည်းပါတယ်။ ဒီလို နောင်အခါကျော်ကြားလာမယ့်လူ အတွက် အခြေအမြစ် မရှိပုံမျိုး မကြုံဖူးဘူး။ ဒါပေမယ့် **'ဟိုအရင်အနှစ်လေးဆယ်က ကိစ္စလေကွယ်၊ မှတ်တမ်းတွေ ပျောက်ဆုံးသွားတာ မဆန်းပါဘူး'** ဒီလိုပေါ့ပေါ့တန်တန် ပြောပြီး ပယ်ချလို့မရပါ။ ရှက်စပယာ ပေါ်ခဲ့တဲ့ခေတ်ကို ကြည့်ပါ။ အင်မတန် နောက်ကျတဲ့နေရာ၊ ကြမ်းတမ်းတဲ့ ခေတ်ကလူ မဟုတ်ဘူး၊ မိဘုရား အယ်လီဇဘက် (Queen Elizabeth) လက်ထက် အင်္ဂလန် ဖြစ်တယ်။ အပြည့်အစုံ မှတ်တမ်းတွေ အများကြီး ထားရစ်တယ်။ ပုံနှိပ်စက်လည်း ပေါ်နေပြီ။ စာရေးကိရိယာ နေရာတကာမှာ လွယ်လွယ် နဲ့ရတယ်။ စာရေးစာဖတ်တတ်သူလည်း များနေပြီ။ တစ်ချို့ ပျောက်ဆုံးတာ မှန်တယ်။ အခုအထိကျန်ရစ်တဲ့ အဲဒီတုန်းက မှတ်တမ်းဟာ အရေအတွက် သန်းပေါင်းများစွာ ရှိပါတယ်။

ဝီလီယမ်ရှိတ်စပီးယားကို သိပ်စိတ်ဝင်စားကြလို့ ပညာရှင် အများကြီး လူမျိုးဆက် (generation) သုံးဆက်တိုင်တိုင် ကမ္ဘာမှာ အကျော်အကြားဆုံး ပါရမီရှင် (genius) အကြောင်းကို ရှာကြတယ်။ လိုချင်တာမတွေ့ဘဲ အဲဒီခေတ်က တခြား ထင်ရှားတဲ့ ကဗျာဆရာတွေရဲ့ အကြောင်းရယ်၊ သာမညကဗျာဆရာငယ်တွေရဲ့ အကြောင်းရယ် မလိုဘဲနဲ့ အပိုလိုက် အများကြီး တွေ့ပါတယ်။ တစ်ဖက်က ရက်စပယာ အကြောင်းကို အထောက်အထားငယ် သုံးဆယ့်ခြောက်ခု လောက် တွေ့တာမှာ ဘယ်တစ်ခုမှာမှ သူ့ကို ကဗျာဆရာ၊ ပြဇာတ်ဆရာလို့ ရေးထားတာ မတွေ့ပါ။ မဆီမဆိုင်ဆိုသလို ဖရန်စစ်ဘေကွန် (Francis Bacon)၊ မိဖုရား အယ်လီဇဘက် (Queen Elezabeth)၊ ဘင်ဂျွန်ဆင် (Ben Jonson) ပြီးတော့ အက်ဒမန်စပဲန်ဆာ (Edmund Spancer) တို့အကြောင်းကို ရှိတ်စပီးယား အကြောင်းထက် အဆအများကြီး ပိုသိလာ ပါတယ်။ ကဗျာဆရာငယ် ဂျွန်လီလီ (John Lyly) အကြောင်းကို ရှိတ်စပီးယား အကြောင်းထက် ပိုပြီး သိနေပါတယ်။ နှိုင်းယှဉ်ကြည့်ချင်ရင် သမိုင်းမှာ ထိပ်ဆုံးက ပါရမီရှင် အိုက်ဆက်နယူတန် (Isaac Newton) အကြောင်းကိုကြည့်၊ ကွာခြားပုံထင်ရှားတယ်။ နယူတန်လည်း ရှိတ်စပီးယားလိုပဲ (အင်္ဂလန်ရဲ့ မြို့ငယ်ကလေးကပဲ မွေးဖွားသူဖြစ်ပေမယ့်) သူကိုယ်တိုင်ရေးတဲ့စာနဲ့ သူများက သူ့အကြောင်း ရေးထားတဲ့ မူရင်း အထောက်အထား ထောင်ပေါင်းများစွာ ကျန်ရစ်တယ်။ ရှိတ်စပီးယား ထက် သူက ခုနစ်ဆယ့်ရှစ်နှစ် နောက်ကျလို့ပါဆိုရင် (ရှိတ်စပီးယားနဲ့ တစ်နှစ်တည်းမွေးတဲ့) ဂယ်လီလီယို (Galileo) အကြောင်းကိုတော့ ဘာပြုလို့ အသေးစိတ် ပိုပြီး သိနေပါသလဲလို့ မေးစရာ ရှိတယ်။ မိုက်ကယ်အိန်ဂျယ်လို (Michel Angelo ဆိုရင် ရှစ်ဆယ့်ကိုးနှစ်စောတယ်)၊ ဗိုကေရှို (Boccaccio က ၁၃၁၃ ခုနှစ်မှာ မွေးပါတယ်) တို့အကြောင်းကိုပဲ ရှိတ်စပီးယား ထက် ပိုပြီး သာပါတယ်။ ပြဿနာ တစ်ဆက်တည်း ဖြစ်ပုံက ပြဇာတ်ဆရာကြီးဟာ လန်ဒန်မှာ နေစဉ်က ကိုယ်ပျောက်မင်းသား ဖြစ်နေတယ်။ တွေ့ဖူးမြင်ဖူးတဲ့လူ မရှိပါ။ လန်ဒန်မှာ (၁၅၉၂ – ၁၆၁၂) အနှစ် နှစ်ဆယ်နီးပါး နေသွားတယ်လို့ အဆိုရှိတယ်။ ဒါပေမဲ့ ဒီအနှစ်နှစ်ဆယ် တစ်လျှောက်လုံးမှာ နာမည်ကြီး ဇာတ်လိုက်နဲ့ ပြဇာတ်ဆရာကို မြင်ဖူးတွေ့ဖူး တယ်လို့ ပြောတဲ့လူ တစ်ယောက်မျှ ပေါ်ထွက် မလာပါ။ တစ်ယောက်ယောက်က နာမည်ကျော် ဇာတ်လိုက် ရစ်ချပ်ဘာဘေ့ (Richard Burbage) ကိုတွေ့ရင်၊ ပြဇာတ်ဆရာ ဘင်ဂျွန်ဆင် (Ben Jonson) ကိုတွေ့ရင် အင်မတန် ကြီးကျယ်တဲ့ ကိစ္စအနေနဲ့ မှတ်တမ်းရေးတယ်။ ဒီလိုဆိုရင် သူ့ဘဝမှာ အအောင်မြင်ဆုံး၊ အကြီးကျယ်ဆုံး ကာလဖြစ်တဲ့ လန်ဒန်မှာ နေစဉ် အနှစ်နှစ်ဆယ်မှာ ရှိတ်စပီးယားကို ဇာတ်စင် ပေါ်မှာ တွေ့တယ်၊ သူနဲ့ ကဗျာအကြောင်း ဆွေးနွေး ဖူးတယ်။ သူနဲ့ စာပေးစာယူ လုပ်ဖူးတယ်။ သူနဲ့ မိတ်ဆုံပွဲ (Party) မှာတွေ့ခဲ့တယ်။ လမ်းမှာပဲ မြင်ခဲ့ရတယ် ဆိုတာမျိုးကို တစ်ဆင့်စကား မှတ်သား ပြောထိုက်တယ်လို့ ဘယ်သူမှ မထင်ကြတော့ ဘူးလား။ ဒါကို အဖြစ်နိုင်ဆုံး ရှင်းပါဆိုရင် ‘ဝီလီယမ် ရှိတ်စပီးယား’ နာမည်ဝှက်ကို သုံးတဲ့ စာရေးဆရာဟာ တကယ်ပိရိတယ်။ သူ့ကို တွေ့တဲ့လူက သူ့ကိုနာမည်ကြီး ဝီလီယမ် ရှိတ်စပီးယားမှန်း မသိဘူး။ (နာမည်ဆင်တူတဲ့ ရက်စပယာကလည်း ပုံမှား မရိုက်နိုင်တာ ထင်ရှားတယ်။) ပြောနေကျ

အတ္ထုပ္ပတ္တိမှာ အရှင်းရ အခက်ဆုံးပြဿနာက အဗွန်မြစ်ကမ်းပေါ်က စထြပ်ဖို့ (Stratford-On-AvOn) မှာနေတဲ့ လူတွေက ရှက်စပယာဟာ အင်္ဂလန်ရဲ့ အကြီးမြင့်ဆုံး စာရေးဆရာ ဖြစ်တယ်၊ နာမည်ကျော် ဇာတ်လိုက် ဆိုလည်း ဟုတ်တယ်။ အဲဒါကို သူ့ဇာတိမြို့က ဘယ်သူမှမသိဘူး။ ဒီအကြောင်း အရေးတယူ မပြောဘူး။ အညတရထဲက 'ထွန်း' ပါကလားလို့မပြောဘူး။ သူ့မှာ တစ်ခုခုတော့တို့ထက် ထူးနေပြီလို့ ပြောကြဆိုကြရမှာပေါ့။ ဒါထက် အံ့ဩစရာက စထြပ်ဖို့က ထွက်သွားတုန်းက လူမွဲ၊ ပြန်လာတော့ လူချမ်းသာ၊ ဒီလို အမှန်တကယ် သာဖြစ်ရင် အိမ်နီးနားချင်းတွေ၊ ငယ်သူငယ်ချင်းတွေက ဒါမျိုးကို အရေးတယူ မပြောကြတော့ဘူးလား။ တကယ့် အဖြစ်အပျက်က သူ့ဘဝ တစ်လျှောက်လုံးမှာ သူ့မိတ်ဆွေ သူ့အိမ်နီးချင်း၊ သူ့သားမယားက အစ၊ တစ်ယောက်တလေမှ ရှက်စပယာကို 'တို့လူက ဇာတ်လိုက်၊ ပြဇာတ်ဆရာ၊ ကဗျာဆရာ၊ စာပေပညာရှင်' လို့ မပြောဘူး။ ပြဇာတ်စာမူကို ရှက်စပယာလက်ရေးနဲ့ တွေ့ဖို့ မကောင်းဘူးလား။ တွေ့ရင် သူပ စာရေးသူလို့ အတိအကျ သက်သေ ထူနိုင်တာပေါ့။ ကံဆိုးချင်တော့ ဘယ်ပြဇာတ်မှ လက်ရေးမူနဲ့ မရှိ၊ အကြမ်းရေးတဲ့မူလည်း မရှိ၊ တစ်ပိုင်းတစ်စလည်း မတွေ့၊ အဆုံးသတ်အောင် မရေးဖြစ်တဲ့ဇာတ်၊ ပုံမနှိပ်ရသေးတဲ့ဇာတ်၊ လက်ရေးနဲ့ ဘာဆိုဘာမှ မတွေ့၊ မှတ်စုလည်း မရှိ၊ မှတ်စုစာအုပ်၊ အတိုအထွာ ရေးတာမျိုး၊ နေ့စဉ်မှတ်တမ်း (diary)၊ အဲဒါတွေလည်း မရှိပါ။ ကိုယ်ရေးကိုယ်တာနဲ့ ရေးတဲ့စာ၊ အရောင်းအဝယ်နဲ့ ဆိုင်တဲ့စာ၊ ဘာစာမှ မရှိ။ (သူ့အတ္ထုပ္ပတ္တိ ဆရာတွေတောင် သူ့လက်ရေးနဲ့စာ တစ်ကြောင်းလောက်တောင် မမြင်ဖူးကြပါ။ ) ဒီလိုဆိုရင် ရှက်စပယာဟာ စာရေးဆရာဖြစ်ဖို့ အဝေးကြီးဝေးတယ်။ စာနည်းနည်းတော့ တတ်ချင်တတ်မယ်။ ဒါမှမဟုတ်ရင် စာလုံးဝ မတတ်ဘူးလို့ ပြောနိုင်တယ်။ ဆက်စပ်ပြီး ပြောစရာက ရှက်စပယာရဲ့ မိဘ၊ မယား၊ သားသမီး ဘယ်သူမှ စာမတတ်ပါ။ သားက ဘယ်အဖေ ဘယ်အမေမျိုးမှ ငါအမျိုးတော်မယ်လို့ မရွေးသာဘူး။ ငါ့ထက်တတ်တဲ့မိန်းမမှ ငါလက်ထပ်မယ်လို့လည်း သတ်မှတ်ထားမှာ မဟုတ်ဘူး။ တခြား နှစ်သက်စရာတွေ ရှိပါတယ်။ ဒါပေမယ့် စာရေးဆရာ အကျော်အမော်ဟာ သမီးကို စာမသင်ပေးဘဲနေမလား။ တကယ်လို့ ရှက်စပယာသာ အမှန်တကယ် ရှိတ်စပီးယား ဖြစ်ပါရင် သမိုင်းမှာ ထင်ရှားတဲ့ စာရေးဆရာတွေထဲမှာ သူတစ်ယောက်တည်းသာ စာမတတ်တဲ့ သားသမီး အဖေဖြစ်တယ်လို့ ပြောစရာ ဖြစ်လာမှာပါ။ ရှက်စပယာရဲ့ သေတမ်းစာကိုကြည့်ပါ။ မူရင်းစာတမ်း မပျက်မစီးရှိပါတယ်။ သူပိုင်ပစ္စည်းကို အသေးစိတ် ရေးထားပြီး ဘယ်သူဘယ်ပစ္စည်း ယူစေလို့ရေးတဲ့ စာမျက်နှာ သုံးမျက်နှာရှိတယ်။ ဘယ်နေရာမှာမှ သူ့ကဗျာတွေ၊ သူ့ပြဇာတ်တွေ၊ သူ့လက်ရေး စာမူတွေ၊ ရေးလက်စစာ၊ ဘယ်စာကို ဘယ်သူက ပုံနှိပ်ခွင့်ရစေဆိုတာမျိုး၊ လုံးဝ ဖော်ပြ ရေးသားထားတာ မတွေ့ပါ။ သူ့ကိုယ်ပိုင်စာအုပ်၊ စာရွက် အကြောင်း မပြော၊ (ပုံမနှိပ် ရသေးတဲ့ပြဇာတ် နှစ်ဆယ်လောက်ရှိတာကို) ဆက်ပုံနှိပ်ပေးပါဆိုတဲ့ အမှာစကားလည်း မရေး၊ သူ့တစ်သက်မှာ စာရေးတယ်၊ ကဗျာစပ်တယ် ဆိုတာမျိုးလည်း မဖော်ပြ။ ဒီသေတမ်းစာဟာ ငယ်စဉ်ကကျောင်းမနေရလို့ စာမတတ်တဲ့ ကုန်သည် တစ်ယောက်ရဲ့ သေတမ်းစာပဲ ဖြစ်မယ်။ အင်္ဂလိပ်ကဗျာဆရာ သေရင် ခပ်ကြွားကြွား မသာချလို့

မြှောက်ပင့်ပြီး တမ်းတတဲ့ အလွမ်းစာ (eulogies) တွေရေးလို့ သင်္ဂြိုဟ်တဲ့ခေတ်မှာ ၁၆၁၆ မှာ ရက်စပယာ သေတော့ နောင်အခါ သူဟာ ရှိတ်စပီးယားကို ကြည်ညို လေးစားသူပါလို့ ဖွင့်ထုတ် ပြောဆိုလာတဲ့ ဘင်ဂျွန်ဆင် (Ben Jonson) ကပါ ရှိတ်စပီးယား သေလို့ နမြောလှတယ်လို့ မပြောရှိသာမက သေလေပြီလို့တောင် စာတစ်ကြောင်း ရေးဖော်မရပါ။ ရှင်းရှင်းပြောတော့ စတြပ်ဖို့က လူနဲ့ ပြဇာတ်ဆရာကြီးဟာ တစ်ယောက်တည်းပါလားလို့ အဲဒီခေတ်က ဘယ်ကဗျာဆရာမှ တွဲဖက်ပြီး မသိကြပါ။ ကျွန်တော့် အထင်ပြောရရင် ပြောခဲ့ပြီးသမျှမှာ၊ အဖြေက ဘွားဘွားပေါ်နေပါပြီ။ ရက်စပယာက ပြဇာတ်မရေး၊ ရှိတ်စပီးယားက တကယ့် စာရေးဆရာရဲ့ နာမည်ဝှက်ဖြစ်တယ်။ ရက်စပယာဟာ စာရေးဆရာ မဟုတ်ပါလို့ ခိုင်ခိုင်မာမာ ပြောစရာတွေ ရှိပါသေးတယ်။ ဒါပေမယ့် သူ့အကြောင်းကို ဆက်လက်ပြီး ဆွေးနွေးနေဖို့ မလိုတော့ပါ။

ဇာတ်ရေးသူ၊ ဝတ္ထုရေးသူတွေဟာ ကိုယ့်စာထဲမှာ ကိုယ့်အကြောင်းတွေကို ထည့်ရေးတတ်ကြတယ်။ (တစ်ခါတစ်ရံ အဲဒါက ဝတ္ထုထဲမှာ အများဆုံး အရေးပါဆုံး ဖြစ်နေတတ်တယ်။) ဒါပေမယ့် ရှိတ်စပီးယားရဲ့ဇာတ်တွေထဲမှာ ရက်စပယာရဲ့ အတ္ထုပ္ပတ္တိနဲ့ ပတ်သက်တာ နည်းနည်းမှ မပါပါ။ နောက်တစ်ချက် ပြောစရာ ကျန်သေးတာက ဝီလီယမ် ရှိတ်စပီးယားဟာ သိပ်စာတတ်တဲ့လူလို့ ထင်ထင်ရှားရှား သိသာတယ်။ သူသုံးတဲ့ ဝေါဟာရတွေကို စာရင်း လုပ်ကြည့်ရင် (သူလို တခြား ပြဇာတ်ဆရာတွေ သုံးတဲ့ ဝေါဟာရထက် အများကြီး သာတယ်။) သူက လက်တင် (Latin)၊ ပြင်သစ် (French) ဘာသာစကားတွေလည်း အကြေအလည်တတ်တယ်။ တရားဥပဒေ အသုံးအနှုန်းကိုလည်း မှန်မှန်ကန်ကန် တိတိကျကျ သုံးတတ်တယ်။ ရှေးစာကြီး ပေကြီးတွေကို သိရှိနားလည်ပုံဟာ ကြီးမား ပါပေတယ်လို့ ချီးမွမ်းလောက်တယ်။ ရက်စပယာ ဆိုရင် တက္ကသိုလ် မရောက်ပါ။ (စောစောက ပြောခဲ့တဲ့ အတိုင်းဆိုရင်) သဒ္ဒါကျောင်းကိုမှ တကယ် နေဖူးရဲ့လားလို့ သံသယ ရှိပါတယ်။ ဆက်ပြောပါရစေဦး၊ (စာရေးဆရာ) ရှိတ်စပီးယားဟာ မဟာသွေးမဟာနွယ် ဆွေကြီးမျိုးကြီး၊ နောက်ခံ ကောင်းကောင်း ရှိလို့သာ သူရေးတဲ့အထဲတွေမှာ မင်းသား၊ နယ်စား၊ မြို့စားတွေ အပျင်းပြေ လိုက်စားတဲ့ (မြေခွေးလိုက်၊ သိမ်းစွန်နဲ့ ငှက်ဖမ်း – fox hunting, falconry) တာတွေကို သူကောင်းကောင်း သိတယ်။ နန်းတွင်းဓလေ့ (Court Life)၊ နန်းတွင်း အရှုပ်တော်ပုံတွေ ကိုလည်း သူ ကျွမ်းကျင်ပုံကိုပြတယ်။ တစ်ဖက်က ရက်စပယာ ဆိုရင် မြို့ငယ်က လူလတ်တန်း အငယ်စား နောက်ခံပဲ ရှိပါတယ်။ ရက်စပယာရဲ့ဘဝမှာ ထူးခြား ကျော်ကြားတဲ့ စာရေးဆရာ ဖြစ်လေဟန်၊ မှန်းဆ ရေးသားချက်နဲ့ မကိုက်တာတွေ ရှိပါသေးတယ်။ အဲဒါတွေကို စာမျက်နှာ အများကြီး ထပ်ရေးနိုင်ပါသေးတယ်။ (ချာလ်တန်ဩဂ်ဘန်း Charlton Ogburn ရေးတဲ့ လျှို့ဝှက်ချက် များတဲ့ ဝီလီယမ်ရှိတ်စပီးယား The Mysterious William Shakespeare ကို ဖတ်ကြည့်ကြပါ။) ရှေးက သူ့အတ္ထုပ္ပတ္တိ ရေးတဲ့လူတွေက အခက်အခဲ(ပြဿနာ)တွေကို ရှင်းလင်းရေးသားခဲ့ပေမယ့် သူတို့ပြောတာ မဖြစ်နိုင်ဘူးလို့ ကျွန်တော် ချေပတာလည်း တော်တော်စုံသွားပါပြီ။ သူတို့ရဲ့

ရှင်းလင်းချက် တွေက ယုတ္တိ မရှိပါ။ ဒါပေမယ့် တစ်ခုချင်း ပြောသွားတဲ့ အခါမှာတော့ အချို့အချက်က မဟုတ်ဘူး ဆိုရတဲ့တိုင်အောင် ဟုတ်နိုးနိုး ထင်ရလောက် ပါတယ်။ ဒါပေမယ့် အခုကိစ္စမှာ ဝတ္ထုတစ်ပုဒ်လုံးဟာ အသေးစိတ်အပိုင်းလေးတွေထက် အရေးပါတယ်။ ပြီးတော့ တစ်ကွက်နှစ်ကွက် မဖြေရှင်းနိုင်ပေမယ့်၊ ကြံဖန် လီဆယ်ပြီး ပြောထားမှန်း သိပေမယ့် လက်ခံရတော့မယ့်သဘော ရှိပါသေးတယ်။ ဝတ္ထုတစ်ပုဒ် ဖြစ်အောင် ပေါင်းစပ်ပုံကလည်း ညံ့တယ်။ ဘာမှ သဘာဝမကျဘူး၊ ပြန်လည် သုံးသပ်ပြီး ထပ်ရှင်းနိုင်မှဖြစ်မယ်၊ ပြဿနာ ကတော့ အဗွန်မြစ်ရိုးက စတြပ်ဖို့ (Stratford–On–Avon)က စာတတ်ရုံလောက်ပဲရှိတဲ့ ကုန်သည် အငယ်စားဟာ သူ့ပညာရေး၊ သူ့စာရိတ္တ၊ သူ့လုပ်ငန်း၊ သူ့သားမယား၊ သူ့အိမ်နီးချင်း အသိုင်းအဝိုင်းတွေကို ကြည့်လိုက်ရင် ဂုဏ်သတင်း သိပ်ကြီး ထင်ရှားတဲ့ ဝီလီယမ် ရှိတ်စပီးယားနဲ့ ဘာမှမဆိုင်ဘူးလို့ သိလာပါတယ်။ ကောင်းပြီ၊ ရှက်စပယာ(Shakspere)ဟာ ပြဇာတ်ဆရာ မဟုတ်ဘူးဆိုရင် ဘယ်သူက စာရေးဆရာလဲ၊ ဒီလူဖြစ်မယ် ဟိုလူဖြစ်မယ် ပြောကြတဲ့ အထဲမှာ ဖြစ်နိုင်စရာ အကောင်းဆုံး ကတော့ လူသိများပြီး ကျော်ကြားတဲ့ ဒဿန ဗေဒဆရာ ဖရန်စစ်ဘေကွန် (Francis Bacon) ဖြစ်ပါတယ်။ ဒါပေမဲ့ အခုတလောရလာတဲ့ သက်သေခံတွေ အရ သူမဟုတ်ဘဲ၊ အက်ဒွပ်ဒေဗရာ (EdWard de Vere) ဖြစ်မယ်၊ ဖြစ်နိုင်ဖို့ အကြောင်းအချက် အများကြီး ရရှိနေပါတယ်။ အက်ဒွပ်ဒေဗရာ အကြောင်း အများကြီး သိပါတယ်။ သူဟာ စွန့်စားဆောင်ရွက်ရတဲ့ အလုပ်မျိုးကို ကြိုက်တယ်။ သူ့ဘဝ၊ သူလုပ်ဖူးသမျှတွေ အများကြီးထဲက အဖြစ်အပျက် အများကြီးကို မှန်ပေါ်မှာ မြင်ရသလို ပြဇာတ်တွေထဲမှာ ရေးထည့် ထားတယ်။ သူက အရာအထူးကြီးတဲ့ သူကောင်းမျိုး (Aristocrat)၊ သိပ်ချမ်းသာတယ်၊ အောက်စဖို့မြို့စား (Earl Of Oxford) အမှတ် ၁၆ ရဲ့ အမွေခံသား၊ အောက်စဖို့မြို့စား အမှတ် ၁၇၊ ၁၅၅၀ ပြည့်မွေးဖွားသူ ဖြစ်ပါတယ်။ (မြန်မာမှာ အနော်ရထာလက်ထက်) အင်္ဂလန်ကို နော်မန် သိမ်းချိန် (Norman Conquest) လောက်ကပဲ ဒီမြို့စားရိုး စတင်ခဲ့ပါတယ်၊ အက်ဒွပ်ကလေးဟာ မင်းညီမင်းသားတွေ တတ်ရမယ့် မြင်းစီး၊ အမဲလိုက်၊ စစ်ပညာဆိုတာတွေ သင်ကြားခဲ့ပြီး တစ်ဖက်က သိမ်မွေ့တဲ့ အနုပညာဆိုင်ရာ တေးဂီတနဲ့ အကပညာကိုလည်း လေ့လာ တတ်မြောက်ထားပါတယ်။ စာပေပညာ လေ့လာရေးကိုလည်း ပစ်မထားပါ။ ပြင်သစ် (French) စကားသင်ဖို့ ဆရာ၊ လက်တင် (Latin) သင်ဖို့ ဆရာ သီးသန့်ငှားပြီး သင်ယူသလို တခြားဘာသာရပ်တွေ သင်ပေးဖို့ဆရာတွေလည်း ငှားထားပါသေးတယ်။ နောက်တော့ ကိမ်းဗရစ်ချ် (Cambridge) က ဝိဇ္ဇာဘွဲ့၊ အောက်စဖို့ (Oxford) က မဟာဝိဇ္ဇာဘွဲ့ ရခဲ့တယ်။ အဲဒီနောက် လန်ဒန် ဥပဒေ သင်ရိုးကျော်ကြားတဲ့ ဂရေးအင်း (Gray’s Inn) မှာ တစ်နှစ် ဥပဒေပညာ သင်ယူ ခဲ့သေးတယ်။ အက်ဒွပ် (EdWard) အသက် တစ်ဆယ့်နှစ်နှစ်မှာ အဖေသေတယ်။ အမေက နောက် အိမ်ထောင်ပြု တယ်။ အက်ဒွပ်ငယ်ဟာ အမေနဲ့ ကြာကြာ မနေရပါ။ နန်းတွင်းမှာ လက်ပါးစေအဖြစ် အခစား ဝင်ရတယ်။ သူ့အတွက် အကြီးတော် (Guardian) တစ်ယောက် ခန့်ထားပေးတယ်။ သူ့အကြီးတော် ဆိုတဲ့ ပုဂ္ဂိုလ်က အင်္ဂလန်ရဲ့ ဘဏ္ဍာရေးဝန် (Lord Treasurer Of England) ဝီလီယမ်စီစီလ် (William Cecil)

ဖြစ်တယ်။ မိဖုရား အယ်လီဇဘက် အကြံပေးကောင်စီဝင် (Privy Council) အဖြစ်နဲ့ နှစ်ပေါင်း အကြာကြီး ဆောင်ရွက်ဖူးတဲ့ အမတ်ကြီး ဖြစ်ပါတယ်။ မိဖုရားက အယုံကြည်ဆုံး၊ ကောင်စီဝင်တွေထဲမှာ အသက် အကြီးဆုံး ဖြစ်တဲ့ စီစီလ်ဟာ အင်္ဂလန်မှာ တန်ခိုးဩဇာ အကြီးဆုံး ထိပ်တန်းပုဂ္ဂိုလ်တစ်ဦး ဖြစ်ပါတယ်။

ဒေဗရာငယ်ကို သူ့မျိုးရိုးဂုဏ်အလျောက် စီစီလ်ရဲ့ အိမ်သား တစ်ယောက်လို ထားတယ်။ (အသေအချာ မသိရတဲ့ အရေးကိစ္စ တစ်ခုမှာ စီစီလ်ရဲ့ ကျွန် တစ်ယောက်ကို သူ သတ်ပစ်ဖူးပေမယ့် စီစီလ်ရဲ့ တန်ခိုးနဲ့ သူ့ကို ရုံးတင် အပြစ်ပေးခြင်း မပြုပါ။) ဆယ်ကျော်သက် နောက်ပိုင်းမှာ သူ့ကို နန်းတွင်းဝင်ပြီး အခစား ခိုင်းပါတယ်။ အဲဒီတော့ မိဖုရားကြီးကအစ နိုင်ငံရေးထိပ်သီးပုဂ္ဂိုလ်တွေနဲ့ ရင်းနှီး တွေ့ဆုံခွင့် ရခဲ့ပါတယ်။ ဘုရင်မကြီးက သူ့ကို အသက်ငယ်ငယ် လူလုံးလူဖန်လှလှ သွက်လက် ချက်ချာ၊ ရည်မွန်လို့ မြှောက်စားတယ်၊ အရေးပါတယ်။ အသက် နှစ်ဆယ့်တစ်နှစ်မှာ အကြီးတော်ရဲ့သမီး အဲန်စီစီလ် (Anne Cecil) နဲ့ ညားတယ်။

အတူတူကြီးပြင်းခဲ့တဲ့သူတွေဖြစ်လို့ သူ့မယားဟာ သူ့နို့စို့ဖက်နှမ (Kid sister) ဖြစ်တယ်။ ဒီလိုယူတာမျိုး ဆန်းတယ်လို့ ဆိုနိုင်ပါတယ်။ (ဒါပေမဲ့ ဆက်ဘဲလင်း Cymbeline ဇာတ်ထဲက ဇာတ်လိုက် ပို့သုမ့စ် လီယွန်နတပ်စ် (Posthumus Leonatus) ဟာ ဘုရင် မွေးစားတဲ့ နန်းတွင်းသားလည်း ဖြစ်တယ်။ အကြီးတော်ရဲ့ သမီးကိုလည်းယူတယ်။ သူ့အကြောင်းနဲ့ ဒေဗရာရဲ့ တူညီချက်တွေ အများကြီးရှိပါတယ်။

အသက်နှစ်ဆယ့်လေးနှစ်မှာ ဒေဗရာ (de Vere) ဟာ ဥရောပတစ်ခွင်ကို လှည့်ပတ်ပြီး ခရီးရှည်သွားပါတယ်။ ပြင်သစ်၊ ဂျာမနီ ရောက်တယ်။ အီတလီမှာ ဆယ်လ ကြာတယ်။ ပြင်သစ်က တဆင့် အင်္ဂလန်ကို ပြန်ခဲ့တယ်။ အင်္ဂလိပ် ရေလက်ကြား (English Channel) ကို သင်္ဘောနဲ့ ပြန်လာတဲ့အခါ ပင်လယ်ဓားပြတွေက သူ့ကို ပြန်ပေးဆွဲ သွားတယ်။ သူက ငါ ဘုရင်မ အယ်လီဇဘက်ရဲ့ အချစ်တော် လို့ ပြောတာနဲ့ ငွေမယူဘဲ ပြန်လွှတ် လိုက်ပါတယ်။ (ဟမ္မလက် Hamlet ဇာတ်ထဲက ဇာတ်လိုက်နဲ့ တူနေတယ်။) ဒီအတောအတွင်းမှာ ဇနီး အဲန်(Anne) မှာ သမီး မိန်းကလေး တစ်ယောက် မွေးတယ်။ ဒီကလေးဟာ ဒေဗရာ အင်္ဂလန်က ထွက်သွားပြီး၊ ရှစ်လ အတွင်းမှာ မွေးဖွားတာဖြစ်ပေမယ့် သူ ကလေးအဖေ မဟုတ်ဘူး။ ဖောက်ပြန်သူနဲ့ အတူ မနေနိုင်ဘူးလို့ ပြောပါတယ်။ သမိုင်းဆရာတွေ ကတော့ သူက မတရားစွပ်စွဲတာဖြစ်တယ်။ စွပ်စွဲချက်ဆိုင်ရာ အထောက်အထား မခိုင်၊ လုပ်ဇာတ်တွေလို့ ထင်တယ်။

ဒေဗရာလည်း နောက်ဆုံး ဒီဆုံးဖြတ်ချက်ကိုပဲ လက်ခံပြီး၊ ခွဲခွာနေရက် ငါးနှစ်ကျော်တော့ စွပ်စွဲချက်တွေ ရုပ်သိမ်းပြီး အဲန်နဲ့ ပြန်ပေါင်း ပါတယ်။ (ရှိတ်စပီးယားရဲ့ ပြဇာတ်တွေမှာ အပြစ်ကင်းတဲ့မယားကို လင်ငယ်နေတယ်လို့ စွဲချက်တင်တာမျိုး ကြိမ်ဖန်များစွာ တွေ့ရတယ်။ ဥပမာ၊ **'ဖြစ်သမျှအကြောင်း**

**အကောင်းချည်းပဲ’** All’s well that ends well. ဆမ်ဘဲလင်း (Cymbeline)၊ ဆောင်းအိပ်မက် (Winter’s Tale) နဲ့ ဩသယ်လို (Orthello) ကြည့်၊ အဲဒီဇာတ်လမ်းအားလုံးမှာ မတရား စွပ်စွဲခံရလို့ နှစ်နာတဲ့မယားက လင်ကို ပြန်လက်ခံတာတွေ့မယ်။) မယားနဲ့ ကင်းကွာနေတဲ့ ငါးနှစ်မှာ ဒေဗရာဟာ နန်းတွင်းသူ တစ်ဦးနဲ့ ချစ်ကြိုးသွယ်မိတယ်။ ကိုယ်ဝန်ရတော့ ဘုရင်မကြီး အယ်လီဇဘက်က ရာဇမာန်ရှပြီး ဒေဗရာကို လန်ဒန်ပြာသာဒ် (Tower Of London) မှာ အကျဉ်းနဲ့ထားတယ်။ နောက်တစ်လ နှစ်လကြာတော့ ထောင်က လွှတ်ပါတယ်။ ဒါပေမယ့် ဒုက္ခရောက်တဲ့ မိန်းမငယ် ဘက်က နာကြည်းသူ တစ်ယောက်က သူ့ကို တိုက်ခိုက်လို့ ဒဏ်ရာ ပြင်းပြင်းထန်ထန် ရတယ်။ ဒီဘက်ဟိုဘက် နောက်လိုက်တွေ လမ်းပေါ်မှာ မကြာမကြာ တိုက်ခိုက်နေကြလို့ ရပ်တန်းက မရပ်ရင် အားလုံးထောင်ပို့ထားမယ်လို့ ဘုရင်မကြီးက ကြိမ်းတော့မှ ရန်ပွဲရပ်စဲ ပါတော့တယ်။ (ရိုမီယိုနဲ့ ဂျူးလိယက် Romeo And Juliet ကို သတိရစရာပေါ့။) ဒေဗရာ မယားနဲ့ပြန်နေပြီး နောက်ထပ် သားသမီး ငါးယောက် ရပါတယ်။ အဲန်က အသက် သုံးဆယ့်နှစ်နှစ်မှာ ရုတ်တရက် သေဆုံး သွားတယ်။ လေးနှစ်ကြာတော့ ဒေဗရာ နောက် အိမ်ထောင်ပြုတယ်။ အဲဒီမယားက သူ့သေပြီး နောက်မှ သေတယ်။ ဒေဗရာရဲ့ စီးပွားရေးက သူ့အသုံးအဖြုန်းကြီးလို့ သိပ်မကောင်းဘူး၊ နောက်ပိုင်းရောက်မှ အခြေခံက စပြီး ကောင်းလာတယ်။ ဘုရင်မကြီး အယ်လီဇဘက်က ၁၅၈၆ခု အသက် သုံးဆယ့်ခြောက်မှာ မကြုံဖူးအောင် ကြီးမားတဲ့ တစ်နှစ်မှာ ပေါင် ၁၀၀၀ ရာသက်ပန် ရိက္ခာ ပေးခဲ့ပါတယ်။ အခုငွေနဲ့ တစ်နှစ် ပေါင် ၁၀၀၀၀၀ နဲ့ ညီပါတယ်။ ဒီဝင်ငွေပေါ်က ဘာအခွန်မှ မပေးရပါ။ အထူးသဖြင့် အယ်လီဇဘက်ဟာ အပေးအကမ်း မရက်ရောဘူးဆိုတာ သိတော့ ဒီလို ပေးတာဟာ သိပ်ပြီး ကြီးကျယ်တယ်၊ မှတ်သား လောက်တယ်လို့ ဆိုရပါမယ်။ နောက်တစ်ချက်က ဒီလို ထောက်ပံ့တာကြောင့် ဘာလုပ် ပေးရမယ်ဆိုတဲ့ တာဝန်မပါဘူး၊ အရင့် အရင်က ဘာလုပ်ပေးဖူးလို့ အခုလို အသနားတော်မြတ်ခံရတယ်လို့လည်း မပြောဘူး။ ဘုရင်မကြီး သက်တော်ရှည်သ၍ ဒီထောက်ပံ့ငွေကို ပေးနေတဲ့အပြင် ၁၆၀၃ ခု နတ်ရွာစံပြီး နောက်ဆက်ခံတဲ့ ရှင်ဘုရင် ဂျိမ်း–၁ (King James I) ကလည်း ဆက်ပေးတယ်။ ဒေဗရာဟာ အမြဲပဲ ကဗျာနဲ့ဇာတ်ခုံကို အကြီးအကျယ် စွဲမက်တယ်။ စာပေမှာ ထင်ရှားသူတွေနဲ့လည်း အကျွမ်းဝင်တယ်။ ငယ်စဉ်ကပဲ ကဗျာတွေ ပြဇာတ်တွေကို သူ့နာမည်ရင်းနဲ့ပဲ ရေးတယ်။ (ဒီပြဇာတ်တွေ ဘာတစ်ခုမှ မကျန်တော့ပါ။ ကဗျာ တော်တော်များများ ကျန်တယ်။ တချို့ တော်တော်ကောင်းတယ်။ အရွယ်ရောက်ပြီး ဝီလီယမ် ရှိတ်စပီးယား လက်ရာကိုတော့ မမီပါ။) အဲဒီစာတွေကို ဘယ်မှာမှ ပုံနှိပ်ဖြန့်ဝေခြင်း မလုပ်ပါ။ ဘာပြုလို့လဲဆိုတော့ မင်းညီမင်းသား အထက်တန်းသူကောင်းမျိုးတွေရဲ့ ဂုဏ်သိက္ခာ ကိုင်ပြီး သဘင်သည် အဆင့်ကို မဆင်းလိုတဲ့ အတွက် ဖြစ်တယ်။ (ဒီသဘောထားကို အခု ခေတ်အမြင်နဲ့တော့ အလကားပါလို့ ပြောမယ်။ သမိုင်းဆရာတွေ ကတော့ ဟိုခေတ်က ဒီအယူဟာ အင်မတန် ပျံ့နှံ့ပြီး အင်မတန် သတိကြီးကြီး ထားပြီး ဒီတားမြစ်ချက် (taboo) ကို ထိန်းသိမ်း စောင့်ရှောက်ကြပါတယ်။) ဘုရင်မကြီး အယ်လီဇဘက်က အခုလို ငွေတော် အသနားတော်မြတ်ရှိပြီးတဲ့နောက် ဒေဗရာဟာ သူ့နာမည်နဲ့ ဘယ်ကဗျာ တစ်ပိုဒ်

စာတစ်ကြောင်းမှ မရေးတော့ပါ။ နှစ်အနည်းငယ် အတွင်းမှာ ကဗျာတွေပြဇာတ်တွေကို ဘယ်သူမှန်း မသိတဲ့ 'ဝီလီယမ် ရှိတ်စပီးယား' နာမည်နဲ့ ပေါ်လာပါတော့တယ်။ အယ်လီဇဘက်က ဒါလောက်များတဲ့ငွေတွေ ဒေဗရာကို ဘာ့ကြောင့် ပေးသနားတော်မူပါသလဲ။ ဘာအကြောင်းမှ မဖော်ပြပေမယ့် အဖြေက ပေါ်နေပါတယ်။ အစဥ္ဆအဆက် မင်းဧကရာဇ်တိုင်း ငါ့လက်ထက်တော်မှာ ဒီလိုအံ့ဖွယ်ရာတွေ ပေါ်ထွန်းခဲ့တယ်လို့ ဂုဏ်ခံချင်လို့ ထူးချွန်တဲ့ အနုပညာရှင်တွေကို ချီးမြှင့်တာ ဖြစ်တယ်။ ဒီအတိုင်းသာမှန်ရင် ဘုရင်မကြီး ငွေကုန် ရကျိုးနပ်တယ်လို့ ဆိုရမှာ ဖြစ်တယ်။ ဒီဘုရင်မကြီးခေတ်ရဲ့ အထက်ကရော နောက်မှာပါ ဒီလိုဆုံးဖြတ်ချက်မှန်မှန်နဲ့ ရွေးချယ်ပေးကမ်းခဲ့တယ်လို့ မရှိပါ။ အခုလို ရိက္ခာတော်ကိုလည်း ရရော၊ အရင်က အင်မတန် တွင်ကျယ်ဖျတ်လတ်တဲ့ အက်ဒွပ်ဒေဗရာကို နန်းတော် ဝန်းကျင်မှာ လုံးဝ မတွေ့ရတော့ပါ။ အခုပြောတဲ့ သူမသေမီ တစ်ဆယ့်ရှစ်နှစ် အတွင်းမှာ စာတွေရေးတယ်။ ရေးပြီးသား ပြဇာတ်ကြီးတွေ ကဗျာလင်္ကာတွေကို ပြင်ဆင်ဖြည့်စွက်တယ်။ ဒါကြောင့် 'ဝီလီယမ် ရှိတ်စပီးယား' ဟာ နာမည်ကျော်ဖြစ်လာတာ ဖြစ်မယ်။ သူက ၁၆၀၄ ခု ပလိပ်ရောဂါ ကပ်ဆိုက်တဲ့အခါ သေဆုံးတယ်။ စတြပ်ဖို့ရွာ အနားက ဟက်နီ (Hackhey) ရှိ အိမ်ကြီးနားမှာပဲ မြေမြှုပ် သင်္ဂြိုဟ်ပါတယ်။ (အင်္ဂလန်မှာ အဲဒီအချိန်က စတြပ်ဖို့ နှစ်ရွာရှိတယ်။ အဗွန်မြစ်ရိုးက စတြပ်ဖို့က ငယ်တယ်။) စာရေးဆရာ ရှာပုံတော်မှာ ရှက်စပယာအပြင် တခြားလူတွေပါ အက်ဒွပ်ဒေဗရာ (EdWard de Vere) လောက် တိမ်မြုပ်တဲ့ ဝီလီယမ် ရှိတ်စပီးယား ဖြစ်ဖို့ မနီးစပ်ပါ။ သူ့မှာ ပညာအခြေခံ သိပ်ကောင်းတယ်။ ဥပဒေလည်း တတ်တယ်။ နိုင်ငံခြားဘာသာစကားတွေလည်း ကောင်းကောင်း တတ်တယ်။ (လက်တင်နဲ့ ပြင်သစ်အပြင် တခြား ဘာသာစကားတွေလည်း ပြောတတ်တယ်။) သူဟာ သူကောင်းမျိုးစင်စစ်ဖြစ်လို့ နန်းတွင်းရေးနဲ့ နန်းတွင်းအနေအထိုင် အကြောင်းလည်း အတွင်းကျကျ သိတယ်။ သူ့မှာ အားလပ်တဲ့အချိန် များတယ်။ ပြဇာတ် ရေးချိန်ရတယ်။ သူ့ကို လူတကာက ပါရမီရှိသူ၊ တော်တော် စွမ်းတယ်လို့ပဲ ချီးမွမ်းကြတယ်။ သူဟာ သဘင်စင်မြင့်ကို ရာသက်ပန် စိတ်ဝင်စားသူဖြစ်တယ်။ သူ့နာမည်ရင်းနဲ့ပဲ ငယ်စဥ္ဆက ကဗျာလင်္ကာတွေ၊ ပြဇာတ်တွေ ရေးဖူးပါတယ်။ သူ့ကို သူမသေမီကပဲ အတိအကျ ဖော်ထုတ်ပြီး မင်းညီမင်းသား ပေမယ့် ကဗျာရေးတယ်။ (အဲဒါကို စောစောက ပြောခဲ့သလို ရှောင် (taboo) ရမယ်ဆိုလို့) နာမည်ခံပြီး ပုံနှိပ်ခြင်း မပြုတာဖြစ်တယ်။ အဲဒါအပြင် သူဟာ လူကြီးလူကောင်း (gentleman) ထဲက ဒီကိစ္စမှာ အတော်ဆုံး အကျွမ်းဆုံးပုဂ္ဂိုလ် ဖြစ်တယ်လို့ အချီးမွမ်း ခံရပါတယ်။ (အဲဒ ါတွေ အားလုံးဟာ ဟိုခေတ်က မပျက်စီးဘဲကျန်ရစ်တဲ့ မှတ်တမ်း တွေက ထုတ်နုတ် ပြောတာဖြစ်ပါတယ်။) ဝီလီယမ်ရှိတ်စပီးယားရဲ့ ပြဇာတ်တွေမှာ အက်ဒွပ် ဒေဗရာဘဝမှာ ကြုံတွေ့ရတဲ့ အခြေအနေ အဖြစ်အပျက် ပုဂ္ဂိုလ်မျိုးစုံတွေနဲ့ သက်ဆိုင်ကြောင်းကို ရှင်းလင်းထင်ပေါ်အောင် တိုက်ဆိုင် ပြနိုင်ပါတယ်။ (တချို့ကို အပေါ်မှာ ဖော်ပြပြီးဖြစ်တယ်။ အလားတူ အများကြီး ပြနိုင်ပါသေးတယ်။) ဒေဗရာလို့ လက်ခံနိုင်စရာ ရှိပြီ ဆိုပေမယ့် မေးစရာတစ်ချက် ရှိပါသေးတယ်။ သူက ဘာပြုလို့ ဖုံးကွယ်နေချင်ရပါသလဲ။ ဖြစ်နိုင်တဲ့ အဖြေတွေကတော့...

(၁) ငွေကြေးကို အရေးထားပြီး ပြသတဲ့ ဇာတ်သဘင် ရုံပွဲမှာ အထက်တန်းစား မင်းညီမင်းသား သိက္ခာကိုင်ပြီး မပါဝင်နဲ့ (taboo) က အပြင်းအထန် ကန့်ကွက်နေလို့ ဖြစ်ပါတယ်။

(၂) ဒေဗရာက နန်းတွင်းသား ဆိုတော့ ပြဇာတ်ထဲက အဖြစ်အပျက်တွေဟာ နန်းတွင်းရေးနဲ့ ပတ်သက်နေလို့ ပတ်သက်တဲ့ လူတွေက သူတို့ အကောက်ဉာဏ်တွေ ဖွင့်ချနေပြီ ဆိုပြီး သူ့ကို ရန်ရှာမှာစိုးရတယ်။ (အဲဒါလည်း စိုးရိမ်စရာ အချက် ဖြစ်ပါတယ်။) အခုခေတ်ဆိုရင် ဟုတ်တာပြောတာပဲ။ ဒါမျိုးတွေ ခေတ်အဆက်ဆက် ဖြစ်နေတာပဲ ဖွင့်ပြောမိလို့ မိတ်ပျက်ချင်ပျက်မှာ၊ ကြီးကြီးကျယ်ကျယ် ပြောလား ဆိုလား အရေးမရှိလို့ ပြောမယ်။ ဟိုအခါက ရုံးမှာတရားစွဲမယ်၊ ခေါင်းချင်း ယှဉ်ခုတ်မယ်လို့ ချိန်းချင် ချိန်းမယ်၊ ဘယ်သူရေးတာလို့ ဝန်မခံရင် ဒေဗရာမှာ ဒီဒုက္ခတွေက လွတ်မယ်။

(၃) ဝီလီယမ် ရှိတ်စပီးယားရဲ့ ဆော်နက် (Sonnet) သီချင်းတွေက အမျိုးသမီး တစ်ယောက်ကို ရည်ညွှန်းထားတယ်။ ဘယ်သူ ရေးတယ်လို့ မပြောတော့ အိမ်ရှင်မနဲ့ စာရင်းရှင်းစရာ မလိုတော့ပါ။

(၄) ပိုဆိုးတာက တချို့ဆော်နက်သီချင်းတွေက အမျိုးသား တစ်ယောက်ကို ရည်ညွှန်းတယ်။ ဒီတော့ ဒီသီချင်းတွေကို ရေးဖွဲ့သူဟာ လိင်တူချင်း ဆက်ဆံသူ ဖြစ်ကြောင်း ပေါ်သွားမယ်။ ဒီလို အဓိပ္ပာယ်ဖွင့်တာ မှန်ချင်မှ မှန်မှာပါ။ (ဝေဖန်ရေးသမားတချို့က ဒါမဖြစ်နိုင်ဘူးလို့ ဆိုပါတယ်။) ရေးသူက ဝန်ခံရင် သက်ဆိုင်တဲ့ မိဘဆွေမျိုးမိသားစုမှာ ရှက်စရာ ဖြစ်မှာပေါ့ဆိုတဲ့ အချက်ကိုလည်း ထည့်စဉ်းစား ရမှာပါ။

ဘယ်အဖြေမှ ရေပက်မဝင်အောင် ခိုင်လုံတယ်လို့ မဆိုနိုင်ပါ။ ဒါပေမယ့် အားလုံးခြုံကြည့်ရင် ဒေဗရာဟာ ဒါတွေကြောင့် သူ့လက်ရာတွေပါလို့ ဝန်မခံတာ ဖြစ်မယ်ဆိုတဲ့ အချက် ပေါ်ပါတယ်။ ကျွန်တော်တို့မသိနိုင်တဲ့ အချက်တွေလည်း ရှိနိုင်ပါသေးတယ်။ (ဥပမာ၊ အယ်လီဇဘက် ကိုယ်တော်တိုင်က နောက် ကိုယ့် ဂုဏ်သိက္ခာကို ထိန်းဖို့ ခေါင်းချင်းယှဉ်ရတာမျိုးကို မဖြစ်အောင် ရှောင်ရမယ်လို့ အမိန့်ပေးတာကော မဖြစ်နိုင် ဘူးလား။) အပြည့်အစုံ ရှင်းပြနိုင်တာ ဖြစ်စေ၊ မပြနိုင်တာ ဖြစ်စေ၊ ဒေဗရာက ခုလို သူရေးတာလို့ ဝန်မခံပေမယ့် သူနဲ့ ရှိတ်စပီးယားဟာ သိပ်တူနေပြီ၊ ဘယ်သူနဲ့မှ ဒါလောက် မတူဘူးဆိုတာ သတိပြုပါ။ ကျွန်တော်ကတော့ သူပဲ စာရေးသူပါလို့ မုချ ပြောချင်ပါတယ်။

နောက်ဆုံး မေးခွန်းတစ်ခု ရှိသေးတယ်။ ရှက်စပယာကို ဘာပြုလို့ ပြဇာတ်ဆရာဖြစ်မယ် ဆွဲထည့် တာလဲ၊ ဒီလိုပြောတာလည်း ကိုးကားချက် သုံးခု တွေ့တယ်။ သုံးခုစလုံး ရှက်စပယာ (Shakspere) သေဆုံးပြီး နှစ်နည်းနည်း ကြာမှ လုပ်ကြံပြောဆိုတာ ဖြစ်တယ်။ တိုက်ဆိုင်တာလို့ ဇွတ်မပြောရင်၊ ထင်ရှားတဲ့ အချက်က တစ်ယောက်ယောက်က (တစ်ယောက်ထက်လည်း ပိုနိုင်တယ်) ဇွတ်လိမ် (hoax) တာ ဖြစ်ပါတယ်။

ဘာကြောင့် လိမ်ရသလဲ၊ လိမ်တဲ့လူဟာ ဘယ်သူလဲ။ ဖြေဖို့မလွယ်ပါ။ ( ၁၆၂၀ ပြည့် လောက်မှာ) ဒေဗရာရဲ့ အမွေခံတွေက စာပေါင်းချုပ် ထုတ်ချင်တဲ့အခါ တစ်ယောက် ယောက် ရေးတာကိုထည့်မှ စောစောက ဖုံးခဲ့တာတွေ လုံမယ်လို့ စဉ်းစားပြီး လိမ် (hoax) ပါတယ်။ သူတွေးသလိုပဲ သူ့ကို ဆက်ခံသူတွေက တွေးမယ်။ ရန်ဖြစ်ကြ၊ ရှင်းလင်းကြ ဆိုတဲ့ အန္တရာယ်ကို ရှောင်လိုတယ်။ သွားပုပ်လေလွင့် (Scandle) အပြောလည်း မခံချင်ဘူး။ (ဘုရင်မကြီးကို ကတိပြု ထားတာလည်း မဖျက်ချင်ဘူး။) ညာတာ၊ လိမ်တာ ပိုပြီးခိုင်လုံအောင် လူတစ်ယောက် နာမည်ကို သုံး ရတော့မယ်။ ရှက်စပယာက နာမည် တူနေတော့ သူ့ကိုပဲ အလွယ်တကူ ဆွဲထည့်တာပေါ့။

သူသေတာလည်း နှစ်အတော်ကြာနေပြီဆိုတော့ ဒီဇာတ်ရုပ် (fraud) ကို လာမရှင်းနိုင်တော့ဘူး။ ပြီးတော့ သူ့ကို လန်ဒန်မှာ သိသူရှားတယ်။ မှတ်မိတဲ့ လူတောင် ကျန်တော့မယ်မထင်၊ အဲဒီလိုဆိုလေ အလိမ် မပေါ်လေပေါ့။

အလိမ်အညာကို လုပ်ရတာလည်း လွယ်နေ ပါတယ်။ ပထမစာစောင် (folio) ထုတ်တဲ့ အခါ အမှာစကားကို ဘင်ဂျွန်ဆင် (Ben Jonson) ရေးတဲ့ အထဲမှာ (တိုက်ရိုက် မပြော၊ ဖြောင်လိမ်တာလည်း မရိပ်စားမိအောင်) စာရေးဆရာဟာ အဗွန်မြစ်ရိုးက စတြပ်ဖို့လို့ ရေးထည့် လိုက်တယ်။ အဲဒီလူရဲ့ဇာတိ သချိုင်းရှိရာအရပ်ကို သွားပြီး၊ ကျောက်စာကမ္ပည်း ချီးမွမ်းစကားကို (ဝေ့လည်ကြောင်ပတ် စကားနဲ့) ရေးထိုး ချိတ်ဆွဲထားလိုက်တယ်။ အစကပ ဝီလီယမ် ရှိတ်စပီးယားရဲ့ သရုပ်မှန်ကို ဝှက်ထားတော့ ဟိုကလိုလို ဒီကလိုလို လုပ်ထားရုံနဲ့ လုပ်ဇာတ်ဟာ တွင်သွားတယ်။ ဘယ်သူကမှ ဒီဇာတ်ကွက် ဟုတ်မဟုတ် လိုက်စုံစမ်းစစ်ဆေးဖို့ စိတ်မဝင်စားပါ။ (ဟိုအခါ ကလည်း ခုလို အတ္ထုပ္ပတ္တိ စုဆောင်း ရကောင်းမှန်းလည်း မသိကြသေးလို့ဖြစ်မယ်) ရှိတ်စပီးယားရဲ့ အတ္ထုပ္ပတ္တိကို ပထမဆုံး အကြိမ် (၁၇၀၉ ခုနှစ်မှာ ဝီလီယမ်ရိုး (William Rowe)က ရေးတော့ ရှက်စပယာပဲ စာရေးသူလို့ အားလုံးက လက်ခံပြီး ဖြစ်နေပါပြီ။

6, September, 2000.

# (၃၂) ဂျွန် ဒဲလ်တန် (၁၇၆၆ – ၁၈၄၄)

# JOHN DALTON (1766 – 1844)

ဂျွန်ဒဲလ်တန် (John Dalton) က အင်္ဂလိပ် သိပ္ပံပညာရှင် ဖြစ်တယ်။ တစ်ဆယ့်ကိုးရာစုက အဏုမြူနဲ့ ပတ်သက်တဲ့ အယူအဆ အကြမ်း သဘောကို သိပ္ပံအတွေးနယ်မှာ ထင်ရှားလာအောင် လုပ်ပေးသူ ဖြစ်တယ်။ ဒီနည်းနဲ့ ကနေ့ ဓာတုဗေဒ (Chemistry) ကို အများကြီး တိုးတက်ကြီးပွား လာအောင် အချက်အချာကျတဲ့ စိတ်ကူးကို ပေးအပ် နိုင်ခဲ့တယ်။ ဘယ်ဝတ္ထုကို မဆို ချေမှုန်းလို့မရနိုင်တော့တဲ့ အဆမတန် သေးငယ်ပြီး အရေအတွက်များလှတဲ့ အဏုမြူ (Atom) အရာဝတ္ထုတွေနဲ့ တည်ဆောက် ထားပါတယ်လို့ သူက စပြီး ပြောတာ မဟုတ်ပါ။ ဒီအယူအဆကို ရှေးခေတ် ဂရိဒဿနိက ဆရာ ဒီမိုခရိတပ်စ် (Democritus) (၄၀၀ – ၃၇၀ ဘီစီ) က တင်ပြဖူးပါတယ်။ သူ့ထက် စောတဲ့လူလည်း ရှိနိုင်ပါသေးတယ်။ အဲဒီအယူအဆ အကြမ်း သဘောထား ကို နောက် ဂရိဒဿနိက ဆရာတစ်ဦးဖြစ်တဲ့ အက်ပိကျူရပ်စ် (Epicurus) ရယ်၊ (၅၅ ဘီစီမှာ ကွယ်လွန်သူ) ရောမ စာရေးဆရာ လူခရီတပ်စ် (Lucretius) က သူ့နာမည်ကြီး ကဗျာ ဝတ္ထုပစ္စည်းတွေရဲ့ သဘာဝ (De rerum maturanature – On the Nature Of Things) မှာ ပြောင်မြောက်အောင် ရှင်းလင်း တင်ပြ ခဲ့ဖူးပါပြီ။ ဒီမိုခရိတပ်စ် အဆိုကို အရစ္စတိုတယ် (Aristotle) က လက်မခံပါ။ အလယ်ခေတ် (Middle ages) ကလည်း ဒါကို အရေးတယူ မဆွေးနွေးကြပါ။ ဒါနဲ့ ဒီအယူအဆဟာ ခေတ်သိပ္ပံမှာ ဘယ်လိုမှ အရိပ်မထင် ဖြစ်ခဲ့ရပါတယ်။ ပြီးတော့ ခေတ်ဦးပိုင်းက အဏုမြူသီအိုရီတွေမှာ (အိုက်ဆက် နယူတန် Isaac Newton အပါအဝင်) တစ်ဆယ့်ခုနစ် ရာစုနှစ်က ရှေ့ဆောင် သိပ္ပံပညာရှင်တွေက မည်မည်ရရ ဖော်ပြ ပြောဆိုလေ့ မရှိ၊ သိပ္ပံသုတေသနမှာ စာရင်း မသွင်းပါ။ ဒါထက်ပိုပြီး အရေးထားရမယ့် အချက်က အဏုမြူဆိုင်ရာ ဒဿနိက မှန်းဆချက် (Speculation)ကို ဓာတုဗေဒမှာ စွဲမြဲ ဆုပ်ကိုင်ပြီး အဖြေရှာရမယ့် ကိစ္စလို့ တွဲဖက်ပြီး မသိကြပါ။

ဒီအချိန်မှာ ဒဲလ်တန် ပေါ်ပေါက်လာပါတယ်။ သူက ရှင်းလင်း ပြတ်သားတဲ့ ရေတွက်သီအိုရီ (quantitative theory) ကို ဖော်ထုတ် လိုက်ပါတယ်။ အဲဒီသီအိုရီကို ဓာတုဗေဒ ဓာတ်တွေရဲ့ သဘောသရုပ်ကို ဖော်ထုတ်ရာမှာ သုံးနိုင်တဲ့ အပြင် ဓာတ်စမ်းရုံ (Laboratory) မှာ အတိအကျ စစ်ဆေးဖို့ လိုတဲ့အခါမှာလည်း သုံးလို့ဖြစ်ပါတယ်။

သူပေးတဲ့ နာမည်တွေက ခုအခါ ကျွန်တော်တို့ သုံးတဲ့ နာမည် အခေါ်အဝေါ်တွေနဲ့ နည်းနည်း ကွာခြားပါတယ်။ ဒါပေမယ့် ဒဲလ်တန်က အဏုမြူ (atoms)၊ မော်လီကျူး (molecules)၊ ဒြပ်စင် (elements) နဲ့ ဓာတုဗေဒ ဓာတ်ပေါင်း (chemical compounds) တွေရဲ့သဘော သရုပ်ကို ရှင်းအောင် ဖော်ပြ ပြောဆို နိုင်ပါတယ်။ သူ့ ပြောပြချက်အရ ကမ္ဘာမှာ အဏုမြူ အရေအတွက် အစုစုဟာ သိပ်များပေမယ့် အဏုမြူအမျိုးအစား (types of Atom) က ယှဉ်ကြည့်ရင် အင်မတန် နည်းပါတယ်။ သူ့မူလ စာအုပ်မှာ အဏုမြူအမျိုးအစား (species) ဒြပ်စင် (elements) နှစ်ဆယ်ပဲ စာရင်းပေးထားတယ်။ ကနေ့ သိသမျှ အရေအတွက်က တစ်ရာ နည်းနည်းကျော်ပါတယ်။ အဏုမြူ အမျိုးအစား ကွဲရင် အလေးချိန်လည်း မတူနိုင်ပါ။ ဒဲလ်တန် အဆိုအရ မျိုးတူ (same specie) အဏုမြူ နှစ်ခုဟာ အစိုင်အခဲ (mass) အပါအဝင် အရည်အသွေး အားလုံး ထပ်တူဖြစ်တယ်။

အကျယ်အပြန့် ချဲ့ထွင်ပြီး ခေတ်စမ်းသပ်ချက်တွေ (sophisticated modern experiments) က ဒီဥပဒေဟာ အကုန် မမှန်ဘူးလို့ ဆိုပါတယ်။ ဓာတုဗေဒ ဒြပ်စင် (chemical elements) သဘောမှာ အမျိုးအစား နှစ်မျိုးမက ရောနှော နေတတ်တယ်။ အဲဒါတွေကို အိုင်ဆိုတုပ် (isotopes) ခေါ်တယ်။ ဒါတွေကို စုလိုက်ရင် နည်းနည်း ကွာခြားနိုင်တယ်။ ဒါပေမယ့် ဓာတ်အစိတ်အပိုင်း (Chemical Properties) ကတော့ တစ်ထပ်တည်းလောက် နီးနီး တူတယ်လို့ ပြောရမယ်။ ဒဲလ်တန်ရဲ့စာအုပ်ထဲမှာ အဏုမြူ မျိုးကွဲရင် အလေးချိန် ဘယ်လောက် ကွာနိုင်တယ် ဆိုတာကို စာရင်းဇယားနဲ့ ဖော်ပြတယ်။ ဒီစာရင်းမှာ သူက စပြီး ဖော်ပြတာဖြစ်တယ်။ အဲဒီစာရင်းဟာ အဏုမြူ ရေတွက် သီအိုရီ (quantitative atomic theory) ရဲ့သော့ချက် (key feature) ဖြစ်ပါတယ်။

ဒဲလ်တန်က မော်လီကျူးနှစ်ခုရှိတဲ့ ဓာတ်အဖွဲ့အစည်း (Chemical Compound) ဖြစ်ရင် အဏုမြူအတွဲဟာ တူတယ်လို့ ရှင်းလင်း ပြောပြပြီးဖြစ်တယ်။ (ဥပမာ၊ နိုက်တြပ်စ် အောက်ဆိုဒ် nitrous oxide ရဲ့ မော်လီကျူး တစ်ခုစီမှာ နိုက်တြိုဂျင် nitrogen အဏုမြူနှစ်ခုနဲ့ အောက်ဆီဂျင် oxygen အဏုမြူတစ်ခုပါတယ်။) အဲဒီက ဆက်ပြီး ပြောရရင် ဘယ်ဓာတ်အဖွဲ့အစည်းပဲ ဖြစ်ဖြစ် ဘယ်လိုပဲ ဖွဲ့ဖွဲ့၊ ဘယ်မှာပဲတွေ့တွေ့ တူညီတဲ့ဓာတ်ရှိတယ်။ တစ်ချိုးတည်း အလေးချိန်ကိုက်တယ်။ အဲဒါကိုပဲ တိကျတဲ့ ချိန်ကိုက်ဥပဒေ (law of definite proportions) လို့ ခေါ်တယ်။ ဒါကို ဂျိုးဆက် လူးဝစ်စ်ပရော့စ် (Joseph Louis Proust) က နည်းနည်း နှစ်စောပြီး ဓာတ်စမ်းပြခဲ့ပြီး ဖြစ်ပါတယ်။

ဒဲလ်တန်က သူ့သီအိုရီကို တကယ် ယုတ္တိတန် အောင်၊ တကယ် လက်ခံနိုင်အောင် ပြသနိုင်တဲ့အတွက် အနှစ်နှစ်ဆယ်အတွင်းမှာ သိပ္ပံပညာရှင် အများစုက ယူငင် သုံးစွဲ လာကြပါတယ်။ အဲဒါအပြင် သူ့စာအုပ်ထဲမှာ ထင်မြင်ချက် ပေးထားတဲ့အတိုင်း ယှဉ်တွဲတဲ့ အဏုမြူ အလေးချိန် (relative atomic weight) ကို ဖော်ထုတ်ခြင်း၊ ဓာတ်ဖွဲ့စည်းပုံကို အလေးချိန်အရ စိတ်ဖြာပြီး သတ်မှတ်ခြင်း၊ မော်လီကျူး တစ်ခုစီမှာ ပါဝင်တဲ့အတွဲမှာ အတိအကျ အဏုမြူ

ဘယ်လောက်ပါတယ်လို့ သတ်မှတ်ခြင်း ဆိုတာတွေကို ဓာတ်ဆရာ (Chemists) တိုင်း လိုက်နာ ဆောင်ရွက် ကြပါတယ်။ အဲဒီလုပ်ထုံး (Programme) ရဲ့အောင်မြင်ပုံဟာ တကယ့်ကို အကြီးအကျယ် အောင်မြင် တာပဲလို့ ဆိုနိုင်ပါတယ်။

အဏုမြူ သီအိုရီအကြမ်း (Hypothesis) ရဲ့ အရေးပါပုံကို ချီးမွမ်း မဆုံးနိုင်ပါ။ ဓာတုဗေဒကို နားလည်ဖို့ သူက အချက်အချာ အခရာ ဖြစ်ပါတယ်။ ဖြည့်စွက်ပြီး ပြောစရာ ရှိပါသေးတယ်။ အဲဒီသဘောတရားကိုပဲ ခေတ်ရူပဗေဒ (physics) အခြင်းအရာ အများစုရဲ့ မသုံးမဖြစ်တဲ့ နိဒါန်း (အချီး) ဖြစ်ပါတယ်။ ဒီကျော်စွာ စာအုပ်စာရင်းမှာ ဒဲလ်တန်ကို အခုထက်မြင့်တဲ့နေရာကို မပို့ဖြစ်တာကတော့ သူမပေါ်ခင်ကဘဲ အဏုမြူဝါဒကို အများကြီး ပြောနေကြပြီ ဖြစ်လို့ပါပဲ။

ဒဲလ်တန်ကို ၁၇၆၆ မှာ မြောက်အင်္ဂလန် (Northern England) ရှိ အီးဂဲလ်ဖီး (Eaglesfield) ရွာမှာ မွေးဖွားခဲ့တယ်။ သူ့ရဲ့ ကျောင်းသားဘဝဟာ တစ်ဆယ့်တစ်နှစ်သား အရွယ်ကပဲ ပြီးဆုံးခဲ့ပါတယ်။ ဒါကြောင့် သိပ္ပံပညာကို သူ့ဘာသာ သူကြိုးစားပြီး တတ်ကျွမ်းအောင် လုပ်ရပါတယ်။ ငယ်ငယ်ကပဲ အရွယ်နဲ့ မလိုက်အောင် (precocious) စာတော်တယ်။ အသက် တစ်ဆယ့်နှစ်နှစ်မှာ သူက ဆရာဖြစ်နေပြီ။ အဲဒီကစပြီး သူဟာ အသက်ထက်ဆုံး ဆရာ၊ နည်းပေးသူ (tutor) ဖြစ်ခဲ့ပါတယ်။ အသက် ဆယ့်ငါးနှစ်သားမှာ ကဲန်ဒဲလ်မြို့ (Kendal) ကို ရွှေ့ပြောင်းနေထိုင်ပြီး အသက် နှစ်ဆယ့်ခြောက်မှာ မန်ချက်စတာ (Manchester) ကို ရောက်လာပြီး အဲဒီမှာပဲ ၁၈၄၄ သေတဲ့ အထိ နေသွားတယ်။ သားမယားမရှိပါ။ ဒဲလ်တန်က မိုးလေဝသခန့်မှန်းတဲ့ပညာ (meteorology) ကို ၁၇၈၇ အသက် နှစ်ဆယ့်တစ်နှစ်မှာ စိတ်ပါဝင်စား လာခဲ့တယ်။ ခြောက်နှစ်ကြာတော့ အဲဒီပညာဆိုင်ရာ စာအုပ်တစ်အုပ် ရေးသား ထုတ်ဝေပါတယ်။ လေနဲ့လေထုကို လေ့လာရာမှာ သူ စိတ်အဝင်စားဆုံး အရာက ဓာတ်ငွေ့ (gases) အဖွဲ့အစည်းတွေ ပါဝင်ပုံဖြစ်ပါတယ်။ စမ်းသပ်ချက် အမြောက်အမြား လုပ်ပြီးတဲ့အခါ ဓာတ်ငွေ့ရဲ့ သဘောထားကို ထိန်းချုပ်တဲ့ အရေးကြီးတဲ့ ဥပဒေ နှစ်မျိုးကို တွေ့ရှိပါတယ်။ ၁၈၀၁ ခုနှစ်ဖော်ထုတ်တဲ့ ပထမ ဥပဒေမှာ ဒဲလ်တန်က အပူချိန် (temperature) အချိုးအတိုင်း ဓာတ်ငွေ့ထုထည်ရှိမယ်လို့ ပြောလိုက် ပါတယ်။ (ဒါကို သူ့အရင် နှစ်ပေါင်းများစွာက ပြင်သစ်သိပ္ပံပညာရှင်က ဖော်ထုတ်ခဲ့လို့ သူ့ကိုစွဲပြီး ချားလ်စ်ဥပဒေ ‘Charle’s Law’ လို့ခေါ်ပေမယ့် အဲဒီပုဂ္ဂိုလ်က သူ့တွေ့ရှိချက်ကို ကျမ်းရေးပြီး ပညာရှင် လောကကို တင်ပြခဲ့ခြင်း မရှိပါ။) ၁၈၀၁ ခုနှစ်မှာပဲ ဒုတိယ တွေ့ရှိချက်က ဒဲလ်တန်ဥပဒေ (Dalton’s Law) ခေါ်တဲ့ တစ်စိတ်တစ်ပိုင်းသာစီးမိတဲ့ ဖိအား (partial pressure) ဖြစ်ပါတယ်။ ဒဲလ်တန်ဟာ ၁၈၀၄ မှာ အဏုမြူသီအိုရီကို ရေးဆွဲပြီးတယ်။ အဏုမြူ အလေးချိန် (weight)ကို စာရင်း လုပ်ပြတယ်။ ဒါပေမယ့် သူ့လက်စွမ်းပြစာအုပ်က ဓာတုဗေဒဆိုင်ရာ ဒဿနိကရဲ့စနစ်သစ် (A New System Of Chemical Philosophy) ဖြစ်တယ်။ အဲဒီစာအုပ်က ၁၈၀၈ ခုကျမှ ပေါ်လာပါတယ်။ ဒီစာအုပ်ကြောင့် သူဟာ ထင်ရှား ကြီးကျယ်တဲ့ပုဂ္ဂိုလ်

ဖြစ်လာပါတယ်။ အဲဒီနောက် သူ့ကို ဘွဲ့တွေဂုဏ်ထူးတွေ အထပ်ထပ်ပေးကြပါတယ်။ မမျှော်လင့်ဘဲ ဒဲလ်တန် (Delton) ဟာ အရောင်ကိုခွဲမသိသူ (colour blind) ဖြစ်တယ်။ ဒီလိုလူမျိုးမှာ အဲဒါကြောင့် စူးစမ်းချင်စိတ်တွေ ပိုများလာပါတယ်။ အဲဒီ ဘာသာရပ်ကို ကောင်းကောင်း နားလည် အောင် လေ့လာပြီး နောက်ဆုံးမှာ သိပ္ပံပညာ စာတမ်း တစ်စောင် ရေးတယ်။ ကမ္ဘာမှာ အရောင်ခွဲပြီးမသိခြင်း (Colour Blindness) အကြောင်း ပထမဦးဆုံး ရေးတဲ့ကျမ်း ဖြစ်ပါတယ်။

2, October, 2000.

# (၃၃) မဟာအလက်ဇန္ဒား (၃၅၆ ဘီစီ – ၃၂၃ ဘီစီ)

# ALEXANDER THE GREAT (356 B.C. – 323 B.C.)

မဟာအလက်ဇန္ဒား (Alexander the Great) လို့ သိပ်ထင်ရှားကျော်ကြားတဲ့ ရှေးခေတ်ကမ္ဘာက အောင်နိုင်သူကို မဆီဒိုနီယ (Macedonia) မြို့တော် ပေလ္လ (Palla) မှာ ၃၅၆ ဘီစီက မွေးဖွားခဲ့ပါတယ်။

ဖခင် မဆီဒုန် (Macedon) ရဲ့ ဘုရင် ဒုတိယ ဖိလစ်(Philip II)က အရည်အချင်း တကယ် ထူးချွန်ပြီး အမြော်အမြင်ကြီးသူ ဖြစ်ပါတယ်။ မဆီဒိုနီယ စစ်တပ်ကို တိုးချဲ့ပြီး ပြန်လည် ဖွဲ့စည်းတယ်။ တိုက်ခိုက်ရေးမှာ စွမ်းရည်အမြင့်ဆုံး တပ်တစ်တပ် ဖြစ်လာတယ်။ ဒီတပ်နဲ့ ဂရိ (Greece) မြောက်တစ်လွှားကို ပထမ သိမ်းသွင်းတယ်။ ပြီးမှ တောင်ဘက်ကိုလှည့်ပြီး ဂရိနယ်ကုန် မတတ် သိမ်းယူနိုင်ပါတယ်။ အဲဒီနောက် ဖိလစ် ကိုယ်တိုင် အဖွဲ့ချုပ် ခေါင်းဆောင် ရာထူးယူပြီး ဂရိမြို့နိုင်ငံ (City–States) အဖွဲ့ပေါင်းချုပ် (federation) ကို တည်ထောင်တယ်။ ဒါဟာ ဂရိအရှေ့မှာ သိပ်ကျယ်ပြန့်တဲ့ ပါရှ အင်ပါယာကို တိုက်ခိုက်ဖို့ ပြင်ဆင်တာ ဖြစ်တယ်။ ကျူးကျော်စစ်ကို ၃၃၆ ဘီစီမှာ စတော့၊ သက်တော် ၄၆ သာရှိသေးတဲ့ ဖိလစ်ဟာ လုပ်ကြံသတ်ဖြတ်ခြင်းကို ခံရတယ်။ ခမည်းတော် သေဆုံးတော့ အလက်ဇန္ဒားဟာ အသက် ၂၀ ပဲ ရှိသေးတယ်။ ထီးမွေ နန်းမွေကို အခက်အခဲ မရှိ ဆက်ခံခွင့်ရပါတယ်။ ခမည်းတော် ဖိလစ်ကလည်း သားတော် ဆက်ခံနိုင်ရေးကို လုပ်ခဲ့ပြီးသား ဖြစ်တယ်။ အလက်ဇန္ဒားငယ် ကလည်း စစ်ပွဲ အတွေ့အကြုံ အသင့်အတင့် ရပြီးဖြစ်တယ်။ ခမည်းတော်က ဉာဏ်စေစားရတဲ့ စာပေပညာ ကိုလည်း မလစ်ဟင်းရအောင် သင်ကြား စေခဲ့ပြီးဖြစ်တယ်။ အလက်ဇန္ဒားရဲ့ ငယ်ဆရာက အင်မတန် ပြောင်မြောက်တဲ့ ဒဿနိကဆရာ အရစ္စတိုတယ် (Aristotle) ဖြစ်တယ်။ ရှေးခေတ် ကမ္ဘာမှာ သူသာ အကြီးမားဆုံး သိပ္ပံပညာရှင် ဖြစ်ပါတယ်။ ဂရိ(Greece) နဲ့ မြောက်ပိုင်း ပိုင်နက်က လူတွေက ဖိလစ် သေရင် ငါတို့ မဆီဒိုနီယ ထမ်းပိုးအောက်က ရုန်းထွက်ဖို့ အလားအလာ ရှိတယ်လို့ ထင်ကြတယ်။ ဒါပေမယ့် နန်းရပြီး နှစ်နှစ်အတွင်းမှာ အလက်ဇန္ဒားဟာ ဒီနှစ်နယ်မှာ မငြိမ်မဝပ် ရှိသမျှကို အားလုံး နှိမ်နင်းခဲ့တယ်။ ပြီးတော့ ပါရှ(Persia)

အရေးကို ဆက်လက် ဆောင်ရွက် နိုင်ပါတယ်။ မြေထဲပင်လယ် (Mediterranean) က အိန္ဒိယ (India) အထိ ကျယ်ပြန့်လှတဲ့ နယ်ပယ် ဒေသကြီးကို ပါရှ(Persia) တို့ အုပ်ချုပ်လာတာ နှစ်နှစ်ရာ ရှိပါပြီ။ ပါရှဟာ အဲဒီအခါမှာ တန်ခိုးသြဇာ အကြီးဆုံး အခြေအနေမှာ ရှိဆဲပါလို့ မပြောနိုင်ပေမယ့် ကမ္ဘာမှာ အကျယ်ဆုံး အား အကောင်းဆုံး အချမ်းသာဆုံး အင်ပါယာ ဖြစ်လို့ အန်တုဖက်ပြိုင်ဝံ့သူ မရှိနိုင်ပါ။ အလက်ဇန္ဒားဟာ ပါရှအင်ပါယာကို ၃၃၄ ဘီစီက စပြီး ကျူးကျော် ဝင်ရောက် တိုက်ခိုက်ပါတယ်။ ဥရောပမှာ ရှိတဲ့ ပိုင်နက်ကို ကာကွယ်ဖို့ စစ်တပ် တစ်စိတ်တစ်ပိုင်းကို ချန်ခဲ့ပြီး ပါရှတပ်နဲ့ယှဉ်ရင် သိပ်သေးငယ်တဲ့ သူ့ရဲ့စစ်သည် ၃၅၀၀၀ နဲ့ပဲ အင်မတန် ရဲရင့်တဲ့ အလုပ်ကို စတင် ဆောင်ရွက်ပါတယ်။ အလက်ဇန္ဒားရဲ့ တပ်ဟာ အရေအတွက် သေးငယ်ပေမယ့် ပါရှတပ်တွေကို ဆက်ကာ ဆက်ကာ ချေမှုန်းနိုင်ပါတယ်။ ဒီလိုအောင်နိုင်ဖို့ အထောက်အကူပြုတဲ့ အချက် သုံးချက်ရှိပါတယ်။ ပထမအချက်က ဖိလစ် (Philip) ထားခဲ့တဲ့တပ်ဟာ ပါရှတပ်တွေ ထက်ပိုပြီး လေ့ကျင့်ခန်း ကောင်းတယ်။ ပိုပြီး စည်းလုံးညီညွတ် တယ်။ ဒုတိယ အချက်က အလက်ဇန္ဒားဟာ ထူးချွန် ပြောင်မြောက်တဲ့ စစ်ဗိုလ်ချုပ်ကြီး ဖြစ်ပါတယ်။ ခေတ်အဆက်ဆက်မှာ သူသာ အကြီးမားဆုံး ဗိုလ်ချုပ်လို့ ပြောနိုင်မယ်လို့ ထင်စရာ ရှိပါတယ်။ တတိယ အချက်က အလက်ဇန္ဒားရဲ့ ရဲရင့်တဲ့ သတ္တိ ဖြစ်တယ်။ စစ်တိုက်တဲ့အခါတိုင်း အစပိုင်းမှာ၊ အလက်ဇန္ဒားဟာ တပ်နောက်က တိုက်ခိုက်ရေးကို စီမံမြဖြစ်ပေမယ့် မြင်းတပ်နဲ့ နင်းပြီး အနိုင်တိုက်ပြီလို့ ဆိုတဲ့အခါတိုင်းမှာ သူကိုယ်တိုင် ရှေ့ဆောင်ပြီး အတင်းဝင်လေ့ ရှိပါတယ်။ ဒါဟာ အင်မတန် အန္တရာယ်ကြီး ပါတယ်။ မကြာမကြာလည်း ဒဏ်ရာရပါတယ်။ ဒါပေမယ့် သူ့တပ်သားတွေက သူလည်းတို့နဲ့အတူ သေသေကျေကျေ တိုက်နေတယ်ဆိုတာသိပြီး သူမလုပ်ဝံ့တာကို တို့ကို မခိုင်းဘူးလို့ သိလာကြတယ်။ ဒါဟာ သိပ်ကြီးကျယ်တဲ့ ရဲဆေး ဖြစ်လာပါတယ်။ အလက်ဇန္ဒားဟာ ပထမ ပါရှတပ် အင်အားသေးတဲ့ အာရှမိုင်နား (Asia Minor) ကို တိုက်ခိုက် သိမ်းယူတယ်။ မြောက်ဆီးရီးယား (Syria)က အိစပ်စ် (Issus) မြို့တော်မှာ အင်မတန် အင်အားကြီးတဲ့ ပါရှတပ်ကို လန့်ထွက် သွားအောင် တိုက်ပစ်လိုက်နိုင်တယ်။ အဲဒီကမှ အလက်ဇန္ဒားဟာ ဝေးကွာတဲ့တောင်ဘက်က အခု လက်ဘနွန် (Lebanon) ရဲ့ တိုင်ရာ (Tyre) ခေါ်တဲ့ ဖိုနီစီယမ် (Phoenician) ကျွန်းမြို့တော်ကို ခက်ခက်ခဲခဲ ခုနစ်လ ဝိုင်းရံပြီး သိမ်းယူခဲ့တယ်။ တိုင်ရာကို ဝန်းရံထားစဉ်က အလက်ဇန္ဒား ဆီကို ပါရှမင်းက နိုင်ငံတော် ထက်ဝက်ကို အလက်ဇန္ဒားကို ပေးပြီး စစ်ပြေငြိမ်း စာချုပ်ကို စကားကမ်းလှမ်းလာတယ်။ အလက်ဇန္ဒားလက်အောက် ဗိုလ်ချုပ်ကြီး ပါမဲန်နီယို (Permanio) က ဒီကမ်းလှမ်းချက်ကို **“ကောင်းတယ်၊ ငါသာ အလက်ဇန္ဒားဖြစ်ရင် ဒါကို လက်ခံမယ်”** ဆိုတော့၊ အလက်ဇန္ဒားက **“ငါသာ ပါမဲန်နီယိုဖြစ်ရင် ယူတာပေါ့”** လို့ ပြန်ဖြေတယ်။ တိုင်ရာကို အလိုပြည့်တဲ့အခါ အလက်ဇန္ဒားဟာ တောင်ဘက်ကို ဆက်တိုက်တယ်။ နှစ်လ ရံပြီးတဲ့အခါ ဂါဇာ(Gaza) ကိုရတယ်။ မတိုက်ခိုက်ရဘဲ အီဂျစ် (Egypt) က အညံ့ခံတယ်။ အသက် နှစ်ဆယ့်လေးနှစ်သာ ရှိသေးတဲ့သူ့ကို ဖာရို (Pharaoh) သရဖူ ဆောင်းပေးပြီး ဘုရားတစ်ဆူ (A god) အဖြစ် ကြေညာတယ်။ အဲဒီက တပ်တော်ကို အာရှဘက် ပြန်ချီစေပြီး ၃၃၁ ဘီစီမှာ အာဗေလ (Arbela) တိုက်ပွဲကို အပြီးအပိုင် အနိုင်ရလိုက်လို့ သူ့တပ်ထက်

အများကြီး အားကောင်းတဲ့ ပါရှ (Persia) တပ်မတော်ကို စိစိညက်ညက်ကြေအောင် ချေမှုန်းနိုင်ပါတယ်။ အဲဒီအောင်နိုင်ပွဲပြီးတော့ ဘေဘီလွန် (Babylon) ဘက်ကိုချီတက်ပြီး ပါရှ (Persia) မြို့တော် စုစ (Susa) နဲ့ ပါစီပိုလစ် (Persepolis) ဘက်ကို ချီတက်ပါတယ်။ ပါရှမင်း တတိယ ဒရိုင်းယပ်စ် (Darius III) ကို လက်နက်ချ အညံ့ခံ လေတယ်လို့ အရှက်မရအောင် သူ့ အရာရှိတွေကပဲ ၃၃၀ ဘီစီမှာ လုပ်ကြံသတ်ဖြတ် လိုက်ပါတယ်။ (တတိယ ဒရိုင်းယပ်စ်ဟာ မဟာဒရိုင်းယပ်စ် Darius The Great ကို ဆက်ခံသူ ဖြစ်တယ်။) အလက်ဇန္ဒားက ဒရိုင်းယပ်စ်ကို ဆက်ခံသူကို အောင်နိုင်ပြီး သုံးနှစ်ကြာတဲ့အခါ အရှေ့အီရန် (eastern Iran) ကို ရယူတယ်။ ဆက်ပြီး ဗဟိုအာရှ (central Asia) ကို ဆက်လက်ချီတက်သွားပြန်သည်။ ပါရှအင်ပါယာ (Persian Empire) တစ်ခုလုံးကို ရပြီးနောက် အလက်ဇန္ဒားဟာ ပြည်တော်ပြန်ပြီး ပိုင်နက်ကို ကောင်းကောင်း အုပ်စီးနိုင်ဖို့ အစီအမံတွေ လုပ်သင့်တယ်။ ဒါပေမယ့် လောဘကို မသတ်နိုင်ဘဲ အာဖဂန်နစ္စတန် (Afghanistan) ကို ဝင်တိုက်တယ်။ ပြီးတော့ ဟင်ဒူကွတ် (Hindu Kush)တောင်ကို ဖောက်ပြီး အိန္ဒိယ ရောက်သွားပါတယ်။ အနောက်အိန္ဒိယ (Western India) မှာ အောင်ပွဲတွေ အများကြီးရပြီး အရှေ့အိန္ဒိယကို သွားဖို့စီမံဆဲမှာ တပ်သားတွေက ပင်ပန်းလှပြီ၊ ရှေ့မဆက်လိုတော့ကြောင်း သိရတဲ့အခါ၊ မလွှဲသာလို့ စိတ်ကို လျှော့ရတဲ့အနေနဲ့ အလက်ဇန္ဒားဟာ ပါရှကို မပြန်ချင်ပြန်ချင် ပြန်ခဲ့ရပါတယ်။ ပါရှရောက်တော့ အလက်ဇန္ဒားဟာ တစ်နှစ်နီးပါး အင်ပါယာနဲ့ စစ်တပ်ကို ပြန်ပြီး စုစည်းပါတယ်။ အဲဒီမှာလည်း တကယ်ကောင်းအောင် အများကြီး ပြင်ဆင် စုစည်းတာဖြစ်တယ်။ အလက်ဇန္ဒားရဲ့ အယူအဆက ဂရိဓလေ့ (Greek Culture) သာ တကယ့်ယဉ်ကျေးမှု (Civilization) ဖြစ်တယ်။ ကျန်တာတွေက လူကြမ်း (barbarians) လို့ ဆုံးဖြတ်ပြီး ဖြစ်တယ်။ ဂရိလောကတစ်ခုလုံးက ဒီလိုပဲ တွေးပြီးသားဖြစ်ပါတယ်။ အရစ္စတိုတယ်လည်း ဒီလိုပဲယူဆတယ်။ ဒါပေမယ့် သူက ပါရှတပ်တွေကို အောင်နိုင် ပေမယ့် ပါရှတွေဟာ လူကြမ်း (barbarians) တွေ လုံးဝ မဟုတ်ဘူးလို့ အလက်ဇန္ဒား သိပါတယ်။ ပါရှ တစ်ဦးချင်းဟာ ဂရိတစ်ဦးချင်းလိုပဲ ဉာဏ်ရှိတယ်၊ စွမ်းရည်ရှိတယ်၊ လေးစား လောက်တယ်။ ဒီလိုဆိုရင် ဒီနှစ်ဦး ပေါင်းပေးလို့ ရတယ်။ ပေါင်းပေးမယ်လို့ အလက်ဇန္ဒား ဆန္ဒရှိတယ်။ ဂရိပါရှာ (Graeco–Persian) ဓလေ့နိုင်ငံ လုပ်ပြီး၊ သူက မင်းအဖြစ် စိုးစံမယ်လို့ ရည်ရွယ်တယ်။ ကျွန်တော်တို့ စုံစမ်းသိသမျှကို ပြောရရင် သူက ပါရှကို ဂရိ (Greek)၊ မဆီဒုံ (Macedon) နဲ့ အရည်တူမိတ်ဖက် လုပ်ပေးမယ် လို့ သိရတယ်။ ဒီအတိုင်းလုပ်ချင်လို့ ပါရှ အမျိုးသားတွေကို သူ့တပ်မတော်ထဲ ဝင်ရောက် အမှုထမ်းခွင့် ပေးခဲ့တယ်။ “အရှေ့အနောက်လက်ထပ်ပွဲ” (The Marriage Of East And West) ပွဲသဘင်ကြီးကို ခင်းကျင်း ပါတယ်။ တကယ်လည်း မဆီဒုံ တပ်သား ထောင်ပေါင်းများစွာကို အာရှအမျိုးသမီးတွေနဲ့ လက်ထပ်ပေးတယ်။ သူကိုယ်တိုင်ကလည်း စောစောက အာရှမင်းသမီးတစ်ပါးကို ယူပြီး ဖြစ်ပေမယ့် ဒရိုင်းယပ်စ်ရဲ့ သမီးနဲ့ လက်ထပ်ပါတယ်။ အလက်ဇန္ဒားဟာ ပြန်လည်ဖွဲ့စည်းတဲ့ တပ်မတော်နဲ့ ဆက်လက်တိုက်ခိုက်ပြီး နယ်မြေ သိမ်းသွင်းဦးမယ် ဆိုတာ သိလောက်ပါတယ်။ အာရေးဘီယား (Arabia) ကို ဝင်တိုက်မယ်။ ပါရှအင်ပိုင်ယာ (Persia Empire) နဲ့

မြောက်ပိုင်းကို ဝင်တိုက်ခိုက်ဖို့ မှန်းတယ်။ အိန္ဒိယကို နောက်တစ်ကြိမ် သွားတိုက်ချင် သေးတယ်။ ရောမ (Rome) ကာသေ့ချ် (Carthage) နဲ့ အနောက်မြေထဲပင်လယ် (Western Mediterranean) လည်းတိုက်မယ်၊ ဆိုသလို လျာထားချက်တွေ ရှိမှာပါ။ နောက်ထပ် တိုက်စရာကုန်မှ ရပ်မယ့်သဘောပါပဲ။ ဘေဘီလွန် (Babylon) မှာရှိခိုက် ၃၂၃ ဘီစီ ဇွန်လ ဦးမှာ အလက်ဇန္ဒား ရုတ်တရက်ဖျားပြီး ဆယ်ရက်ကြာတော့ သေဆုံးပါတယ်။ အသက် သုံးဆယ့်သုံးနှစ်တောင် မပြည့်သေးပါ။ အလက်ဇန္ဒားက ဘယ်သူ့ကို ထီးမွေနန်းမွေပေးပြီး ဆက်ခံစေလို့ မှာထားချက် မရှိပါ။ ဒီတော့ သူသေဆုံးပြီး မကြာမီ အာဏာလု ကြပါတော့တယ်။ ဒီပွဲမှာ အလက်ဇန္ဒားရဲ့ မယ်တော်၊ ကြင်ယာတော်တွေနဲ့ သားသမီး အားလုံး အသတ်ခံကြရပါတယ်။ သူ့ အင်ပိုင်ယာကို သူ့တပ်မှူး ဗိုလ်ချုပ်ကြီးတွေက တစ်ပိုင်းစီ ကြုံသလို ခွဲယူလိုက်ကြပါတယ်။ အလက်ဇန္ဒားဟာ တစ်ကြိမ်တစ်ခါမျှ စစ်မရှုံးဖူးပါ။ ငယ်ငယ်နဲ့ပဲ သေတယ်။ မသေရင် ဘာတွေဖြစ်မလဲလို့ မှန်းဆတွေးတော ငြင်းခုံကြပါတယ်။ တကယ်လို့သာ မြေထဲပင်လယ် အနောက်ခြမ်းကို ဝင်ဖြစ်ရင် နိုင်မှာသေချာတယ်။ ဒီလိုဆိုရင် အနောက်ဥရောပရဲ့သမိုင်းဟာ အခုနဲ့ မတူပဲ အများကြီး ကွာခြားသွားမှာ ဖြစ်တယ်။ ဒီလိုပြောတာက မှန်းဆချက်ပဲဖြစ်လို့ ဘယ်လောက်ပဲ စိတ်ဝင်စားစရာဖြစ်ဖြစ် အလက်ဇန္ဒားရဲ့ တကယ့်သြဇာသက်ရောက်ပုံကို နှိုင်းချိန် တွက်ချက်တဲ့အခါ ထည့်သွင်း စဉ်းစား စရာ မဟုတ်ပါ။ သမိုင်းမှာ အလက်ဇန္ဒားဟာ သိပ်ပြီး ပြောက်ကြ်ကောင်းတဲ့ ဇာတ်ကောင်လို့ ဆိုနိုင်ပါတယ်။ သူ့ဘဝ၊ သူ့ဟန်၊ သူ့စရိုက်တွေဟာ အံ့သြ မကုန်နိုင်အောင် ရှိပါတယ်။ တကယ့် အဖြစ်အပျက်တွေ ထူးခြားတဲ့ အထဲမှာ သူနဲ့ပတ်သက်ပြီး ပုံပြင် (Legends) တွေကလည်း အများကြီးပေါ်လာတယ်။ ခေတ်အဆက်ဆက် မပေါ်ဖူးသေးတဲ့ အကြီးကျယ်ဆုံး စစ်ဗိုလ်ချုပ် ဖြစ်လိုတယ်၊ ဖြစ်တယ်။ ဒီလိုဘွဲ့နဲ့ တကယ်လည်း ထိုက်တန်တယ်။ သူတိုက်ခိုက်ပုံကို လေ့လာရင် အစွမ်းနဲ့ သတ္တိကို တကယ်ပိုင် အောင်တွဲနိုင်သူ ဖြစ်တယ်။ ဗိုလ်ချုပ်ထဲမှာ သူက အခေါင်အထွတ်၊ ဆယ့်တစ်နှစ်လုံးလုံး စစ်တိုက်တာမှာ တစ်ပွဲမှ သူမရှုံးပါ။ တစ်ဖက်ကကြည့်ပြန်ရင် အရစ္စတိုတယ်လို ဆရာနဲ့ စာပေသင်ကြားခဲ့ရလို့ စာပေ ဉာဏ်ထက်သန်သူ ဖြစ်တယ်။ ဟိုးမားရဲ့ ကဗျာတွေကို နှစ်သက်လေးစားတယ်။ ဂရိ မဟုတ်ရင် လူကြမ်းလို့ သူ မယူဆဘူးလို့လည်း သိရတယ်။ သူ့ခေတ်က ဂရိတွေထက် သူက အမြင် (vision) သာတယ်။ တစ်ဖက်က ပြောစရာရှိတာက သူဟာ အရှည်အဝေး ကြိုတင် တွေးခေါ်တဲ့နေရာမှာ အံ့သြစရာ ကောင်းလောက်အောင် ချွတ်ယွင်းနေပါတယ်။ စစ်ပွဲမှာ သေသေကြေကြေ စွန့်ဝံ့သူဟာ သေဖို့ အင်မတန် နီးစပ်တယ်။ ဒါနဲ့တောင် 'ငါသေရင် ဘယ်သူဆက်ခံစေ' လို့ ပြောမသွားဘူး။ ဒါကြောင့်လည်း သူ့အင်ပါယာဟာ သူသေပြီး မကြာခင် ပြိုကွဲသွားရပါတယ်။ အလက်ဇန္ဒားနဲ့ ဆက်ဆံရတာ အင်မတန် ပြေပြစ်နှစ်သက်စရာ ဖြစ်ပါတယ်လို့ ကျော်ကြား တယ်။ သူ့ဘက်က အလျှော့ပေးပြီး ညှိနှိုင်းလိုစိတ် ရှိတယ်။ စစ်ရှုံးသူတွေအပေါ်မှာ သက်ညှာတယ်။ တစ်ဖက်မှာ ငါဆိုတဲ့ မာနစွဲကြီးတယ်။ ဒေါသကြီးတယ်လို့ သိရပြန်တယ်။ အရက်မူးပြီး အပြင်းအထန် ငြင်းကြတော့၊ တစ်ခါက သူ့အသက်ကို ကယ်ဖူးတဲ့ သိပ်ရင်းနှီးတဲ့ ကလိုင်းတပ်စ် (Cleitus) ကို

သတ်ပစ်တယ်။ နပိုလီယန် (Napoleon)၊ ဟစ်တလာ (Hitler) တို့လို သူနဲ့သက်တူရွယ်တူတွေ အပေါ်မှာ အလက်ဇန္ဒားက သိပ်လွှမ်းမိုးနိုင်တယ်။ သူက အသက်တိုတာနဲ့ ဟိုခေတ်က သွားလာ ဆက်ဆံရေး ခက်ခဲတာတွေကြောင့် သူ့ဩဇာ သက်ရောက်တဲ့ အတိုင်းအတာ နယ်ကျဉ်း ပါတယ်။ ရေရှည်မှာ အထူးအရေးပါတဲ့ အလက်ဇန္ဒားရဲ့ ဆောင်ရွက်ချက်က ဂရိနဲ့ အနောက်အာရှ ယဉ်ကျေးမှုတွေကို ရင်းနှီး ဆက်သွယ်မိအောင် တွဲပေးခဲ့လို့ နှစ်ဖက်စလုံးရဲ့ ဓလေ့တွေမှာ အများကြီး အကျိုးရှိခဲ့တယ်။ အလက်ဇန္ဒား အသက်ရှိစဉ်အခါနဲ့ သူသေပြီး မကြာမီ ကာလအတွင်း ဂရိဓလေ့ဟာ အီရန်၊ မက်ဆိုပိုတေးမီယ (Mesopotamia)၊ ဆီးရီးယား (Syria)၊ ဂျူးဒ (Judea) နဲ့ အီဂျစ် (Egypt) နိုင်ငံတွေမှာ အမြန်ဆုံး ကူးစက်ပျံ့ပွား သွားပါတယ်။ သူမပေါ်မီ ဒီဒေသတွေကို ဂရိဓလေ့ အရောက်နှေးတယ်။ ဂရိ အမူအကျင့်တွေဟာ အရင်က အိန္ဒိယနဲ့ ဗဟိုအာရှကို မရောက်ခဲ့ဖူးပေမယ့် အခု ရောက်သွားပါပြီ။

ဒီနေရာမှာ ဓလေ့ဆိုင်ရာဩဇာ (Cultural influence) ဆိုတာ တစ်လမ်းသွား(One way traffic) မဟုတ်၊ အပြန်အလှန် အကျိုးပြုတယ်။ ဟယ်လင်နစ်ခေတ် (Hellenistic age) ဆိုတဲ့ (အလက်ဇန္ဒားနောက် ကပ်လျက် ရောက်လာတဲ့ ရာစုနှစ် အတွင်းမှာပဲ) အထူးသဖြင့် အရှေ့တိုင်းရဲ့ ကိုးကွယ်ယုံကြည်မှု အယူအဆတွေ (Religious Ideas) ဟာ ဂရိကမ္ဘာ (Greek World) ကို ရောက်လာပါတယ်။ ဒီဟယ်လင်နစ် ဓလေ့ဟာ အရင်းမူလ ဂရိ ဖြစ်ပေမယ့် အရှေ့တိုင်းဩဇာ (Oriental influence) အများကြီး ပါဝင်နေတယ်။ အဲဒီဓလေ့ပဲ ရောမအထိ သက်ဆင်း ပျံ့နှံ့ ခဲ့ပါတယ်။ အလက်ဇန္ဒားတစ်သက်မှာ မြို့သစ်ကြီး နှစ်ဆယ်ကျော် တည်ထောင် ပေးခဲ့တယ်။ နာမည် အကြီးဆုံးမြို့က အီဂျစ် (Egypt) မှာ အလက်ဇန္ဒြီးယား (Alexandria) ဖြစ်တယ်။ မကြာမီ ကမ္ဘာမှာ အရေးပါတဲ့ ရှေ့ဆောင်မြို့ကြီး တစ်မြို့ ဖြစ်လာပါတယ်။ စာပေပညာနဲ့ဓလေ့ (Learning and culture) အတွက် ဗဟိုဌာနကြီး ဖြစ်လာပါတယ်။ နောက်ဆက် ပြောရမယ့် မြို့တော်သစ်တွေက အာဖဂန်နစ္စတန်မှာ ဟာရန် (Heran) နဲ့ ကန်ဒါဟာ (Kandahar) ဖြစ်တယ်။ အရေးပါတဲ့ မြို့တော်ကြီးတွေ ဖြစ်လာပါတယ်။

အလက်ဇန္ဒား၊ နပိုလီယန်နဲ့ ဟစ်တလာတို့ဟာ ခြုံပြီး ဩဇာသက်ရောက်ပုံ နီးနီးစပ်စပ် တူပါတယ်။ ဒါပေမယ့် အလက်ဇန္ဒားရဲ့ဩဇာဟာ ဟိုနှစ်ယောက် ဩဇာထက် ပိုမိုပြီး တာရှည်မယ်လို့ ထင်ရပါတယ်။ အဲဒါကြောင့် အလက်ဇန္ဒားကို ဒီစာအုပ်မှာ သူတို့ အထက်က နေရာ ပေးလိုက်တာ ဖြစ်ပါတယ်။ သူတို့က လုပ်ချက်ပိုများပေမယ့် ဩဇာ အလေးအနက် ကြာရှည်မခံပါ။

3, October, 2000.

# (၃၄) နပိုလီယန် ဘိုနာပတ် (၁၇၆၉ – ၁၈၂၁)

# NAPOLEON BONAPARTE (1769 – 1821)

ဂုဏ်သတင်းကြီးမားကျော်ကြားလှတဲ့ ပြင်သစ်ဗိုလ်ချုပ်ကြီး ဧကရာဇ် ပထမ နပိုလီယန် (Napoleon Bonaparte) ကို ၁၇၆၉ မှာ ကော်စီကာ (Corcica) အဂျေရှို (Ajaccio) မှာ မွေးဖွားပါတယ်။ ငယ်နာမည်က နပိုလီယန် ဘိုနာပတ် (Napoleon Bonaparte) ဖြစ်တယ်။ သူမမွေးခင် တစ်ဆယ့်ငါးလမှာ ကော်စီကာကို ပြင်သစ်က သိမ်းယူ တယ်။ ငယ်စဥ်က နပိုလီယန်ဟာ ကော်စီကာမျိုးချစ် တစ်ယောက် အနေနဲ့ ပြင်သစ်ကို ဖိနှိပ်ချုပ်ချယ်သူတွေလို့ ထင်ခဲ့ပါတယ်။ ဒါပေမဲ့ နပိုလီယန်ကို ပြင်သစ်စစ်တက္ကသိုလ် တွေမှာ ခေါ်ယူပြီး ပညာသင်ပေးတယ်။ အသက် တစ်ဆယ့်ခြောက်နှစ်၊ ၁၇၈၅ မှာ ကျောင်းဆင်းတော့ ပြင်သစ် (French)တပ်မတော်မှာ အရာခံဗိုလ် ဖြစ်လာပါတယ်။ လေးနှစ်ကြာတော့ ပြင်သစ် တော်လှန်ရေးကြီး (French Revolution) ပေါက်ကွဲပြီး နှစ်အနည်းငယ် အတွင်းမှာ ပြင်သစ်အစိုးရဟာ တန်ခိုးကြီး နိုင်ငံတွေနဲ့ စစ်တိုက်ရပါတယ်။ နပိုလီယန် ပထမဆုံး အစွမ်း ပြခွင့်ရတာက ၁၇၈၃ (ဗြိတိသျှလက်ထဲက ပြင်သစ်တို့ ပြန်ပြီး သိမ်းယူတဲ့) တိုလုံး (Toulon) ဝန်းရံ တိုက်ခိုက်ပွဲ ဖြစ်ပါတယ်။ သူက ဒီပွဲမှာ အမြောက်တပ်ဗိုလ် ဖြစ်ပါတယ်။ (အဲဒီအခါမှာ သူက ကော်စီကာ မျိုးချစ် အတွေးအခေါ် တွေကို စွန့်ပြီး သူလည်း ပြင်သစ် နိုင်ငံသားလို့ စွဲမှတ်နေချိန် ဖြစ်ပါတယ်။) တိုလုံးမှာ ရဲစွမ်းသတ္တိနဲ့ စစ်ရေးစစ်ရာ အစီအမံတွေကို ချင့်ပြီး သူဟာ ဗိုလ်မှူးချုပ် (Brigadier General) ရာထူး အထိ တိုးမြှင့်မြောက်စားခြင်းခံရတယ်။ အီတလီ (Italy)ကို ဝင်တိုက်တဲ့ ပြင်သစ်တပ်ကို ၁၇၉၆ မှာ အုပ်ချုပ်ခွင့် ရတယ်။ အဲဒီ ၁၇၉၆–၉၇ မှာ ရင်သပ်ရှုမော အံ့သြစရာ အောင်ပွဲတွေ အလီလီ အထပ်ထပ်ရလို့၊ ပါရီ (Paris) မြို့တော်ကို သူ့ရဲ့ကောင်းကြီး အဖြစ်နဲ့ ပြန်ရောက်လာပါတယ်။

အီဂျစ်ကို ပြင်သစ်က ၁၇၉၈ မှာ ကျူးကျော် ဝင်ရောက် တိုက်ခိုက်တဲ့အခါ နပိုလီယန်က ခေါင်းဆောင် ဖြစ်ပါတယ်။ ကြည်းကြောင်းမှာ နပိုလီယန်က အောင်ပွဲရတာ များပါတယ်။ ဒါပေမယ့် လော့ဒ်နယ်လဆင် (Lord Nelson) အုပ်ချုပ်တဲ့ ဗြိတိသျှရေတပ် (British Navy) က ပြင်သစ် ရေတပ် (French Fleet) ကို ဖျက်ဆီးနိုင်တဲ့အတွက် ၁၇၉၉ မှာ နပိုလီယန်ဟာ အီဂျစ်ကို စွန့်ပစ်ထားခဲ့ပြီး သူ တစ်ယောက်တည်း ပြင်သစ်ကို ကိုယ်လွတ်ရုန်းပြီး ပြန်ရောက်လာပါတယ်။

ပြင်သစ်ရောက်တော့ ပြည်သူလူထုက အီဂျစ် စစ်မျက်နှာမှာ မရှုမလှ အရေးနိမ့်ခဲ့တာကို လျစ်လျူပြုပြီး အီတလီ စစ်မျက်နှာမှာ အောင်ပွဲခံတာကိုပဲ အမှတ်ရကြပြီး သူ့ကို ကြိုဆိုတယ်။ ဒါကိုအခွင့်ကောင်းယူပြီး ပြန်လာလို့ တစ်လအကြာမှာ အက်ဗက်ဆီယက် (Abbe' Sie'yes) တို့နဲ့ အပေါင်းပါလုပ်ပြီး အာဏာသိမ်းပွဲ (coup de' tat, ) ကူးဒတ မှာ ပါဝင်လာတယ်။ အစိုးရသစ်ဖွဲ့တော့ ဦးစီးအဖွဲ့မှာ နပိုလီယန် က ပထမဦးစီး (first consul) ဖြစ်လာတယ်။ အင်မတန် ပြည့်စုံကောင်းမွန်တဲ့ အခြေခံဥပဒေ (elaborate constitution) ကို ရေးဆွဲပြီး အများပြည်သူ့ထောက်ခံပွဲ (popular plebiscite) နဲ့ အတည်ပြုတာ ဆိုပေမယ့် နပိုလီယန်က စစ်အာဏာရှင်တက်လုပ်တာကို ကြည့်ပျော်အောင် အခြေခံ ဥပဒေကောင်းကောင်းနဲ့ မျက်နှာဖုံး စွပ်ပေးတာပဲ ဖြစ်တယ်။ သူက ကြံဖော် ကြံဖက်တွေ အားလုံးကို ကျော်လွှားပြီး ထိပ်ဆုံးကို ရောက်သွားပါပြီ။

နပိုလီယန် အာဏာကြီးမြင့်လာပုံက မယုံကြည် နိုင်လောက်အောင် မြန်တယ်။ တိုလုံးကို ဝန်းရံတိုက်ခိုက်တဲ့ ဩဂုတ် ၁၇၉၃ မှာ နပိုလီယန်ဟာ အသက် နှစ်ဆယ့် လေးနှစ်၊ အညတရ အရာရှိပေါက်စ၊ ပြင်သစ်နိုင်ငံသား ဆိုရုံလောက်ပဲ အခြေအနေရှိတယ်။ နောက်ခြောက်နှစ်မှ မပြည့်သေးဘူး၊ နပိုလီယန်ဟာ အသက်သုံးဆယ်မှာ ပြိုင်ဘက် မရှိတဲ့ ပြင်သစ်ရဲ့ ထိပ်ဆုံးက အုပ်ချုပ်သူ ဖြစ်ခဲ့ပါတယ်။ အဲဒီအဆင့်ကို တစ်ဆယ့်လေးနှစ်ကျော် စွဲမြဲ ထိန်းချုပ် ထားနိုင်ခဲ့ပါတယ်။

အာဏာ လက်ရှိနှစ်တွေမှာ နပိုလီယန်က ပြင်သစ် အုပ်ချုပ်ရေး (French Administration) နဲ့ ပြင်သစ်တရား ဥပဒေရေး (French legal system) တွေမှာ အရေးပါတဲ့ ပြင်ဆင်ချက်တွေ လုပ်ခဲ့ပါတယ်။ ဥပမာ၊ ငွေကြေး လည်ပတ်တဲ့ ပုံစံ (financial structure) နဲ့ တရားဥပဒေ ထိန်းသိမ်းရေးကို ပြင်တယ်။ ပြင်သစ်ဘဏ် (Bank of France)၊ ပြင်သစ်တက္ကသိုလ် (University of France) ကို တည်ထောင်တယ်။ ပြင်သစ် အုပ်ချုပ်ရေးကို ဗဟိုကပိုပြီး ချုပ်ကိုင်စေတယ်။ ဒီပြုပြင်ရေးတွေဟာ ပြင်သစ်မှာတော့ ထိရောက် အရေးပါတာမှန်ပေမယ့် ကမ္ဘာ့အဝန်းနဲ့ ချင့်ချိန် ကြည့်ရင် မကြီးကျယ်ပါ။

နပိုလီယန်ရဲ့ ပြုပြင်ရေးတွေထဲမှာ ပြင်သစ် နယ်နိမိတ် ကို ကျော်လွန်ပြီး ထင်ရှားသွားတာက ပြင်သစ် တရားမ ကျင့်ထုံး (Civil Code) ဖြစ်တယ်။ အများက ကိုဒ်နပိုလီယန် (Code Napoleon) လို့ ခေါ်ပါတယ်။ ပြင်သစ် တော်လှန်ရေးရဲ့ ဖြစ်စေချင်တဲ့ဝါဒ (Ideals) တွေ အများကြီး ထည့်သွင်း ပေါင်းထား ပါတယ်။ ဥပမာ၊ ဒီထုံးနည်းအရ အမျိုးအရိုးကြီးတဲ့လူတွေက မထိုက်တန်တဲ့ အခွင့်အရေးကို အရယူတာဖြစ်တယ်။ ဥပဒေ မျက်စိနဲ့ကြည့်ရင် လူချင်းအတူတူပဲ၊ နောက်တစ်ချက် ပြောနိုင်တာက ဒီထုံး (Code) ဟာ ရှေးဟောင်း ပဝေသဏီက ပြင်သစ် ဥပဒေတွေနဲ့ သိပ်နီးစပ်တယ်။ ရှေးနည်း ဖြစ်လို့ ပြင်သစ်လူအများက လက်သင့်ခံတယ်။ ဥပဒေနဲ့ အသက်မွေးတဲ့သူတွေကလည်း ဒီထုံးနည်းကို နှစ်သက်တယ်။ ခြုံကြည့်ရင် ဒီထုံးဟာ မတင်းလွန်း မပျော့လွန်း၊ အနေတော် စေ့စေ့စပ်စပ် ရှိတယ်။

လေမရှည်ဘဲ ပြည့်စုံ လုံလောက်အောင် ရေးသား ထားတယ်။ ရှင်းလင်း ပြတ်သားတယ်လို့ ထင်ရှား ကျော်ကြားတယ်။ ပြင်သစ်မှာ တာရှည်ခံတယ်။ အခုဥပဒေဟာ မူလ ကို့ဒ်နပိုလီယန်နဲ့ သိပ်တူ နေသေးတာကို အံ့ဩစရာ တွေ့မယ်။ တခြားနိုင်ငံ ခပ်များများ မှာလည်း သူတို့ ဒေသစရိုက်နဲ့ ညီအောင် ညှိပြီး ယူငင်သုံးစွဲခဲ့ကြပါတယ်။

နပိုလီယန် ဝါဒကလည်း တော်လှန်ရေးကို ကာကွယ် တယ်လို့ ဆိုတယ်။ ဒါပေမဲ့ ၁၈၀၄ ခု ရောက်တဲ့အခါ သူ့ကိုယ်သူ ပြင်သစ်ဧကရာဇ် (French Emperor) လို့ ကြေညာ လိုက်ပါတယ်။ အဲဒါအပြင် သူ့ညီသုံးယောက်ကို ဥရောပ ထဲက သုံးနိုင်ငံမှာ ရှင်ဘုရင် ခန့်လိုက်တယ်။ ဒါမျိုးတွေ့ပြန်တော့ ပြင်သစ် သမ္မတနိုင်ငံကို တည်မြဲ စေလိုသူတွေ (French Republicans) က သူဒီလို လုပ်တာဟာ ပြင်သစ်တော်လှန်ရေးရဲ့ အရင်း မူလကျတဲ့ စွဲမြဲ ယုံကြည်ချက်ကို သစ္စာဖောက်တာ ဖြစ်တယ်လို့ ပြောလာကြတယ်။ ဒါပေမယ့် သူ့အပေါ်မှာ ဘယ်လိုမှ အရေးတယူ ဆန့်ကျင်ပြောဆိုတာ မရှိ၊ သူအကြီးအကျယ်ခံရတဲ့ ဒုက္ခက သူတိုက်တဲ့ နိုင်ငံခြား စစ်တွေသာ ဖြစ်ပါတယ်။

နပိုလီယန်ဟာ အင်္ဂလန်နဲ့ ၁၈၀၂ မှာ အေမိယန် (Amiens) စစ်အေးစာချုပ်ကို လက်မှတ်ထိုးတယ်။

စစ်မပြတ် တိုက်ခဲ့တဲ့ ဆယ်နှစ်စစ်ကို ခေတ္တရပ်လိုက်လို့ ပြင်သစ်အနေနဲ့ အသက်ရှူခွင့် ခေတ္တရပါတယ်။ ဒါပေမယ့် နောက်တစ်နှစ်မှာပဲ စာချုပ်ပါ အချက်တွေကို မထေမဲ့မြင် ပြုကြလို့ အင်္ဂလန်နဲ့ မဟာမိတ်တွေက ပြင်သစ်ကို ဝိုင်းတိုက်ကြ ပြန်တယ်။ နပိုလီယန်ရဲ့တပ်တွေက ကြည်းကြောင်းစစ်မှာ အကြိမ်ကြိမ် အောင်နိုင်ပေမယ့် အင်္ဂလန်ကို နှိမ်ဖို့ဆိုတာ အင်္ဂလိပ် ရေတပ်ပျက်မှ ဖြစ်နိုင်မယ်လို့ သိလာတယ်။

ဒီအတောအတွင်းမှာပဲ နပိုလီယန် အတွက် အဆမတန် ကံဆိုးဖို့ဖြစ်လာတဲ့အချက်ကတော့ ၁၈၀၅ မှာ အင်္ဂလိပ် ရေတပ်က ပြတ်ပြတ်သားသား ထရာဖောဂါ (Trafalgar) ရေကြောင်းစစ်ပွဲမှာ အနိုင်ရတယ်။ နှစ်ဦးနှစ်ဖက် အနိုင်အရှုံးကို ထင်ရှားအောင်ပြတဲ့ပွဲ ဖြစ်တယ်။ အဲဒီနောက် အင်္ဂလန်ဟာ ပင်လယ်မှာ ဗိုလ်စွဲတယ် ဆိုတာကို ငြင်းမရအောင် စွဲမြဲခိုင်မာတဲ့ အချက် ဖြစ်သွားပါပြီ။ နပိုလီယန်ရဲ့ အကြီးဆုံး အောင်ပွဲဖြစ်တဲ့ (ဩစတြီးယားနဲ့ ရုရှ တပ်ပေါင်းကို ဩစတာလစ်ဇ် Austarliz မှာ တိုက်ခိုက်အောင်နိုင်တာဟာ) ထရာဖောဂါ နောက် သီတင်းခြောက်ပတ်ကြာမှဖြစ်ပေမယ့် ရေ့က ရေတပ် ပျက်စီးတာကို ထေမိတဲ့ပွဲ ဖြစ်မလာပါ။

နပိုလီယန်ရဲ့ အမိုက်မဲဆုံးချွတ်ယွင်းချက်က ၁၈၀၈ ခုနှစ်မှာ အိုင်ဗေရိယန်ကျွန်းဆွယ် (Iberian peninsular, Spain And Portugal) မှာ ပြင်သစ်တပ်တွေ လွှတ်ပြီး နှစ်ပေါင်းများစွာ အကျိုး ကြီးကြီးကျယ်ကျယ် မရဘဲ တလည်လည် ချည်ထားသလို ခံနေကြရတာ ဖြစ်ပါတယ်။ နပိုလီယန် နာလန်မထူနိုင်အောင် မှားတဲ့အချက်က ရုရှ (Russia) ကို ချီတက်တိုက်ခိုက်ခြင်း

ဖြစ်ပါတယ်။

နပိုလီယန်ဟာ ၁၈၀၇ ကပဲ ဇာ (Czar) ဧကရာဇ်မင်းနဲ့ တီလ်ဆစ် (Tilsit) မှာဆုံပြီး ထာဝစဉ် မိတ်ဖြစ်ကြ ပါတော့မယ်လို့ စာချုပ်ချုပ် ဆိုခဲ့ပြီးမှ တဖြည်းဖြည်း မိတ်ပျက်ပြီး နပိုလီယန်က ၉၅ နှစ်၊ ၁၈၁၂ မှာ ရုရှကို သူ့ရဲ့တပ်မတော်ကြီး (Grande Arme'e) ချီတက် တိုက်ခိုက် စေတယ်။

ဘယ်လိုရလဒ်လဲဆိုတာ အများသိပြီးဖြစ်ပါတယ်။ ရုရှတပ်က နပိုလီယန်ကို ရင်ဆိုင်တိုက်ခိုက်ဟန့်တားခြင်း လုံးဝ မလုပ်ပါ။ ရှောင်တယ်။ ချီတက်လိုရာကို အနှောင့်အယှက် မရှိ အလွယ်တကူချီတက်နိုင်လို့ ခရီး တွင်တယ်။ စက်တင်ဘာလဆိုရင် မော်စကို (Moscow) ကို သိမ်းပြီးပြီ။ ဒါပေမယ့် ရုရှတွေက မြို့တော်ကို မီးတိုက် ဖျက်ဆီး ထားတယ်။ အားလုံးနီးနီး ပျက်နေပြီ။ မော်စကိုမှာ ရုရှက ငြိမ်းချမ်းရေးစကားကမ်းလာမလားလို့ သီတင်း ငါးပတ်စောင့်တယ်။ ဘာမှမထူးတဲ့အဆုံးမှာ တပ်သိမ်းပြီး ပြန်ဆုတ်ဖို့ နပိုလီယန်ကဆုံးဖြတ်တယ်။ သိပ်နောက်ကျ သွားပါပြီ။ ရုရှတပ် (Russian Army)၊ ရုရှဆောင်းတွင်း (Russian Winter) နဲ့ စစ်ရိက္ခာ မလုံလောက် တာတွေကြောင့် ပြင်သစ်တပ်ဟာ စနစ်တကျ ဆုတ်ခွာ လာတာ မဟုတ်။ အသက်လုပြီးပြေး (rout) ရတာ ဖြစ်သွား ပါတယ်။ တပ်မတော်ကြီးရဲ့ တစ်ဆယ်ရာခိုင်နှုန်းပဲ မသေဘဲ၊ ရုရှက ပြန်ထွက်လာနိုင်ပါတယ်။

ဩစတြီးယား (Austria)၊ ပရပ်ရှား (Prussia) ဆိုတဲ့ တခြား ဥရောပနိုင်ငံတွေက ဒီလိုအခြေအနေဟာ၊ ငါတို့ ပြင်သစ် လက်အောက်က လွတ်မြောက်ဖို့အချိန်ပဲလို့ သိလာကြပြီး နပိုလီယန်ကို လိုက်ပဇစ် (Leipzig) မှာ အောက်တိုဘာ၊ ၁၈၁၃ မှာ ဝိုင်းတိုက်ကြပါတယ်။ နပိုလီယန်ဟာ နောက်တစ်ကြိမ် မရှုမလှရှုံးနိမ့်ရပြန်တယ်။ ရှေ့နှစ်မှာ ရာထူးက ထွက်ပြီး အီတလီ ကမ်းခြေအနား အယ်လဗာ (Elba) ကျွန်းငယ်ကို ပြည်နှင်ဒဏ် ပေးခံ ရပါတယ်။

အယ်လဗာမှ ၁၈၁၅ မှာ ထွက်ပြေးပြီး၊ ပြင်သစ်ကို ပြန်လာတဲ့အခါ သူ့ကို ကောင်းမွန်စွာ ကြိုဆိုပြီး အာဏာ ပြန်အပ်ကြပြန်တယ်။ ဒီအခါ တခြားဥရောပ တန်ခိုးကြီး နိုင်ငံတွေ (European Powers) က ချက်ချင်း စစ်ကြေညာ ကြတယ်။ အာဏာပြန်ရပြီး ရက်တစ်ရာအကြာ၊ ဝါတာလူး (Waterloo)မှာ နောက်ဆုံး ရှုံးနိမ့် ကျဆင်း ရပါတော့တယ်။ ဝါတာလူးအပြီး နပိုလီယန်ကို ဗြိတိသျှက ဖမ်းပြီး တောင်အတ္တလန်တစ် (south atlantic) စိန့်ဟယ်လီနာ (St.Helena) ကျွန်းငယ်မှာ အကျဉ်းချထားတယ်။ အဲဒီမှာပဲ ကင်ဆာရောဂါနဲ့ ၁၈၂၁ မှာ ကွယ်လွန်သွားပါတယ်။

နပိုလီယန်ရဲ့ စစ်မှုထမ်းသက်မှာ အံ့ဩစရာ ကောင်းလောက်အောင် တကယ်ဖြစ်ခဲ့တဲ့ ဆန့်ကျင်ဘက် (Paradox) တွေကို တွေ့ပါတယ်။ စစ်ပရိယာယ်၊ တိုက်ခိုက်ရေး ပြင်ဆင်ပုံကိုကြည့်ရင် သူဟာ တကယ် ထူးတဲ့ပါရမီရှင် ဖြစ်တယ်ဆိုတာ တွေ့မယ်။ အဲဒါတစ်ခုတည်းကြည့်ပြီး ဆုံးဖြတ်ရင် သူဟာ ခေတ် အဆက်ဆက်မှာ အတော်ဆုံးဂုဏ်သတ္တိ အကြီးမြင့်ဆုံး

ဗိုလ်ချုပ်ကြီး ဖြစ်ပါတယ်။ အကြီးအကျယ် စစ်ဆင် (grand strategy) ပြီဆိုရင် သူလည်း အကြီးအကျယ်မှားပြီလို့ ဆိုရမယ်။ သူဦးဆောင်ပြီး အီဂျစ်ကို သွားတိုက်တာ၊ ရုရှကို ဝင်တိုက်တာတွေကို ကြည့်ပါ။ သူ့စစ်ထွက်ပုံ အမှားဟာ ရက်ရက်စက်စက် မှားတာဖြစ်လို့ နပိုလီယန်ကို ဘယ်နည်းနဲ့မှ စစ်ဦးစီး တွေထဲမှာ ရှေ့တန်းနေရာကို မပေးနိုင်တော့ပါ။ ဒီလို စောစောက ပြောစကားကို ဖျက်ပစ်တာ သင့်တော်ပါ့မလား မေးပါ။ သင့်တော်ပါတယ်။ တကယ်တမ်း ပြောကြစို့ဆိုရင် ဗိုလ်ချုပ်ကြီး တစ်ဦးရဲ့ အကြီးမားဆုံး အရည်အချင်းဟာ မရှုမလှအမှားကို ရှောင်ကွင်း နိုင်ရမယ်ဆိုတဲ့ အချက်ဖြစ်တယ်။ အဲဒါပဲ အပိုင် ဆုံးဖြတ်ဖို့ အချက်လို့ သတိမှတ်ထားပါ။

အင်မတိ အင်မတန် အစွမ်းကြီးမားတယ်ဆိုတဲ့ မဟာအလက်ဇန္ဒား၊ ဂျဲန်ဂျစ်ခန် နဲ့ တမာလိန်းတို့ဆိုရင် တစ်ခါမှ အရေးရှုံးနိမ့်တာ မရှိဖူးပါ။ နပိုလီယန်ကတော့ နောက်ဆုံးမှာ အရေးရှုံးနိမ့်ရတဲ့ အတွက် နိုင်ငံခြား စစ်တွေ အောင်နိုင်ဖူးသမျှဟာ တစ်ခဏနဲ့ ကြေပျက် ပျောက်ကွယ်သွားရှာတယ်။ ၁၈၁၅ နောက်ဆုံး အရေးရှုံးနိမ့်ပြီးတဲ့အခါမှာ ပြင်သစ်ပိုင်နက်ဟာ တော်လှန်ရေး မတိုင်မီ ယခင် ၁၇၈၉ က ပိုင်နက် လောက်တောင် မကျယ်ပြန့်တော့ပါ။

နပိုလီယန် (Napoleon) ဟာ တကယ်ပဲ ကိုယ့်ကိုယ်ကို သိပ်အထင်ကြီးတဲ့ အရူးတစ်မျိုး (egomaniac) ဖြစ်တယ်၊ ဟစ်တလာ (Hitler) လိုပဲ။ ဒါပေမယ့် ဒီနှစ်ယောက်မှာ အရေးပါတဲ့ကွဲလွဲချက်ရှိတယ်။

ဟစ်တလာက စက်ဆုပ်ရွံရှာဖွယ်ကောင်းတဲ့ ဝါဒစွဲက လှုံ့ဆော်လို့ မလုပ်သင့်တာတွေ အများကြီးလုပ်တယ်။ နပိုလီယန် ကတော့ အင်မတန်လောဘကြီးတဲ့ အခွင့်အရေးသမား သက်သက် ဖြစ်ပါတယ်။ သူ့မှာ တစ်ဆုံး တစ်စ နက်ရှိုင်းအောင်၊ ထိတ်လန့်စရာ ကောင်းအောင် လူသတ်ပွဲတွေလုပ်ဖို့ စိတ်ကူးမရှိပါ။ နပိုလီယန် လက်ထက်မှာ နာဇီ (Nazi) စစ်သုံ့ပန်း စခန်း(Concentration Camp) လို ရက်စက်တဲ့နေရာတွေ နည်းနည်းလေး ဆင်တူတာမျိုးတောင် မရှိပါ။ နပိုလီယန်က နာမည်ကြီးလွန်းလို့ လွယ်လွယ်ပဲ သူ့ကို သိပ်ပြီး အထင်ကြီးပစ်လိုက်တယ်။ သူ့ဩဇာ ကြီးမား လိမ့်မယ် လို့လည်း တွက်ကြတယ်။ ရေတို (short-term) ခဏတစ်ဖြုတ်တော့ သူ့ကိုသိပ်ကြိုက်တဲ့သူ တကယ်ပဲ များပါတယ်။ မဟာ အလက်ဇန္ဒားထက် များတယ်။ ဟစ်တလာကိုတော့ မမီပါ။ (အကြမ်းခန့်မှန်းခြေမှာ နပိုလီယန်စစ်ပွဲ Napoleon Wars တွေကြောင့် ပြင်သစ် စစ်သား (French Soldiers) ငါးသိန်း ကျဆုံးတယ်။ ဒုတိယ ကမ္ဘာစစ်မှာ ဂျာမန် (German) အစုစု ရှစ်သန်းသေတယ်လို့ ထင်ရတယ်။) ဘယ်လိုစံနှုန်းနဲ့ တွက်တွက် နပိုလီယန် ကြောင့် ခေတ်ပြိုင်လူတွေမှာ အသက်အိုးအိမ်စည်းစိမ် ပျက်ပြုန်းရတာဟာ ဟစ်တလာထက် အများကြီး သေးငယ်ပါတယ်။

တာရှည်ဩဇာ (long-term influence)ကို တွက်ကြစို့ ဆိုရင်၊ နပိုလီယန်ဟာ ဟစ်တလာ ထက်သာ တယ်။ အလက်ဇန္ဒားကိုတော့ မမီပါ။ ပြင်သစ်မှာ နပိုလီယန်က အုပ်ချုပ်ရေးစနစ်မှာ အကျယ်ပြန့် ပြင်ဆင်ချက်တွေ လုပ်တယ်။

ဒါပေမယ့် ပြင်သစ် လူမျိုး အရေအတွက်ဟာ ကမ္ဘာ့လူဦးရေခုနစ်ဆယ်ပုံမှ တစ်ပုံပဲ ရှိတယ်။

ဘယ်လိုပဲဖြစ်ဖြစ် အခုလို အုပ်ချုပ်ရေးကိုပြင်တယ်ဆိုရင် အခြေအနေမှန်နဲ့ ထင်ဟပ်ကြည့်မှ သဘော သရုပ်မှန်ကို မှန်းဆလို့ရမယ်။ ပြင်သစ်အမျိုးသားတွေရဲ့ဘဝမှာ အရင်နှစ်နှစ်ရာအတွင်းက နည်းပညာတိုးတက်လို့ ခံစားရတဲ့ အကျိုးလောက် အရာမရောက် မလေးနက်ပါ။

နပိုလီယန်ခေတ် (Napoleon era) ပေါ်လာပေလို့ ပြင်သစ် တော်လှန်ရေး ခေတ်ကပေါ်လာတဲ့ ပြောင်းလဲဖို့ စိတ်ကူးတွေ ဆောင်ရွက်ခွင့်ရတယ်။ ပြင်သစ် လူလတ်တန်းစား (French bourgeoisie) ဟာလည်း သူတို့ရသင့်ရထိုက်တဲ့ အကျိုးအမြတ်တွေကို တာရှည် ခိုင်မြဲအောင်လုပ်ခွင့်ရတယ်။ ၁၈၁၅ ရောက်တဲ့အခါ ပြင်သစ်မင်းအုပ်ချုပ်ရေးစနစ် (French monarchy) ဟာ နောက်ဆုံး ပြန်တည်ထောင်ခွင့်ရတယ်။ ဒီအပြောင်းအလဲတွေဟာ လူမှုဆက်ဆံရေးအထိ အမြစ်ခိုင်ခိုင် တွယ်ပြီးဖြစ်လို့ အရင်က ရှေးမင်းလက်ထက် (Ancient regime) ပုံစံကို ပြန်ရောက်ဖို့ စိတ်ကူးမျှပင် စဉ်းစားလို့ မရနိုင်တော့ပါ။ အရေးအကြီးဆုံး အပြောင်းအလဲတွေက နပိုလီယန် မပေါ်မီကပဲ လုပ်ပြီးနေပြီ၊ ၁၇၉၉ မှာ နပိုလီယန် အာဏာရတော့ 'ရှေးပုံစံအတိုင်း စွဲမြဲကြစို့' လို့ပြောဖို့ အချိန်သိပ်နှောင်းသွားပြီ။ ဒါပေမဲ့ နပိုလီယန်က ကိုယ်တိုင် ရှင်ဘုရင် လုပ်ချင်တဲ့တိုင်အောင် ဥရောပ တစ်ခွင်မှာတော့ သူ့ကြောင့် ပြင်သစ် တော်လှန်ရေးရဲ့ အကောင်းဆုံးဝါဒရေးရာကို ပျံ့နှံ့အောင် ဖြန့်ပြီး ဖြစ်ခဲ့ရပါတယ်။

နပိုလီယန်ကြောင့် တိုက်ရိုက်မဟုတ်ပေမဲ့ လက်တင် အမေရိက (Latin america) မှာ အကျိုးအများကြီး ရပါတယ်။ သူက စပိန်(Spain) ကို ဝင်တိုက်တော့ စပိန်အစိုးရဟာ သိပ်အားနည်းသွားလို့ သူ့ကိုလိုနီတွေ ရှိရာ လက်တင်အမေရိကကို ရှေးကလို ထိထိရောက်ရောက် မထိန်းကွပ်နိုင်တော့ပါ။

အဲဒီအခါ တကယ် (defacto) မကြေညာပေမယ့် လက်တင်အမေရိက ကိုယ်ပိုင်အုပ်ချုပ်ရေး (Autonomy) အတွက် လွတ်လပ်ရေးကြိုးပမ်းမှုတွေ စလာပါတော့တယ်။ နပိုလီယန် ဆောင်ရွက်သမျှမှာ အရှည်ကြာဆုံး၊ အဖိုးတန်ဆုံး ကိစ္စကတော့ သူ့ပဓာနစီမံကိန်းနဲ့ ဘာမှ မဆိုင်တဲ့ကိစ္စ ဖြစ်ပါတယ်။ နပိုလီယန်က ၁၈၀၃ မှာ အမေရိကန်ပြည်ထောင်စု (USA) ကို မြေတွေ အများကြီး ရောင်းပါတယ်။ မြောက်အမေရိကမှာရှိတဲ့ ပြင်သစ် ပိုင်နက်ကို ဗြိတိသျှက သိမ်းမယူဘူးလို့ မပြောနိုင်၊ သူ့မှာလည်း ငွေအကျပ်အတည်းရှိနေတယ်။ ဒီတော့ လူဝီစီယားနား အဝယ် (Lousiana Purchase) ဆိုတဲ့ သမိုင်းမှာ မကြုံဖူးတဲ့ အသာတကြည် မြေဧရိယာ အများကြီးကို လက်ကူးလက်ပြောင်းလုပ်ကြတော့ အမေရိကန်ပြည်ထောင်စုဟာ တိုက်ကြီးတစ်တိုက်နီးပါး (near continatal size) ကြီးမားကျယ်ပြန့်သွားပါတယ်။ ဒီလူဝီစီယားနား အဝယ်သာ မဖြစ်ခဲ့ရင် အမေရိကန် ပြည်ထောင်စု (USA) ဘယ်လိုနေမလဲလို့ အစဉ်းစား ရခက်ပါတယ်။ အခုနဲ့တော့ အများကြီး ကွာခြားတဲ့ဒေသ ဖြစ်စရာအကြောင်းရှိပါတယ်။

အမှန်ပြောရရင် ဒီလူဝီစီယားနား အဝယ်သာ မဖြစ်မြောက်ခဲ့ရင်၊ အမေရိကန်ပြည်ထောင်စုဟာ အခုလို ကမ္ဘာ့တန်ခိုးကြီးနိုင်ငံ ဖြစ်လာနိုင်စရာ မရှိလို့ ထင်စရာရှိပါတယ်။

နပိုလီယန်တစ်ဦးတည်း ဒီလူဝီစီယားနား အဝယ်ကို ဆောင်ရွက်တာတော့ မဟုတ်ပါ။ အမေရိကအစိုးရက တစ်ဖက် ကလည်း စိတ်ပါဝင်စားတယ်။ ဒါပေမယ့် ပြင်သစ်က ဈေးပေါပေါ ပေးနေတော့ ဘယ်အစိုးရဖြစ်ဖြစ် ဝယ်မှာပါပဲ။ ပြင်သစ်က ရောင်းမယ်လို့ ဆိုရာမှာတော့ နပိုလီယန်ဘိုနာပတ် (Napoleon Bonaparte) တစ်ဦးတည်း ဆုံးဖြတ်ချက်ချခဲ့တာ ဖြစ်ပါတယ်။

4, October, 2000.

# (၃၅) သောမတ်စ် အယ်ဒီဆင် (၁၈၄၇ – ၁၉၃၁)

## THOMAS EDISON (1847 – 1931)

နည်းသစ်နည်းဆန်းအမျိုးမျိုး တီထွင်နိုင်တဲ့ သောမတ်စ် အဲလ်ဗာ အယ်ဒီဆင် (Thomas Alva Edison) ဟာ အိုဟိုင်းအိုး (Ohio)၊ မီလန် (Milan) မှာ ၁၈၄၇ မှာ မွေးဖွား ခဲ့ပါတယ်။ ကျောင်းနေရတဲ့ကာလက အစုစု သုံးလပဲ ရှိတယ်။ သူ့ကျောင်းဆရာက သူ့ကို ဉာဏ်နှေးကွေးသူ (retarded) လို့ ယူဆတယ်။

အယ်ဒီဆင် ပထမဆုံးတီထွင်တဲ့ပစ္စည်းက လျှပ်စစ်နဲ့မဲ ရေတွက်စက် (Electric vote–recorder) ဖြစ်တယ်။ အဲဒီအချိန်မှာ သူ့အသက်က နှစ်ဆယ့်တစ်နှစ်ပဲ ရှိပါသေးတယ်။ သိပ်မရောင်းရဘူး။ ဒါကြောင့် အယ်ဒီဆင်ဟာ အရောင်းရသွက်မယ့်ပစ္စည်းကိုပဲ ရှာပြီး တီထွင်မယ်လို့ စိတ်ပိုင်းဖြတ်လိုက်ပါတယ်။

မဲရေစက်တီထွင်ပြီး မကြာမီ ပစ္စည်းရေစနစ် (stock ticker system) ကိုတီထွင်ပြီး၊ ဒေါ်လာလေးသောင်းနဲ့ ရောင်းရတယ်။ အဲဒီအခါက ဒီလောက်ငွေဟာ အဆမတန် များပါတယ်။ နောက်ထပ်တီထွင်ချက်တွေ ဆက်တိုက် ထွက်လာပါတယ်။ မကြာမီ အယ်ဒီဆင်ဟာ နာမည်ကျော် လူချမ်းသာ ဖြစ်လာပါတယ်။

သူကိုယ်တိုင် အစအဆုံး တီထွင်တဲ့ပစ္စည်းကတော့ သီချင်းဓာတ်စက် (Phonograph) ဖြစ်ပါတယ်။ ၁၈၇၇ မှာ သူကိုယ်တိုင် စတင်ကြံဆတီထွင်တဲ့ပစ္စည်းလို့ မှတ်ပုံတင်ခဲ့ပါတယ်။ သူထွင်တဲ့ပစ္စည်းတွေထဲမှာ ကမ္ဘာသုံး အထူးအရေးပါတဲ့ပစ္စည်းကတော့ ၁၈၇၉ မှာ တီထွင်တဲ့ အရောင်တောက်တဲ့မီးလုံး (incandescent bulb) ဖြစ်တယ်။ လျှပ်စစ်အလင်းရောင်စနစ် (electrical lighting system) ကို အယ်ဒီဆင်က စတာ မဟုတ်ပါ။ အရင် ခပ်စောစောက ပါရီလမ်းတွေကို မီးထွန်းဖို့ လျှပ်စစ်မီးအိမ်ခုံး (electric arc lamp) ဆိုတာ ရှိခဲ့ဖူးတယ်။ အယ်ဒီဆင်က မီးသီး (bulb) လုပ်တယ်။ သူကိုယ်တိုင် တီထွင်တဲ့ လျှပ်စစ်ဓာတ်အားပေးစက် (electric power distributor)ကိုသုံးပြီး နေအိမ်မှာ မီးထွန်း လွယ်ကူအောင် လုပ်ပေးပါတယ်။ ၁၈၈၂ ခုမှာ သူ့ကုမ္ပဏီက မြို့တော်နယူးရောက် (New York

City) မှာ နေအိမ်သုံး လျှပ်စစ်မီးလုံး ဆင်ပြီး မီးထွန်းပေးခဲ့တဲ့အတွက် အဲဒီကစပြီး နေအိမ်သုံး လျှပ်စစ်မီးဟာ တစ်ကမ္ဘာလုံး ပျံ့နှံ့ တွင်ကျယ် သွားပါတယ်။ လျှပ်စစ်ဓာတ်အားကို ကိုယ်ပိုင်အိမ် (Private home) တွင်းရောက်အောင် ဖြန့်ဖြူးတဲ့ကုမ္ပဏီကို စတင်တဲ့ အတွက်၊ အယ်ဒီဆင်ဟာ အလွန်အမင်းကြီးမားတဲ့ စက်မှု လုပ်ငန်းကြီး (enormous industry) တစ်ရပ်ကို ထွန်းကားလာအောင် အစပျိုးသူ ဖြစ်ပါတယ်။ တကယ်တမ်း ဖြစ်ပေါ်ပုံကို စာရင်းတင်ရင် ဒီအိမ်သုံး လျှပ်စစ်ဟာ မီးထွန်းရုံသာမက အခုဆိုရင် ရုပ်လှ့င့်စက် T.V ကအစ အဝတ်လျှော်စက် အထိ အထွေထွေအပြားပြား သုံးနေကြပါပြီ။ အဲဒါအပြင် ထပ်ပြောစရာက လျှပ်စစ် ဓာတ်အားကို ဗဟိုဌာနတစ်ခုက ပိုက်ကွန်ဖြာသလို (network) ဖြန့်ဖြူးနိုင်လို့ လျှပ်စစ်သုံး စက်မှုလုပ်ငန်း အကြီးအကျယ် ဖြစ်ပေါ်လာပါတယ်။

အယ်ဒီဆင် တွင်တွင်ကျယ်ကျယ် ဝင်ပြီး ဆောင်ရွက်တဲ့ ကိစ္စနောက်တစ်ခုက ရုပ်ရှင်ကင်မရာ (Camera) နဲ့ ပရိုဂျက်တာ (projector) ဖြစ်ပါတယ်။ တယ်လီဖုန်းမှာ (သူတီထွင်တဲ့ ကာဗွန်အသံပြောင်း နည်းကြောင့် အသံကိုကြည်လင် ပြတ်သားအောင် ကြားနိုင်လို့) သူက အရေးပါတဲ့တိုးတက်မှုတစ်ရပ်ကို လုပ်ပေးတယ်လို့ ဆိုနိုင်ပါတယ်။ ဒီလိုပဲ သံကြိုးနဲ့ သတင်းစကားပို့တဲ့နည်း (telegraph) နဲ့ စာရေးကူးတဲ့ လက်နှိပ်စက်တွေကို ကောင်းသထက်ကောင်းအောင် သူ ပါဝင်ပြုပြင် ဆောင်ရွက်ခဲ့ပါတယ်။ အခြား တီထွင်ချက် တွေက နှုတ်ပြောကိုမှတ်တဲ့စက် (dictating machine)၊ စာကို မိတ္တူကူးတဲ့စက် (mimeograph machine) နဲ့ လျှပ်စစ်ဓာတ်အားကို သိုလှောင်တဲ့ ဓာတ်ခဲ (battery) တွေ ဖြစ်ပါတယ်။ အယ်ဒီဆင်ရဲ့ တီထွင်မှုအစုစုဟာ မှတ်ပုံတင်ပြီး အားလုံးအစုစု တစ်ထောင်ကျော်ရှိတယ်။ အံ့သြ ကုန်နိုင်ဖွယ်ရာ မရှိပါ။

အခုလို အံ့သြရတဲ့အစွမ်းဟာ ဘာကြောင့် ဖြစ်နိုင်ပါသလဲလို့ မေးရင်၊ သူစပြီး တီထွင်မှုတွေ လုပ်စကပဲ အယ်ဒီဆင်ဟာ တကယ်စွမ်းတဲ့ ပညာရှင်တချို့ကို လက်ထောက် အဖြစ်နဲ့ငှားပြီး နယူးဂျာစီ (New Jersy) မြို့ မင်လိုပတ် (Menlo Park) မှာ သုတေသန ဓာတ်စမ်းရုံ (research laboratory) ထူထောင်ထားတဲ့အတွက် ဖြစ်တယ်လို့ ဆိုရပါမယ်။ ဒီကနဦးပုံစံ (prototype) ကိုလိုက်ပြီး စက်မှုလုပ်ငန်းကြီးတွေ ဆောင်ရွက်တဲ့ အဖွဲ့တွေက သုတေသနဓာတ်စမ်းရုံတွေ ထားလာ ကြပါတယ်။ အဲဒီလို ပစ္စည်းကိရိယာစုံကို အသင့်ဆင် ထားပြီး၊ လူတော်တွေက အဖွဲ့လုပ်ငန်း (team work) အဖြစ် ကြိုးစားဆောင်ရွက်နည်းကို အယ်ဒီဆင်က စတင် တီထွင်သူ ဖြစ်ပေမယ့် ဒါမျိုး သူများလိုက်မလုပ်ရလို့ မှတ်ပုံတင် ခွင့်တော့ မရခဲ့ပါ။

အယ်ဒီဆင်ဟာ တီထွင်သူသက်သက် မဟုတ်ပါ။ စက်မှု ကုမ္ပဏီတွေ အများကြီးထောင်ပြီး ကုန်ပစ္စည်းတွေ ထုတ်လုပ် ရောင်းချပါသေးတယ်။ နောက်ဆုံးအင်မတန် အရာရောက် တွင်ကျယ်လာတဲ့ ကုမ္ပဏီက အထွေထွေ လျှပ်စစ်ကုမ္ပဏီ (G.E.C – General Electric Company) ဖြစ်ပါတယ်။

မူလဝါသနာက သိပ္ပံပညာရှင်စင်စစ် (pure scientist) မဟုတ်ပေမယ့် အက်ဒီဆင်ဟာ အရေးပါ အရာရောက်တဲ့ သိပ္ပံနည်းတစ်ခုကို ရှာဖွေ တွေ့ရှိခဲ့သူ ဖြစ်ပါတယ်။ ၁၈၈၂ မှာ သူဟာ လေမရှိသလောက် ဖြစ်အောင် စုပ်ယူထားတဲ့နေရာ (near-vacum) မှာ လျှပ်စစ်ဓာတ်စီးချောင်း (electric current) ကို ထိမနေတဲ့ ကြိုးနှစ်ခုမှာ လွှတ်ထားလို့ရတယ်ဆိုတာ စမ်းသပ်ရှာဖွေ တွေ့ရှိခဲ့တယ်။

ဒီအခြင်းအရာ (phenomenon) ကို အက်ဒီဆင် လက်ရာ (Edison effect) လို့ ခေါ်တယ်။ အဲဒါကို အသင့်အတင့် စိတ်ဝင်စားစရာ ဖြစ်တယ်လို့ပြောရုံနဲ့ မပြီးသေးဘူး။ လက်တွေ့အလုပ်တွေမှာ အရေးပါ အရာရောက်တယ်လို့ ဖြည့်စွက်ပြောဖို့လိုပါတယ်။ အဲဒီကစပြီး တစ်စ တစ်စ လေမရှိတဲ့ဖန်ပြွန် (vacuum tube) ပေါ်လာပြီး လျှပ်စစ်စက်မှုမှာ အခြေခံ ဖြစ်လာပါတယ်။

သူ့တစ်သက်လုံး အယ်ဒီဆင်ဟာ နားပင်းမတတ် ညံ့တယ်။ ဒီလို ဒုက္ခရှိနေတာတောင် အလုပ်ကို ပင်ပင်ပန်းပန်း ဇွဲကြီးကြီးနဲ့ လုပ်နိုင်တာ အံ့သြစရာ ဖြစ်ပါတယ်။ အယ်ဒီဆင်က (ပထမဇနီး ငယ်ငယ်နဲ့ သေဆုံးလို့) နောက်အိမ်ထောင်ပြုပါတယ်။ ဇနီး တစ်ယောက်စီမှာ သားသမီးသုံးယောက်စီရပါတယ်။ နယူဂျာစီ (New Jersey)၊ အနောက်အောရိန့်ချ် (West Orange) မှာ ၁၉၃၁ မှာ သေဆုံးပါတယ်။

အယ်ဒီဆင် ပါရမီကောင်းပုံကို စိတ်ဇဝေဇဝါ ရှိစရာ မလိုပါ။ လူတိုင်းက သူဟာ အသစ်တီထွင်နိုင်တဲ့အစွမ်း အင်မတန် ကြီးမားတယ်လို့ ပြောကြပါတယ်။ သူ့အစွမ်းနဲ့ အသုံးကျတဲ့ ကိရိယာအသစ်တွေကို စာရင်းချပြတဲ့အခါ အံ့သြလို့ မကုန်နိုင်ပါ။ အနှစ်သုံးဆယ်အတွင်းမှာ ဒါတွေကို သူမလုပ်လည်း သူများလုပ်မှာပါ။ ဒါပေမဲ့ သူ့တီထွင်မှု တစ်ခုစီချ ကြည့်ရင် ဘယ်ဟာမှ မရှိမဖြစ်ဆိုတာမျိုး မပါဘူး။ ဥပမာ၊ အပူဓာတ်ရလို့ လင်းလာတဲ့မီးသီး (incandescent light) ကို အများကြီးသုံးနေကြပေမယ့် ခေတ်သစ် လူနေမှုမှာ အစားထိုးမရတဲ့ ပစ္စည်းတွေ မဟုတ်ပါ။ တကယ်ကတော့ အပူလှိုင်းနဲ့ လင်းတဲ့မီးချောင်း (fluorescent light bulb) ဟာ မီးသီးနဲ့ တည်ဆောက်ပုံ အခြေခံသိပ္ပံသဘော လုံးဝ မတူဘူး။ အဲဒါကိုလည်း အများသုံး နေကြတယ်။ မီးသီး မရှိလို့ နေ့စဉ်ဘဝမှာ ဘာမျှမထိခိုက်ပါ။ လျှပ်စစ်မီးမရှိတုန်းကလည်း ဖယောင်းတိုင်၊ ဆီမီးတိုင်၊ ဓာတ်ငွေ့မီးတိုင်တွေနဲ့ ကျေနပ်တာပဲ မဟုတ်လား။

သီချင်းဓာတ်စက် (phonograph) ဟာ ထူးဆန်းတဲ့ ပစ္စည်း မှန်ပါတယ်။ ဒါပေမဲ့ နေ့စဉ်ဘဝမှာ သူ့ကြောင့် ဘာမှ သိပ်မထူးဘူး။ အခုသုံးနေတဲ့ ရေဒီယို၊ ရုပ်သံလွှင့်၊ စကားပြော တယ်လီဖုန်းလောက် အသုံးမကျပါ။ အခု လောလောလတ်လတ် အသံဖမ်းယူပြီး မှတ်တမ်း ယူနည်းတွေ သိပ်ထွန်းကားလာတော့ ဓာတ်ပြားဓာတ်စက် မရှိလည်း ဘဝအနေအထိုင်ကို သိပ်မထိခိုက်ပါ။ အယ်ဒီဆင် မှတ်ပုံတင်တဲ့ တီထွင်ချက်တွေဟာ သူများလုပ်လက်စ သုံးလက်စ ပစ္စည်းကို သူက ယူပြီး၊ ပြုပြင်တာဖြစ်လို့ သုံးစွဲလို့ ပိုကောင်းတာ မှန်ပေမယ့် သမိုင်းမှာ ပဓာန အားကိုး လောက်တဲ့ ကိစ္စတွေလို့ မပြောနိုင်ပါ။

ဒါပေမဲ့ အယ်ဒီဆင်တီထွင်ပေးတဲ့ပစ္စည်းဟာ သိမ့်သိမ့်တုန်အောင် ကောင်းလှတယ်လို့ မရှိပေမယ့် မမေ့သင့်တဲ့ အချက်က၊ သူ့တီထွင်ချက်ဟာ တစ်မျိုး တစ်ခုမဟုတ်၊ တစ်ထောင် ကျော်တယ်။

အဲဒီအချက်ကြောင့်ပဲ ဒီစာအုပ်ထဲမှာ အယ်ဒီဆင်ကို တခြား တီထွင်သူ ဂူဂလီယယ်မို မာကိုနီ(Guglielmo Marconi) နဲ့ အလက်ဇန္ဒားဂရေဟမ်ဘဲလ် (Alexander Graham Bell) တို့အထက်က တင်ပြီးပေးထားတာ ဖြစ်ပါတယ်။

4, October, 2000.

# (၃၆) အန်တိုနီ ဗန် လီဥဝဲန်ဟောက် (၁၆၃၂ - ၁၇၂၃)

# ANTONY VAN LEEUWENHOEK (1632 – 1723)

အဏုဇီဝ (ပိုးမွှား microbes) တွေအကြောင်းကို စတင် ဖော်ထုတ်တဲ့ အန်တိုနီဗန် လီဥဝဲန်ဟောက် (Antony van Leeuwenhoek) ကို နယ်သာလန် (the Netherlands ဟော်လန်) ဒဲဖ် (Delft) မြို့မှာ ၁၆၃၂ မှာ မွေးဖွား ပါတယ်။ လူလတ်တန်းစား သားသမီး ဖြစ်ပြီး မြို့အုပ်ချုပ်ရေးမှာ ရာထူးငယ်ငယ်နဲ့ အရွယ်ကောင်းတုန်းက အမှုထမ်း ခဲ့ပါတယ်။ လီဥဝဲန်ဟောက်ဟာ မှန်ပြောင်းသေး (microscope)ကို အပျော်ကြည့်ရင်း အင်မတန်အဖိုးတန်တဲ့ အကြောင်းအရာ တစ်ခုကို စတင်တွေ့ရှိပါတယ်။ ရှေးအခါက မှန်ပြောင်းသေး တစ်ခုကို၊ ဆိုင်တစ်ဆိုင်မှာ ဝင်ပြီး အလွယ်တကူဝယ်လို့ မရနိုင်ပါ။ လီဥဝဲန်ဟောက် ကိုယ်တိုင် သူလိုချင်တဲ့ပစ္စည်းကို သူ့ဘာသာ လုပ်ယူရပါတယ်။ သူက အကြီးချဲ့မှန်မျိုး (lens) ကိုသွေးပြီး အသက်မွေးတဲ့လူလည်း မဟုတ်ပါ။ သူဟာ ဒီပညာကို ဆရာနဲ့ကျကျနန သင်ယူဖူးတာလည်း မဟုတ်ပါ။ အဲဒီတော့ ဒီကိစ္စကို အဲဒီခေတ်က မှန်သွေးတဲ့လူတွေထက် အများကြီးသာလွန်အောင် သူစွမ်းဆောင်နိုင်တာကို အမှန်တကယ် ချီးကျူး ထိုက်ပါတယ်။

သူမမွေးမီ သူ့အထက် လူ့တစ်ဆက် (အနှစ် ၂၀ လောက်က) မှန်ဘီလူးငယ် (microscope) ဖြစ်အောင် ဘယ်လိုမှန်တွေ ပေါင်းစပ်ရမယ် ဆိုတာ သိရှိနေကြပြီး ဖြစ်တယ်။ တီထွင်ပြီး မှန်ဘီလူးကို လီဥဝဲန်ဟောက်က ယူသုံးတာ မဟုတ်ပါ။ သူကိုယ်တိုင် လိုချင်တဲ့အဆင့်ကို အတိအကျ ရအောင် မှန်ပြားငယ် (lens) တွေကို အများကြီး ဂရုစိုက်ပြီး သွေးယူပါတယ်။ အဲဒီအခါ လီဥဝဲန်ဟောက်ဟာ အထက်ထက်က ပေါ်ထွန်းပြီးသား မှန်ဘီလူးငယ်တွေထက် ပြတ်သား ထင်ရှားအောင် အကြီးချဲ့ ပေးနိုင်တဲ့ မှန်ငယ်တွေကို ရရှိလာပါတယ်။ အခုအထိ သူသွေးယူခဲ့တဲ့ မှန်ငယ်တစ်ချပ်ဟာ မပျက်မစီး ရှိသေးတယ်။ အဲဒီမှန်ဟာ အဆ ၂၇၀ အကြီး ချဲ့ပြနိုင်တဲ့မှန် ဖြစ်ပါတယ်။ သူဟာ အဲဒီမှန်ထက် ပိုပြီးအကြီးချဲ့ အားရှိတဲ့ မှန်တွေကိုလည်း သွေးခဲ့မယ်လို့ ပြောနိုင်စရာ ရှိပါတယ်။ လီဥဝဲန်ဟောက်ဟာ အထူးသည်းခံပြီး စိတ်ရှည်ရှည်နဲ့ လေ့လာနိုင်သူ ဖြစ်တယ်။ မျက်စိကလည်း ထိုးထွင်း မြင်တတ်တယ်။ ဘာဖြစ်မလဲလို့ သိချင်စိတ်ကလည်း

သိပ်ပြင်းထန်တယ်။ သိပ်သေးတဲ့ မှန်ငယ်တွေနဲ့ ပစ္စည်းမျိုးစုံကို ကြည့်စမ်းတယ်။ လူ့ဆံပင်ကနေ ခွေးထီးသုတ်ရည် (semen) ထိ၊ မိုးရေကနေ ပိုးမွှားသေးသေးထိ၊ ကြွက်သားမျှင် (muscle fibres) အရေပြားစတဲ့ စမ်းသပ်ပစ္စည်း (Specimens) တွေ မျိုးစုံအောင် လေ့လာတယ်။ ပြီးတော့ မြင်သမျှကိုလည်း မှတ်တမ်းအပြည့်အစုံ ရေးထားတယ်။

သူလေ့လာ ပြီးသမျှကိုလည်း အသေးအမွှားပါ မကျန်ရအောင် ပို့ဆွဲထားတယ်။ သူ့ခေတ်က သိပ္ပံအသင်း ထဲမှာ ခေါင်ဆွဲတဲ့ အင်္ဂလန်တော်ဝင်အသင်း (The Royal Society Of England) နဲ့ လီဥဝဲန်ဟောက်ဟာ ၁၆၇၃ ကစပြီး စာနဲ့ အဆက်အသွယ်လုပ်ခဲ့တယ်။ (သူက မူလတန်းပဲ နေဖူးပြီး ဒတ်ချ် Dutch ဘာသာစကားကလွဲလို့ တခြား ဘာစကားမှမတတ်ပါ။ အဲဒီလို စာဘက်က ညံ့ပေမယ့်) သူ့ကို ၁၆၈၀ ပြည့်မှာ အသင်းတော်က ရောင်းရင်း (fellow) အဖြစ် ရွေးကောက်ချီးမြှင့်ပါတယ်။ သူက ပါရီ သိပ္ပံပညာရှင်အဖွဲ့ (The Academy Of Sciences in Paris) ရဲ့ စာပေးစာယူ အဖွဲ့ဝင်ဖြစ်ပါတယ်။

လီဥဝဲန်ဟောက်က နှစ်ကြိမ် အိမ်ထောင်ပြုဖူးတယ်။ သားသမီး ခြောက်ယောက်ရှိတယ်။ မြေးတစ်ယောက်မှ မရဘူး။ ကျန်းမာရေးကောင်းလို့ အသက်အရွယ် အိုမင်းတဲ့ အထိ အလုပ်လုပ်နိုင်တယ်။ ရုရှားဘုရင်ကြီး (Czar of Russia, မဟာပီတာ Peter the Great) နဲ့ အင်္ဂလန် ဘုရင်မကြီးတို့လို မင်းစိုးရာဇာတွေကလည်း သူ့ဆီကို ဝင်လာတတ်တယ်။ ဒီဖ်မှာပဲ အသက်ကိုးဆယ်အရောက် ၁၇၂၃ မှာ ကွယ်လွန်ပါတယ်။

လီဥဝဲန်ဟောက်ဟာ အရာရောက်တဲ့ အကြောင်းတရား တွေကို တွေ့ရှိပါတယ်။ စပမ်းမက်တိုဇွာ (Spermatozoa အထီးသုတ်ရည်) ကို ၁၆၇၇ က ပထမဆုံး ဖော်ပြ ပြောဆိုနိုင်သူ ဖြစ်ခဲ့တယ်။ သွေးနီကော်ပါဆဲ (red blood corpuscles) ကို စတင် ရှင်းပြနိုင်သူတွေထဲ သူလည်းပါတယ်။ သတ္တဝါငယ်တွေမှာ အလိုအလျောက် မျိုးပွား (spontaneous generation) တယ် ဆိုတဲ့ သီအိုရီဟာ မဟုတ်ဘူးဆိုတဲ့ သက်သေတွေကို ပြနိုင်သူဖြစ်တယ်။ အဲဒီလိုပဲ လှေး (flea) တွေဟာ အတောင်နဲ့ ပျံနိုင်တဲ့ မွှားတွေလို မျိုးပွား (propagate) တယ်လို့ ထင်ရှားအောင် ရှင်းလင်း ပြောပြနိုင်တယ်။

သူ့အကြီးကျယ်ဆုံး အသစ်တွေ့ရှိချက်က ၁၆၇၄ မှာ အဏုဇီဝပိုးမွှား (microbes) တွေကို လေ့လာခြင်းပဲ ဖြစ်ပါတယ်။ အဲဒီလေ့လာရေးဟာ လူ့သမိုင်းမှာ အမြင့်မားဆုံး သုတ်သွေးဆိုင်ရာ ရှာဖွေတွေ့ရှိခြင်း (great seminal discoverys) ပဲ ဖြစ်ပါတယ်။ ရေစက်ကလေး တစ်စက်ထဲမှာ လီဥဝဲန်ဟောက်ဟာ အင်္ဂါရပ် အပြည့်အစုံပါတဲ့ ကမ္ဘာသစ် (An entire new world) တစ်ခုကို တွေ့တယ်။ အထဲမှာ လှုပ်ရှားသွားလာနေတဲ့ သက်ရှိသတ္တဝါ အမြောက်အမြားကို လုံးဝ မမျှော်လင့်ဘဲ တွေ့နေရပါတယ်။

အဲဒီတုန်းက လူသတ္တဝါတွေအတွက် အင်မတန် အကျိုးပြုမယ့် ရှာဖွေတွေ့ရှိချက် ဖြစ်လာမှာပါ။ အဲဒီ အကောင်မှုန်မွှား (Animalcules) တွေဟာ လူတွေရဲ့

အသက်ကို ရှည်စေ၊ တိုစေနိုင်တယ်။ ဒါတွေကို လီဥဝဲန်ဟောက် ဟာ လေ့လာပြီးတဲ့နောက် နေရာတိုင်း လိုမှာ အဏုဇီဝပိုးမွှားတွေကို တွေ့တယ်။ ရေတွင်း၊ ရေကန်၊ မိုးရေ၊ လူ့ခံတွင်း၊ လူ့အသည်းအူတွေမှာ ရှိနေတယ်။ ဒီပရိုတိုဇွာ (protozoa) အပါအဝင် ပိုး (bacteria ဘက်တီးရီးယား) မျိုးစုံကို ဘယ်အရွယ်ရှိသလဲ တိုင်းထားတယ်။

လီဥဝဲန်ဟောက်ရဲ့ ကြီးမားတဲ့ တွေ့ရှိချက်ကို လက်တွေ့သုံးတဲ့ ပုဂ္ဂိုလ်က နောက်အနှစ်နှစ်ရာနီးပါးကြာမှ ပေါ်တယ်။ ပါ့စချာ (Pasteur) ဖြစ်ပါတယ်။ တကယ်က သေးငယ်တဲ့ ဇီဝဗေဒ (microbiology) ဘာသာရပ် တစ်ခုလုံးဟာ ဘယ်သူမှ သိပ်အလေးဂရုမပြုဘဲ ရှိနေရာက တစ်ဆယ့်ကိုးရာစုနှစ်မှာ အများကြီးကောင်းတဲ့ အဏုဇီဝကြည့်ကိရိယာ (မှန်ပြောင်းငယ် microscope) ပေါ်လာတော့မှ အဲဒီပညာရပ်က ထွန်းကားလာပါတယ်။ ဒီလိုဆိုရင် လီဥဝဲန်ဟောက်သာ မပေါ်ပေါက်ခဲ့ရင်၊ သူတွေ့ရှိတဲ့ ပညာရပ်ဟာ တစ်ဆယ့်ကိုးရာစုနှစ်ရောက်မှ ပေါ်လာမယ်။ သူ့ဉာဏ်စွမ်းဟာ သိပ္ပံရဲ့တိုးတက်မှုမှာ နည်းနည်းပဲ အရာရောက်တယ်လို့ ဆိုရမယ်။ တစ်ဖက်က ကြည့်ပြန်တော့ လီဥဝဲန်ဟောက်ဟာ အဏုဇီဝရုပ် (microbes)ကို စတွေ့တယ်။ သူ့ကြောင့် သိပ္ပံနယ်မှာ၊ ဒီလို သတ္တဝါငယ်တွေရှိပါကလားလို့ နိုးကြားခဲ့ရပါတယ် ဆိုတာတော့ ငြင်းမရပါ။

လီဥဝဲန်ဟောက်ဟာ အရေးပါတဲ့ သိပ္ပံအသိတစ်ခုကို ခလုတ်တိုက်မိလို့ တွေ့တာလို့ ပြောရမလား၊ ဒီလိုပြောရင် ဒီစကားထက်မှားတဲ့စကား မရှိနိုင်ပါ။ သူတွေ့တဲ့အဏုဇီဝရုပ် (သိပ်သေးငယ်တဲ့အကောင် micro organisms) တွေဟာ၊ သူကိုယ်တိုင်ကြည့်တဲ့ ကိရိယာကိုရအောင် သိပ်ကြိုးစား ရတယ်။ အရင်က ဒါလောက်ကောင်းတာမရှိဘူး။ အထူး ကောင်းလာတဲ့ ကိရိယာ စိတ်ရှည်ရှည်နဲ့ ကြည့်တယ်။ မြင်ရပုံကို တိကျမှန်ကန်အောင် မှတ်သားတယ်။ တစ်မျိုးပြောရရင် သူ့ရဲ့ကျွမ်းကျင်မှု၊ သူ့ရဲ့ဇွဲကြောင့်တွေ့တာ၊ ကံကောင်းလို့ တွေ့တာ လုံးဝ မဟုတ်ပါ။

သိပ္ပံတွေ့ရှိချက်တွေထဲမှာ ဒါလောက် အရေးပါတာ၊ ကျေးဇူးရှိတာ သိပ်မရှိပါ။ တစ်ယောက်တည်းရဲ့အစွမ်းနဲ့ တွေ့တယ် ဆိုတာလည်း တကယ်ထင်ရှားတယ်။ လီဥဝဲန်ဟောက်က တစ်ယောက်တည်း အလုပ်လုပ်သူ ဖြစ်ပါတယ်။ သူတွေ့တဲ့ ပရိုတိုဇွာ (protozoa) နဲ့ ဘက်တီးရီယား (bacteria) တွေဟာ သူစ မပြောခင်က ဒါမျိုး ရှိတတ်တယ်လို့ ဘယ်သူမှမတွေးမိပါ။ ဇီဝဗေဒမှာ ရှေ့က တွေ့ပြီးသား အကြောင်းအချက်ကို နောက်ဆက်ပြီး တိုးပွား တွေ့ရှိချက်တွေသာ ရှိတယ်။ အခုလို သူတစ်ဦး တည်း သိတာမျိုး အရင်က မရှိဖူးလို့တစ်ကြောင်း၊ ဒီအသိပညာကို တကယ်ယူပြီး အသုံးချတဲ့အခါမှာလည်း သိပ်ကျေးဇူးရှိလို့ တစ်ကြောင်း သူ့ကို ဒီစာအုပ်ရဲ့ ရှေ့တန်း နေရာမှာ ထားတာဖြစ်ပါတယ်။

7, October, 2000.

# (၃၇) ဝီလီယမ် တီ ဂျီ မော်တင် (၁၈၁၉ – ၁၈၆၈)

# WILLIAM T.G. MORTON (1819 – 1868)

ဝီလီယမ် သောမတ်စ်ဂရင်း မော်တင် (William Thomas Green Morton) ဆိုတဲ့ နာမည်ကြားရုံနဲ့ ဘယ်သူ ဘယ်ဝါ ရယ်လို့ သိသူ မရှိသလောက်ပါ။ ဒါပေမဲ့ သူက ကျော်ကြားတယ် ဆိုတဲ့လူတွေထက် ပိုပြီး ကျော်ကြားရမယ့် ပုဂ္ဂိုလ်ပါ။ သူ့ကြိုးစားချက်ကို အရင်းမူလပြုပြီး ခွဲစိတ် ကုသတဲ့အခါ (surgery) မှာ မေ့ဆေး (Anaesthesia) ပေါ်လာတာဖြစ်ပါတယ်။

လူသားတွေက သမိုင်းတစ်လျှောက်မှာ မေ့ဆေး လောက် တန်ဖိုးမြင့်မြင့်ထားတဲ့ တီထွင်မှုမျိုး နည်းနည်းပဲ ရှိမယ်။ လူ့အနေအထိုင်မှာ ဒီဆေးလို သိသိသာသာ သက်သာ သွားစေနိုင်တာမျိုး နည်းနည်းပဲရှိမယ်။ ခွဲစိတ်ဆရာဝန်က လူနာ သတိကောင်းကောင်းရှိရက်မှာ သူ့အရိုးကိုလွှနဲ့ဖြတ်နေရင် လူနာ ဘယ်ထိအောင် အခံရခက်မလဲဆိုတာ ခုအခါ မတွေးဝံ့အောင် ရှိပါတယ်။ အဲဒီဝေဒနာမျိုး အခု မခံစားရအောင် လုပ်ပေးနိုင်လို့ လူလူချင်း အကြီးဆုံးစောင်မကူညီခြင်း ဖြစ်ပါတယ်လို့ ပြောလို့ရပါတယ်။

မက်ဆာချူးဆက် (Massachusetts) နယ်၊ ချာလ်တန် (Charlton) မှာ မော်တင်ကို ၁၈၁၉ ခုနှစ်မှာ မွေးဖွား ခဲ့ပါတယ်။ လူလားမြောက်တဲ့အခါ ဘော်လ်တီမိုး ကောလိပ် (Baltimore College) မှာ သွားဘက်ဆရာဝန် ပညာကို သင်ယူခဲ့တယ်။ ၁၈၄၃ မှာ သွားဆရာဝန် ဖြစ်လာ ပါတယ်။ ၁၈၄၂ – ၁၈၄၃ နှစ်တွေမှာ ဟောရေ့စ်ဝဲလ်စ် (Horace Wells) ရဲ့လက်ထောက် ဖြစ်ပါတယ်။ သူ့ထက် အသက်ကြီးတဲ့ ဝဲလ်စ် ကိုယ်တိုင်က မေ့ဆေးကို စိတ်ဝင်စား ပါတယ်။ သူတို့ဖက်စပ်သဘော အလုပ်လုပ်တာ သိပ် အဆင်မပြေဘူး ထင်ရတယ်။ ၁၈၄၃ မှာ လူချင်း ခွဲခွာလိုက်ကြတယ်။ နောက်တစ်နှစ်အတွင်းမှာ ဝဲလ်စ်က ရယ်ငွေ့ (laughing gas) လို့ တင်စားပြီးခေါ်ကြတဲ့ နိုက်ထရပ်စ်အောက်ဆိုဒ် (Nitrous Oxide) ကို မေ့ဆေးသုံးဖို့ စမ်းသပ်ကြည့်တယ်။ ကွန်နက်တိကပ် (Connecticut) နယ်၊ ဟာ့ဒ်ဖို့ဒ် (Hertford) မှာ သွားစိုက်ရင်း ဒီလိုအငွေ့ကိုသုံးဖို့ စမ်းသပ် အောင်မြင်ခဲ့တယ်။ ဘော့စ်တန် (Boston) မှာလာပြီး လူအများရှေ့မှာ အငွေ့ရဲ့အကျိုးအာနိသင်ကို ထင်ရှား အောင် လက်တွေ့ပြတဲ့အခါ ကံမကောင်းချင်တော့ ပြောသလိုမဖြစ်လို့ (အရှက်ကွဲတယ်)။

မော်တင်က သွားစိုက်ပေးတဲ့အလုပ်ကို လုပ်ပါတယ်။ ဒါကို စနစ်တကျဖြစ်အောင် မကောင်းတဲ့ သွားဟောင်းကို နုတ်ရတယ်။ မေ့ဆေး မပေါ်ခင်က သွားနုတ်ရတာ သိပ်နာ တယ်။ ဒါကြောင့်လည်း မေ့ဆေး တစ်မျိုးမျိုးရှိမှ ဖြစ်တော့ မယ် လို့ သဘောပေါက်ကြတယ်။ မော်တင်က သူ့ လုပ်ငန်းမှာ နိုက်ထရပ်စ်အောက်ဆိုဒ်နဲ့ မလုံလောက်ဘူး ဆိုတာ သိလို့ ပိုစွမ်းတဲ့ဆေးကို ရှာရပါတယ်။

မော်တင်သိတဲ့ပညာရှင် ဆရာဝန် ချားလ်စ်တီ ဂျက်ဆင် (Charles T.Jackson) က အီသာ (ether) ကို စမ်းပြီး သုံးကြည့်ပါလို့ ခိုင်းတယ်။ အရင်နှစ်ပေါင်း သုံးရာကျော်ကပဲ ဆွစ်နိုင်ငံသား နာမည်ကျော် သမား တော်ကြီးနဲ့ ဓာတ်ဖိုဆရာ (အဂ္ဂိရတ်သမား Alchemist) ဖြစ်တဲ့ ပါရာဆဲလ်စပ်စ် (Paracelsus) က အီသာမှာ မေ့ဆေးဖြစ်နိုင်တဲ့ ဂုဏ်သတ္တိရှိကြောင်း သိပါတယ်။ ဒါမျိုးကိုညွှန်းတဲ့အစီရင်ခံစာ (reports) တစ်ခု နှစ်ခုလည်း တစ်ဆယ့်ကိုးရာစုနှစ်ဦးက ပုံနှိပ်ဖြန့်ဝေဖူးပါတယ်။ ဒါပေမဲ့ ဂျက်ဆင်နဲ့တကွ အီသာ အကြောင်း စာတမ်းရေးတဲ့လူတွေဟာ ဒီဓာတ်ပစ္စည်းကို လူနာခွဲစိတ် (surgical Operation) တဲ့အခါ မသုံးဖူးပါ။

မော်တင်ကတော့ အီသာကိုပဲ စိတ်မှာစွဲလမ်းပြီး သူလိုချင်သလို သုံးလို့ ဖြစ်နိုင်စရာရှိတယ်။ စမ်းသပ် ကြည့်မယ် ဆိုပြီး ပထမဆုံး သူမွေးထားတဲ့ခွေး (pet dog) ကို စမ်းတယ်။ သူ့ခန္ဓာကိုယ်မှာလည်း စမ်းသပ်ကြည့်တယ်။ နောက်ဆုံး ၃၀ စက်တင်ဘာ ၁၈၄၆ မှာ လူနာကို အီသာ ပေးပြီး စမ်းသပ်အောင်မြင်ခဲ့ပါတယ်။ ဖြစ်ပုံက ဒီလိုပါ။ အေဘင်ဖရော့စ် (Eben Frost) က သွားကိုက်လွန်းလို့ မော်တင့် ဆေးခန်းကိုဝင်လာပြီး အဆမတန်ကိုက်နေလို့ သွားနုတ်တဲ့အခါ သက်သာအောင် ဘာလုပ်လုပ် လုပ်ပါ ဆိုလာတယ်။ မော်တင်က အီသာသုံးပြီး သွားကို နုတ်ပါတယ်။ မေ့ဆေးပြေတော့ ဖရော့စ်က နာမှန်း၊ ကျင်မှန်း လုံးဝမသိဘူးလို့ ပြောပါတယ်။ ဒါထက် ကောင်းတဲ့ သက်သေ လိုပါသေးသလား။ မော်တင်က ငါအောင်ပြီ လို့ သိလိုက်ပါပြီ။ ထင်ပေါ်ကျော်ကြားမယ်၊ ချမ်းသာမယ်။ သွားနုတ်တာ အောင်မြင်တယ်။ ဟုတ်မှန်ကြောင်း မျက်မြင် ကိုယ်တွေ့ သက်သေတွေလည်း ရှိတယ်ဆိုပြီး၊ နောက်တစ်နေ့ ဘော့စတန်သတင်းစာတွေမှာ ပါပေမယ့် အလေး ဂရုထားပြီး ဒီအကြောင်းကို ပြောဆိုဆွေးနွေးခြင်း မလုပ်ကြပါ။ ဆိုလိုတာက အခုထက်ပိုပြီး လူပရိသတ်ရှေ့မှာ ပြဖို့လိုနေပါပြီ။

ဘော့စတန်မှာရှိတဲ့ မက်ဆာချူးဆက်ဆေးရုံကြီးရဲ့ ခွဲစိတ်ကုသ ဆရာဝန်ကြီး (Senior Surgeon) ဒေါက်တာ ဂျွန်စီဝါရင် (Dr. John C. Warren) ကို **'ခွဲစိတ်တဲ့အခါ မနာမကျင်အောင် သုံးဖို့ဆေးရှိတယ်။ ဆရာဝန်တွေရှေ့မှာ ခွဲပြမယ်။ ခွဲစိတ်ပြသဖို့ စီစဉ်ပေးပါ'** လို့ တောင်းပန်ရတယ်။ ဒေါက်တာဝါရင်က သဘောတူလို့ ၁၆ အောက်တိုဘာ ၁၈၄၆ မှာ ဆရာဝန်နဲ့ ဆေးကျောင်းသားတွေရှေ့မှာ ခွဲစိတ် ပြသပါတယ်။

ခွဲစိတ်ကုသတာကို ခံရမယ့်လူနာ ဂေးလ်ဘတ် အက်ဗော့ (Gilbert abbot) ကို မော်တင်က အီသာပေးပြီး ဒေါက်တာ ဝါရင်က အက်ဗော့ရဲ့ကုပ်ပိုး (neck) က အကျိတ် (tumor) ကို ခွဲယူ ဖယ်ရှားပေးပါတယ်။ မေ့ဆေးက

ကျေနပ်လောက်အောင် စွမ်းတယ်။ လက်တွေ့ပြပွဲဟာ အကြီးအကျယ် အောင်မြင်ပါတယ်။ ဒီလက်တွေ့ပြပွဲ အကြောင်းကို ချက်ချင်း သတင်းစာတွေမှာ ပါလာပြီး အဲဒီနောက်ပိုင်းနှစ်တွေမှာ ခွဲစိတ် ကုသရင် မေ့ဆေး (Anaesthesia) ကို အကျယ်အပြန့် သုံးစွဲ လာကြပါတယ်။

အက်ဗော့ကိုခွဲစိတ်ကုသပြီးနောက် မော်တင်ရော ဂျက်ဆင်ပါ မှတ်ပုံတင်ကြတယ်။ တစ်လအတွင်းမှာ သူတို့ရဲ့မှတ်ပုံတင်ချက်ကို လက်ခံလိုက်ပေမယ့် မော်တင်က ဒီမေ့ဆေးနည်းကို သူသာလျှင် အဦးအဖျား ရှာဖွေတွေ့ရှိသူ ဖြစ်လို့၊ သူသာ ဒီအပေါ်က အကျိုးခံစားခွင့်ကို ရယူနိုင်တယ် ဆိုတာကို၊ ဂျက်ဆင် အပါအဝင် လူတချို့က ကန့်ကွက်လို့ ရုံးတော်ကို အဆုံးအဖြတ် တင်ရပါတယ်။ ဆက်ပြောရရင် မော်တင်က သူ့ကို ဒီနည်းသစ် သုံးခွင့်ပေးပါလို့ ငွေတွေ အများကြီး ပေးပြီး ခွင့်တောင်းကြလိမ့်မယ် ထင်တာလည်း တကယ် ဖြစ်မလာပါ။ ဆေးရုံပေါင်းစုံက ဆရာဝန်မျိုးစုံဟာ အီသာကို အသုံးပြုကြပေမယ့် သူ့ကို ဝေစု (royalty) မပေးကြပါ။ ရုံးတော်မှာ တရားပြိုင် (litigation) ရလို့ ကုန်ငွေဟာ အသစ်တွေ့သူ အဖြစ်နဲ့ရတဲ့ ဉာဏ်ပူဇော်ခ ငွေထက် များနေတယ်။ ဒီလိုနဲ့စိတ်ပျက်ပြီး ငွေကြေး ကျပ်တည်းတာနဲ့ နယူးရောက် (New York) မှာ ၁၈၆၈ အရောက် အသက်လေးဆယ့်ကိုးနှစ် မပြည့်မီ သေဆုံးသွား ပါတယ်။ သွားစိုက်ပညာ (dentistry) နဲ့ တခြား အကြီးအကျယ် ခွဲစိတ်ကုသတဲ့နေရာမှာ မေ့ဆေးဟာ အသုံးတည့်တာ ထင်ရှားပါတယ်။ မော်တင်ကို လုံးလုံး ကျေးဇူးတင်ရမယ့် အစား၊ ဘယ်လောက်သာ သူ့ကျေးဇူး ရှိပြီး တခြားလူတွေကိုလည်း တွဲဖက်ပြီး ကျေးဇူးတင် ရမယ် ဆိုတာ ပိုင်းဖြတ်ဖို့လိုလာပါတယ်။ အရင်းကျကျ ပတ်သက်သူတွေက ဟောရေ့စ်ဝဲလ်စ် (Horace Wells)၊ ချားလ်ဂျက်ဆင် (Charles Jackson) နဲ့ ဂျော်ဂျီယာ (Georgia) က ဆရာဝန် ခရော့ဖို့ဒ် ဒဗလျူလောင်း (Crawford W.Long) တို့ ဖြစ်ပါတယ်။ အချက်အလက်တွေ ကို ချကြည့်တော့ မော်တင်ရဲ့ ဆောင်ရွက်ချက်ဟာ တခြားသူတွေရဲ့ ဆောင်ရွက် ချက်ထက် အမှန်ပိုကြောင်း သိရပါတယ်။

အဲဒါကြောင့် သူ့ကို ဒီစာအုပ်မှာ နေရာ ကောင်းကောင်း ပေးထားတာ ဖြစ်ပါတယ်။ ဟောရေ့စ်ဝဲလ်စ် ဟာ မော်တင်က အီသာကိုသုံးတဲ့အခါ ကျေနပ် လောက်အောင် အောင်မြင်တဲ့အထိ သုံးတတ် တာထက် နှစ်နှစ်စောပြီး မေ့ဆေးကိုသုံးခဲ့ဖူးတယ်။ ဒါပေမယ့် ဝဲလ်စ်သုံးတဲ့ဆေးက နိုင်ထရပ်စ်အောက်ဆိုဒ် ဖြစ်တယ်။ ခွဲစိတ်ပညာမှာ အကြီးအကျယ် တိုးတက် ပြောင်းလဲအောင် လုပ်နိုင်စွမ်း မရှိပါ။ ဒီဓာတ်မှာ အစွမ်း မရှိဘူးလို့ မပြောနိုင်ပေမယ့် ကြီးကျယ်တဲ့ ခွဲစိတ်ကုသစရာ ကိစ္စရှိရင် သူတစ်ခုတည်းနဲ့ မလုံလောက်ပါ။ (ကနေ့ ဒီဓာတ်ကို တခြားဓာတ်တွေနဲ့ ထွေထွေရာရာ ပေါင်းစပ်ပြီး သုံးတယ်၊ သွားစိုက်ပညာမှာလည်း သုံးပါတယ်။) ဒါပေမယ့် အီသာ (ether) ကတော့ သိပ်စွမ်းတယ်။ အမျိုးစုံလည်း အသုံးတည့်တယ်။ သူ့ကိုသုံးလို့ ခွဲစိတ်ပညာမှာ အများကြီး ပြုပြင် ပြောင်းလဲ တိုးတက်မှုတွေ ပေါ်ပေါက်ခဲ့ရပါတယ်။ ကနေ့အခြေအနေမှာ အီသာတစ်ခုတည်းထက်သာတဲ့ ဓာတ်ပေါင်းတွေ၊ မေ့ဆေး

အဖြစ်နဲ့ ပေါ်နေပါပြီ။ ဒါပေမယ့် စပြီးပေါ်တဲ့အချိန်က နှစ်တစ်ရာနီးပါး အီသာကို အသုံးများ ပါတယ်။ သူ့ကိုသုံးရင် သတိပြန်ရတဲ့အခါ ငြီးစီစီ (nausea) ဖြစ်နေတတ်တယ်။ သူ့ကို မသိမ်းတတ်ရင် မီးထလောင် (inflammable) တတ်တယ်ဆိုတဲ့ အန္တရာယ်တွေရှိတာ မှန်ပေမယ့် သူ့ကို အမျိုးမျိုး အသုံးချလို့ရတယ်ဆိုပြီး ဆေးနည်းအမျိုးမျိုးမှာ သူ့ကိုပဲ ပိုနှစ်သက်ကြတယ်။ အသယ်အယူ လွယ်တယ်၊ အသုံးအစွဲလွယ်တယ်၊ ဘေး မဖြစ်ဘူး၊ စွမ်းတယ်၊ အဲဒီအချက်တွေလည်း ရှိတယ်။

ခရောဖို့ဒ်ဒဗလျူလောင်း (၁၈၁၅ – ၁၈၇၈) ဆိုတဲ့ ဂျော်ဂျီယာက ဆရာဝန်ဟာ မော်တင်စမ်းသပ်ပြတဲ့ အချိန်ထက် လေးနှစ်စောပြီး ၁၈၄၂ ကစတင်ပြီး ခွဲစိတ်တဲ့ အခါ အီသာကို သုံးခဲ့ပါတယ်။ ဒါပေမဲ့ လောင်းက သူ့အသစ် တွေ့ရှိချက်ကို ၁၈၄၉ ရောက်ခါမှ လူအများသိအောင် ကြေညာ ပါတယ်။ အဲဒီအခါ မော်တင်က ဆေးကမ္ဘာ (Medical World) ကို ‘ခွဲစိတ်တဲ့အခါ အီသာကို ကောင်းကောင်း အသုံးချနိုင်ကြောင်း’ လူသိရှင်ကြား ကြေညာပြသပြီး ဖြစ်နေပါပြီ။ အဲဒါကြောင့် လောင်းဟာ လူနာတချို့သာ သက်သာရာရအောင် လုပ်နိုင်တယ်။ မော်တင်က တစ်ကမ္ဘာလုံးကလူတွေကို ကျေးဇူးပြု နိုင်တယ်လို့ ပြောနိုင်တယ်။

ချားလ်စ်ဂျက်ဆင်က မော်တင်ကို အီသာ အသုံးဝင်ပုံ စတင်ညွှန်ပြပြီး လက်တွေ့ ဘယ်လို သုံးရမယ် ဆိုတာ ပြောပြသူဖြစ်ပေမယ့် ဂျက်ဆင်ဟာ သူကိုယ်တိုင် အသေအချာ အီသာသုံးပြီး လူနာကို မခွဲစိတ်ပါ။ ပြီးတော့ မော်တင် ပရိသတ်ရှေ့မှာ အီသာကို အသုံးပြုပြီး ပြပွဲ လုပ်ချိန် မတိုင်မီကလည်း ဒီအကြောင်းကို ဆေးကမ္ဘာက သိအောင် ပြောပြခြင်း မရှိပါ။ ဒါလုပ်ပြလို့ မစွံရင် နာမည်ပျက်မှာ မကြောက်ဘဲ မော်တင်ကသာ လုပ်ပြ ခဲ့တယ်။ တကယ်လို့ ဂေးလ်ဘတ်အက်ဗော့ (Gilbert Abbot) ဟာ ခွဲစိတ်တဲ့ စားပွဲခုံ (Operating table) ပေါ်က ပြန်ထမလာဘဲသေသွားရင် ချားလ်စ် ဂျက်ဆင်က ‘ငါလည်း အပြစ်ရှိပါတယ်’လို့ ဝင်ပြီး ဒဏ်ခံမယ့် သဘော မရှိပါ။

ဒီလိုဆိုရင် ဝီလီယမ် မော်တင်ကို ဒီကျော်စွာ တစ်ရာမှာ ဘယ်နေရာက ထားမလဲလို့ မေးပါ။ မော်တင်နဲ့ ဂျိုဆက် လစ်စတာ (Joseph Lister) ကို ဒီနေရာမှာ နှိုင်းယှဉ်ကြည့်သင့်ပါတယ်။ သူတို့နှစ်ယောက်စလုံး ဆေးဆရာဝန်တွေ ဖြစ်ပါတယ်။ နှစ်ယောက်စလုံး ခွဲစိတ် ကုသပုံနဲ့ ကလေးမီးဖွားပေးပုံမှာ နည်းစနစ် အကြီးအကျယ် ပြောင်းလဲမှုတွေ လုပ်ပေးခဲ့တယ်။ အခုပြန်ကြည့်ရင် သူတို့ထင်ရှားလာပြီး သူတို့အစွမ်းပြတဲ့နည်းမှာ သူတို့ကိုသာ ကွက်ပြီး ဂုဏ်ပြုနေလို့ မဖြစ်ပါ။ သူတို့နဲ့တွဲဖက်ပြီး သူများတွေလည်း ပါတယ်။ ဒါပေမယ့် လစ်စတာထက် မော်တင်က ပိုပြီး အရာရောက်တယ်။ အထူးသဖြင့် မေ့ဆေးက မန်းတန့်ခွဲစိတ်မှု (အနာမရင်းအောင်ခွဲစိတ်နည်း Antiseptic surgery) ထက် အများကြီး ပိုမိုအရေးပါ အသုံးတည့်တယ်လို့ ဆိုချင်ပါတယ်။ ရှင်းရှင်းပြောရရင်၊ အခုခေတ် ပဋိဇီဝဆေး (Antibiotics) တွေသုံးရင် ခွဲစိတ်တဲ့ အခါ မန်းတန့်နည်း (Antiseptic measures) တွေ မလိုတော့ပါ။ မေ့ဆေး မပါရင်၊ အသေးစိတ် အချိန်ကြာ ခွဲစိတ်ရရင် မဖြစ်နိုင်ပါ။ အမှန်တကယ် ဒုက္ခမတွေ့ခင် ခပ်လွယ်လွယ်

ခွဲတာမှာလည်း (မေ့ဆေး) ပဲ ရပါတယ်။

မော်တင်က ၁၈၄၆ အောက်တိုဘာ ၁၆ နံနက်ခင်း မှာ မေ့ဆေးကို လက်တွေ့အသုံးချပြလိုက်တာဟာ လူ့သမိုင်းမှာ ခေတ်တစ်ခေတ်ကျော်လွှန်ပြီလို့ ထင်ထင်ရှားရှား ပြတဲ့အချိန်ဖြစ်ပါတယ်။ မော်တင်ရဲ့ သင်္ချိုင်းမှာ ရေးထိုးထားတဲ့ ကမ္ပည်းစာဟာ သူ့ စွမ်းဆောင်ချက်ကို ဖော်ပြတဲ့ အကောင်းဆုံး စာတစ်တမ်း ဖြစ်ပါတယ်။

ဝီလီယမ် တီ ဂျီ မော်တင်

(William T. G. Morton)

မေ့ဆေးရှူနည်း၊ အများသိအောင်လည်း
လက်တွေ့ပြတယ်။ ဒါကြောင့် ခွဲစိတ်တဲ့အခါ
နာရမှန်းမသိ၊ မနာတော့ဘူး။ အရင်က ခွဲပြီဆိုရင်
ဝေဒနာက သိပ်ပြင်းထန်တယ်။ ခုတော့ သိပ္ပံပညာက
ဒီဝေဒနာကို ထိန်းချုပ်ပေးနိုင်ပါပြီ။

Inventor and revealer Of Anesthetic inhalation,

By whom pain in surgery was averted And
Annullet;

Before whom surgery was at all times Agony,

Since whom science has control of pain.

9, October, 2000.

# (၃၈) ဂုဂလီယယ်မို မာကိုနီ (၁၈၇၄ – ၁၉၃၇)

# GUGLIELMO MARCONI (1874 – 1937)

ရေဒီယိုတီထွင်သူ ဂုဂလီယယ်မို မာကိုနီ (Guglielmo Marconi) ကို အီတလီ (Italy)၊ ဗိုလိုညာ (Bologna) မှာ ၁၈၇၄ က မွေးဖွားပါတယ်။ မိဘတွေက ချမ်းသာကြွယ်ဝ ကြလို့ အိမ်မှာပဲ ဆရာတွေ ပင့်ပြီး ပညာသင်ပေးပါတယ်။ ၁၈၉၄ မှာ အသက် နှစ်ဆယ်ပြည့်တဲ့အခါ မာကိုနီက အရင်နှစ် အတန်ကြာ ဟိန်းနရစ်ချ်ဟာ့ဇ် (Heinrich Hertz) စမ်းသပ်ခဲ့တဲ့ အကြောင်းအချက်တွေကို ဖတ်မိတယ်။ အဲဒီ စမ်းသပ်ချက်တွေက လက်တွေ့ထင်ရှား ပြသနိုင်တဲ့ အကွက်က အလင်းရောင်ရဲ့ လျှင်မြန်ခြင်းနဲ့အတူ မျက်စိနဲ့ မမြင်နိုင်တဲ့ လျှပ်စစ်သံလှိုင်းတွေဟာ လေထဲမှာ ပျံ့လွင့် နိုင်တယ် ဆိုတဲ့ အချက် ဖြစ်ပါတယ်။

အဲဒီအခါမှာ ဝိုင်ယာကြိုးမပါဘဲ သိပ်ဝေးကွာတဲ့ နေရာတွေအထိ လိုချင်တဲ့ အကြောင်းအချက်ကို သင်္ကေတ နဲ့ပို့နိုင်တော့မယ်လို့ ဆိုတဲ့စိတ်ကူးဟာ မာကိုနီမှာ ချက်ချင်း မီးပွင့်သလို ဝင်းခနဲဖြစ်သွားတယ်။ ကြေးနန်းကြိုးနဲ့ ရိုက်ပြီး သတင်းပို့နေတာထက် အများကြီးပိုစွမ်းတဲ့နည်း ရတော့မယ် လို့ သိပြီ။ ဥပမာ၊ ဒီနည်းနဲ့ ပင်လယ်ထဲက သင်္ဘောကို သတင်းပို့နိုင်တော့မယ်။ တစ်နှစ်လောက် ကြိုးစည် စိတ်ကူး ဆောင်ရွက်တဲ့အခါ ၁၈၉၄ ခုနှစ်မှာ မာကိုနီဟာ သုံးဖြစ်တဲ့နည်းကို အောင်မြင်စွာ ဖော်ထုတ် နိုင်ပြီ။ ၁၈၉၆ ရောက်တော့ အင်္ဂလန်မှာ သူတီထွင်တဲ့ နည်းကိုပြသလို့ ဒီနည်းမှာ သူစတင်သူပဲ၊ မူပိုင် ဖြစ်တယ်လို့ အသိအမှတ် ပြုတာကို ခံရတယ်။ အဲဒီအခါ မာကိုနီက ကုမ္ပဏီ တစ်ခု တည်ထောင်ပြီး ပထမဆုံး ‘မာကိုနီဂရမ်’ (Marconigram) ကို ၁၈၉၈ မှာ ပို့လွှင့်ခဲ့တယ်။

နောက်တစ်နှစ်ကျတော့ သူက အင်္ဂလိပ် ရေလက်ကြားကို ဖြတ်ပြီး ဝိုင်ယာလက်မက်ဆေ့ချ် (Wireless Message) ပို့နိုင်ပါတယ်။ သူ့တီထွင်ချက်တွေ ထဲမှာ အရေးပါဆုံး တစ်ခုအတွက် မူပိုင်ခွင့်ကို ၁၉၀၀ ပြည့်မှာရရှိပေမယ့် ဒီအတွင်းမှာ သူ့မူပိုင် အသစ် တီထွင်တဲ့ နည်းတွေ အများကြီးရှိပါတယ်။ ၁၉၀၁ ခုမှာ အတ္တလန်တစ် သမုဒ္ဒရာကိုဖြတ်ပြီး အင်္ဂလန်က နယူးဖောင်လန် (New Found Land) ကို ရေဒီယို သတင်းပို့ နိုင်ခဲ့ပါတယ်။

အက်စ်အက်စ်ရီပတ်ဗလစ် (S.S. Republic) နာမည်ရှိတဲ့ သင်္ဘော ၁၉၀၉ ခုနှစ်က ပင်လယ်မှာ တိုက်ခိုက် နစ်မြုပ်တဲ့အခါ အခု တီထွင်ချက်ရဲ့ အသုံးတည့်ပုံကို

ပြဇာတ် စင်ပေါ် တင်ပြသလို ကွက်ကွက် ကွင်းကွင်း မြင်ကြရပါတယ်။ ရေဒီယိုသတင်းစကား (Radio message) နဲ့ အကူအညီ တောင်းခံနိုင်ခဲ့လို့ ကယ်မယ့်သူပေါ်လာပြီး လူခြောက်ယောက်ကလွဲလို့ ကျန်လူအားလုံးကို ကယ်တင် နိုင်တယ်။ အဲဒီနှစ်ကပဲ ဂုဂလီယယ်မို မာကိုနီကို သူ့တီထွင်ချက်တွေကြောင့် နိုဘယ်လ်ဆု ချီးမြှင့်ခြင်း ခံခဲ့ရပါတယ်။ နောက်တစ်နှစ်ကျတော့ ရေဒီယို အသံ လွှင့်ချက်တွေကို မိုင်ခြောက်သောင်းကျော် ဝေးတဲ့ အိုင်ယာလန်က အာဂျင်တီးနား အထိ အောင်မြင်စွာ ပေးပို့နိုင်ခဲ့ပါတယ်။

တစ်လက်စတည်း ဆက်ပြီး ပြောရမယ်ဆိုရင် ပေးပို့တဲ့ သတင်းစကားကို မော့သင်္ကေတဝှက် (မော့ကုတ် Morse code) စနစ်အရ အစက်၊ အတန်း (dot-and-dash) နဲ့ ပေးပို့ရပါတယ်။ ရေဒီယိုနဲ့ အသံကိုပို့လို့ရပြီ ဆိုတာ သိပေမယ့် ၁၉ဝ၆ ရောက်မှ ဒီလိုပို့ဖြစ်ကြပါတယ်။ ရေဒီယို အသံလွှင့်နည်း (radio broadcasting)ကို စီးပွားဖြစ် (တွင်တွင်ကျယ်ကျယ်) သုံးတာကတော့ ၁၉၂၀ ကျော်ပြီး စနှစ်တွေရောက်မှ အသုံးပြုလာကြပါတယ်။ အဲဒီအခါ ကျတော့လည်း ဒီနည်းဟာ သိပ်ခေတ်စားပြီး သိပ်အရေးပါ လာပါတယ်။

အခုလို အလွန်အမင်း အရေးပါ အသုံးဝင်တဲ့နည်းကို မူပိုင် မှတ်ပုံတင်ဖို့ ရုံးတက်ပြီး ပြိုင်ဆိုင်ငြင်းခုံကြတော့လို့ လှုံ့ဆော်ပေးသလို ဖြစ်ခဲ့ပါတယ်။ ဒါပေမယ့် ရုံးတော်က မာကိုနီကိုပဲ၊ ဒီနည်းကို ရှေးဦးအကျဆုံး ဖော်ထုတ်နိုင်သူလို့ ရှင်းရှင်းလင်းလင်းပဲ ၁၉၁၄ ခုနှစ်က ဆုံးဖြတ်ချက်ချ ပေးပြီးတဲ့နောက်မှာ ဆက်လက်ငြင်းခုံခြင်း မပြုကြတော့ပါ။ သူ့ဘဝ နိဂုံးမချုပ်ခင် နောက်ပိုင်းနှစ်တွေမှာ လှိုင်းတို(short wave) နဲ့ မိုင်ခရိုလှိုင်း (microwave) ဆက်သွယ်ရေး ဆိုင်ရာ သုတေသနမှာ အရေးပါတဲ့ အချက်တွေကို ဖော်ထုတ် ပေးခဲ့ပါသေးတယ်။ ရောမမှာ ၁၉၃၇ ခုနှစ်က ကွယ်လွန် သွားပါတယ်။

မာကိုနီဟာ နည်းသစ်ရှာပေးနိုင်သူလို့ ထင်ပေါ် ကျော်ကြားတဲ့အတွက် သူ့ကျေးဇူးကြီးမားတာကို ရေဒီယိုနဲ့ ပတ်သက်တဲ့ကိစ္စအဝဝမှာ ထင်ထင်ရှားရှား တွေ့ကြရပါတယ်။ (တယ်လီဖုန်းရှင်း) ရုပ်သံလွှင့်ကို တီထွင်သူ စာရင်းမှာ မာကိုနီ မပါ။ ဒါပေမယ့် ရေဒီယို တီထွင်တာဟာ တယ်လီဖုန်းရှင်းရဲ့ အင်မတန် အရေးပါတဲ့ ရှေ့တော်ပြေးမဟုတ်ပါလား။ အဲဒါကြောင့် ဂုဂလီယယ်မို မာကိုနီကို တယ်လီဖုန်းရှင်း ဖြစ်မြောက်အောင် လုံးပန်းသူတွေ စာရင်းမှာ ထည့်သွင်းရင် နည်းလမ်းကျမယ်၊ တရားတယ် ထင်မိပါတယ်။ ထင်ရှားတဲ့အချက်က ကြိုးမဲ့ ဆက်သွယ်ရေး (wireless communication) ဟာ ခေတ်သစ် ကမ္ဘာမှာ အင်မတန် ကြီးကျယ် အဖိုးတန် နေတယ်။ ဒီနည်းကို ကိုင်စွဲပြီး သတင်းလွှင့်တယ်။ ဖျော်ဖြေတယ်။ စစ်ရေးစစ်မှုကို ထုတ်ပြန်တယ်။ သိပ္ပံ သုတေသနကို အသိပေးတယ်။ ရဲ နဲ့ပတ်သက်တဲ့ မှုခင်းကို အများသိ စေတယ်။ တခြားကိစ္စ အများကြီး မှာလည်း သုံးပါတယ်။ ကိစ္စတော်တော်များများမှာ 'အရင် အနှစ်ငါးဆယ်အထက်က တီထွင်ခဲ့တဲ့ကြေးနန်း (telegraph) ကို ဆက်သုံးလည်း ဖြစ်တာပဲ' ဆိုပေမယ့် ကိစ္စ တော်တော်များများမှာ ရေဒီယိုကို ဖယ်ထုတ်လို့ မရပါ။ ရေဒီယိုက ဆက်သွယ်ချင်တယ်ဆိုရင်၊ လမ်းပေါ်က ယာဉ်ရဲထားနဲ့

ပင်လယ်ထဲက သင်္ဘောပေါ်ကို၊ ပျံသန်းနေတဲ့ လေယာဉ်ပျံနဲ့ လဟာပြင်က ဂြိုဟ်တု (spacecraft) အထိ လက်လှမ်းမီတယ်။ တယ်လီဖုန်းထက်ပိုပြီး အရာရောက် တာလည်း ရှင်းရှင်းကြီး သိနိုင်တယ်။

ဘာပြုလို့လဲဆိုတော့ ရေဒီယိုနေရာမှာ တယ်လီဖုန်း သုံးလည်း ဖြစ်တယ် ဆိုပေမယ့် တယ်လီဖုန်း မရောက်တဲ့ နေရာ ဆိုရင် ရေဒီယိုသတင်းကိုပဲ သုံးကြရမှာ ဖြစ်ပါတယ်။

မာကိုနီကို ခုကျော်စွာတစ်ရာစာရင်းမှာ ဂရေဟမ်ဘဲလ် (Graham Bell)ရဲ့ ရှေ့ကို ပို့ရပါတယ်။

ဘာပြုလို့လဲဆိုတော့ တယ်လီဖုန်း (telephone) ထက် ဝိုင်ယာလက် (wireless)က ပိုပြီး အရာရောက်လို့ ဖြစ်ပါတယ်။ အက်ဒီဆင် (Edison) ကို မာကိုနီ (Marconi) ထက် နည်းနည်းပိုပြီး ရှေ့ပို့ထားတာကတော့ သူက အသစ် တီထွင်ချက်တွေ သိပ်များလွန်းလို့ ဖြစ်ပါတယ်။ များတယ်ဆိုပေမယ့် သူ့တီထွင်မှုတွေက အသုံးဝင်ပုံမှာ ဘာတစ်ခုမှ ရေဒီယိုကို မမီပါ။ ရေဒီယိုနဲ့ တယ်လီဗေးရှင်း တွေဟာ မိုက်ကယ်ဖာရာဒေး (Michel Faraday) နဲ့ ဂျိမ်းစ်ကလပ်မက်စ်ဝဲလ် (James Clark Maxwell) တို့ရဲ့ သီအိုရီတွေကို နည်းနည်း လောက်ယူပြီး လက်တွေ့ လုပ်ပြတာ ဖြစ်လို့ သူတို့နှစ်ယောက်နောက်ကို မာကိုနီကို ပို့ထားတာလည်း တရားမျှတပါတယ်လို့ ထင်ပါတယ်။ ထိပ်တန်းမှာ ရှိခဲ့ဖူးတဲ့ နိုင်ငံရေးခေါင်းဆောင် လက်တစ်ဆုပ်စာ လောက်ပဲ၊ မာကိုနီလို ကမ္ဘာမှာ ဩဇာ ရှိခဲ့တာဖြစ်လို့ သူ့ကို ဒီစာအုပ်မှာ အဆင့်မြင့်မြင့်က ထည့်လိုက်တာကို ဘာကြောင့်လဲဆိုတာ ရှင်းတယ်လို့ ထင်ပါတယ်။

5, November, 2000.

# (၃၉) အဒေါ့ဖ်ဟစ်တလာ (၁၈၈၉ – ၁၉၄၅)

# ADOLF HITLER (1889 – 1945)

မနုစ်မြို့စိတ်နဲ့ အဒေါ့ဖ်ဟစ်တလာ (Adolf Hitler) ကို ဒီစာအုပ်မှာ ထည့်သွင်းရေးသားပါတယ်လို့ ဝန်ခံပါတယ်။ သူ့အစွမ်းဟာ လုပ်သမျှ ဖျက်ဆီးတာသက်သက် ဖြစ်တဲ့ အတွက်၊ ပြီးတော့ လူပေါင်း သုံးကုဋေခွဲ သေစေအောင် လှုံ့ဆော် ဆောင်ရွက်ခဲ့တဲ့အတွက်၊ ဒီလိုလူမျိုးကို ကျွန်တော် ဂုဏ်ပြုလိုစိတ် လုံးဝ မရှိပါ။ ဒါပေမယ့် ဟစ်တလာဟာ လူတွေ အများကြီး အပေါ်မှာ အင်မတန်ဩဇာညောင်း ခဲ့တယ် ဆိုတာကိုတော့ ငြင်းပယ်လို့ မရနိုင်ပါ။

ဩစတြီးယား (Austria) နိုင်ငံ၊ ဘရောနော (Braunau) မှာ ၁၈၈၉မှာ အဒေါ့ဖ် ဟစ်တလာကို မွေးတယ်။ လူငယ် တစ်ဦး အနေနဲ့ ပန်းချီဆွဲတယ်။ မအောင်မြင်ပါ။ အဲဒီတုန်းက တစ်ချိန်ချိန်မှာ သူဟာ အင်မတန် ပြင်းထန်တဲ့ ဂျာမန်မျိုးချစ်လူငယ်တစ်ဦး ဖြစ်လာတယ်။ ပထမကမ္ဘာစစ်တုန်းက သူ ဂျာမန်စစ်တပ် (German Army) မှာ အမှုထမ်းခိုက် ဒဏ်ရာရတယ်။ ရဲရဲရင့်ရင့် စွန့်စားတဲ့အတွက် တံဆိပ် နှစ်ကြိမ်ရခဲ့တယ်။ ဂျာမနီစစ်ရှုံးတဲ့ အတွက် စိတ်ထိခိုက်ပြီး ဒေါသထွက် ကျန်ရစ်တယ်။ အသက်သုံးဆယ်၊ ၁၉၁၉ မှာ မြူးနစ် (Munich) လက်ယာဂိုဏ်း ပါတီငယ်ကလေးတစ်ခုကို ဝင်လိုက်တယ်။ အဲဒီပါတီရဲ့နာမည်ကို မကြာမီ အမျိုးသား ဆိုရှယ်လစ်ဂျာမန် လုပ်သားပါတီ (National Socialist German Worker's Party) လို့ ပြောင်းတယ်။ (အတိုကောက် နာဇီပါတီ Nazi Party လို့ ခေါ်ကြတယ်။) နှစ်နှစ်ကြာတော့ သူဟာ အဲဒီပါတီရဲ့ ပြိုင်ဘက် မရှိတဲ့ ခေါင်းဆောင် ဖြစ်ခဲ့ပါတယ်။

ဟစ်တလာ ခေါင်းဆောင်ချိန်မှာ နာဇီပါတီဟာ သိပ်မြန်မြန် အားကောင်းလာပြီး နိုဝင်ဘာ ၁၉၂၃ မှာ မြူးနစ်ဘီယာ ခန်းမတော်လှန်ရေး (Munich Beer Hall Putsch) လုပ်တယ်။ မအောင်မြင်ဘူး။ ဟစ်တလာ အဖမ်း ခံရတယ်။ နိုင်ငံတော် သစ္စာဖောက်မှုနဲ့ ရုံးတင် တရားစွဲခံရပြီး အပြစ်ပေးခံရတယ်။ တစ်နှစ်ပဲ ထောင်ထဲမှာ နေရပြီး လွတ်လာတယ်။

နာဇီပါတီဟာ ၁၉၂၈ တုန်းက သေးငယ် နေပါသေး တယ်။ ဒါပေမယ့် စီးပွားရေးကပ်ကြီး ဆိုက်လာတော့ လူအများက ရှိပြီး နိုင်ငံရေးပါတီတွေ အပေါ်မှာ မကျေနပ် စိတ်တွေ ပြင်းထန်လာပြီး၊ နာဇီက မြန်မြန် ဆန်ဆန်

အားကြီးလာပြီး၊ ဇန်နဝါရီ ၁၉၃၃ မှာ ဟစ်တလာဟာ ဂျာမနီမှာ အဓိပတိ (Chanceller) ဖြစ်လာပါတယ်။

ဟစ်တလာ အဓိပတိ ဖြစ်လာတဲ့အခါ၊ အစိုးရ စက်ယန္တရား ကိုပဲ အသုံးချပြီး အတိုက်အခံရှိသမျှကို ချေမှုန်းကာ အမြန်ဆုံး အာဏာရှင်ဘဝ (dictatorship) ကို အရယူ လိုက်တယ်။ ဒီလိုလုပ်လိုက်နိုင်တာဟာ ပြည်သူ့ လွတ်လပ်မှုတွေနဲ့ လူဆိုးလူသွမ်းတွေရဲ့ အကာအကွယ်တွေ တစ်စတစ်စ ပြိုကျလာတာကြောင့်လို့ မထင်ပါ။ ပြောင်းလဲမှုက သိပ်မြန်တယ်။ နာဇီက စစ်ဆေး ဆုံးဖြတ် တာကို သိပ်အလေးမထားတာ မကြာခဏ တွေ့ပါတယ်။ ဆန့်ကျင်ဘက်ကို ရိုက်နှက် သတ်ဖြတ် ချေမှုန်းတယ်။ ဒါနဲ့တောင် စစ်ကြီးမတိုင်မီက ဂျာမနီမှာ ဟစ်တလာကို တကယ် ယုံကြည် အားကိုးပြီး ထောက်ခံခဲ့ပါတယ်။ ဘာပြုလို့လဲ ဆိုတော့ ဟစ်တလာက အလုပ်လက်မဲ့ကို နည်းအောင် လုပ်ပေးပြီး စီးပွားရေး နာလန်ထူအောင် အတင်း တွန်းပို့နိုင်လို့ဖြစ်တယ်။

ဟစ်တလာက ဂျာမနီ အောင်ပွဲရပြီး ရင်းရအောင် လုပ်နိုင်တယ်။ အဲဒါကြောင့် ဒုတိယ ကမ္ဘာစစ်ဖြစ်ရတာပါ။

ပထမ စစ်တကယ် မတိုက်ဘဲ နယ်မြေတွေ အရ သိမ်းယူ နိုင်တယ်။ အင်္ဂလန်နဲ့ပြင်သစ်က သူတို့ရဲ့ စီးပွားရေး ပြဿနာ အသီးသီးကြောင့် မအားမလပ်အောင်ရှိနေလို့ ငြိမ်းချမ်းရေးကို မရမနေ တမ်းတပြီး၊ ဟစ်တလာက ဗာဆေးစာချုပ် (Treaty of Versailles) ကို ချိုးဖောက်ပြီး ဂျာမနီ စစ်တပ်ကို ထူထောင်တယ်။ (မတ် ၁၉၃၆) မှာ ရိုင်းနယ်မြေ (Rhine Land) ကို တပ်သားတွေ လွှတ်ပြီး သိမ်းတဲ့ အပြင် ခံတပ်ကို အားဖြည့်တယ်။ (မတ် ၁၉၃၈) မှာ ဩစတြီးယားကို ဖွတ် သိမ်းယူတယ်။ (စက်တင်ဘာ ၁၉၃၈) မှာ ချက်ကိုစလိုဗက်ကီးယား (Czechoslovakia) နယ်စပ်ကို ခံတပ်ကောင်းကောင်း လုပ်ထားရက်နဲ့ ဝင်ပြီး သိမ်းယူ လိုက်သေးတယ်။ နိုင်ငံတကာ သဘောတူညီချက်ခေါ်တဲ့ မြူးနစ်ပေါင်းစည်းရေး (International agreement Munich Pact) အရ ဗြိတိသျှနဲ့ ပြင်သစ်က **‘တို့တစ်ခေတ်မှာ ငြိမ်းချမ်းရေးရပြီ’** လို့ ပြောတဲ့အတွက် ချက်ကိုစလို ဗက်ကီးယားဟာ ဘယ်ကမှ အကူအညီမရတဲ့ အတွက် သိပ်မကြာဘူး တစ်နိုင်ငံလုံးကို ဟစ်တလာက သိမ်းယူ လိုက်ပါတယ်။

အဲဒီလို လုပ်ခဲ့တဲ့ အဆင့် တစ်ဆင့်စီမှာ၊ **‘ဟစ်တလာက သူ့ဘာကြောင့် ဒီလိုလုပ်ရတယ်၊ သူ ဒီလိုလုပ်ရတာ တရားနည်းလမ်း ကျတယ်’** ဆိုတာတွေကို အင်မတန် လိမ္မာပါးနပ်စွာ တစ်ဖက်ကရှင်းပြပြီး သူလုပ်ချင်တာ မရရင် စစ်တိုက်မှာပဲလို့ ကြုံးဝါးသေးတယ်။ အဲဒီလို အဆင့်ဆင့် လုပ်တိုင်း တစ်ဆင့်စီမှာ အနောက်ဘက် ဒီမိုကရေစီနိုင်ငံတွေက ထိတ်လန့် တုန်လှုပ်ပြီး နောက်ဆုတ်ပေးကြပါတယ်။

အင်္ဂလန်နဲ့ ပြင်သစ်တို့က ဟစ်တလာ နောက် တစ်ကြိမ် သိမ်းယူတော့မယ့် ပိုလန်ကို အကာအကွယ် ပေးရမယ်လို့ ဆုံးဖြတ်ထားကြပါတယ်။ ဟစ်တလာက သူ့အတွက် အကာအကွယ်ရဖို့ ဩဂုတ် ၁၉၃၉ မှာ စတာလင် (Stalin) နဲ့

အချင်းချင်း ရန်သတ္တရု မပြုစတမ်း (non-aggression) သဘောတူညီချက်ကို နှစ်ဦး ပေါင်းပြီး သူများကို ရန်ပြုမယ် (Offensive Alliance) ဆိုတဲ့ သဘောထားကို ဆောင်ရွက်တာပဲ ဖြစ်တယ်။ ပိုလန် (Poland) ကို အာဏာရှင်နှစ်ဦး ဘယ်ပုံဘယ်နည်း ဝေယူကြမယ်လို့ ညှိနှိုင်းထားပြီး ဖြစ်ပါတယ်။ နောက် ကိုးရက်ကြာတော့ ပိုလန်ကို ဂျာမနီက တိုက်ခိုက် ပါတယ်။ ပြီးတော့၊ နောက်တစ်ဆယ့်ခြောက်ရက်ကြာတော့ ဆိုဗီယက် ယူနီယံ (Soviet Union) ကလည်း လာရောက် တိုက်ခိုက်ပါတယ်။ အင်္ဂလန်နဲ့ ပြင်သစ်က ဂျာမနီကို စစ်ကြေညာပေမယ့် ပိုလန်ကတော့ အလျင်အမြန် အရေးရှုံးနိမ့် ပျက်စီးသွားရပါတော့တယ်။

ဟစ်တလာ တန်ခိုး အရှိန်အဝါ အကြီးဆုံးအချိန်က ၁၉၄၀ ပြည့်နှစ်ဖြစ်တယ်။ အဲဒီနှစ် ဧပြီမှာ သူ့ စစ်တပ်တွေက ဒိန်းမတ် (Denmark) နဲ့ နော်ဝေး (Norway) ကို ဝါးမျို လိုက်တယ်။ မေမှာ ဟော်လန် (Holland)၊ ဘယ်လ်ဂျီယန် (Belgium) နဲ့ လူဇမ်ဗတ် (Luxembourg) ကို ကျော်နင်း စိုးမိုး ပြီးစီးပါတယ်။ ဇွန်မှာ ပြင်သစ်က အညံ့ခံလိုက်တယ်။ ဒါပေမယ့် အဲဒီနှစ် ကုန်ခါနီးတော့ ဗြိတိသျှက ဗြိတိန် ဗိုလ်လုပွဲ (Battle of Britain) လို့ အထူးကျော်ကြား ထင်ရှားလောက်အောင် တိုက်ခိုက်တဲ့ပွဲကြီး ပေါ်ပေါက် ခဲ့ပါတယ်။

ဂျာမန်လေတပ် (German Airforce) က အလီလီ အခေါက်ခေါက် ကာလကြာမြင့်အောင် တိုက်ခိုက်တာကို ဗြိတိသျှတို့က ကြံ့ကြံ့ခံနိုင်ခဲ့လို့ အင်္ဂလန်ကျွန်းပေါ်ကို ဟစ်တလာ တက်ရောက်ခွင့် မရတော့ပါ။

ဟစ်တလာရဲ့တပ်တွေက ဧပြီ ၁၉၄၁ မှာ ဂရိနဲ့ ယူဂိုစလားဗီးယား (Yugoslavia) ကို သိမ်းယူတယ်။ ဇွန် ၁၉၄၁ မှာ ဟစ်တလာက ရုရှားနဲ့ အချင်းချင်း ရန်သတ္တရု မပြုရေး သဘောတူချက်ကို အရေးမစိုက် ဆုတ်ဖြဲပစ်တဲ့ သဘောမျိုးနဲ့ ဆိုဗီယက်ကိုပါ ဝင်ရောက် တိုက်ခိုက် လိုက်တယ်။ ဆိုဗီယက်ပြည်နယ်မြေ အကျယ်ကြီးကို သိမ်းယူနိုင်ပါတယ်။ ဒါပေမယ့် ဆောင်းကာလ မရောက်ခင်မှာ ရုရှစစ်တပ်တွေကို လက်စတုံးအောင် မချေမှုန်းနိုင်ပါ။ အင်္ဂလန်နဲ့ ရုရှကို ပြိုင်တူ စစ်တိုက်နေ ရပါရက်နဲ့ ဒီဇင်ဘာ ၁၉၄၁ ရောက်တဲ့အခါ အမေရိကန် ပြည်ထောင်စု (USA) ကို စစ်ကြေညာခဲ့ပါတယ်။ နောက် ရက်မကြာမီ ဂျပန်က အမေရိကန်ပြည်ထောင်စု ရေတပ်စခန်း ရှိတဲ့ ပါးလ်ဟာဘား (Pearl Harbour) ကို တိုက်ခိုက်ပါတယ်။

၁၉၄၂ခု နှစ်လယ်ရောက်တဲ့အခါ သမိုင်းမှာ ဘယ်နိုင်ငံမှ ဥရောပမှာ ခုလောက်ကြီးကျယ်တဲ့ အစိတ်အပိုင်းကို၊ အခု ဂျာမနီ ပိုင်သလို မပိုင်ဆိုင်ဖူးပါ။ အဲဒါအပြင် ဂျာမနီက မြောက်အာဖရိကကို အုပ်ချုပ် နေပါသေးတယ်။ အတက်ရပ်ပြီး အကျ စတာ ၁၉၄၂ ခု နောက်ပိုင်း ထက်ဝက်မှာ တွေ့ကြရပါပြီ။

အဲဒီအခါက ဂျာမနီဟာ စစ်ကြီးကို နောက်ဆုံး အဆုံးအဖြတ် ပေးနိုင်မယ့် အီဂျစ် (Egypt) မှာ အယ်လ်အလာမိန်း (El Alamein) စစ်၊ ရုရှမှာ စတာလင်ဂရက် (Stalin grad) စစ်ကို ဂျာမနီရှုံးတယ်။ အဲဒီလို နောက်တွန့်တာကစပြီး ဂျာမနီဟာ

စစ်နဲ့ ပတ်သက်လို့ အရင်ကလို လာဘ်မကောင်းတော့ပါ။ ဖြည်းဖြည်းနဲ့ မှန်မှန် ရှုံးနိမ့်လာပါတယ်။ ဂျာမနီဟာ ဒီလိုနဲ့ပဲ မလွဲမသွေ ရှုံးရတော့မှာပါလားလို့ သိပေမယ့် ဟစ်တလာက ပန်းမပေးပါ။ ကြောက်လန့်စရာကောင်းလောက်အောင် သူ့တပ်သားတွေ သေပေမယ့်လည်း စတာလင်ဂရက်မှာ စစ်ရှုံးပြီးနောက် နှစ်နှစ်ကျော်ဆက်ပြီး စစ်တိုက် နေပါသေး တယ်။ ၁၉၄၅ နွေဦးမှာ ခါးခါးသီးသီး ပျက်စီးချိန် ဆိုက်ရောက် လာပါတော့တယ်။ ၃၀ ဧပြီ၊ ဘာလင်မှာ ဟစ်တလာ ကိုယ့်ကိုယ်ကို သတ်သေ တယ်။ နောက် ခုနစ်ရက် ကြာတော့ ဂျာမနီ လက်နက်ချတယ်။

အာဏာတက်ချိန်မှာ ဟစ်တလာဟာ မျိုးပြုတ် အောင် သတ်ဖြတ်တဲ့ဝါဒ (Genocide Policy)ကို သမိုင်းမှာ တစ်ခါမှ မကြုံဖူးအောင် အကြီးအကျယ်ပြုလုပ်တယ်။ လူမျိုး မုန်းတီးရေးမှာ 'ထူးအောင်ရှုံးတယ်' လို့ ပြောရမယ်။ ဂျူး (Jew) တွေကို ဦးတည်ပြီး ပြင်းပြင်းထန်ထန် မုန်းတယ်။ အတိအကျ ကြံစည်သတ်မှတ်ပြီး ကမ္ဘာမှာ ဂျူးလူမျိုးပြုတ်မှ သူ့ရည်ရွယ်ချက် အောင်မြင်မယ်လို့ ကြံစည်ထားပြီး ဖြစ်ပါတယ်။

သူ့လက်ထက်မှာ နာဇီတွေက လူအများကို သိုလှောင်ပိတ်ပြီး သတ်ပစ်တဲ့စခန်းကြီး (Large Concentration Camps) တွေဖွင့်ပြီး လူအရာအထောင်ကို ပြိုင်တူ သေဆုံးအောင် ဓာတ်ငွေ့လွှတ်ပြီး သတ်နိုင်တဲ့ အခန်းကြီးတွေ လုပ်ထားတယ်။ သူပိုင်တဲ့ ဘယ်နိုင်ငံမှာပဲ ဖြစ်ဖြစ် အပြစ်မရှိတဲ့ကလေးနဲ့ အမျိုးသမီးတွေပါ မချန် လူအများကို ပိတ်ဆို့ဖမ်းယူပြီး ကျွဲ၊ နွားပို့တဲ့ ရထားတွဲ တွေမှာ တင်ပြီး ဓာတ်ငွေ့အခန်းကြီးထဲကို မောင်းသွင်း လိုက်တယ်။ နှစ်အနည်းငယ်အတွင်းမှာ ဒီနည်းနဲ့ ဂျူး ၆၀၀၀၀၀၀(ခြောက်သန်း) ခန့် သေကြရတယ်။ ဟစ်တလာ အသတ်ခံရတာ ဂျူးတွေလောက်ပါပဲလို့ မထင်နဲ့။ သူ့လက်ထက် (regime) မှာ ကြက်သီး မွေးညှင်း ထလောက်အောင် များပြားတဲ့ ရုရှအမျိုးသား (Russians) တွေ၊ ခြေသလုံးအိမ်တိုင်ထူပြီး မြေပြင်အနှံ့ လှည့်လည် သွားနေတဲ့ ဂျစ်ပစီ (Gypsies) တွေကိုလည်း သတ်တယ်။ ဒီလိုပဲ သူ့ဆုံးဖြတ်ချက်အရ လူမျိုးညံ့တယ်၊ သူ့အထင်မှာ နိုင်ငံနဲ့မတန်ဆိုတဲ့ လူတွေကိုလည်း သတ်ရတယ်။ ဒီလို သတ်တာဟာ သွေးဆူနေတုန်း စစ်တိုက်ရင်း လက်လွန် ခြေလွန် တစ်နေရာတည်းစွဲပြီးသတ်ပစ် လိုက်တာမျိုး မဟုတ်ပါ။ ဟစ်တလာရဲ့လူသတ်စခန်း (Death Camp) ဟာ စီးပွားရေးလုပ်ငန်းရှင်ကြီးတွေ စက်ရုံဆောက်၊ ကုန်ကြမ်းပစ္စည်းသွင်းဖို့၊ ကုန်ချော ပစ္စည်းထုတ်ဖို့ လမ်းအဆက်အသွယ်တွေ ဖောက်ပြီး အကျအန ပြင်ဆင်ထားတဲ့ စခန်းကြီးတွေ ဖြစ်တယ်။ မှတ်တမ်း တွေလည်း ရှိတယ်။ ခွဲတမ်းနဲ့ တစ်လှည့်စီ ဘယ်အရေအတွက် စုမိမှ တစ်ကြိမ်သတ် ဆိုတာ မျိုးလည်း သတ်မှတ်ပြီး ရှိတယ်။ သေသူတွေမှာ ရွှေသွားလို၊ လက်ထပ် လက်စွပ်လို အဖိုးတန် ပစ္စည်းပါရင်၊ မပျောက်မပျက် အရယူနိုင်အောင် ပိုက်စိပ်တိုက်ပြီး ရှာခိုင်းတယ်။ တချို့အလောင်းက အသားကို ဆပ်ပြာချက်ဖို့ ယူရတယ်။ ဟစ်တလာဟာ ဒီလိုသတ်ဖြတ်ရေး တာဝန်ကို စစ်နောက်ပိုင်း ကာလနဲ့ ဂျာမနီမှာ အိမ်သုံး၊ စစ်သုံး လောင်စာ (fuel) အင်မတန် ရှားပါးနေတဲ့ ကာလတွေမှာ တောင်

စစ်အောင်နိုင်ရေးနဲ့ ဘာမှမဆိုင်တဲ့ ဒီကွဲပြားသယ်တဲ့ တွဲကြီးတွေနဲ့ ရထားတွဲတွေဟာ လူသတ်စခန်းတွေကို ဝင်လာမစဲ ဝင်မြဲဝင်နေတာကို တွေ့နိုင်ပါတယ်။ အကြောင်း အမျိုးမျိုးကြောင့် ဟစ်တလာရဲ့ကျော်ကြားမှုဟာ ကြာရှည် ခံမယ် ထင်ရတယ်။ ပထမအချက်က သမိုင်းမှာ သူဟာ အဆိုးဆုံး ယုတ်မာတဲ့လူဖြစ်လို့ပါပဲ။ နီရို (Nero) တို့ ကယ်လီဂုလာ (Caligula) တို့ ယုတ်မာတယ် ဆိုတာ ဟစ်တလာနဲ့ နှိုင်းယှဉ်ရင် မပြောပလောက်အောင် ငယ်တယ်။ ဒါပေမဲ့ သူတို့ ယုတ်မာတာဟာ အခုအနှစ် နှစ်ထောင်ကြာပြီးတဲ့ အထိ လူတွေပြောတုန်းဖြစ်နေရင်၊ ဟစ်တလာကို ဆိုးယုတ်တဲ့ နေရာမှာ ယှဉ်ပြိုင်သူမရှိလို့ ဆိုးဖြတ်ပြီး၊ သူ မကောင်းတာတွေကို နှစ်ထောင်သောင်း ကြာအောင် ပြောစမှတ် ပြုလိမ့်မယ်လို့ ဆိုးဖြတ်နိုင်ပါတယ်။ အဲဒါအပြင် ဟစ်တလာဟာ အရင်က ဒါလောက်ကြီးတဲ့စစ် မရှိဖူးတဲ့ ဒုတိယကမ္ဘာစစ်ကြီးကို မဖြစ်ဖြစ်အောင် လှုံ့ဆော်သူ ဖြစ်တယ်။ အခု နျူကလီးယားလက်နက်တွေ ပေါ်လာတော့ ရှေ့အဖို့ ပြီးခဲ့တဲ့စစ်လို အကြီးအကျယ် တိုက်ပွဲကြတော့မယ် မထင်ပါ။ အဲဒါကြောင့် ခုကနေပြီး နောင်အနှစ် နှစ်ထောင်၊ သုံးထောင် ကြာတဲ့အထိ ကမ္ဘာမှာ အကြီးဆုံးအဖြစ်အပျက်ဟာ ဒုတိယ ကမ္ဘာစစ်ပဲရှိတယ်လို့ ပြောရမှာ ဖြစ်တယ် ထင်ပါတယ်။

အဲဒါအပြင် ဟစ်တလာ့ အကြောင်းဟာ မကြုံစဖူး အောင် ထူးတဲ့အကြောင်း စိတ်ဝင်စားစရာ အကောင်းဆုံး အကြောင်းဖြစ်လို့ ဆက်ပြီးကျော်ကြားနေဦးမှာ ဖြစ်ပါတယ်။ (ဟစ်တလာဟာ ဂျာမနီ ဇာတိ မဟုတ်၊ ဩစတြီးယားမှာ မွေးသူ ဖြစ်လို့) သူစိမ်း တစ်ရုံဆံတစ်ယောက်ဟာ နိုင်ငံရေး အတွေ့အကြုံ မရှိ၊ ငွေကြေးအား အထောက်အပံ့ မရှိ၊ နိုင်ငံရေး အဆက်အသွယ်မရှိဘဲ အနှစ် တစ်ဆယ့်လေးနှစ် အတွင်း ကမ္ဘာ့အင်အားကြီး နိုင်ငံတစ်ခုမှာ ခေါင်းဆောင် ဖြစ်လာတာဟာ သိပ်အံ့ဩစရာ ဖြစ်နေပါတယ်။ နိုင်ငံရေး တရား ဟောတဲ့နေရာမှာ သူကထူးတယ်။ လူတွေ အံ့ကြွပြီး သူက ကြီးကြီးကျယ်ကျယ်တွေ ခိုင်းတိုင်း လိုက်လုပ်ကြ တာဟာ ဟစ်တလာလို တော်တဲ့ ပြောဟောနိုင်သူ သမိုင်းမှာ အရင်က မပေါ်ဖူးသေးပါ။

နောက်ဆုံးပြောနိုင်တာက သူရတဲ့အာဏာကို ဒါလောက် မိုက်မဲဆိုးယုတ်အောင် သုံးတတ်တဲ့လူကို ဘယ်မှာ ခဏကလေးနဲ့ မေ့ကြမှာလဲ။ အဒေါ့ဖ် ဟစ်တလာ လို သူနဲ့ရှယ်တူ၊ သူ့ခေတ်ကလူတွေအပေါ်မှာ တခြား ဘယ်သူမှ သူ့လောက်ဩဇာတန်ခိုး ရှိနိုင်မယ် မထင်ပါ။ သူလှုံ့ဆော်လို့ တိုက်ရတဲ့စစ်အတွင်းမှာ လူ ကုဋေပေါင်း များစွာ သေခဲ့ပြီ။ နာဇီတွေ လူကို လှောင်ထားတဲ့ စခန်းတွေမှာ အသတ်ခံရ၊ အိုးမဲ့အိမ်မဲ့ အခြေအနေပျက် ဖြစ်ကြရ၊ သေကြကျေကြ ဘဝ ပျက်စီးကြရတာတွေလည်း နောက်ထပ် သန်းပေါင်းများစွာ ရှိပါသေးတယ်။ အဲဒါအပြင် ဟစ်တလာရဲ့ဩဇာကို တွက်ဖို့ရာ နောက်ထပ် အချက် နှစ်ချက် ထည့်တွက်ရပါဦးမယ်။

ပထမ၊ ဟစ်တလာ သာမပေါ်ရင် ဒါမျိုးတွေ ဖြစ်နိုင်စရာမရှိဆိုတဲ့အချက် ဖြစ်တယ်။ (ဒီနေရာမှာ သူနဲ့ချားလ်စ်ဒါဝင် Charles Darwin လိုလူ၊

ဆီမွန်ဘိုလီဗား Simon Bolivar လိုလူနဲ့ တကယ့် ဆန့်ကျင်ဘက်လို ကွားခြားတယ်။) အဲဒီအခါက ဂျာမနီ နိုင်ငံ၊ ဥရောပတိုက်ရဲ့ အခြေအနေတွေက သူလိုလူမျိုး ပေါ်ပေါက်ခွင့်ပေးသလို ဖြစ်တာလည်း မှန်ပါတယ်။ သူက စစ်သွေးကြွစကား၊ ဆီးမိုက် (Semite) ကို မုန်းတီး စကားပြောရင် နားထောင်တဲ့လူ တွေထဲမှာ တချို့ကို ချက်ချင်း နိုးကြွပြီး စိတ်ကြွမ်းဝင်လာအောင် နှိုးဆွ နိုင်စွမ်းရှိတယ်။ ဒါပေမယ့် အဲဒီ ၁၉၂၀ ကျော်နှစ်တွေ ၁၉၃၀ ကျော်နှစ်တွေမှာ ဂျာမန်လူမျိုး အများစုနဲ့ သူတို့ အစိုးရဟာ ဟစ်တလာ နောင်အခါလုပ်ပြသလို တစ်ဖက်စွန်း ရောက်အောင် လုပ်လိမ့်မယ်လို့ မမျှော်မှန်း မလိုလားပါ။ တခြား ဂျာမန်ခေါင်းဆောင် ပေါ်ခဲ့ဖူး ရင်လည်း သူလုပ်သလို လုပ်မယ် မထင်ပါ။ အပြင် ပွဲကြည့် ပရိသတ်ထဲက ဟစ်တလာခေတ် (Hitler era) က တကယ့် အဖြစ်အပျက် မျိုး နီးနီးစပ်စပ်ကိုတောင် တွေးမိကြမှာ မဟုတ်ပါ။

ဒုတိယ၊ နာဇီအုံကြွမှုတစ်ခုလုံးကို ခေါင်းဆောင် တစ်ဦးတည်းက တစ်ဖက်စွန်းကို အများကြီး ရောက်အောင် လွှမ်းမိုးအုပ်ချုပ်ပြီး သွေးဆောင်ခေါ်ယူသွားတာဖြစ်တယ်။ မာ့က်စ် (Marx)၊ လီနင် (Lenin)၊ စတာလင် (Stalin) စတဲ့ ပုဂ္ဂိုလ်တွေစုပေါင်းပြီး ကွန်မြူနစ်ဝါဒ ကြီးထွားအရာ ရောက်အောင် ဆောင်ရွက်ခဲ့ကြတယ်။

ဒါပေမယ့် အမျိုးသား ဆိုရှယ်လစ်ဝါဒ (National Socialism) မှာ ဟစ်တလာမပေါ်လည်း သူလို ခေါင်းဆောင်မျိုး မရှိခဲ့ပါ။ သူ့နောက်မှာလည်း အလားတူ မပေါ်ပေါက်ပါ။ သူခေါင်းဆောင်လို့ နာဇီအာဏာ ရတယ်။ သူတို့ တန်ခိုးထွားသမျှအချိန်မှာ သူပဲ ခေါင်းဆောင် ဖြစ်တယ်။ သူသေတော့ သူ့နာဇီပါတီနဲ့ နာဇီ ရှေ့ဆောင်တဲ့ အစိုးရလည်း သူနဲ့ တစ်ပါတည်း ပျက်စီးသွားပါတယ်။

ဟစ်တလာ ဩဇာ (Hitler influence) ဟာ သူနဲ့ ရွယ်တူတွေ အပေါ်မှာ အင်မတန်ကြီးမားပါတယ်။ နောက်ဆက်ခံတဲ့ လူတွေအပေါ်မှာတော့ သူ့ဩဇာ မရှိသလောက် ဖြစ်သွားရှာတယ်။ ဟစ်တလာဟာ သူ လုပ်ပြမယ်၊ သူရှင်းမယ်ဆိုတဲ့ ပြဿနာတွေ ရည်မှန်းချက် တွေကို တကယ်ဖြစ်မြောက်အောင် မလုပ်နိုင်ပါ။ သူ့ကို ဆက်ခံတဲ့ခေတ်မှာ သူနဲ့ဆန့်ကျင်တဲ့ အမှုကိစ္စတွေသာ ပေါက်ရောက်ထင်ရှား ဖြစ်ပေါ်လာတယ်။ ဥပမာ၊ ဂျာမနီနိုင်ငံကို ဟစ်တလာက နယ်မြေ ကျယ်ပြန့်ရမယ်၊ 'ဂျာမန်ဟော့' ဆိုရင် လူတွေ လန့်ပြီး နေရာဖယ်ပေးလိမ့်မယ်ဆိုတာတွေ ဘယ်ရောက်ကုန်ပြီလဲ။ သူနယ်ချဲ့တာလည်း အင်မတန် ကျယ်သွားတာ မှန်ပေမယ့် ရေတစ်ပွက်လောက်ပဲ ခံတယ်။ ကနေ့ဂျာမနီရဲ့ နယ် အကျယ်အဝန်းဟာ ဟစ်တလာ အာဏာမရခင်က အကျယ်အဝန်းထက် တော်တော် ငယ်နေသေးတယ်။ သူ့မှာ အချိန်ရှိသမျှ တွေးတောကြံဆပြီး ဂျူးတွေကို ချေမှုန်း ပေမယ့် ဟစ်တလာ မရှိတဲ့နောက် တစ်ဆယ့်ငါးနှစ် ကြာတဲ့အခါ၊ ယခင်ကုန်ခဲ့တဲ့ အနှစ် နှစ်ထောင်အတွင်းမှာ မပေါ်ဖူးခဲ့တဲ့ အခုလို သီးခြားလွတ်လပ်တဲ့ ဂျူးနိုင်ငံ (Jewish State)

ပေါ်ပေါက်လာပါတယ်။ ဟစ်တလာက ကွန်မြူနစ် ဝါဒရော ရုရှားတွေကိုပါ မုန်းတယ်။ သူသေသွားလို့လည်း တစ်ကြောင်း၊ သူ စလိုက်တဲ့ စစ်ကြောင့်လည်း တစ်ကြောင်း၊ ရုရှားတွေဟာ အရှေ့ဥရောပမှာ နယ်မြေအကျယ်ကြီး လွှမ်းမိုးနိုင်တဲ့အပြင်၊ ကွန်မြူနစ်ဩဇာဟာ ကမ္ဘာမှာ အကြီးအကျယ် ပျံ့နှံ့သွားပါတယ်။ ဟစ်တလာက ဒီမိုကရေစီ (Democracy) ကို ရှုံ့တယ်။ ဖျက်ပစ်လို့ ရမယ်ထင်တယ်။ တခြားနိုင်ငံတွေမှာ မဖြစ်တောင် ဂျာမနီမှာ ဖြစ်ရမယ်လို့ သူ မျှော်လင့်တယ်။ ကနေ့ ဂျာမနီမှာ ဒီမိုကရေစီဟာ အရာရောက်ဆဲ၊ ပြည်သူအများဟာ ဟစ်တလာ မပေါ်မီက အာဏာရှင်ကို လက်သင့် ခံထားလိုစိတ် မရှိတာထက်၊ အခု ပိုပြီး မလိုလားပါ။ ကဲ ဒီလိုဆိုရင် အသက်မသေမီက သိပ်ပြီးဩဇာကြီးတယ်။ သေပြီး မျိုးဆက်သစ် အပေါ်မှာ ဩဇာ မရှိသလောက် ဖြစ်ရတာနဲ့ ပတ်သက်ပြီး ဘယ်လိုကောက်ချက်ချမလဲ။ သူ့တစ်သက်ဩဇာကြီးတာကိုပဲကြည့်ရင် အခု ဒီကျော်စွာ တစ်ရာစာရင်းမှာ သူဟာ ထိပ်တန်းနေရာမှာရှိရမယ်။ ရှိဟွမ်တိ၊ ဩဂတ်စတပ်ဆီဇာ၊ ဂျဲန်ဂျစ်ခန် တို့ဆိုရင် သူတို့ သေဆုံးပြီး ရာစုနှစ်ပေါင်းများစွာ သူတို့ကို ကမ္ဘာက လေးစား နေကြသေးတယ်။ အဲဒီပုဂ္ဂိုလ်တွေနဲ့ မယှဉ်နိုင်ပြန်ဘူး။ အနီးစပ်ဆုံး သူနဲ့ဆင်တူတာက နပိုလီယန် နဲ့ မဟာအလက်ဇန္ဒား တို့ဖြစ်တယ်။ တာတိုကို ကြည့်ရင် အထက်က ပုဂ္ဂိုလ်နှစ်ဦးထက် ကမ္ဘာကို ပိုပြီး နှောင့်ယှက်ဖျက်ဆီးနိုင်တယ်။ ဒါပေမယ့် သေလွန်ပြီးတဲ့ အခါ သူတို့ဩဇာဟာ သူ့ထက်ပိုပြီး တည်ရစ်လို့ သူ့ကို အဲဒီပုဂ္ဂိုလ်နှစ်ဦးထက် နည်းနည်း နိမ့်တဲ့နေရာကို ပို့ထားလိုက်ပါတယ်။

1, December, 2000.

# (၄၀) ပလေတို (၄၂၇ ဘီစီ – ၃၄၇ ဘီစီ)

# PLATO (427 B.C. – 347 B.C.)

ဂရိရှေးဟောင်း ဒဿနပညာရှင် ပလေတို (Plato)က အနောက်တိုင်း နိုင်ငံရေး ဒဿန (political philosophy) ကိုလည်းကောင်း၊ ကျင့်ဝတ် (ethical) နဲ့ တက္ကိက (metaphysical) တွေကိုလည်းကောင်း စတင် ပြောဟောသူ ဖြစ်ပါတယ်။ ဒီအကြောင်းအရာတွေနဲ့ ပတ်သက်ပြီး သူ့တွေးဆချက်တွေ ဖတ်ကြ၊ သင်ယူကြတာ အနှစ် ၂၃၀၀ ကျော်ခဲ့ပါပြီ။ အဲဒါကြောင့် ပလေတိုကို အနောက်တိုင်း အတွေးအခေါ်ရဲ့ ဖခင်ကြီးလို့ ပြောစမှတ် ပြုကြတာပဲ ဖြစ်ပါတယ်။ အေသင် မျိုးကြီးဆွေကြီးထဲက ခရစ်မပေါ်မီ ၄၂၇ လောက်မှာ ပလေတိုကို မွေးဖွားခဲ့ပါတယ်။ လူငယ်ဘဝက ထင်ရှား ကျော်ကြားတဲ့ ဆိုကရေးတိစ် (Socrates) ကို ကြုံတွေ့ခဲ့ရလို့ ခင်မင်ရင်းနှီးပြီး ဆရာတင်ခဲ့ပါတယ်။ အသက် ၇၀ ရွယ် ဆိုကရေးတိစ်ကို၊ ဘုရားတွေကို မကြည်ညို မလေးစားဘူး၊ အေသင်လူငယ်တွေကို လမ်းမှား ပို့နေသူလို့ မရေရာတဲ့ စွဲချက်တွေနဲ့ ခရစ်မပေါ်မီ ၃၉၉ မှာ သူ့ကိုသေဒဏ်ပေးပြီး ကွပ်မျက်လိုက်ပါတယ်။ ပလေတိုက ဒါနဲ့ပတ်သက်ပြီး **‘ငါတွေ့ဖူးသမျှလူတွေထဲမှာ ဆိုကရေးတိစ်ဟာ ပညာဉာဏ်အကြီးဆုံး၊ တရားအမျှတဆုံး ဖြစ်လို့ သူ့ကိုသုတ်သင်လိုက်တာဟာ ဒီမိုကရေစီ အုပ်ချုပ်ရေးရဲ့ အမှားဖြစ်တယ်’** လို့ နာကြည်းစိတ် စွဲလမ်း ကျန်ရစ်တယ်။

ဆိုကရေးတိစ် ကွယ်လွန်ပြီး နောက်မကြာခင် ပလေတိုက အေသင်ကို စွန့်ခွာပြီး နိုင်ငံရပ်ခြားတွေကို အနှစ် တစ်ဆယ်ကျော် တစ်ဆယ့်နှစ်နှစ်တိုင်အောင် ခရီးလှည့်လည်ခဲ့တယ်။ ခရစ်မပေါ်မီ ၃၈၇ မှာ အေသင်ကို ပြန်လာပြီး ‘အကယ်ဒမီ’ (Academy) နာမည်နဲ့ကျောင်း တစ်ကျောင်းကို ထောင်တယ်။ အဲဒီကျောင်းဟာ အနှစ် ၉၀၀ ကျော် သက်တမ်းရှည်တယ်။ ပလေတိုဟာ သူ့တစ်သက်ရဲ့ နောက်ပိုင်း အနှစ်လေးဆယ်ကျော်ကို အေသင်မှာပဲ ဒဿနိကပညာကို ရေးတယ်။ သင်တယ်။ သူ့တပည့် တွေထဲမှာ ကျော်ကြားသူက အရစ္စတိုတယ် (Aristotle) ဖြစ်တယ်။ ဒီတပည့်က အကယ်ဒမီကို ရောက်လာတော့ အသက်တစ်ဆယ့်ခုနစ်နှစ်၊ ဆရာ ပလေတိုက အသက် ခြောက်ဆယ်။ ပလေတို အသက်ရှစ်ဆယ်၊ ခရစ် မပေါ်မီ ၃၄၇မှာ ကွယ်လွန်ခဲ့ပါတယ်။

ပလေတိုက နိုင်ငံရေးနဲ့ ကိုယ်ကျင့်တရား အကြောင်း ရေးတာ များတယ်။ တက္ကိကနဲ့ ထာဝရဘုရား လေ့လာရေး ပညာ (theology) လည်း ရေးပါတယ်။

အစုစု ကျမ်းပေါင်း သုံးဆယ့်ခြောက်ကျမ်းရေးတယ်။ အဲဒီကျမ်းတွေ အကြောင်းကို စာတစ်ကြောင်း နှစ်ကြောင်းစီနဲ့ အချုပ် ရေးပေးဖို့ မလွယ်တာ အမှန်ပါ။ သူ့အတွေးကို သေးနုပ် အောင် တမင် ပေါ့ပေါ့တန်တန် ရေးလေတယ်လို့ အပြစ် မယူဘူး ဆိုရင် ပလေတိုရဲ့ အကျော်ကြားဆုံး သမ္မတနိုင်ငံ (The Republic) ဆိုတဲ့ကျမ်းမှာ၊ 'နှစ်သက်စရာ လူ့အဖွဲ့အစည်း (An ideal society)' ဆိုတာ၊ သူ့သဘောထားအရ ဘယ်လို ဖြစ်မှ ဒီအဆင့်ရောက်မယ် ဆိုတဲ့ အချက်ကို အချုပ် ရေးပြပါမယ်။

အုပ်ချုပ်ရေးမှာ အကောင်းဆုံးက ပလေတို အထင် **'မျိုးရိုးစဥ္ဆက်မင်း၊ မင်းညီမင်းသားအုပ်ချုပ်ရေး (Aristocracy) ဖြစ်တယ်။ ဒါပေမယ့် ဒီနေရာမှာ ခြွင်းချက် တစ်ခုကို သူကတင်ပြတယ်။ မင်းစဥ္မ်င်းဆက်ရိုးရာ သူကောင်းကို သူကြိုက်တာ မဟုတ်ပါ။ သူ့ရဲ့သူကောင်းက အရည်အချင်း မြင့်သူကို ဆိုလိုတယ်။ နိုင်ငံအတွင်း ဉာဏ် အကောင်းဆုံး အကျင့်အကောင်းဆုံး ပုဂ္ဂိုလ်ကို လူအများက မဲပေးပြီး ရွေးတာမျိုးလည်း မလုပ်ပါနဲ့။ အချင်းချင်း အကျွမ်းတဝင် (coopt) သိတဲ့အနေနဲ့ စိတ်ကြိုက်ရှာရမှာ ဖြစ်တယ်။ တစ်မျိုးပြောတော့ စောင့်ရှောက်ရေး အဖွဲ့ဝင် (guardidam class) လူတစ်စုက သူတို့အထဲမှာ ငါဖြည့်မယ် ဆိုရင် အစဥ္ဆသိလူတော်ကို ရှာဖြည့်ရမယ်။ ပလေတိုက ယောကျ်ားရော မိန်းမပါ သူဟာ စောင့်ရှောက်ရေး အဖွဲ့ဝင် ဖြစ်ထိုက်တယ်လို့ အရည်အချင်း ပြခွင့်ပေးရမယ်။ ပထမဆုံး ထင်ရှားတဲ့ ဒဿနိက ဆရာတွေထဲမှာ ပလေတိုဟာ 'အခြေခံအရ ယောကျ်ား– မိန်းမ အရည်အချင်းမကွာဘူး'** ဆိုတာကို ပထမဆုံး စပြောသူ။ သူ့ကို ဒီသဘောထားမှာ ဘယ်သူမှ မထောက်ခံဘဲ သူတစ်ဦးတည်းသော ရပ်တည်ဝံ့သူ ဖြစ်တယ်။ အဲဒီလို တန်းတူညီတူ ဖြစ်ဖို့ ကလေးတွေကို ငယ်ငယ်က စပြီး နိုင်ငံတော်က တာဝန်ယူပြီး မွေးရမယ်။ ပညာသင် ပေးရမယ်။ ကလေးအားလုံးကို ကိုယ်လက်ဖွံ့ဖြိုးဖို့ လေ့ကျင့်ခန်း တစ်ညီတည်း ပေးရမယ်။ ဒါပေမယ့် အတီး၊ အမှုတ်၊ အဆို၊ အက၊ သင်္ချာနဲ့ တခြား အကယ်ဒမီ ပညာချွန်ကျောင်းရဲ့ နည်းပညာတွေကိုလည်း လက်မလွှတ်ပဲ သင်ရမယ်။ မကြာခဏ အချိန် ကာလပိုင်းပြီး ဘာသာစုံ စာစစ်ပွဲကြီး လုပ်ပေးရမယ်။ အဲဒီမှာ သိပ်ပြီး မထူးချွန်ဘူးဆိုရင် (အဲဒီလူငယ်ကို) လူအားလုံး ပေါင်းစပ်လုပ်တဲ့ ကုန်ထုတ် ဝန်ထမ်း အဖြစ် ပို့အပ်ရမယ်။ ထူးချွန်သူတွေကို ဆက်ပြီး ကျောင်းတော်ထုံးစံက သတ်မှတ် သင်ကြားပေးတဲ့ ပညာအပြင် ဒဿနိက သင်ပေးမယ်။ ပလေတိုက ဒီနေရာမှာ တက္ကိက အယူအဆတွေကို သူ့စိတ်ကြိုက် သင်ကြား ပေးနိုင်ဖို့ ရည်ရွယ်တယ်။

အသက်သုံးဆယ့်ငါး ရောက်တဲ့အခါ လူငယ်တစ်ဦး ဟာ တကယ်ပဲ စိတ်ချလက်ချ ဦးတည်ချက် သဘောတရား ရေးရာမှာ တတ်မြောက်ပြီလို့ ထင်ရှား သိသာရင် သူ့ကို နောက်ထပ် တစ်ဆယ့်ငါးနှစ် လက်တွေ့ပညာ ဆည်းပူး ခိုင်းရမယ်။ အဲဒီအခါကျမှ ဒီလူဟာ သူတတ်ထားတဲ့ ပညာတွေရဲ့စာတွေ့ကို လက်တွေ့ ကမ္ဘာလောက လူ့ဘောင်တွင်းမှာ ဖြစ်မြောက်အောင် ဆောင်ရွက် တတ်တယ်။ အဲဒီအခါမှ သူ့ကို စောင့်ရှောက်ရေး အဖွဲ့ဝင်မှာ ထည့်သွင်းလိုက်ပါလို့ ပြောတယ်။ အဲဒါအပြင် လူအများရဲ့ အကျိုးစီးပွားကိုသာ လိုလားသူ ဖြစ်ကြောင်း ထင်ရှား

သိသာတဲ့အခါမှာ စောင့်ရှောက်သူအဖြစ် ရွေးချယ် သင့်တယ်လို့ ဆိုပါတယ်။

စောင့်ရှောက်ရေးအဖွဲ့ဝင် ဖြစ်ချင်သူ နည်းပါတယ်။ စောင့်ရှောက်သူဟာ စီးပွားဥစ္စာရှိသူ မဖြစ်ရပါ။

ခေါင်းဆောင်သူမှာ ကိုယ်ပိုင်ပစ္စည်း လိုသလောက်ပဲ ရှိရမယ်။ မြေပိုင် အိမ်ပိုင် မရှိမှ ဖြစ်မယ်။ သိပ်မများတဲ့ ပိုသေလစာ ရမယ်။ ရွှေငွေ မရှိစေရ။ သား မယားရယ်လို့ မရှိရ၊ အဖွဲ့ဝင်တွေ အတူစား၊ ကြင်ဖော်လည်း ဘုံဆိုင် (mates in common) ပဲတဲ့။ ဒီလို ဒဿနိကဘုရင် (Philosopher-Kings) တွေဟာ ပစ္စည်းဥစ္စာချမ်းသာကို မမက်၊ မရှိ၊ ပြည်သူ့ဝန်ကိုထမ်းရတာပဲ နှစ်သက် ပျော်ပိုက်မယ်။ အဲဒီလိုမှ ပလေတိုအယူနဲ့ အကောင်းဆုံး သမ္မတနိုင်ငံ ဖြစ်လာပါတယ်။

သမ္မတနိုင်ငံကျမ်းကို ရာစုနှစ်ပေါင်းများစွာအတွင်း လူတွေ အနှံ့အပြား ဖတ်ကြပါတယ်။ ဒါပေမယ့် အကောင်းဆုံး လို့ သတ်မှတ်တဲ့ အစိုးရအဖွဲ့ကိုတော့ ပုံစံ ကျအောင် ဘယ်မှာမှ စမ်းသပ်တည်ဆောက် မကြည့်ကြပါ။ ပလေတိုရဲ့ခေတ်နဲ့ ကျွန်တော်တို့ရဲ့ ခေတ်အကြား ဥရောပနိုင်ငံ အများစုမှာ အစဉ်အဆက် မင်းတွေအုပ်ချုပ်ခဲ့တယ်။ ကျွန်တော်တို့နဲ့ နီးကပ်တဲ့ ရာစုနှစ်တွေမှာတော့ နိုင်ငံ အတော်များများမှာ ဒီမိုကရေစီ အစိုးရတွေ ပေါ်ပေါက်လာပါတယ်။ စစ်အုပ်ချုပ်ရေး၊ ဟစ်တလာ၊ မူဆိုလီနီ တို့လို အများ သဘောကျအောင် လှုံ့ဆော် ဟောပြောပြီး နိုင်ငံရေး အာဏာယူတဲ့ အစိုးရလည်း ရှိတယ်။ ဘယ်အစိုးရမှ ပလေတိုရဲ့ စိတ်ကြိုက် သမ္မတနိုင်ငံ ဖြစ်မလာပါ။ ပလေတိုရဲ့သီအိုရီကို ဘယ်နိုင်ငံရေး ပါတီကမှ ယူမသုံးပါ။ ကားလ်မာ့က်စ်ရဲ့ သီအိုရီကို နိုင်ငံရေး လှုပ်ရှားမှုမှာ ယူသုံးသလို မသုံးဖူးပါ။ ဒီလိုဆိုရင် ပလေတိုရဲ့ကျမ်းတွေကို အင်မတန် လေးစားပါတယ် ပြောပေမယ့် လက်တွေ့မှာ မသုံးဘူးလို့ ပြောကြတော့မှာလား။ ကျွန်တော် မထင်ပါ။

ဥရောပမှာ ဘယ်ပြည်ပိုင်အစိုးရ (civil government) ကိုမှ ပလေတို ပုံစံနဲ့ မတည်ထောင်ပါ။ ဒါပေမယ့် ခေတ်လယ် ဥရောပက ကက်သလစ် ကျောင်းတော် ဖွဲ့ပုံဟာ ပလေတိုရဲ့ စောင့်ရှောက်ရေး အဖွဲ့နဲ့ သိပ်ပြီးနီးစပ်အောင် တူတယ်။ ခေတ်လယ်ကျောင်းတော် (medieval church) မှာ ထိပ်တန်းလွှာ (elite) ဟာ သူတို့ ဘာသာ ရွေးချယ် ဖွဲ့စည်းတယ်။ အဖွဲ့ဝင် အားလုံးဟာ သတ်မှတ်ထားတဲ့ ပုံစံနဲ့ ဒဿနိကကို လေ့လာ ဆည်းပူး ရတယ်။ ယောကျ်ား မှန်ရင် အမျိုးအနွယ်မရွေး ရဟန်းပြုခွင့်ရတယ်။ (အမျိုးသမီးကိုတော့ ခွင့်မပေးပါ။) အခြေခံသဘောမှာတော့ ဘုန်းကြီးမှာ အိမ်ထောင် မရှိ။ သူ့တာဝန်က သူအုပ်ထိန်းတဲ့သင်းပင်း ကောင်းစားရေးပဲ အရေးကြီးဆုံးကိစ္စဖြစ်တယ်။ ငါတစ်ကိုယ်တည်း အတွက် ကြီးမြင့် ကောင်းစားဖို့ မပါပါ။ ပလေတိုရဲ့ စိတ်ကြိုက်ကို အမေရိကန်ပြည်ထောင်စု (United States) ဖွဲ့တဲ့အခါ ပါလာတာကို မြင်သာတယ်။ အမေရိကန် အခြေခံအုပ်ချုပ်ရေး စည်းမျဉ်းရေးဆွဲတဲ့ အဖွဲ့ (American Constitutional Convention) အဖွဲ့ဝင်တွေ အတော်များများက ပလေတိုရဲ့ နိုင်ငံရေးစိတ်ကြိုက် (political idea) ကို နားလည်ထားကြတယ်။ တကယ်လည်း အမေရိကန်ပြည်ထောင်စု

စည်းမျဉ်း (United States Constitution) ဟာ လူ့အများရဲ့ဆန္ဒကို သိအောင်လုပ်ပြီး၊ အဲဒီဆန္ဒကို ဖြစ်အောင်လုပ်ပေးဆိုတဲ့ ခံယူချက်ရှိတယ်။ အဲဒါအပြင် ပညာဉာဏ် အရှိဆုံး၊ အရည်အသွေး အကောင်းဆုံး ပုဂ္ဂိုလ်ကို နိုင်ငံ အုပ်ချုပ်ရေး တာဝန် ပေးနိုင်အောင် လမ်းခင်းထားတယ်။

ပလေတိုရဲ့အရာရောက်ပုံကို အဆင့်ခွဲပြီး ပြောကြစို့ ဆိုရင်၊ အလွန် ကျယ်ပြန့်လို့ မဆုပ်မကိုင်သာဖြစ်တယ်လို့ ပြောရမှာ ဖြစ်တယ်။ သူ့အတွေးအခေါ်က သိမ်မွေ့တယ်။ တိုက်ရိုက် ယူသုံးဖို့ မလွယ်ပါ။ ပြီးတော့ သူပြောဟော သွားတဲ့ ကျင့်ထုံး (ethics) နဲ့ တက္ကိက (metaphysics) တွေကို ဆက်ခံတဲ့ ဒဿနိကဆရာတွေကတော့ အများကြီး လေးစားကြတယ်။ အခု ဒီကျော်စွာတစ်ရာ စာအုပ်မှာ အရစ္စတိုတယ်ထက် နောက်က အများကြီးခွာပြီး သူ့ကို နေရာပေးထားရတာကတော့ အရစ္စတိုတယ်က ဒဿနိကဆရာ အပြင် အရာရောက်တဲ့သိပ္ပံပညာရှင် ဖြစ်လို့ပါပဲ။ နောက်တစ်ချက်က ပလေတိုက တခြား တွေးခေါ်ရှင်တွေဖြစ်တဲ့ သောမတ်စ်ဂျက်ဖာဆင် (Thomas Jefferson) နဲ့ ဗော်လ်တဲ (Voltaire) တို့ထက်သာတယ်။ ဘာပြုလို့လဲဆိုတော့ အဲဒီပုဂ္ဂိုလ်တွေရဲ့ ဩဇာဟာ နှစ်နဲ့ပြောရင် ရာစု နှစ်သုံးခုပဲရှိတယ်။ ပလေတိုရဲ့ ဩဇာက နှစ်ဆယ့်သုံးရာစု နှစ်ကျော်ရှိပါတယ်။

1, December, 2000.

# (၄၁) အော်လီဗာ ကရွမ်းဝဲလ် (၁၅၉၉ – ၁၆၅၈)

## OLIVER CROMWELL (1599 – 1658)

အင်္ဂလိပ်ပြည်တွင်းစစ် ဖြစ်တဲ့အခါတုန်းက ပါလီမန် တပ်တွေကို အောင်ပွဲရအောင် တိုက်ခိုက်ပေးနိုင်တဲ့ စစ်ခေါင်းဆောင်က အော်လီဗာ ကရွမ်းဝဲလ် ( Oliver Cromwell) ဖြစ်ပါတယ်။ အရည်အချင်း ထက်မြက်ပြီး တက်ကြွ လှုံ့လရှိတဲ့ စစ်ဗိုလ်ဖြစ်တဲ့ အပြင် နောက်ဆုံးမှာ အင်္ဂလိပ်ပုံစံ အုပ်ချုပ်ရေးလို့ ပြောစမှတ် ပြုရလောက်အောင် ပေါ်ထွန်းလာတဲ့ ပါလီမန် ဒီမိုကရေစီကို ထူထောင်တဲ့အခါ သူက အရာရောက်ဆုံးပုဂ္ဂိုလ် ဖြစ်ပါတယ်။

အင်္ဂလန်၊ ဟန်တင်ဒန် (Huntingdon) မှာ ၁၅၉၉ မှာ သူ့ကို မွေးပါတယ်။ သူငယ်ငယ်က ကြုံတွေ့ရတဲ့ အင်္ဂလန် ဆိုတာ ကိုးကွယ် ယုံကြည်မှု အမျိုးကွဲပြီး မညီမညွတ် ရှိရတဲ့ အခိုက် ရှင်ဘုရင်ကလည်း သက်ဦး ဆံပိုင်ဘုရင်စနစ် (absolute monarchy) နဲ့ အုပ်ချုပ်မှ လျော်ကန်သင့်မြတ်မယ်လို့ ယုံကြည်ရင်းစွဲရှိတဲ့ ပုဂ္ဂိုလ် ဖြစ်နေတယ်။ ကရွမ်းဝဲလ်ဟာ နယ်က ဂုဏ်သရေရှိ လယ်သမားကြီး တစ်ယောက် ဖြစ်ပါတယ်။ အယူဝါဒက ခရစ်ယာန်တွေထဲမှာ နည်းမှန်လမ်းမှန်နဲ့ စည်းကမ်းကျနဖို့ တင်းတင်းကျပ်ကျပ် ဆော်ဩလိုက်နာသူတစ်ဦး ဖြစ်တယ်။ သူ့ကို ၁၆၂၈ မှာ ပါလီမန် (Parliament) အရွေးခံရတယ်။ ခဏပဲ အလုပ်လုပ်ခွင့်ရတယ်။ ဘုရင် ပထမချားလ်စ် (Charles I) က ပါလီမန်ကို ဖျက်သိမ်းပြီး နိုင်ငံကို သူ တစ်ဦးတည်း အုပ်စိုးလိုက်တဲ့အတွက် ဖြစ်ပါတယ်။ ၁၆၄၀ ပြည့်မတိုင်မီ ရှင်ဘုရင်က စကော့ (Scots) တွေနဲ့ စစ်တိုက်ဖို့ ငွေလိုတဲ့အတွက် ပါလီမန်သစ်ကို ခေါ်ရတယ်။ အဲဒီပါလီမန်မှာလည်း ကရွမ်းဝဲလ်က အမတ် ဖြစ်ပြန်တဲ့အတွက် ဘုရင်က ထင်သလိုစိုးမိုး (Arbitrary) အုပ်ချုပ်တာကို ကန့်ကွက်တယ်။ ဒါမျိုးဖြစ်မလာအောင် ကြိုတင်ကာကွယ်ရမယ်။ တစ်ဖက်က ပထမချားလ်စ်အနေနဲ့ ပါလီမန်ရဲ့ လက်ဝေခံသဘောကို မကြိုက်၊ ၁၆၄၂ ရောက်တဲ့အခါ ရှင်ဘုရင့်သစ္စာတော်ခံ တပ်သားတွေနဲ့ ပါလီမန် ကွပ်ကဲတဲ့ တပ်သားတွေ တိုက်ခိုက်တဲ့ စစ်ပွဲ စပါတော့တယ်။ ကရွမ်းဝဲလ်က ပါလီမန် ဘက်တော်သား ဖြစ်လာပါတယ်။ ဟန်တင်ဒန်ကို ပြန်သွားပြီး ဘုရင်ကိုတိုက်ဖို့ မြင်းတပ် (Carvalry) ဖွဲ့တယ်။ စစ်ပွဲ လေးနှစ်ကြာတဲ့ ကာလအတွင်း ထူးခြားတဲ့ သူ့အစွမ်းကို အများပြည်သူတွေ ထင်ရှားတွေ့လာကြတယ်။ ပြည်သူ့ဘက်က

အရေးသာပြီလို့ ထင်ရှားလာတဲ့ (၂ ဂျူလိုင် ၁၆၄၄) မာစတုန်းမိုး (Marston Moor) တိုက်ပွဲနဲ့၊ ပြည်သူတွေ နိုင်ပြီလို့ အဆုံးအဖြတ် ပေးနိုင်တဲ့ (၁၄ ဂျွန် ၁၆၄၅) နေ့စဗီ (Naseby) စစ်ပွဲတွေမှာ၊ ကရွမ်းဝဲလ်က ထိပ်တန်းမှာ ပါဝင်နေပါပြီ။ ပထမ ချားလ်စ်ကို ဖမ်းဆီး မိပြီး ၁၆၄၆ မှာ စစ်ပြီးဆုံးတဲ့အခါ ကရွမ်းဝဲလ်ကို ပါလီမန်ဘက်က အောင်ပွဲ အရဆုံး စစ်ဗိုလ်ချုပ်လို့ အသိအမှတ် ပြုလာပါတယ်။ ဒီအချိန်ထိ ငြိမ်းချမ်းရေး ရပြီလို့ မဆိုနိုင်သေးပါ။ ပါလီမန်ဘက် (Parliamentary side) မှာ ဘယ်စခန်း ဆက်သွားရမလဲဆိုပြီး ဆန္ဒနှစ်ခု ကွဲလို့ နေပါတယ်။ အဲဒါနဲ့ အဖမ်းခံထားရတဲ့ ရှင်ဘုရင်ကလည်း ဘာမျှ အပြီးသတ် ဆုံးဖြတ်ချက် မပေးဘဲ ရှောင်တိမ်း နေခွင့်ရတဲ့အပြင် နောက်ဆုံး အကျဉ်းက ထွက်ပြေးနိုင်ခွင့် ရသွားတယ်။ ဒုတိယ ပြည်တွင်းစစ်လည်း ဖြစ်တယ်။ ဘုရင့် ဘက်တော်သားတွေကို ပြန်စည်းရုံးဆဲမှာ ကရွမ်းဝဲလ်က အဲဒီတပ်တွေကိုလည်း နိုင်တယ်။ အပြင်းအထန် တစ်ယူသန် မဟုတ်တဲ့ ပါလီမန်အဖွဲ့သားတွေကိုလည်း ရှင်းနိုင်တယ်။ ဘုရင်ကို ဇန်နဝါရီ ၁၆၄၉ မှာ ကွပ်မျက် လိုက်ပါတယ်။

အင်္ဂလန်ဟာ ဓနသဟာယ (Common wealth) သမ္မတနိုင်ငံ တစ်ခု ဖြစ်လာပြီး၊ ကရွမ်းဝဲလ်ကို ဥက္ကဋ္ဌ ခန့်တဲ့ နိုင်ငံ့ကောင်စီ (A council of State) နဲ့ ယာယီ အုပ်ချုပ် ထားလိုက်ပါတယ်။ ဒါပေမဲ့ ဘုရင့်ဂိုဏ်းက အိုင်ယာလန် (Ireland) နဲ့ စကော့တလန် (Scotland)မှာ ပွားစည်းလာပြီး နောင် ဒုတိယချားလ်စ်ဘွဲ့ခံ နတ်ရွာစံဘုရင့်သားတော်ကို ထီးမွေပေးပြီး ဘုရင်စနစ်ပြန်လည် ထူထောင်ဖို့ ကြိုးစား အားထုတ် လာကြပါတယ်။ ဒါကြောင့် ကရွမ်းဝဲလ်ရဲ့ တပ်တွေက အိုင်ယာလန်နဲ့ စကော့တလန်ကိုပါ ဝင်ရောက် တိုက်ခိုက်ပြီး အောင်နိုင်ခဲ့ပါတယ်။ ဘုရင့်ဂိုဏ်းကို လုံးဝ ဖျက်ဆီးချေမှုန်းနိုင်ဖို့ စစ်ပွဲတွေ ဆင့်ဆင့် တိုက်ပြီး နောက်ဆုံး အပြီးအပိုင် အောင်ပွဲက ၁၆၅၂ မှာမှ ရပါတယ်။

တိုက်ပွဲပြီးပြီ ဆိုတော့ အစိုးရ သစ်ဖွဲ့ရတော့မယ်။ အဲဒီမှာ အစိုးရ လိုက်နာရမယ့် အုပ်ချုပ်ရေးအခြေခံစည်းမျဉ်း (Constitution) ရေးဆွဲဖို့ ပြဿနာ ပေါ်လာပါတယ်။ ဒီပြဿနာက ကရွမ်းဝဲလ် ကွယ်လွန်သွားတဲ့အထိ မပြီးပြတ်ပါ။ စစ်မှန်ကျန သေချာတဲ့ ဂိုဏ်းစစ်ဗိုလ်ချုပ်က သက်ဦးဆံပိုင် ဘုရင်စနစ်ကို အပြီးတိုင် အနိုင်တိုက် ခဲ့ပေမယ့် သူ့တန်ခိုး သူ့ဂုဏ်သတင်းလောက်နဲ့ မနိုင်တဲ့ ကိစ္စက၊ လူမှုရေး ဆန့်ကျင်ဘက် အတွေးအခေါ် တွေကြောင့် အားလုံးညီညွတ်တဲ့ သဘောတူညီချက်ရပြီး၊ စည်းမျဉ်းသစ် (new constitution) ကို ရေးဆွဲနိုင်ခြင်း မရှိပါ။ တကယ်က ကိုးကွယ်ယုံကြည်မှုနဲ့ ပတ်သက်ပြီး သဘောမတိုက်ဆိုင်တဲ့ အချက်တွေက ရောနှောယှက်တင် ရှိနေလေတော့ ပရိုတက်စတင့် (ခရစ် အယူဟောင်းကို ဖီဆန်သူ) အချင်းချင်း၊ ပရိုတက်စတင့်နဲ့ ရိုမန်ကက်သလစ် (ခရစ်အယူဟောင်း) တွေငြင်းချက်က မဆုံးနိုင်တော့ပါ။

ကရွမ်းဝဲလ် အာဏာရတော့ ၁၆၄ဝ မှာ ရွေးခဲ့တဲ့ ပါလီမန်မှာ လူနည်းနည်းပဲကျန်တယ်။ လူနည်းသွားတော့ ကိုယ်စားလှယ် (Representative) မစုံဘူး။ အဲဒီ အစုလေး ကို ရန့် (တပ်သား Rump) လို့ ခေါ်ကြတယ်။

ပထမ ကရွမ်းဝဲလ်က ရွေးကောက်ပွဲ အသစ် လုပ်မယ်လို့ စဉ်းစားပါသေးတယ်။

စီစဉ်လို့ မရတဲ့အခါ ရန့် (Rump) ကို အာဏာနဲ့ (၂၀ ဧပြီ ၁၆၅၃) မှာ ဖျက်သိမ်းပါတယ်။ အဲဒီကစပြီး ကရွမ်းဝဲလ် မကွယ်လွန်မီ ပါလီမန်ကို သုံးကြိမ်တိုင်တိုင် ခေါ်တယ်။ တစ်ခုနဲ့ တစ်ခု မတူတဲ့ စည်းမျဉ်းနှစ်ခု ပြဋ္ဌာန်းတယ်။ ဘယ်ဟာမှ မအောင်မြင်ပါ။ အဲဒီအတောအတွင်းမှာ ကရွမ်းဝဲလ်က စစ်တပ်နဲ့ အုပ်ချုပ်နေရလို့ သူဟာ အမှန်အားဖြင့် စစ်အာဏာရှင် ဖြစ်ပါတယ်။ ဒါပေမယ့် သူကိုယ်တိုင်က ဒီမိုကရေစီ ထုံးနည်းတွေကို ကြိမ်ဖန်များစွာ ယူငင် သုံးစွဲဖို့ လုံ့လထုတ်တယ်။ ဘုရင် အဖြစ် စိုးမိုးအုပ်ချုပ်ဖို့ အာဏာ နှင်းအပ်တဲ့အခါ ငြင်းတယ်။ ဒါကြောင့် သူလုပ်ချင်တာ အာဏာရှင်စနစ် မဟုတ်ဘူးလို့ ပြောနိုင်ပါတယ်။ သူ့နောက်လိုက်တွေက လုပ်ကိုင် အောင်မြင်နိုင်တဲ့ အုပ်ချုပ်ရေး (workable government) ကို ရေးဆွဲ မပေးနိုင်လို့ ဒီလိုဖြစ်ရခြင်း ဖြစ်ပါတယ်။

ကရွမ်းဝဲလ်ဟာ ၁၆၃၅ က ၁၆၅၉ ထိ သူ့ရာထူးကို ကာကွယ်ရေးမင်းကြီး (Lord Protector) လို့ပဲ ခေါ်ရတယ်။ အင်္ဂလန်၊ စကော့တလန်နဲ့ အိုင်ယာလန်ကို အုပ်ချုပ် ခဲ့ပါတယ်။ သူ့အစိုးရဟာ ယေဘုယျအားဖြင့် အကောင်း ဆောင်ရွက်နိုင်ပါတယ်။ စည်းစနစ်ကျတဲ့ အုပ်ချုပ်ရေးလို့ ဆိုရပါမယ်။ အင်မတန်ပြင်းထန်တဲ့ ဥပဒေတွေကို ကောင်းအောင် ပြုပြင်တယ်။ ပညာရေးကို အားပေးတယ်။

ယုံကြည်မှုနဲ့ ပတ်သက်ရင် သည်းခံရမယ် (religious toleration) စွဲမြဲယုံကြည်ထားတယ်။ အင်္ဂလန်မှာ ဂျူးလူမျိုးတွေ ပြန်လာပြီးနေထိုင်ခွင့်ပေးတယ်။ သူတို့ ယုံကြည်သလို ကိုးကွယ်ခွင့်လည်း ပေးတယ်။ (သူတို့ကို ဘုရင် ပထမအက်ဒွပ် EdWard I က အရင် အနှစ် သုံးရာကျော်ကပဲ အင်္ဂလန်က နှင်ပစ်ခဲ့တယ်။) ကရွမ်းဝဲလ် ကျင့်သုံးတဲ့ နိုင်ငံခြားရေး ဝါဒဟာလည်း အောင်မြင်တယ်။ လန်ဒန်မှာ ၁၆၅၈ မှာ ငှက်ဖျားရောဂါနဲ့ ကွယ်လွန်သွားပါတယ်။

ကရွမ်းဝဲလ်ရဲ့ သားကြီး ရစ်ချတ်ကရွမ်းဝဲလ် (Richard Cromwell) က အဖရာထူးကို ခဏပဲ ဆက်ခံ ခွင့်ရတယ်။ ဒုတိယချားလ်စ် (Charles II) က ၁၆၆၀ မှာ ထီးနန်းကို သိမ်းယူခဲ့ပါတယ်။ အော်လီဗာကရွမ်းဝဲလ်ရဲ့ ရုပ်ကြွင်းကို တူးဖော်ပြီး၊ တံစက်မြိတ်စွန်းမှာ ချိတ်ဆွဲပြီး (hung from the gibbet) လူအများကို ဝိုင်းပြီး ကဲ့ရဲ့ ရှုတ်ချစေတယ်။ ဒီလို ကလဲ့စားချေတဲ့ လုပ်ရပ်ကပဲ သက်ဦးဆံပိုင်ဘက်က သိသိသာသာ အရေးနိမ့်ပြီး ဖြစ်မယ်ဆိုတာကို ဖော်ထုတ် ဝန်ခံသလို ဖြစ်နေတယ်။ ဒုတိယ ချားလ်စ်က ဒါကို ရိပ်စားမိ ဟန်မတူပါ။ ပါလီမန်ရဲ့ တန်ခိုးကို ဖြုံခွင်းဖို့ မလုပ်ဘဲနေခဲ့တယ်။ ဒုတိယဂျိမ်းစ်က သက်ဦးဆံပိုင် ဘုရင်စနစ်ကို ပြန်ပြီးဖော်ထုတ်ဖို့ လုပ်တဲ့အခါ သွေးထွက် သံယိုမှုကင်းတဲ့ တော်လှန်ရေး ၁၆၈၈ မှာ ပေါ်လာပြီး နန်းကချလိုက်ကြပါတယ်။ အဖြေက ကရွမ်းဝဲလ် ၁၆၄၀ က ဖြစ်စေချင်တဲ့အတိုင်း ဥပဒေခံ (Constitutional Monarchy) မင်း ဖြစ်လာတယ်။ ပြီးတော့ ယုံကြည်မှုမှာ သည်းခံရတယ်။ သူသေသွားပြီး နှစ်သုံးရာကြာတဲ့အခါ အော်လီဗာကရွမ်းဝဲလ်ရဲ့ စာရိတ္တနဲ့ ပတ်သက်ပြီး အတော်သင့် ကျယ်ပြန့်တဲ့ အငြင်းပွားချက်တစ်ခု ပေါ်ပေါက်

ထွက်လာတယ်။ ပုဂ္ဂိုလ်တချို့က သူဟာ အရာရှိကြီးက ချုပ်ပြီး သူ့သဘောအတိုင်း အုပ်ချုပ်ခဲ့ပြီး ပါလီမန်သာ လွှမ်းမိုးရမယ်လို့ ပြောနေပေမယ့် သူကိုယ်တိုင်က စစ်အာဏာရှင် လုပ်ခဲ့တယ်။ ဒါကြောင့် သူဟာ ကြောင်သူတော် (hypocrite) ဖြစ်တယ်။ လူတော်တော် များများ ကတော့ သူဟာ ဒီမိုကရေစီကို တကယ် နှစ်သက်လိုလားသူ မှန်ပါတယ်။

သူမနိုင်တဲ့ဇာတ်ကို ကရလို့သာ အာဏာရှင် လုပ်နေရတာပါလို့ တကယ်ယုံတယ်။ ကရွမ်းဝဲလ်ဟာ ဘယ်တုန်းကမှ ကလိမ်ကကျစ် (devious) မလုပ်ဘူး။ ထီးနန်းယူပြီး မင်းလုပ်ပါဆိုတော့ လက်မခံတာကိုကြည့်ပါ။ အမြဲတမ်း အာဏာရှင်အဖြစ်ကိုလည်း မခံယူပါ။ သူ့ အုပ်ချုပ်ပုံက သမာသမတ် ကျတယ်။ နူးညံ့ပျော့ပျောင်း တယ်။ သမိုင်းမှာ ကရွမ်းဝဲလ်ရဲ့ဩဇာ သက်ရောက်ပုံကို ဘယ်လို တန်ဖိုးဖြတ်မလဲလို့ မေးစရာရှိပါတယ်။ အင်္ဂလန် ပြည်တွင်းစစ်မှာ သူ့ရဲ့ထက်မြက်တဲ့ စစ်ဗိုလ်ချုပ်ကြီးအားနဲ့ ဘုရင့်ဘက်တော်သားတွေကို အရေးနိမ့်နေတာ အမှန်ပါ။ ကရွမ်းဝဲလ်သာ ပေါ်မလာရင် သူတို့ အရေးနိမ့်သွားမှာ သေချာ သလောက်ဖြစ်ပါတယ်။ ကရွမ်းဝဲလ် စစ်အောင်ပွဲ တွေရလို့သာ၊ အင်္ဂလန်မှာ ဒီမိုကရေစီ အစိုးရ အမြစ်တွယ်ပြီး ကြီးမား ထွန်းကားလာနိုင်တာ ဖြစ်ပါတယ်။

ဘာကြောင့်ပဲဖြစ်ဖြစ် ဒီလိုပဲ ဖြစ်လာနိုင်စရာ လမ်းကြောင်းရှိတယ်လို့ မထင်ပါနဲ့။ တစ်ဆယ့်ခုနစ် ရာစုနှစ် အခါက ဥရောပမှာ သက်ဦးဆံပိုင် ဘုရင် စနစ်ကြီးဟာ ထွန်းကားရှင်သန်နေပါတယ်။ အဲဒါက ဖွဲ့ပြီး အထွေအထူး မဖြစ်ပေါ်ဘဲ မျောပါနေတဲ့ ရေအလျင်မှာ အင်္ဂလန်က ဒီမိုကရေစီ တပန်း သာပြီဆိုတာက ထူးကဲတဲ့ အဖြစ်အပျက်ပါ။ နောက်ပိုင်းနှစ်တွေမှာ အင်္ဂလိပ် ဒီမိုကရေစီဟာ ပြင်သစ် ထွက်ရပ်ပေါက်ခြင်း (French Enlightenment)၊ ပြင်သစ် တော်လှန်ရေး (French Revolution) နဲ့ အနောက်ဥရောပမှာ တစ်စတစ်စ ဒီမိုကရေစီ အရေးပါလာခြင်းအထိ တိုးပွားသွားတာကို မြင်သာ (Obvious) ပါတယ်။ ဒီလိုပဲ အမေရိကမှာလည်း၊ အရင် အင်္ဂလိပ် ကိုလိုနီတွေဟာ ဒီမိုကရေစီနိုင်ငံတွေ ဖြစ်ထွန်းလာလိုက်တာ ကနေဒါ (Canada) နဲ့ ဩစတြေလျ (Australia) အထိ ပေါက်ရောက်ပျံ့ပွားသွားတယ်။ အင်္ဂလန်က ကမ္ဘာမှာ သေးငယ်ပေမယ့် အင်္ဂလိပ်ဒီမိုကရေစီ ပျံ့ပွားရာ ဒေသက အဆမတန် ကျယ်ပြန့်ပါတယ်။ အော်လီဗာ ကရွမ်းဝဲလ်ကို ဒဿနိကဆရာ ဂျွန်လော့ခ် (John Locke) နဲ့ ယှဉ်ရင် အင်္ဂလန်နဲ့ အမေရိက တွေမှာ ဒီမိုကရေစီအဖွဲ့အစည်းတွေ ထွန်းပေါက်လာပုံမှာ ရည်တူမျှတူ ရှိတယ်ဆိုပေမယ့် ကရွမ်းဝဲလ်က သာနိုင်စရာ ရှိသလိုပဲပေါ့။ ဘာပြုလို့လဲဆိုတော့ လော့ခ်က စိတ်ကူးပိုင်း ဆိုင်ရာကဖြစ်ပြီး၊ သူက ထက်မြက်စူးရှ လုပ်ရှားနိုင်သူ ဖြစ်နေတယ်။ အဲဒါအပြင် နိုင်ငံရေး အခြေအနေက လော့ခ် မပေါ်လာဘဲ ပြောင်းလဲရေး တစ်မျိုးမျိုး ပေါ်ရမယ့် အခြေအနေ ရှိတယ်။ ထပ်ပြီး ပြောနိုင်စရာ အချက်က ကရွမ်းဝဲလ်သာ မရှိရင်၊ ပါလီမန် အင်အား (Parlimentary forces) ဟာ အင်္ဂလိပ် ပြည်တွင်းစစ်မှာ နိုင်ဖို့ သိပ်မလွယ်ပါ။

15, December, 2000.

# (၄၂) အလက်ဇန္ဒား ဂရေဟမ်ဘဲလ် (၁၈၄၇ - ၁၉၂၂)

## ALEXANDER GRAHAM BELL (1847 – 1922)

တယ်လီဖုန်း တီထွင်သူ အလက်ဇန္ဒား ဂရေဟမ် ဘဲလ် (Alexander Graham Bell) ကို ၁၈၄၇ မှာ စကော့တလန် (Scotland)၊ အီဒင်ဘတ် (Edinburgh) မှာ မွေးပါတယ်။ စာသင်ကျောင်းမှာ ဟုတ်တိပတ်တိ မနေဖူးပါ။ မိသားစုက သင်ကြားပေးတယ်။ ကိုယ်တိုင် ကလည်း ကြိုးစားပြီး ပညာရှာတယ်။ အသံပို့၊ အသံဖမ်း၊ အသံလွှင့် ဆိုတာမျိုးတွေကို ဘဲလ်ဟာ ဘယ်လို၊ ဘာကြောင့် စိတ်ပါဝင်စားလာသလဲ မေးရင် သူ့ဖခင်က အသံဇီဝကမ္မ (vocal physiology) စကားသံမပီခြင်း၊ ထစ်ငေါ့ခြင်းကို ပြင်ဆင်ပေးခြင်း (Speech correction)နဲ့၊ နားမကြားသူကို စကားပြောသင်ပေးခြင်း (teaching of the deft) တွေမှာ ထူးချွန်တဲ့သမားကျော်ဖြစ်လို့၊ ဒီအသံဆိုင်ရာ ပညာရပ်တွေကို လေ့လာဖို့ အင်မတန်နီးစပ်ပါတယ်လို့ ဖြေရမှာ ဖြစ်ပါတယ်။

မက်ဆာချူးဆက် (Massachusetts) နယ်၊ ဘော့စတွန် (Boston) မြို့မှာ ၁၈၇၁ မှာ ဘဲလ် ပြောင်းရွှေ့ နေထိုင်ပါတယ်။ အဲဒီနေရာသစ်ရောက်ပြီး ၁၈၇၅ မှာ တယ်လီဖုန်း ဖြစ်အောင် ထောက်ကူမယ့် ပစ္စည်းတွေ စတင် လုပ်ဆောင်တယ်။ တယ်လီဖုန်းကို သူ့မူပိုင် ဖြစ်ကြောင်း၊ မှတ်ပုံတင်ရုံးမှာ ဖေဖော်ဝါရီ ၁၈၇၆ မှာ မှတ်ပုံတင် လိုက်ပါတယ်။ မှတ်ပုံတင် အတည်ပြုချက်ကို နောက် သီတင်းပတ် နည်းနည်းကြာတော့ ထုတ်ပေးပါတယ်။ (မှတ်သားစရာ အံ့ဩဖွယ် တစ်ချက်က အယ်လစ်ရှာဂရေး Elisha Gray က အလားတူပစ္စည်း တစ်ခုကို ဘဲလ်နဲ့ တစ်နေ့တည်း လာပြီး မှတ်ပုံတင်တယ်။ သူက နာရီပိုင်း နောက်ကျတယ်ပေါ့။)

တယ်လီဖုန်းမူပိုင်မှတ်ပုံတင် အတည်ပြုချက်ရပြီး မကြာခင် ဘဲလ်က ဖီလာဒဲလ်ဖီးယား (Philadelphia) မှာ ကျင်းပတဲ့ အမေရိက လွတ်မြောက်ရေး နှစ်တစ်ရာပြည့် ပြပွဲကြီးမှာ တယ်လီဖုန်းကို ပြသပါတယ်။ လူအများ အထူး စိတ်ဝင်တစား ကြည့်ရှုလို့ ဆုချီးမြှင့်ခြင်း ခံရပါတယ်။ ဒါပေမယ့် အနောက် ယူနီယံ သံကြိုးကုမ္ပဏီ (Western Union Telegraphic Company) ကို ဒီတယ်လီဖုန်းမျိုး လုပ်ရောင်းခွင့် ပေးမယ်။ ဒေါ်လာတစ်သိန်းပေးပါလို့ တောင်းတာကို မပေးပါ။ ဒါနဲ့ ဘဲလ်နဲ့ သူ့မိတ်ဆွေတွေက ဇူလိုင် ၁၈၇၇ မှာ ကိုယ်ပိုင်ကုမ္ပဏီ ထူထောင် လိုက်ကြတယ်။ ကနေ့ အမေရိက တယ်လီဖုန်းနဲ့

တယ်လီဂရပ် ကုမ္ပဏီ (The American Telephone and Telegraph Company) ဟာ အဲဒီကုမ္ပဏီက ဆင်းသက် လာတာ ဖြစ်ပါတယ်။

ချက်ချင်းပဲ အကြီးအကျယ်အောင်မြင်ပါတယ်။ AT & T ဟာ ကမ္ဘာ့ကိုယ်ပိုင် ကော်ပိုရေးရှင်းအဖွဲ့ (private corporation)တွေထဲမှာ အကြီးအကျယ်ဆုံး ကော်ပိုရေးရှင်း ဖြစ်ခဲ့တယ်။ (ပြီးမှ ကုမ္ပဏီတွေ အများကြီး ခွဲလိုက် ပါတယ်။) ဘဲလ်ဇနီးမောင်နှံဟာ မတ် ၁၈၇၉ ကစပြီး၊ တယ်လီဖုန်း ကုမ္ပဏီရဲ့ ရှယ်ယာ တစ်ဆယ့်ငါးရာခိုင်နှုန်းကို ပိုင်တယ်။ ရှေ့မှာ ဒီကုမ္ပဏီဟာ အကြီးအကျယ် အမြတ်အစွန်း ရှိလာမယ်လို့ သူတို့နှစ်ဦးမသိ၊ မခန့်မှန်း နိုင်ပါ။ ခုနစ်လ အတွင်းမှာ သူတို့ပိုင်ရှယ်ယာ တော်တော် များများကို ၊ ပျမ်းမျှ တစ်ရှယ်ယာကို ဒေါ်လာ ၂၅၀ လောက်နဲ့ ရောင်းထုတ်လိုက်တယ်။ နိုင်ဝင်ဘာရောက်တော့ တစ်ရှယ်ယာကို ဒေါ်လာ တစ်ထောင်ဈေးပေါက်နေပါပြီ။ (ပြီးခဲ့တဲ့လက တစ်ရှယ်ယာ ဒေါ်လာ ခြောက်ဆယ့်ငါး ပေးတဲ့အခါ ဘဲလ်ရဲ့ဇနီးက **'ရှယ်ယာတွေ မြန်မြန်ရောင်းပစ်၊ ဒီဈေးမျိုး နောက်မရနိုင်'** လို့ သူ့ခင်ပွန်းကို တိုက်တွန်း ခဲ့တယ်။) လက်ကျန်ရှယ်ယာရဲ့ သုံးပုံတစ်ပုံကို ၁၈၈၀ မှာ ရောင်းပစ်လိုက်တာလည်း သိပ်မှားတာပေါ့။ အဲဒါတောင် ၁၈၈၃ မှာ သူတို့လင်မယားဟာ ဒေါ်လာတစ်သန်း ချမ်းသာ နေပါပြီ။

တယ်လီဖုန်းကို တီထွင်နိုင်လို့ ဘဲလ်ဟာ လူ ချမ်းသာကြီး ဖြစ်လာပေမယ့် သုတေသန အလုပ်တွေကို ရပ်မပစ်၊ ဆက်လုပ်တယ်။ စောစောကလောက် အရာ မရောက်ပေမယ့် နည်းသစ်၊ ပစ္စည်းသစ်တွေ ဆက်ပြီး ဖန်တီး နိုင်ပါတယ်။ သူ့စိတ်ပါဝင်စားတဲ့ အကြောင်းအရာက စုံပါတယ်။ ဒါပေမယ့် **'နားထိုင်းသူကို ဘယ်လို ဖြစ်ဖြစ်မြောက်မြောက် ကူညီရမလဲ'** ဆိုတာက သူ့အဖို့ ထိပ်တန်း ထားတဲ့ ပြဿနာဖြစ်ပါတယ်။

သူ့ဇနီးက သူစာသင်ပေးခဲ့ရတဲ့ နားလေးတဲ့ ကလေးမ ဖြစ်ပါတယ်။ သားနှစ်ယောက်၊ သမီးနှစ်ယောက် ထွန်းကားကြတယ်။ သားတွေက ငယ်စဉ်ကတည်းက ကွယ်လွန် သွားကြတယ်။ ဘဲလ်ကို ၁၈၈၂ မှာ အမေရိကန် ပြည်ထောင်စုသား (United States Citizen) အဖြစ် လက်ခံ တယ်။ ၁၉၂၂ မှာ ကွယ်လွန် ခဲ့ပါတယ်။ ဘဲလ်ရဲ့ဩဇာ ဘယ်လောက်ကြီးမားသလဲလို့ သိချင်ရင်၊ တယ်လီဖုန်း ဘယ်လောက်အသုံးဝင်သလဲ သတ်မှတ်တာ ပေါ်မှာ တည်ပါတယ်။ အခုစာရေးသူ သဘောပြောရရင် သိပ်ကြီးကျယ်ပါတယ်။ ဘယ်နည်းသစ်ကိုမှ တယ်လီဖုန်း လောက် မသုံးမများ၊ နေ့စဉ်လူ့ဘဝမှာ တယ်လီဖုန်းဟာ သိပ်ပြီးအရာရောက်တယ်။

ဘဲလ်ကို မာကိုနီ (Marconi) ထက် နည်းနည်း အောက်က ထားမိတာကတော့ ရေဒီယိုဟာ၊ တယ်လီဖုန်း ထက်ပိုပြီး ထွေထွေထူးထူး သုံးလို့ရတယ်။ အပြန်အလှန် တယ်လီဖုန်းပြောသလို ရေဒီယိုနဲ့လည်း အခြေခံသဘောအရ ပြောလို့ဖြစ်တယ်။ (လေယာဉ်ပျံနဲ့ လေယာဉ်ကွင်း ပြောကြတာမျိုး ဖြစ်တယ်။) အဲဒါမျိုးကျတော့ တယ်လီဖုန်းထက် ရေဒီယိုကသာတယ်။ ဒီတစ်ချက်နဲ့ပဲ ဘယ်သူက သာသလဲ မေးရင် မာကိုနီက အများကြီး သာပြန်တာပေါ့။ ဒါပေမယ့်

ထောက်စရာ အချက်နှစ်ချက် ရှိပါတယ်။

ပထမ၊ ရေဒီယိုကို တယ်လီဖုန်း အစား သုံးလို့ ဖြစ်တယ် ဆိုပေမယ့် တယ်လီဖုန်း စနစ်တစ်ခုလုံးကို ရေဒီယို ဆက်သွယ်ရေးက အစားဝင်ပါဆိုလို့ မဖြစ်နိုင်ပါ။

ဒုတိယ၊ ဘဲလ်က အသံကို ဖမ်းယူတဲ့နည်း တစ်ခုကို လုပ်ပေးတဲ့လူတွေထဲမှာ ထိပ်ဆုံး၊ ပထမ အကျုဆုံးလူ ဖြစ်တယ်။ အဲဒါအပြင် သူ့နည်းကိုယူပြီး ပြင်ဆင်၊ ထပ်ဖြည့်ပြီးမှ ရေဒီယိုအသံဖမ်းစက်၊ ဓာတ်ပြားဖွင့်စက် ဆိုတာမျိုးတွေ ပေါ်လာတာဖြစ်တယ်။

အဲဒါတွေကြောင့် အလက်ဇန္ဒားဂရေဟမ်ဘဲလ်ကို အဆင့်နည်းနည်းလျှော့ပြီး မာကိုနီအောက်နားက ထည့်လိုက်တာ ဖြစ်ပါတယ်။

17, December, 2000.

# (၄၃) အလက်ဇန္ဒား ဖလဲမ်မင် (၁၈၈၁ – ၁၉၅၅)

## ALEXANDER FLEMING (1881 – 1955)

အလက်ဇန္ဒားဖလဲမ်မင်း (Alexander Fleming) ဆိုသူဟာ ပင်နီဆလင် (Penicillin) ကို စတင်တွေ့ရှိသူဖြစ်တယ်။ စကော့တလန် (Scotland) လော့ဖီးလ် (Loch Field) မှာ ၁၈၈၁ မှာ မွေးဖွားခဲ့ပါတယ်။ လန်ဒန် (London) စိန့်မေရီဆေးရုံ (St. Mary's Hospital) ဆေးကျောင်းက အောင်လက်မှတ်ရပြီးနောက် ဖလဲမ်မင်းဟာ ရောဂါပြီး ပညာ သုတေသန (immunological research) ဘက်မှာ ဝင်ရောက်အမှုထမ်းတယ်။ နောက် ပထမ ကမ္ဘာစစ်အတွင်း ဆရာဝန်အဖြစ်နဲ့ အနာကူးစက်နာများ (wound infections) အကြောင်းကို လေ့လာခဲ့ပါတယ်။ အဲဒီမှာ သူသိရှိလာတဲ့အချက်က အနာမရင်းအောင် လုပ်နိုင်တဲ့ဆေးတွေ (Antiseptic) ဟာ ပိုးမွှား(အဏုဇီဝရုပ် microbes) ကို နှိမ်နင်းတာထက် လူ့ခန္ဓာကိုယ်ကဆဲလ် (cells) တွေကို ပိုပြီးဖျက်ဆီးလိုက်တယ်ဆိုတဲ့ အချက် ဖြစ်ပါတယ်။

ဒါကြောင့် ပိုးမွှား (အဏုဇီဝရုပ် microbes) ရုပ်ကို ဖျက်ဆီး ချေမှုန်းပေမယ့် လူရဲ့ဆဲလ်တွေကို ဘေးမဖြစ်စေတဲ့ ဆေးကို ရှာရတော့မှာပဲလို့ သူ သဘောပေါက်ပါတယ်။ စစ်ပြီးတဲ့အခါ ဖလဲမ်မင်းက စိန့်မေရီ ဆေးရုံကို ပြန်ရောက်လာတယ်။ သုတေသန လုပ်ရင်း ၁၉၂၂ မှာ သူက လိုင်ဆိုဇိုင်း (Lysozyme) လို့ အမည်ပေးထားတဲ့ ဓာတ်တစ်မျိုးကိုရတယ်။ လိုင်ဆိုဇိုင်းကို လူ့ခန္ဓာကိုယ်ကပဲ ရတယ်။ ချွဲ (mucus) နဲ့ မျက်ရည် (tears) ပေါင်းစပ်ထားတဲ့ဓာတ်ဟာ လူ့ခန္ဓာက ဆဲလ်ကို အန္တရာယ် မလုပ်ပေမယ့် ပိုးမွှားအဏုဇီဝရုပ်တွေကို ဖျက်ဆီး နိုင်တယ်။ ဒါပေမဲ့ တစ်ခုလိုနေတာက လူကို ဒုက္ခပေးတဲ့ ပိုးမွှားကို မဖျက်ဆီးနိုင်ပါ။ ဒါကြောင့် အဖိုးတန်တဲ့ အသိသစ် ဆိုပေမယ့် အထွေအထူး အရေးပါတဲ့ကိစ္စ ဖြစ်မလာပါ။

အင်မတန်ကြီးကျယ်တဲ့ အသိသစ်ကို ဖလဲမ်မင်းဟာ ၁၉၂၈ ရောက်တဲ့အခါ တွေ့ရှိရပါတယ်။ သူ့ဓာတ်စမ်းရုံ (laboratory) မှာ မွေးထားတဲ့ စတက်ဖီလိုကောကတ်စ် (staphylococcus) ပိုးမွှားကို လေသလပ်ထားမိတဲ့အခါ စံချိန်ပျက်ပြီး ညစ်ထေးသွားလို့ မှိုနု (mold) တက်နေတာ တွေ့တယ်။ အဲဒါအပြင် မှိုနုကို ဝိုင်းနေတဲ့ပိုးမွှား (bacteria) တွေ အားလုံး

ကျေပျက်နေတာကို ဖလဲမ်မင်းတွေ့တယ်။ သူ ချက်ချင်း အခြေအနေမှန်ကို သိလိုက်ပါပြီ။ ဒီမှိနုဟာ စတက်ဖီလို ကောကတ်စ် ပိုးမွှားကို ဖျက်ဆီးနိုင်တဲ့အဆိပ် ဖြစ်တယ်။ မကြာမီ သူက ဒီပစ္စည်းဟာ အန္တရာယ်ပြုနိုင်တဲ့ တခြား ပိုးမွှားအများကိုလည်း မပွားများရအောင် ဟန့်တား နိုင်ကြောင်း ပြနိုင်ပါတယ်။ ဒီပစ္စည်းကို ပင်နီဆလင် လို့ နာမည်ပေးလိုက်ပါတယ်။ မှိုနုကို (ပင်နီဆလီယမ် နိုတတမ် pencillium notatum) လို့ နာမည် မှည့်တယ်။ ဒီပစ္စည်းဟာ လူနဲ့တိရစ္ဆာန်ကို အန္တရာယ် မပြုနိုင်ပါ။

ဖလဲမ်မင်ရဲ့တွေ့ရှိချက်ကို ၁၉၂၉ မှာ စာနဲ့ရေးပြီး လူအများကို အသိပေးပေမယ့် ပထမ သိပ်ပြီး အရေးတယူ ဂရုတစိုက် မလုပ်ကြပါ။ ဖလဲမ်မင်က ပင်နီဆလင်ကို ဆေးကုသတဲ့ နေရာမှာ သုံးရင် သိပ်ပြီးကျေးဇူးများမယ်လို့ ပြောပါတယ်။ ဒါပေမဲ့ သူကိုယ်တိုင် ပင်နီဆလင်ကို သန့်စင် အောင်လုပ်တဲ့နည်း မရရှိသေးလို့၊ နောင် အံ့ဖွယ်ဆေးကြီး ြဖစ်လာမယ့် ပင်နီဆလင်ကို ဆယ်နှစ်လောက် အသုံးမပြုဘဲ ရှိနေရပြန်တယ်။

၁၉၃၈ ကျော်တဲ့အခါ၊ ဗြိတိသျှလူမျိုး သုတေသီ နှစ်ဦး ဟိုဝပ်ဝေါလ်တာဖလိုရီ (HoWard Walter Florey) နဲ့ အန်ဘောရစ်စ်ချိန်း (Ernst Boris Chain) တို့ စာတမ်းကို ဖတ်မိကြပြီး၊ သူ့အလုပ်ကိုပြန်စစ်ပြီး ဖော်ပြထားတဲ့ရလဒ်ကို ဟုတ်၊ မဟုတ် စမ်းကြည့်ကြပါတယ်။ ပြီးတော့ ပင်နီဆလင် ကို သန့်စင်အောင် လုပ်ပြီး ဓာတ်စမ်းရုံထဲက တိရစ္ဆာန် တွေမှာ စမ်းကြည့်ပါတယ်။ ၁၉၄၁ ရောက်တဲ့အခါ လူစစ်စစ်လူနာကို ဒီဆေးနဲ့ကုသကြည့်ပါတယ်။ အဲဒီအခါ ဒီဆေးဟာ အံ့သြလို့ မကုန်နိုင်အောင် စွမ်းကြောင်း အသေအချာ ထင်ရှားအောင် တင်ပြနိုင်ခဲ့ပါတယ်။

အင်္ဂလိပ်နဲ့အမေရိက အစိုးရတွေက အားပေးလို့ ဆေးဝါးကုမ္ပဏီ (Pharmaceutical Companies) တွေ ဝင်လာပြီး ပင်နီဆလင်ကို မြန်မြန်နဲ့များများ ထုတ်လုပ် ရောင်းချကြပါတော့တယ်။ ပထမ ပင်နီဆလင်ကို စစ်တိုက်ရင်းဒဏ်ရာရသူတွေ အတွက်သာ သုံးရမယ်လို့ သီးသန့် ထားပါတယ်။ ၁၉၄၄ ရောက်တဲ့အခါမှ အင်္ဂလန်နဲ့ အမေရိကမှာ ပြည်သူအများကိုလည်း ဒီဆေးနဲ့ ကုသခွင့် ပေးပါတယ်။ စစ်ကြီး ၁၉၄၅ မှာပြီးတဲ့အခါ၊ ပင်နီဆလင်ကို တစ်ကမ္ဘာလုံး သုံးခွင့်ပြုပါတယ်။

ပင်နီဆလင် ပေါ်လာပြီဆိုတော့ အလားတူ ပဋိဇီဝဆေး (Anti–biotic) တွေ အပြိုင်အဆိုင် ပေါ်ပေါက် လာပါတယ်။ အဲဒါနဲ့ ပျောက်ပေ့ဆေး (miracle–drugs) တွေ အမြောက်အမြားပေါ်လာတယ်။

အဲဒါနဲ့ တောင် ပင်နီဆလင်ဟာ ဆက်လက် တွင်ကျယ်ဆဲ ဖြစ်ပါတယ်။ အခုလို ဆက်လက် လွှမ်းမိုးနိုင်စရာ အကြောင်း တစ်ခုလည်း ရှိပါသေးတယ်။ ပင်နီဆလင်ဟာ အန္တရာယ် ပေးနိုင်တဲ့ အဏုဇီဝရုပ် (micro Organism) မျိုးပေါင်း များစွာကို နှိမ်နင်းနိုင်ပါတယ်။

ဒီဆေး (drug) နဲ့…

(၁) ဂနိုရောဂါ gonorrhea
(၂) ငန်းမန်းဆိပ်တက်ခြင်း blood poisoning
(၃) ဆစ်ဖလစ် syphilis
(၄) နီမြန်းအဖျားရောဂါ scarlet fever
(၅) မနင်းဂျီမြွေးရောင်နာ meningitis
(၆) ရိုးဆက်ရောင်ရမ်းနာ arthritis
(၇) လည်ချောင်းရောင်နာ bronchitis
(၈) အဆုတ်ရောင်ရမ်းနာ pneumonia
(၉) အနာစိမ်း၊ သွေးစုနာ boits
(၁၀) အပြင်းဖျား diphtheria
(၁၁) အရိုးမှာ အနာပေါက်ခြင်း bone infections
(၁၂) အသားပုပ်ဆွေးနာ gangrene

တို့အပြင် အခြားရောဂါ အမြောက်အမြားကို ကုသ ပေးနိုင် ပါတယ်။

ပင်နီဆလင်ကို သုံးရာမှာ နောက်စိတ်ချမ်းသာစရာ အကွက်တစ်ခုက ဆေးလွန်လို့ ဒုက္ခပေးတာမျိုး မရှိ၊ သိပ်စိတ်ချရတယ်။ တချို့ရောဂါကို ပင်နီဆလင်ယူနစ် ငါးသောင်းနဲ့ပဲ ပျောက်အောင်ကုနိုင်ပြီ။ တချို့ ဝေဒနာကျတော့ တစ်နေ့ ယူနစ် ဆယ်ကုဋေ ထိုးပေးပေမယ့် ဘာ အပိုဝေဒနာ (ill effects) မှ မခံစားရပါ။ ရာနှုန်းနည်းနည်း လူတချို့တော့ ပင်နီဆလင်နဲ့ မတည့်ပါ။ အများစုကတော့ အဲဒီဆေးနဲ့တည့်လို့သိပ်အားရှိပြီး ကျန်းမာသွားကြပါတယ်။

ပင်နီဆလင်ဟာ လူသန်းပေါင်းများစွာရဲ့အသက်ကို ကယ်ခဲ့ပြီးပြီ။ ရှေ့အဖို့လည်းဒီလိုပဲ ကယ်တင်နိုင်စွမ်း ရှိဦးမယ် ဆိုတော့ ဖလဲမ်မင် စတင်ဖော်ထုတ်တဲ့ ဒီဆေးရဲ့ အာနိသင်ကို မယုံသင်္ကာ ရှိမယ့်လူ မရှိသလောက်ပါပဲ။ အခုစာအုပ်မှာ သူ့ကို နေရာအဆင့်ပေးတဲ့နေရာမှာတော့ ဖလိုရီ (Florey) နဲ့ ချိန်း(Chain) တို့ရဲ့ ပါဝင် ထောက်ကူချက်ကို ဘယ်လောက် တန်ဖိုးထားမလဲ ဆိုတာကိုတော့ ထည့်တွက်သင့်တယ်။ အဦးအစတွေ့တဲ့လူ ကိုပဲ အားလုံးပုံပြီး ချီးမွမ်းသင့်တယ်လို့ ကျွန်တော် ထင်ပါ တယ်။

သူ့ကြောင့်သာမဟုတ်ရင် နောက်ထပ် နှစ်အတော် ကြာပြီးမှ ပင်နီဆလင်ပေါ်ထွက်လာမှာ ဖြစ်တယ်။ သူ့ တွေ့ရှိချက်ကို ဖော်ထုတ်ဖွင့်ပြောပြီးနောက် အနှေးနဲ့အမြန် ဆိုသလို၊ ဒါကို ကောင်းသထက် ကောင်းအောင် မွမ်းမံချက် တွေ ဆက်တိုက်ပေါ်ထွက်လာမှာ သေချာတယ်။

ဖလဲမ်မင် (Fleming) အိမ်ထောင်ရေး ကံကောင်း တယ်။ ကလေး တစ်ယောက် မွေးတယ်။ သူ ရှာဖွေ တွေ့ရှိချက်ကြောင့်၊ ၁၉၄၅ မှာ သူ့ကို နိုဘယ်လ်ဆု ပေးတဲ့အခါ ဆုကို ဖလိုရီ (Florey) နဲ့ ချိန် (Chain) တို့ကိုပါ ထည့်ပြီး ဝေယူကြပါတယ်။ ဖလဲမ်မင်ဟာ ၁၉၅၅ မှာ သေဆုံး သွားပါတယ်။

# (၄၄) ဂျွန်လော့ခ် (၁၆၃၂ – ၁၇၀၄)

# JOHN LOCKE (1632 – 1704)

နာမည်ကျော် အင်္ဂလိပ်ဒဿနိကပညာရှင် ဂျွန်လော့ခ် (John Locke) က စည်းကမ်းတကျ အများ ဆန္ဒလွှမ်းမိုးရေး အခြေခံ အတွေးတွေကို စုစည်းပြီးပေးတဲ့ ပထမ စာရေးဆရာဖြစ်တယ်။ သူ့အယူအဆတွေက ပြည်ထောင်စုကို စတင် တည်ထောင်တဲ့ ဖခင်တွေနဲ့ ရှေ့တန်းက ပါဝင်တဲ့ ပြင်သစ် ဉာဏ်အမြင်ဖွင့်သူ (enlightenment) တွေကို ရှေ့ဆောင်လမ်းပြ ပြုခဲ့ပါတယ်။

လော့ခ်ကို အင်္ဂလန် (England) ရင်တန် (Wrington)မှာ ၁၆၃၂ မှာ မွေးတယ်။ အောက်စဖို့ဒ် တက္ကသိုလ် (Oxford University) မှ ဝိဇ္ဇာဘွဲ့ကို ၁၆၅၆ မှာ ရတယ်။ မဟာဝိဇ္ဇာဘွဲ့ကို ၁၆၅၈ မှာ ရတယ်။ လူငယ်ဘဝက သိပ္ပံဘာသာကို စိတ်ဝင်စားပါတယ်။ အသက် သုံးဆယ့်ခြောက် နှစ်မှာ အသင်းတော် (The Royal Society) မှာ အသင်းဝင်အဖြစ် ရွေးကောက်ခြင်း ခံရတယ်။ နာမည်ကြီး ဓာတုဗေဒပညာရှင် ရောဗတ်ဘွိုင် (Robert Boyle) လို ပုဂ္ဂိုလ်ရဲ့ ရင်းနှီးတဲ့ မိတ်ဆွေတစ်ယောက် ဖြစ်လာတယ်။ နောက် အသက်ကြီးလာတော့ အိုက်ဆက် နယူတန် (Issac Newton) ရဲ့ မိတ်ဆွေလည်း ဖြစ်လာ ပါတယ်။ ဆေးပညာမှာလည်း သူ စိတ်ဝင်စား ပါတယ်။ အဲဒီပညာရပ်မှာလည်း ဝိဇ္ဇာဘွဲ့ရပါတယ်။ ဆေးကု ပေးတာ တော့ ရံဖန်ရံခါမှပဲ လုပ်ပါတယ်။

ရှက်စ်ဗာရီမြို့စားကြီး (Earl of Shiaftesbury) ရဲ့ ဆေးဆရာနဲ့ အတွင်းရေးမှူးဖြစ်လာတဲ့အခါ လော့ခ်ရဲ့ဘဝ ပုံစံဟာ တစ်နည်းတစ်ဖုံပြောင်းလဲဖို့ အရေးကြုံပါတယ်။ ရှက်စ်ဗာရီ ဆိုတဲ့ပုဂ္ဂိုလ်က ခေတ်ဟောင်းခေတ်သစ်ကြားက ညီညွတ်အောင် ညှိနှိုင်းဆက်ဆံတဲ့ လစ်ဗရယ် (liberal) နိုင်ငံရေး အယူအဆတွေကို ရှေ့ဆောင်ပြောဟောတဲ့ အရေးပါ အရာရောက်သူ ဖြစ်တယ်။ နိုင်ငံရေးမှာ ပါဝင် လှုပ်ရှားလို့ ဒုတိယ ချားလ်စ်ဘုရင် (King Charles II) က ထောင်ချထားတာကို ခဏခံလိုက်ရသေးတယ်။

ရှက်စ်ဗာရီက ဟော်လန် (Holland) ကို ၁၆၈၂ မှာ ထွက်ပြေး သွားပြီး နောက်တစ်နှစ်မှာ ကွယ်လွန် သွားပါတယ်။ လော့ခ်ကိုလည်း ရှက်စ်ဗာရီနဲ့ ရင်းနှီးသူဆိုပြီး မယုံသင်္ကာ ရှိတာနဲ့ သူလည်း ၁၆၈၃ မှာ ဟော်လန်ကို ထွက်ပြေး ခဲ့ရပါတယ်။ ဟော်လန်မှာ ချားလ်စ်ကို ဆက်ခံတဲ့ဘုရင် ဒုတိယဂျိမ်းစ် (James II)

ကို ၁၆၈၈ တော်လှန်ရေးက သုတ်သင်ပြီး ၁၆၈၉ ရောက်မှ၊ လော့ခ်က ဟော်လန်မှ အင်္ဂလန်သို့ ပြန်လာပါတယ်။ အဲဒီနောက် အင်္ဂလန်မှ ဘယ်မှမသွားတော့ဘဲ လူပျိုကြီးဘ၀နဲ့ပဲ ၁၇၀၄ မှာ ကွယ်လွန်တယ်။

လော့ခ်ကို နာမည်စေတဲ့ စာအုပ်က လူကြိုက်များတဲ့ လူ့ဘ၀ကို ဘယ်လိုသဘောထားရမလဲ ၁၆၉၀ (An Essay Concerning Human Understanding, 1690) ဖြစ်ပါတယ်။ ဒီကျမ်းထဲမှာ လူအသိပညာရဲ့ အတိုင်းအတာ၊ သဘာဝ၊ မူရင်းအစ ဆိုတာတွေကို ဆွေးနွေးရေးသားတယ်။ လော့ခ်ရဲ့အမြင်က **'ဘယ်ကိစ္စဖြစ်ဖြစ် အဲဒါရဲ့လက်ငင်း အကျိုး ဘယ်လောက်ရှိသလဲဆိုတာကို ရှေ့တန်းထားပြီး စဉ်းစားတဲ့အမြင်'** ဖြစ်တယ်။ ဖရန်စစ်ဘေကွန် (Francis Bacon) နဲ့ ရီနီဒေးကား (Rene' Descarte) တို့ရဲ့ အတွေးအခေါ်ဆန်တာ အထင်အရှား တွေ့နိုင်ပါတယ်။ သူ့ကိုလည်း နောက်ကလိုက်လာတဲ့ ဘရှော့ ဂျော့ဗာကလေ (Bishop George Berkeley)၊ ဒေးဗစ်ဟမ် (David Hume) နဲ့ အင်မင်နယူဝဲလ်ကန့် (Immanuel Kant) တို့က ကိုးကားကြပါတယ်။ အခုဖော်ပြတဲ့ကျမ်းဟာ သူ့ကိုယ်ပိုင် အတွေးအခေါ်တွေကို စုဆောင်းပြီး ဖော်ပြထားတာဖြစ်လို့ ဒဿနိကဗေဒမှာ ကျော်ကြားတဲ့ရေးကျမ်းကြီးတစ်ဆူ ဖြစ်ပေမယ့် သူ့နိုင်ငံရေးစာတမ်းတွေကသာ သမိုင်းမှာ ပေါ်ပေါက်တဲ့ ကြီးကျယ်တဲ့ အဖြစ်အပျက်တွေကို ဖော်ထုတ်နိုင်စွမ်းရှိတာ တွေ့ရပါတယ်။ (ရေးသူအမည်မပါဘဲ ၁၆၈၉ မှာ ပထမဆုံးထုတ်ဝေတဲ့) သည်းခံ အမည်ပါတဲ့ စာတမ်းမှာ၊ နိုင်ငံအုပ်ချုပ်ရေး ပိုင်းက ကိုးကွယ်ယုံကြည်မှုပိုင်းကို ဝင်ရောက်စွက်ဖက်ခြင်း မပြုသင့်၊ လွှတ်ထားသင့်ပါတယ်လို့ အခိုင်အမာ ရေးသား ပါတယ်။ ပရိုတက်စတင့် (Protestant) ဂိုဏ်းကွဲတွေကို အပိတ်အပင်မရှိ လိုက်လျောရမယ်လို့ ပြောဟောတဲ့ အင်္ဂလိပ်လူမျိုးတွေထဲမှာ၊ လော့ခ်ဟာ ရှေးဦးရေးဖျား ပေါ်ထွက်ခဲ့သူ မဟုတ်ပါ။ ဒါပေမယ့် သူက စရေးတော့မှ ပရိသတ် (လူအများ) နိုးကြားပြီး သည်းခံရမယ် ဆိုတဲ့ ဝါဒကို ဝိုင်းဝန်းထောက်ခံလာကြတာဖြစ်ပါတယ်။ အဲဒါအပြင် လော့ခ်က ခရစ်ယာန် အချင်းချင်းသာမက တခြား အယူဝါဒဝင်တွေ အပေါ်မှာလည်း သည်းခံရမယ်။ မိစ္ဆာဒိဋ္ဌိ (Pagan) မိုဟာမက်နဲ့ ဂျူးတွေကိုလည်း အတူတကွ ပေါင်းစပ် အကျိုးခံစားခွင့်နယ်မှာ ထည့်သွင်းပါ။ ကက်သလစ် (Catholics) ကိုတော့ ဘာမှမယုံတဲ့ လူတွေလည်း မဟုတ်။ နိုင်ငံခြားမင်းရဲ့ သစ္စာခံတွေသာ ဖြစ်တယ်။ ဒါကြောင့် သူတို့ကို သည်းမခံနိုင်ဘူးလို့ လော့ခ်ကဆိုပါတယ်။ အခုအနေနဲ့ အကဲဖြတ်ရရင် သူလည်း ပြင်းပြင်းထန်ထန် သည်းမခံတဲ့လူ ဖြစ်နေတယ်။ ဒါပေမယ့် သူ့ကို သူ့ခေတ်မူတွေနဲ့ပဲ ဆုံးဖြတ်သင့်ပါတယ်။ အမှန်က ယုံကြည်မှုမှာ သည်းခံစိတ်ထားရမယ်လို့ သူ အကျိုးအကြောင်း ပြပြီး ပြောဆိုတာကို သူ့စာဖတ် ပရိသတ်က သိပ် အလေးအနက် ထားပြီး ယုံကြည်တယ်။ ဒီတော့ တစ်ခုတလေ ခြွင်းချက်အနေနဲ့ သူပျက်ကွက်တာကို ခွင့်လွှတ်နိုင်ပါတယ်။ ကနေ့ လော့ခ်ရဲ့စာတွေကြောင့် သူက ဒီလူတွေ မပါဘူးလို့ ဖယ်ခဲ့တဲ့လူတွေပါ အခွင့်အရေးတွေ ရနေကြပါပြီ။

လော့ခ်စာတွေထဲမှာ တန်ဖိုးအမြင့်ဆုံးစာက အုပ်ချုပ်သူ ဆိုင်ရာကျမ်းနှစ်စောင်တွဲ (Two Treatises Of Government, 1689) ဖြစ်တယ်။ အဲဒီအထဲမှာ အဆင်ပြေအောင် ညှိနှိုင်းခွင့်ပေးတဲ့ စည်းမျဉ်းခံ အများ လွှမ်းမိုးတဲ့ ဦးစီးအဖွဲ့ရဲ့ အခြေခံအယူအဆတွေကို တွေ့မယ်။ အင်္ဂလိပ်စကားပြောကမ္ဘာ (English–speaking world) တစ်ခွင်မှာ နိုင်ငံရေး အယူအဆတွေကို ဒီကျမ်းပါ စကားတွေက ကြိုးကိုင်ထားသလို ဖြစ်လာပါတယ်။ လော့ခ် အခိုင်အမာယုံတာက 'လူတိုင်းမှာ မွေးကတည်းက ရလာတဲ့ခံစားခွင့်တွေ' ရှိတယ်။ အသက်ရှင်ခွင့်သာမဟုတ် လွတ်လပ်ခွင့် လည်း ရှိရမယ်။ ကိုယ်ပိုင်ပစ္စည်းလည်း ထားပိုင်ခွင့် ရှိရမယ်။ ဦးစီးကြိုးကိုင်တဲ့ အကြီးအကဲကို ဘာအတွက် ထားရသလဲလို့ မေးရင်၊ လော့ခ်က 'ငယ်သားတွေရဲ့ အသက်အိုးအိမ်စည်းစိမ်ကို ကာကွယ်ပေးဖို့ဖြစ်တယ်' လို့ ပိုင်ပိုင်နိုင်နိုင် ပြောဆိုပါတယ်။

ဒီအယူအဆကို၊ တစ်ခါတစ်ရံ အကြီးအကဲ အိပ်ဖန်စောင့် သီအိုရီလို့ တင်စားပြီး ခေါ်လေ့ရှိပါတယ်။

ရှင်ဘုရင်ကို (အထက်ဘုရားသခင်က) စိုးစေပိုင်စေလို့ ခွင့်ပေးပြီးသား ဖြစ်တယ်ဆိုတဲ့ ထင်မှတ်ချက်ကို လော့ခ်က 'အုပ်ချုပ်ခံရတဲ့လူတွေကကျေနပ်မှ အပေါ်ကစိုးမိုးလို့ရတာပါ' လို့ ပြင်ပေးတယ်။ လူ့ဘုံလောကမှ လူရဲ့ ကိုယ်ပိုင်အရေးအခွင့်ဆိုတာ ဥပဒေပြဋ္ဌာန်းပြီး ပေးအပ် ထားတာမဟုတ်။ ဆိုးတူကောင်းဘက် အတူ နေကြရင် ဒါတွေတော့ ကိုယ်စိုးကိုယ်ပိုင်လုပ်ခွင့်ပြုတယ်လို့ အများ သဘောတူထားချက်သာ ဖြစ်တယ်။

လော့ခ်က အပြန်အလှန် သဘောတူညီချက်ကို အထူး အလေးအနက်ထားပြီး ပြောဆိုလေ့ရှိတယ်။

ဒီသဘောထားကို ခေတ်ဦး အင်္ဂလိပ်ဒဿနိကဆရာဖြစ်တဲ့ သောမတ်စ် ဟော့ဗ် (Thomas Hobbes) ၁၅၈၈ – ၁၆၇၉ က တင်ပြထားခဲ့ဖူးပါတယ်။ ဒါပေမဲ့ ဟော့ဗ်က သက်ဦး ဆံပိုင်မင်းနဲ့ ပြည်သူ့ဆက်ဆံရေးမှာ ဒီသဘောထားကို သုံးတယ်။ လော့ခ်ကတော့ အပြန်အလှန် တူညီချက်ဆိုရင် (တစ်ဖက်ကပျက်ကွက်တဲ့အခါ) မူလ သဘော တူညီချက်ကို ရုပ်သိမ်းခွင့်ရှိတယ်လို့ ဆိုပါတယ်။ ဥပဒေပြုတွေက လူတို့ပစ္စည်းကို လုယူသွားခြင်း၊ ဖျက်ဆီးခြင်း၊ နိုင့်ထက်စီးနင်း တန်ခိုးသြဇာသုံး၍ ကျွန်ပြုခြင်း တို့ကို ပြုလုပ်ခဲ့ပါလျှင် သူတို့က လူအများကို ရန်ပြုခြင်း မည်သဖြင့် ထိုသူတို့ကို ဆက်လက် လေးစား၍ စကားကိုနာခံရန် မလိုတော့ပါ။ ထိုသူတို့နှင့် ကင်းလွတ်ပြီ ဖြစ်၍ အကြမ်းဖက် ခွန်အားသုံးပြီးဖိစီးခြင်းကို ရှောင်တိမ်း ခိုလှုံရန် ဘုရားသခင် ထံပါးသို့ ဝင်ခွင့်ရမည်ဖြစ်ပါသည်။ လူအများ၏ အကြီးဆုံး တန်ခိုးသတ္တိမှာ သူတို့ ယုံကြည်မျှော်လင့် သလို ဥပဒေပြုသူများက မလုပ်ပေးလျှင် လုပ်ပြီးဥပဒေကို ပြင်ခွင့်၊ ဖယ်ရှားခွင့်ရှိသည်။

လော့ခ်က ဖယ်ရှားခွင့်ရှိကြောင်း ပြောတာကို သောမတ်စ်ဂျက်ဖာဆင်နဲ့

တခြားအမေရိက တော်လှန်ရေး ပုဂ္ဂိုလ်တို့က အလွန်အမင်း ကျေနပ် လိုက်နာကြပါတယ်။ လော့ခ်က အာဏာကို ပုံအပ်တာထက် ခွဲဝေအပ်တာရှိကောင်းတယ်လို့ ဆိုပါတယ်။ အဲဒီတော့ ဥပဒေပြု (legislature) နဲ့ ဥပဒေဆောင် (judiciary) မှာ ဥပဒေပြုကို ထိပ်တန်း ထားပါလို့ ဆိုတယ်။ (အရာရှိကြီးငယ်ဟာ ဥပဒေဆောင်တွေသာ ဖြစ်တယ်။) ဥပဒေပြုက အချုပ်ဖြစ်တယ်လို့ ယုံကြည်တဲ့အတွက် တရားရုံးက ဥပဒေ ဘောင်မဝင်လို့ ပြောရင် လော့ခ်က အမှန်ကန့်ကွက်မှာ ဖြစ်ပါတယ်။ မဲများရင်နိုင်တယ်ဆိုတာကို လော့ခ်က မြဲမြဲစွဲစွဲယုံပေမယ့် အုပ်ချုပ်ရေး ဆိုင်ရာမှာ အကန့်အသတ်မရှိ၊ အာဏာကုန် ရထားတယ်ဆိုတာကိုတော့ လက်မခံကြောင်း ရှင်းရှင်း လင်းလင်း ပြောထားပြီးဖြစ်တယ်။ လူအများကလည်း လူ့အခွင့်အရေးကို မချိုးဖျက်ရဘူး၊ သူ့ဥစ္စာကိုလည်း ယူခွင့် လုံးဝမရှိ။ အုပ်ချုပ်ခံရသူက ကျေကျေနပ်နပ် ပေးအပ်မှသာ အုပ်ချုပ်သူက ယူခွင့်ရှိတယ်။ ကိုယ်စားလှယ်မပါဘဲ အခွန်မကောက်ရ (No taxation without representation) လို့ ကြွေးကြော်ခဲ့တာဖြစ်ပါတယ်။ လော့ခ်ဟာ အမေရိက တော်လှန်ရေးရဲ့ အရေးကြီးဆုံး တောင်းဆိုချက်တွေကို အရင်အနှစ်တစ်ရာ လောက်ကပဲ ကြိုပြီး ပြောပြခဲ့တာ ထင်ရှားနေပါတယ်။

သောမတ်စ်ဂျက်ဖာဆင် လိုလူမျိုးကို ကောင်းကောင်းကြီး နည်းပေးလမ်းပြလုပ်နိုင်ခဲ့ပါတယ်။ လော့ခ်ရဲ့ အယူအဆဟာ ဥရောပကိုစူးဝင်သွားပြီး ပြင်သစ်လို တိုင်းပြည်မှာ တိုက်ရိုက်မဟုတ်ပေမယ့် သွယ်ဝိုက်တဲ့နည်းနဲ့ ပြင်သစ်တော်လှန်ရေး (French Revolution) ကို စတင်ပေါ်ပေါက်စေတယ်။ ပြင်သစ် လူ့အခွင့်အရေး ကြေညာချက် သတ်မှတ်ခဲ့တယ်။

လော့ခ်ထက် ဗော်လ်တဲ (Voltaire) နဲ့ သောမတ်စ်ဂျက်ဖာဆင်တို့က ပိုပြီး ထင်ပေါ် ကျော်ကြားပေမယ့် သူရေးသမျှဟာ သူတို့မပေါ်ခင်ကပဲ ပေါ်ပေါက်ခဲ့ပြီး သူတို့ပေါ်လာတဲ့အခါ သူတို့က သူပြောခဲ့သမျှကို သိပ်လေးစားတဲ့အတွက် ဒီစာအုပ်ထဲမှာ အဲဒီလူတွေအရင် လော့ခ်(Locke) ကို ဖော်ပြလိုက်တာ ယုတ္တိတန်တယ်လို့ ဆိုချင်ပါတယ်။

10, January, 2000.

# (၄၅) လုဒ်ဝစ် ဗန် ဘီသိုဗင် (၁၇၇၀ – ၁၈၂၇)

# LUDWIG VAN BEETHOVEN (1770 – 1827)

ဂီတရေးစပ်တဲ့လူကျော်တွေထဲမှာ ကြီးမား အကျော်ကြားဆုံးဆရာ လုဒ်ဝစ်ဗန် ဘီသိုဗင် (Ludwig van Beethoven) ကို ဂျာမနီ (Germany) ဗွန်း (Bonn) မြို့တော်မှာ ၁၇၇၀ မှာ မွေးဖွားခဲ့ပါတယ်။ အသက် ငယ်ငယ်ကလေးကပဲ သူ့အစွမ်းကို ဖော်ထုတ်ပြသနိုင်ခဲ့ပါတယ်။ ၁၇၈၂ ရောက်တဲ့အခါ သူထုတ်တဲ့ ပထမရေးစပ်တဲ့ ဂီတကို တွေ့ကြရပါပြီ။ လူငယ်အရွယ်မှာ ဗီယင်နာ (Vienna) ကို အလည်ရောက်လို့ မိုးဇတ် (MozArt) ကို သွားတွေ့တယ်။ ခဏပဲတွေ့ခဲ့ရတယ်။ ဘီသိုဗင် ၁၇၉၂ မှာ ဗီယင်နာကို တစ်ခေါက်ပြန်ရောက်ပြီး၊ ဗီယင်နာမှာ ဂီတခေါင်းဆောင် ဟေ့ (Haydn) ဆီမှာ ခေတ္တပညာသင်ပါတယ်။ (မိုးဇတ်က အရင်တစ်နှစ်ကပဲ ကွယ်လွန်ပါတယ်။ ) ဘီသိုဗင်ဟာ အဲဒီတုန်းက ကမ္ဘာ့တေးဂီတမြို့တော် ဗီယင်နာမှာပဲ အသက်ထက်ဆုံးနေသွားပါတယ်။ ဘီသိုဗင်ဟာ ပီယာနိုမှာ အလွန့်အလွန် ပါရမီထူးတာကို လူတိုင်းအံ့သြရပါတယ်။ ကိုယ်တိုင် ပီယာနို တီးတဲ့နေရာမှာရော၊ ပီယာနိုတီးနည်း သင်ပြပေးတဲ့ဆရာ အဖြစ်နဲ့ရော အင်မတန် အောင်မြင်ပါတယ်။ မကြာခင်ပဲ အင်မတန်ကျွမ်းကျင်လိမ္မာတဲ့ ဂီတဆရာ ဖြစ်လာပါတယ်။ သူ့လက်ရာကို လူတကာက တမွန်တမြတ် နားထောင်လေ့ကျက်ကြပါတယ်။ အသက် ၂၅ နှစ်လောက်ကစပြီး သူ့ဂီတတွေကို တွင်တွင် ကျယ်ကျယ် ပုံနှိပ်ထုတ်ဝေရောင်းချနိုင်ခဲ့ပါတယ်။ အသက်သုံးဆယ်နားနီးတော့ နားပင်းတော့မယ့် သဘောလက္ခဏာတွေ စတင်တွေ့လာပါပြီ။ ဂီတဆရာလေးဟာ ဒီဝေဒနာကျရောက်မယ့် အရိပ်လက္ခဏာကို သိပ်ကြောက်လန့်ပါတယ်။ ကိုယ့်ကိုယ်ကို သတ်သေဖို့တောင် စဥ်းစားမိတယ်။ ၁၈၀၂ မှ ၁၈၁၅ အထိ ဘီသိုဗင်ရဲ့ လူလတ်ပိုင်းအရွယ်မှာ နားမကြားတာဟာ တဖြည်းဖြည်းပိုလာလို့ လူတွေ့ သူတွေ့မခံဘဲ ရှောင်နေခဲ့ပါတယ်။ ဓာတ်မသိသူတွေက သူ့ကို လူကိုရွံမုန်းသူ (misanthrope) တစ်ယောက်လို့တောင် စွပ်စွဲပြောဆိုကြတယ်။ မိန်းမပျိုတွေနဲ့ ချစ်ခင်ရင်းနှီးတာလည်း ခဏပဲ၊ အိမ်ထောင်မပြုတော့ပါ။

ဘီသိုဗင်ရဲ့ဂီတတွေကတော့ အများကြီး ဆက်တိုက် ထွက်ပေါ်လာခဲ့ပါတယ်။ နှစ်ရှည်လများကြာတဲ့အခါ ဘယ်ဟာခေတ်စားမယ်၊ ဘယ်ဟာတွင်ကျယ်မယ် ဆိုတာတွေကို ဂရုမစိုက်တော့ပါ။ အဒဲ ါလည်း နာမည်ကြီးလျက် လူကြိုက်များလျက်ပဲ ဖြစ်နေပါတယ်။ အသက် ၅၀ မပြည့်မီ

လုံးဝနားပင်းသွားပါတယ်။ အဲဒီအခါ လူပရိသတ်ထဲကို လုံးဝထွက်မလာတော့ပါ။ ဒီလိုနဲ့ ပွဲကြီးလမ်းကြီးမှာ မပါဝင်တော့ဘဲ တစ်ယောက်တည်း ထီးထီးနေတဲ့ဘဝကို ရောက်သွားပါတယ်။ အရင်ကလိုပဲ ဂီတသွက်သွက် မစပ်တော့ပါ။ ရေးသမျှလည်း လူတွေက နားမထောင်ကြတော့ပါ။ သူ့အကြိုက် သူထင်ရာ ရေးစပ်တယ်။ နောင်အခါ လက်ရွေးစင်ပရိသတ်အတွက် ဖြစ်မယ်။ တစ်ခါက ဝေဖန်ရေးဆရာတစ်ယောက်ကို 'ဒါမင်းတို့ဖို့မဟုတ်ဘူး၊ နောင်တစ်ခေတ်အတွက်' လို့ ပြောဖူးတယ်လို့ အဆိုရှိပါတယ်။

အဆိုးဝါးဆုံး ကံတရားရဲ့ အရက်စက်ဆုံး လှည့်စားမှုဆိုရမလောက် ဖြစ်ပုံက ခေတ်အဆက်ဆက် အတော်ဆုံး ဂီတဆရာတွေဟာ နားလေးတယ်။ ဘီသိုဗင်ဟာ လူတကာထက်သာပြီး နှတ်သိကြားတမျှ စွမ်းတယ်ဆိုရင်၊ နားပင်းပေမယ့် သူစပ်တဲ့ဂီတဟာ (သံစဥ်ညှိတာ၊ ရောတာတွေမပါပဲ) အလိုလို ရေအယဥ်စီးသလို စီးထွက်ရကောင်းရဲ့လို့ ပြောမယ်။ တကယ့်အဖြစ်ဟာ ပုံပြင်ထက်ဆန်းမယ်ပေါ့။ ဟုတ်တယ်၊ သူလုံးလုံးပင်းသွားပြီးမှ ရေးစပ်သမျှ ဂီတတွေဟာ အရင်လက်ရာတွေနဲ့ တန်းတူထက်တောင် ပိုသေးတယ်။ နောက်ဆုံးနေ့ရက်က လက်ရာဟာ အထူးကောင်းတဲ့ အကောင်းဆုံးတွေပါပဲလို့တောင် ချီးမွမ်းကြရပါတယ်။ အသက် ၅၇ နှစ်၊ ၁၈၂၇ ဗီယင်နာမှာ ကွယ်လွန်ပါတယ်။

ဘီသိုဗင်ရဲ့ အကောင်းစားလက်ရာတွေထဲမှာ ဆင်ဖိုနီ (symphonies) ကိုးပုဒ်၊ ပီယာနို ဆိုနာတာ (piano sonata) နှစ်ပုဒ်၊ ပီယာနို ကွန်ဆာတို (piano cnocertos) ငါးပုဒ်၊ ပီယာနိုနဲ့တယောအတွက် ဆိုနာတာ (sonatas) ဆယ်ပုဒ်၊ သိပ်ကောင်းတဲ့ ဂီတသံစုံတွေ အများကြီးပါပဲ။ ဒါပေမဲ့ ချီးမွမ်းစရာက အရေအတွက် မဟုတ်ပါ။ အရည်အသွေးဖြစ်ပါတယ်။ သူ့ဂီတမှာ နက်ရှိုင်းတဲ့ခံစားမှုနဲ့ ဆင်ပြင်ပုံ ကြေ့ရှင်းမှုပါတယ်။ ဘီသိုဗင်က **'တူရိယာဂီတဟာ အနုပညာထဲမှာ ဒုတိယနေရာက မဟုတ်'** လို့ ဆိုပါတယ်။ သူ့လက်ရာနဲ့ အမြင့်ဆုံးအဆင့်ကို တင်ပေးခဲ့ပါတယ်။

ဘီသိုဗင်ဟာ ဘယ်သူ့နည်းကိုမှ မမှီးပါ။ ပင်ကိုတီထွင်ရေးစပ်သူ ဖြစ်ပါတယ်။ သူ့အစွမ်းနဲ့ ရေးနည်းတွေကို ပြင်ဆင်ခဲ့တာကို အခုအထိ လက်ခံနေတာကိုပဲ ကြည့်ပါ။ တူရိယာဝိုင်းကိုလည်း ရေးကထက် ကျယ်ပြန့်ကြီးမားအောင် ချဲ့ထွင်ပေးခဲ့ပါတယ်။ ဆင်ဖိုနီ (symphony) ကို အနံအလျား ဆန့်ထုတ် ပေးခဲ့ပါတယ်။ ပီယာနိုကိုသုံးတတ်ရင် အများကြီးပွားများလာနိုင်လို့ အကောင်းဆုံးတူရိယာ ဖြစ်ကြောင်း ထင်ရှားအောင် ပြသခဲ့ပါတယ်။ ဘီသိုဗင်ကြောင့် ရှေးလက်ရာ (classical) တွေကို အတွေးနယ် (romatic) ကျယ်ပြန့်စေပါတယ်။ ဘီသိုဗင်ကိုဆရာတင်သူတွေ နောင်အခါ ပေါ်လာပါတယ်။ ဗြန်မ် (Brahms)၊ ဝက်ဂနာ (Wagner)၊ ရှူးဗတ် (Schubest)၊ ချိုက်ကော့စကီး (Tchai Kovsky) တို့ ဖြစ်ပါတယ်။ ဘာလွိုင်းဇ် (Berloiz)၊ ဂုစတာမာလာ (Gustar Mahler)၊ ရစ်ချတ်စထရော့စ် (Richard Strauss) နဲ့ အများကြီးရှိသေးတယ်။ ဒီစာအုပ်ထဲမှာပါမယ့် တခြားဂီတဆရာတွေရဲ့ ထိပ်ဆုံးက ဘီသိုဗင်ကို

ထည့်ရပါတယ်။

ဂျိုဟန်ဆီဗက်စတီယန်ဘာ့ချ် (Johamn Sebastian Bach) ကို အလားတူ တော်တယ်ဆိုဦးတော့ ဘီသိုဗင်လောက် ကျယ်ပြန့်ပြီး နှစ်နှစ်သက်သက် နားထောင်တဲ့လူ မပေါပါ။ ဘီသိုဗင်ရဲ့သြဇာလောက် လေးနက်မှုမရှိပါ။ ခြုံကြည့်ရင် နိုင်ငံရေးနဲ့ ကျင့်ဝတ် အရေးမှာပါ ပြောစကားက တေးဂီတသံထက် ထိရောက်တယ်။ ဒါကြောင့်စာပေက ဂီတထက် အနုပညာနယ်မှာ ပိုပြီး သြဇာရှိပါတယ်။ ဘီသိုဗင်ဟာ ဂီတသမိုင်းမှာ သိပ်ထင်ရှား ကြီးကျယ်တာ မှန်ပေမယ့် ဒီစာအုပ်မှာ ရှိတ်စပီးယားရဲ့အောက်မှာ ပို့ရတာဖြစ်ပါတယ။် ဘီသိုဗင်ကို မိုက်အယ်အိန်ဂျယ်လို (Michel Angelo)နဲ့ ယှဉ်ကြည့်တဲ့အခါ လူအများဟာ ဂီတကောင်းရင် မကြာခဏ တီးမှုတ်တာကို နားထောင်ပေမယ့် ရုပ်တုဘယ်လောက် ကောင်းကောင်း ဂီတကို နားထောင်သလို မကြာခဏကြည့်နိုင်ကြတာ မဟုတ်လို့ ဂီတက ရုပ်တုထက် အများကို အကျိုးပြုပုံ သာတယ်လို့ ယူဆပြီး၊ ပညာရပ်အနေနဲ့ သူတို့နှစ်ဦးဟာ ထိပ်ဆုံးကရောက်နေသူတွေ ဖြစ်ပေမယ့်၊ ဒီစာအုပ်မှာ ရှိတ်စပီးယားနဲ့ မိုက်ကယ်အိန်ဂျယ်လို နှစ်ယောက်ကြားမှာ ထည့်သွင်းလိုက်ပါတယ်။

11, January, 2000.

# (၄၆) ဝါနာ ဟေဆဲန်ဘာ့ဂ် (၁၉၀၁ – ၁၉၇၆)

# WERNER HEISENBERG (1901 – 1976)

ရူပဗေဒ အတွက် ၁၉၃၂ နိုဘယ်လ်ဆု (Nobel Prize) ကို ဂျာမန်ရူပဗေဒပညာရှင် ဝါနာကာလ် ဟေဆဲန်ဘာ့ဂ် (Werner Karl Heisenberg) ကို သိပ္ပံသမိုင်း တစ်လျှောက်မှာ ထိပ်တန်း အကျဆုံး ဆောင်ရွက်ချက်ဖြစ်တဲ့ ကွမ်တမ်မက္ကင်းနစ် (Quantum mechanics) ပညာကို တီထွင်လို့ ပေးအပ်တာ ဖြစ်ပါတယ်။ မက္ကင်းနစ်ဟာ ရူပဗေဒရဲ့ ဘာသာခွဲတစ်ရပ်ဖြစ်တယ်။ ဝတ္ထုပစ္စည်း တစ်ခု လှုပ်ရှားရင် ဘယ် အကြောင်းတရား တွေကြောင့် ဒီလို လှုပ်ရှားနိုင်ပါသလဲလို့ ယေဘုယျ ဥပဒေ ကို ရှာနိုင်တဲ့ပညာ ဖြစ်ပါတယ်။ ရူပဗေဒ အသိဉာဏ်ဟာ အခြေခံ အကျဆုံးဖြစ်သလို၊ သိပ္ပံပညာအရပ်ရပ်မှာလည်း အခြေခံ ကျပါတယ်။ နှစ်ဆယ်ရာစုနှစ်ဦးကဆိုရင် သိပ်သေးငယ်တဲ့အက်တမ် (အဏုမြူ Atom) နဲ့ ဆပ်အက်တမ် (subatom) တွေရဲ့ လှုပ်ရှားတဲ့သဘောကို အရင်သိဖူးသမျှ ဥပဒေတွေနဲ့ ရှင်းမပြတတ်ပါ။ အဲဒါပဲ သိပ်စိတ်ဓာတ်ကျစရာ စိတ်ရှုပ်စရာ ဖြစ်ပါတယ်။

လက်ခံထားတဲ့ ဥပဒေနဲ့ မိုက်ခရိုစကုပ်နဲ့ မြင်နိုင်တဲ့ (အဏုမြူထက်ကြီးတဲ့) ပစ္စည်းတွေအကြောင်းကို ရှင်းပြ နိုင်လျက်နဲ့ အက်တမ်ကို မရှင်းပြနိုင်လို့ ဒီလို စိတ်ပျက်နေကြတာ ဖြစ်တယ်။

ဝါနာဟေဆဲန်ဘာ့ဂ်က ၁၉၂၅ ခုမှာ နယူတန် (Newton)ရဲ့ မူဟောင်းပုံသေနည်းတွေနဲ့ အခြေခံ အတွေးအခေါ်မှာ ထင်ထင်ရှားရှားခြားနားတဲ့ ရူပဗေဒ ပုံသေနည်း သစ်ကို တင်ပြလာပါတယ်။

ဒီသီအိုရီသစ်ကို ဟေဆဲန်ဘာ့ဂ် ကို ဆက်ခံသူတွေက အသင့်အတင့်ပြင်လိုက်ရုံနဲ့ ကြီးကြီးကျယ်ကျယ် ပေါက်မြောက် အောင်မြင်တဲ့နည်း ဖြစ်လာတယ်။ ကနေ့ဆိုရင် ရှိသမျှရူပဗေဒစနစ်တွေကို ဘယ်အမျိုး ဘယ်အရွယ်ဖြစ်ဖြစ် သုံးနိုင်တယ်လို့ လက်ခံ ထားကြပြီး ဖြစ်ပါတယ်။

မိုက်ခရိုစကုပ် (microscope) နဲ့ ပတ်သက် သလောက်သာဆိုရင် ကွမ်တမ်မက္ကင်းနစ်ရဲ့ ရှေ့ပြေး ပြောဆိုချက်ဟာ မူဟောင်း မက္ကင်းနစ်နဲ့ တွက်ယူချက်နဲ့ သိုးကာ သီကာပဲ ကွာတယ်။ အဲဒါကို သင်္ချာနည်း နဲ့လည်း တွက်ပြနိုင်တယ်။ မူဟောင်း မက္ကင်းနစ်က ကွမ်တမ် မက္ကင်းနစ်ထက် အများကြီး

လွယ်တယ်။ ဒါကြောင့် သိပ္ပံနည်း တွက်ခြင်း အားလုံးလိုလို မူဟောင်းနည်းကိုပဲ ဆက်လက် သုံးစွဲနေကြပါတယ်။ ဒါပေမယ့် အက်တမ်စနစ် အတိုင်းအတာ (Atomic dimensions) တွေပါလာရင် ကွမ်တမ် မက္ကင်းနစ်နဲ့ ရှေ့ပြေးပြောဆိုချက်တွေဟာ ရှေးဟောင်း မက္ကင်းနစ်ထက် သိသိသာသာကြီး ခြားနားတဲ့ အပြင် စမ်းသပ်ချက်လုပ်ကြည့်တဲ့အခါ ကွမ်တမ် မက္ကင်းနစ် ရှေ့ပြေးပြောဆိုချက်က မှန်ကန်တာကို တွေ့ရပါတယ်။

ဟေဆဲန်ဘာ့ဂ်သီအိုရီရဲ့ အကျိုးသက်တစ်ခုက သူကိုယ်တိုင် ၁၉၂၇ ခုနှစ်က ပုံသေနည်း ရှာပေးတဲ့ သိပ်ထင်ရှား ကျော်ကြားတဲ့ မထင်ရှားနိယာမ (Uncertainty principle) ဖြစ်ပါတယ်။ ဒီနိယာမဟာ သိပ္ပံပညာရပ် အားလုံးက နိယာမတွေထက် အနက်နဲဆုံး အရေးပါဆုံး ဖြစ်တယ်လို့ အများက ယူဆထားပါတယ်။ မထင်ရှား နိယာမက ဘာလုပ်ပေးသလဲဆိုရင် လူအများလုပ်နိုင် စွမ်း ရှိတဲ့ သိပ္ပံနည်းကျ တိုင်းတာချက်တွေမှာ သီအိုရီ ဆိုင်ရာ နယ်နိမိတ် သတ်မှတ်ခြင်း (Theoritical limits) ကို ထင်ရှားအောင် ပြပေးတယ်။ ဒီနိယာမရဲ့ အကျိုးဝင်ပုံ (implications) တွေဟာ သိပ်ကို များပြားလှပါတယ်။

ရူပဗေဒ အခြေခံဥပဒေတွေက မလုံလောက်လို့ အခြေအနေ သိပ်ကောင်းပါတယ်ဆိုတဲ့ တိုင်အောင် စနစ် တစ်ခုကို တိတိကျကျ သိနိုင်အောင် မစုံစမ်းနိုင်တဲ့အခါ ရှေ့လာမယ့် ပုံစံကို အပြည့်အစုံ ကြိုတင် မသိနိုင်တော့ဘူး ဆိုတာ ထင်ရှားလာပါတယ်။ မထင်ရှား နိယာမအရ ပြောရရင် အခု သုံးစွဲနေတဲ့ ချိန်ခွင်လိုဟာမျိုးတွေမှာ ဘယ်လိုပဲ ထပ်ကောင်းလာအောင် လုပ်ပေမယ့် ဒီအခက်အခဲကို မလွန်မြောက်နိုင်ပါ။

ရူပဗေဒမှာ ဝတ္ထုပစ္စည်းတွေရဲ့ အခြေခံ သဘာဝ ကြောင့် စာရင်းဇယားနဲ့ ရှေ့ပြေး ပြောဆိုချက် (predictions) လုပ်နိုင်တာထက် ဘာမှပိုအောင် မလုပ်တတ်တော့ပါ။ သိပ္ပံပညာရှင် တစ်ယောက်ဟာ ဥပမာ ရေဒီယို သတ္တိကြွခြင်းကို လေ့လာနေတယ် ဆိုရင် ရေဒီယမ် အက်တမ် (radium atom)၊ ထရီလီယန် (trillion) ထဲက နှစ်မီလီယန်(million)က နောက်တစ်နေ့မှာ ဂမ်မာ ရောင်ခြည် (gamma ray) ထွက်လာမယ်လို့ ရှေ့ပြေး ပြောဆို နိုင်ပါတယ်။ ဒါပေမယ့် ရေဒီယိုအက်တမ်က ဒီလို ဖြစ်လာလိမ့်မယ်လို့တော့ မပြောနိုင်ပါ။ လက်တွေ့တွေ အများကြီး လုပ်ကြည့်တဲ့အခါ ဒီကန့်သတ်ချက်ဟာ သိပ်ကြီးကျယ် တယ်လို့ မထင်ရတော့ပါ။ ဂဏန်း အရေအတွက် များလေလေ စာရင်းဇယားနည်း (statistical method)က လှုပ်ရှားမှု အခြေခံ အကြောင်းခြင်းရာကို ပိုပိုပြီး မှန်ကန် တိကျအောင် ပြောနိုင်လေ ဖြစ်လာပါတယ်။ အမှန်က စနစ်ငယ်နဲ့ ကြုံကြိုက်လာရင် မထင်ရှား နိယာမက ရုပ်သဘော ပျက်စီးခြင်းကို တိကျစေရမယ်ဆိုတဲ့ စိတ်ကူးကို ဆက် မလုပ်ဝံ့အောင် နှိုးဆော်နေတာကို တွေ့မယ်။ အဲဒါဟာ သိပ္ပံဒဿနအခြေခံ (Basic philosophy of science) ကို အကြီးအကျယ် ပြောင်းလဲ စေတယ်။ ကြီးကျယ်တယ် ဆိုရာမှာလည်း အိုင်စတိုင်း(Einstein) လို သိပ္ပံပညာရှင်ကြီးကတောင် လက်မခံချင် လောက်အောင် ဖြစ်ခဲ့တယ်။

အိုင်စတိုင်းက **'ဘုရားသခင်က စကြဝဠာနဲ့ ကြွေအံ ကစားတယ်လို့ဆိုတာ ငါမယုံဘူး'** လို့ တစ်ခါက ပြောဖူးတယ်။ ခေတ်ပြိုင် ရူပဗေဒပညာရှင် အများစုကလည်း ဒီနည်းကို လက်ကိုင်ပြုရတော့မယ့်အခါ ဒီလိုပဲ စိတ်ထဲမှာ ဖြစ်ပေါ်လာတယ်လို့ ဆိုပါတယ်။ သဘောတရား ဘက်က အမြင် (theoretical point of view) ကို ပြောရရင် ဒီကွမ်တမ်သီအိုရီဟာ ဆက်နွယ်မှုသီအိုရီ (relative theory) ထက် အဆအဆအများကြီး ပိုပြီး ရူပဗေဒကမ္ဘာ (Physical world)ရဲ့ အခြေခံစိတ်ကူး (Basic concept) ကို ပြောင်းလဲအောင်လုပ်နိုင်တာ ထင်ရှား ပါတယ်။ ဒါပေမဲ့ ဒီသီအိုရီရဲ့ ဆက်နွယ် ပေါ်ပေါက်တဲ့ဖြစ်ရပ်တွေက ဒဿနိက သဘောသက်သက် မဟုတ်ပါ။ လက်တွေ့ယူငင် သုံးစွဲတဲ့အခါမှာ ခေတ်ပေါ် သက်ဆိုင်ရာ ပစ္စည်းကိရိယာတွေက အလက်ထရွန် မိုက်ကရိုစကုပ် (electron microscope)၊ လေဆာ (lasers) နဲ့ ထရန်စစ္စတာ (transistors) တွေ ဖြစ်ပါတယ်။ ကွမ်တမ် သီအိုရီကို နျူကလီယားဖစ်စစ် (nuclear physics) နဲ့ အက်တမ်စွမ်းအင် (Atomic energy) မှာ ကျယ်ကျယ်ပြန့်ပြန့် ယူပြီးသုံးပါတယ်။ အဲဒီသီအိုရီနဲ့ပဲ ရောင်စဉ်တိုင်း ကိရိယာ (Astronomy) နဲ့ ဓာတုဗေဒ(chemistry) မှာလည်း အများကြီး သုံးကြ ရပါတယ်။ ဒီနိယာမကိုပဲ ဟီလီယမ် (helium) အရည်မှာပါတဲ့ ဓာတ်တွေ၊ ကြယ်အတွင်း ဖွဲ့စည်းပုံဓာတ်၊ ဖယ်ရို သံလိုက်ဓာတ် (ferro magnetism) နဲ့ ရေဒီယိုသတ္တိကြွခြင်း စတဲ့ အကြောင်းအရာအများကြီးမှာ သုံးစွဲ လာကြပါတယ်။

ဝါနာဟောဆဲန်ဘာ့ဂ်ကို ၁၉၀၁ မှာ ဂျာမနီ (Germany) မှာ မွေးတယ်။ ၁၉၂၃ မှာ မြူးနစ်တက္ကသိုလ် (University Of Munich) က သီအိုရီပိုင်းဆိုင်ရာ ရူပဗေဒ (theoretical physics) နဲ့ ဒေါက်တာဘွဲ့ရခဲ့တယ်။ ၁၉၂၄ – ၁၉၂၇ အတွင်း ကိုပဲန်ဟေဂဲန် (Copenhagen) မှာ နာမည်ကြီး ဒိန်းမတ် (Denmark) အမျိုးသား နီးစဘော (Niels Bohr) နဲ့ အလုပ်လုပ်ဖက် ဖြစ်ခဲ့ဖူးတယ်။ သူရေးတဲ့ ပထမဆုံးအရေးပါတဲ့ ကွမ်တမ်မက္ကင်းနစ် (quantum mechanics) ဆိုင်ရာစာတမ်းကို ၁၉၂၅ မှာ ပုံနှိပ်ဖြန့်ဝေပြီး မထင်ရှားနိယာမရဲ့ ပုံသေနည်းကို ၁၉၂၇ မှာထုတ်တယ်။ ၁၉၇၆ အသက် ၇၄ မှာ ဟောဆဲန်ဘာ့ဂ် ကွယ်လွန်တယ်။ မယားနဲ့ ကလေးခုနစ်ယောက် ကျန်ရစ်တယ်။

ကွမ်တမ်မက္ကင်းနစ်ကို ဒါလောက် အရေးပေး တန်ဖိုးထားကြပါတယ်ဆိုတော့ အခုစာအုပ်မှာ မြင့်တဲ့နေရာမှာ ဟောဆဲန်ဘာ့ဂ်ကို ဘာကြောင့် မထားသလဲလို့ မေးသင့်ပါတယ်။ ဟောဆဲန်ဘာ့ဂ် တစ်ယောက်တည်းက ဒီကွမ်တန် မက္ကင်းနစ်ကို ပေါ်ပေါက်လာအောင် လုပ်ခဲ့တာမဟုတ်ပါ။ အင်မတန် အရာရောက်တဲ့ ဖော်ထုတ်ချက်တွေကို သူ့ရှေ့က ဆောင်ရွက်ခဲ့သူတွေက မက်ပလန့်ခ် (Max Planck)၊ အယ်လဘတ် အိုင်စတိုင်း (Albert Einstein)၊ နေးစဘော (Niels Bohr) နဲ့ ပြင်သစ်သိပ္ပံပညာရှင် လွီဒေဗြိုဂလီ (Louis de Broglie) တို့ ဖြစ်ပါတယ်။ အဲဒါအပြင် သြစတြီးယားသား (Austrian) အာဝင်ချရိုဒင်ဂါ (Erwin Schrodinger)၊ အင်္ဂလိပ်အမျိုးသား (Englishman) ပီအေအမ်ဒီရစ် (P.A.M Dirac) တို့ကလည်း ဟောဆဲန် ဘာ့ဂ်ရဲ့ ကွမ်တမ် သီအိုရီခေါ် အကြီးမားဆုံး ဆွေးနွေးပွဲ စာတမ်းကို ထုတ်ပြန်ပြီး၊ ဆက်တိုက် နောက်ကလိုက်ပြီး

ဒီအကြောင်းကိုပဲ ပါဝင်ရေးသားခဲ့ကြတယ်။ ဒါပေမယ့် ဒီကွမ်တမ် မကြာင်းနစ် ပေါ်ထွန်းရေးမှာ အရေးအပါဆုံး ပုဂ္ဂိုလ် ကတော့ ဟောဆဲန်ဘာ့ဂ်ပဲ ဖြစ်တယ်။ လူ အတော်များများ နဲ့မျှပြီး အချီးမွမ်းခံရလို့ အခုစာအုပ်မှာ အခုနေရာက သူ့ကိုထည့်သွင်းဖော်ပြရခြင်း ဖြစ်ပါတယ်။

18, January, 2000.

# (၄၇) လွီစ် ဒဂွဲယာ (၁၇၈၇ – ၁၈၅၁)

# LOUIS DAGUERRE (1787 – 1851)

လွီစ်ဂျက်မန်ဒေ ဒဂွဲယာ (Louis Jacques Mande’ Daquerre) ဟာ ၁၈၃၀ ဆယ်စုနှစ်နောက်ပိုင်းမှာ ဓာတ်ပုံ ရိုက်နည်း ကို ပထမဦးဆုံး လက်တွေ့အသုံးပြုနိုင်ဖို့ အောင်မြင်စွာ တိုးမြှင့် ထုတ်လုပ်ပေးနိုင်သူ ဖြစ်ပါတယ်။

ဒဂွဲယာကို ပြင်သစ် မြောက်ပိုင်း ကောမေလေ (Cormeilles) မြို့မှာ ၁၇၈၇ ခုမှာ မွေးဖွားခဲ့တယ်။ ငယ်ရွယ်စဉ်က ပန်းချီပညာနဲ့ အသက်မွေးပါတယ်။ အသက် သုံးဆယ့် ငါးနှစ်လောက်မှာ အထူးမီးမောင်းထိုးပေးတဲ့ အစီအစဉ်နဲ့ အထူး အံ့သြကြည့်ရှုဖွယ်ဖြစ်အောင် မြင်ကွင်းကျယ်နဲ့ တင်ပြတဲ့ ဒီယိုရာမာ (Diorama) ပန်းချီပြပွဲကို ဒီဇိုင်း ဆွဲပေးသူ ဖြစ်ပါတယ်။ ဒီလုပ်ငန်း တာဝန်ကို ဆောင်ရွက်ဆဲ အချိန်မှာပဲ ဆေးစုတ်တံ မပါပဲ ကမ္ဘာ့ ရှုခင်းတွေကို လက်လွတ် တင်ပြနိုင်မယ့် စက်မျိုးကို တီထွင်ဖို့ အာရုံစူးစိုက် ကြိုးစားခဲ့ပါတယ်။

သူတီထွင်တဲ့စက် ဆိုတာက ကင်မရာ ဖြစ်ပါတယ်။

ရှေးအထက်က သုံးဖြစ်ရုံ ကြံစည်ပြုလုပ်ဖူးတဲ့ သူ့ကင်မရာ (Camera) တွေကို စိတ်တိုင်းမကျပါ။ ၁၈၂၇ မှာ သူလိုကြိုးစား ဆောင်ရွက်ပြီး သူ့ထက်သာတဲ့ ဂျိုဆက် နိဆေဖော်နိပ်စေ (Joseph Nice’phore Niepce) နဲ့ တွေ့ပါတယ်။ နောက် နှစ်နှစ်ကြာတော့ သူတို့ နှစ်ယောက်ပေါင်း ဖက်စပ် အလုပ်လုပ်ကြပါတယ်။ ၁၈၃၃ မှာ နိပ်စေ ကွယ်လွန်တယ်။ ဒဂွဲယာက စိတ်မလျှော့ဘဲ ဇွဲနဲ့ အလုပ်ဆက်လုပ်နိုင်ခဲ့ လို့ ၁၈၃၇ မှာ လက်တွေ့ အောင်မြင်တဲ့ ဒဂွဲယာရိုတိုက်ကင်မရာ (Daguerro type Camera) ပေါ်လာတယ်။

ဒဂွဲယာက ၁၈၃၉ မှာ သူ့လက်ရာကို လူသိပေး တယ်။ ဒါပေမဲ့ သူများအတုမလုပ်ရလို့ မှတ်ပုံတင် မထားပါ။

အဲဒါကို အသိအမှတ်ပြုတဲ့အနေနဲ့ ပြင်သစ်အစိုးရက ဒဂွဲယာနဲ့ နပ်စေရဲ့သားကို ရာသက်ပန် အငြိမ်းစား ရိက္ခာတော် ပေးခဲ့တယ်။ ဒဂွဲယာရဲ့တီထွင်ချက်ကို ကြေညာ လိုက်တဲ့အခါ ပရိသတ်က အားရ ဝမ်းသာ ချီးမွမ်း ပြောဆိုကြတယ်။ ဒဂွဲယာကို သူ့ရဲကောင်းကြီးလို့ အလီလီ ဂုဏ်ပြုချီးမွမ်းပြီး ဘွဲ့တံဆိပ်တွေ ပေးအပ်ကြပါတယ်။ ဒဂွဲယာရိုတိုက် ကိုလည်း အလုအယက်ဝယ်ယူ သုံးစွဲ

ကြတယ်။

ဒဂွဲယာလည်း ဘာလုပ်ငန်းမှ ဆက်မလုပ်ဘဲ အငြိမ်း နေပြီး ၁၈၅၁ မှာ ပါရီမြို့ ဆင်ခြေဖုံးအိမ်မှာ ကွယ်လွန် သွားပါတယ်။

ဓာတ်ပုံလောက် တွင်ကျယ်တဲ့ တီထွင်မှု များများ မရှိပါ။ လက်တွေ့မှာ သိပ္ပံသုတေသန နယ်တိုင်းမှာ ဓာတ်ပုံ အများကြီး သုံးကြပါတယ်။ စက်မှုလုပ်ငန်းနေရာ အမျိုးမျိုးမှာ၊ စစ်ဘက်ဆိုင်ရာ ကိစ္စအဝဝမှာ ဓာတ်ပုံ ပါရတယ်။ လူတချို့က ဓာတ်ပုံရိုက်ထားတာကို အနုပညာ အမွှမ်းတင်ကြတယ်။ လူသန်းပေါင်းများစွာက အားပါးတရ အပျော်သုံး သုံးကြပါတယ်။ ဓာတ်ပုံနဲ့ သတင်းပို့တယ်။ ဓာတ်ပုံနဲ့လည်း လိမ်နိုင်တယ်။ ပညာပေးတယ်။ 'စာနယ်ဇင်း' မှာ ကောင်းကောင်းအသုံးချတယ်။ ကုန်ပစ္စည်း ကြော်ငြာတယ်။

ရှေးအထက်က အဖြစ်အပျက်ကို ဓာတ်ပုံနဲ့ ပြည့်စုံ ကောင်းမွန်အောင် မှတ်တမ်းတင်နိုင်တယ်။ အမှတ်ရစရာ (mementos) နဲ့ သတိရစရာ (souvenirs) မှတ်သားဖို့ သိပ်ကောင်းတဲ့ ပစ္စည်း ဖြစ်တယ်။ ရုပ်ရှင်ရိုက် (cinematography) က သိပ်အဖိုးတန် အရေးပါတဲ့ ဘေးလိုင်းခွဲ ဖြစ်လာပါတယ်။ ရုပ်ရှင်ဟာ အကြီးမြင့်ဆုံး အပျင်းဖြေ စရာဖြစ်သလို ရုပ်သေကိုလည်း လက်တွေ့မှာ အများကြီး သုံးစွဲနေကြပါတယ်။ လူတစ်ဦး တစ်ယောက်တည်းက တီထွင်တဲ့ ပစ္စည်းရယ်လို့ မရှိပါ။ အခု ဒဂွဲယာ စွဲဆောင်တယ်ဆိုတဲ့ ကိစ္စမှာလည်း စောစောကပဲ လူတချို့က ရှေ့ပြေးလုပ်ပြီးသား အမှန်တကယ်ရှိပါတယ်။ အပ်ပေါက်ကင်မရာ (pinhole Camera) လို ဖလင်မပါတဲ့ ကင်မရာ အော့ဗ်စကုရ (Cameraobsura)က၊ ဒဂွဲယာထက် အနည်းဆုံး အနှစ်ရှစ်ရာက တီထွင်ပြီးရှိခဲ့တယ်။

တစ်ဆယ့်ခြောက်ရာစုနှစ်မှာ ဂိရိုလာမိုကာဒါနို (Girola mocardano) ဆိုသူက ကင်မရာ အော့ဗ်စကုရ အပေါက်မှာ မှန်ဘီလူးတပ်ပေးလိုက်တယ်။ အဲဒါဟာ အရေးပါတဲ့ ဖြည့်စွက်ချက်ဖြစ်ပါတယ်။ ခေတ်ကင်မရာရဲ့ ရှေးဦးထိပ်စ ဖြစ်တယ်။ သူနဲ့ပုံရိုက်လို့ရပေမယ့် ပုံဟာ မမြဲဘူး။ ဒါကြောင့် အဲဒီပစ္စည်းကို ဓာတ်ပုံအိုး တစ်မျိုးလို့ မခေါ်နိုင်ပါ။ အလားတူ အရေးပါတဲ့ တီထွင်ချက်ကို ၁၇၂၇ မှာ ဂျိုဟန်ရှူလ်ဇ် (Johann Schulze) က လုပ်ပါတယ်။ သူက ငွေဆား (silver salts) ဟာ အလင်းရောင်ကို ဖမ်းနိုင်တယ်လို့ သိရှိတဲ့အတွက် ဒီအသိကို အသုံးချပြီး သူက ပုံရိုက်ပြတယ်။ ပေါ်တဲ့ပုံက ခဏပဲခံတယ်။ ရှူလ်ဇ်က ဒါကို ဘာမှဆက်ပြီး မလုပ်ဘဲ ပစ်ထားလိုက်တယ်။ ဒဂွဲယာ လက်ရာနဲ့ အနီးကပ်ဆုံး ရှေ့ပြေးလက်ရာ လုပ်နိုင်သူက နောင်အခါ သူနဲ့ဖက်စပ် (Partner) ဖြစ်လာတဲ့ နိပ်စေ (Niepce) ပဲ ဖြစ်ပါတယ်။ နိပ်စေက ၁၈၂၀ လောက်က ဂျူဒီယ (Judea) ထွက် ဗီကျူမင် ခေါ်တဲ့ အက်စဖော့ (ကတ္တရာစေး Asphalt) ဟာ အလင်းရောင်ကို ကြောက်တယ်လို့ သိလာတယ်။ ဒီလိုအလင်းရောင်ကြောက်တဲ့ ဝတ္ထုပစ္စည်း အစိုင်အခဲကို ကင်မရာ အော့ဗ်စကုရမှာ တပ်ပေးလိုက်တဲ့အခါ နိပ်စေဟာ ကမ္ဘာမှာ ပထမဆုံးဓာတ်ပုံတွေကို ရိုက်ပေးနိုင်သူ ဖြစ်လာ ပါတယ်။ (သူ ၁၈၂၆ က ရိုက်ပေးခဲ့တဲ့ ပုံတစ်ပုံဟာ အခုထိ ရှိနေပါသေးတယ်။) အဲဒီလိုဆိုရင် နိပ်စေကို

ဓာတ်ပုံ တီထွင်သူလို့ ခေါ်မှ မှန်မယ်လို့ ပြောတဲ့လူတွေ ရှိပါတယ်။ ဒါပေမယ့် နိပ်စေရဲ့ ဓာတ်ပုံရိုက်နည်းက လက်တွေ့မှာ မကောင်းဘူး။ ပုံပေါက်ဖွင့်ချိန်က ရှစ်နာရီကြာတယ်၊ ပေါ်လာတဲ့ပုံ ကတော့ မှုန်ဝါးဝါးပဲဖြစ်ပါတယ်။ ဒဂွဲယာနည်း ကတော့ ရုပ်ပုံကို ငွေအိုင်အိုဒိုဒ် သုတ်ထားတဲ့ မှန်ပြား (plate coated with silver iodide) မှာ စွဲထင်စေတယ်။ ပုံပေါက်ဖွင့်ချိန် ၁၅ မိနစ် မိနစ် ၂၀ နဲ့ လုံလောက်တယ်။ နည်းနည်းတော့ ကိုင်တွယ်ရာမှာ ပေါ့ပါးသွက်လက်ခြင်းမရှိ လေးလံတယ်။ ဒါပေမယ့် သုံးပျော်တယ်။ ဒဂွဲယာက သူ့နည်းကို လူသိပေးပြီး နှစ်နှစ်ကြာတဲ့အခါ အသင့်အတင့် ပြုပြင်ရင်ကောင်းမယ်လို့ အကြံပေးသူတွေ ပေါ်လာပါတယ်။ အဲဒီအကြံက ငွေအိုင်အိုဒိုဒ် (silver iodide) အပြင်၊ အလင်းကြောက်တဲ့ နောက်တစ်မျိုး ငွေဗရိုမိုက် (silver bromide) ကို ပေါင်းစပ်ပေးဖို့ ဖြစ်တယ်။ ဒီလို သေးသေးလေး ပြုပြင်လိုက်ရုံနဲ့ ပုံပေါက်ဖွင့်ချိန်ဟာ အများကြီး တိုသွားလို့ လူပုံကိုရိုက်ယူနိုင်တဲ့ ဓာတ်ပုံပညာ ဖြစ်ထွန်းလာရပါတယ်။ ဒဂွဲယာက ဓာတ်ပုံရိုက်လို့ရပြီလို့ ကြေညာပြီး မကြာမီ၊ ၁၈၃၉ မှာ ဝီလီယမ် ဟင်နရီဖောက်တဲလ်ဘော့ (William Henry Fox Talbot) ဆိုသူ အင်္ဂလိပ် သိပ္ပံပညာရှင် တစ်ဦးက ဓာတ်ပုံရိုက်ကူးတဲ့အခါ ခုခေတ်မှာ လုပ်မြဲဖြစ်တဲ့ ပြောင်းပြန်ပုံ (negative print) က ပထမ၊ အတည့်ပုံက ပြီးတော့မှ ကူးယူရမယ်လို့ပြောပြီး၊ သူက ဒီနည်းနဲ့ ရိုက်ကူးတဲ့ပုံဟာ သူ့မှာ ၁၈၃၅ ကပဲ ရှိနေပါပြီလို့ပြောတော့ ဒဂွဲယာရိုယိုတိုက် (daguerreo type) ထက် နှစ်နှစ်တောင်စောပါကလားလို့ အံ့ဩ ချီးမွမ်းကြရပါတယ်။

တဲလ်ဘော့ဆိုတဲ့လူက တခြားအရေးပါတဲ့ စီမံကိန်းတွေ များလွန်းလို့ ဓာတ်ပုံစမ်းသပ်ချက်ကို ဆက် မလုပ်အားပါ။ လုပ်မိတယ်ဆိုရင် သူပဲ ဒဂွဲယာထက်စောပြီး လူအများ ဝယ်ယူသုံးစွဲနိုင်တဲ့ ဓာတ်ပုံကိုတီထွင်သူလို့ ဒီနေ့ သတ်မှတ်ကြရမှာ ဖြစ်ပါတယ်။ ဒဂွဲယာနဲ့ တဲလ်ဘော့ တို့နောက် ဓာတ်ပုံပညာမှာ ပြုပြင်မွမ်းမံချက်တွေ အဆင့်ဆင့် အများကြီးပေါ်လာတယ်။ မှန်ပြား အစိုနည်း (wet-plate process)၊ မှန်ပြား အခြောက်နည်း (dry-plate process)၊ အခုခေတ်သုံး ဖလင်လိပ် (Modern roll film)၊ ရောင်စုံပုံ (Color photograph)၊ ရုပ်ရှင် (motion picture)၊ ပိုလာရွိုက်ဓာတ်ပုံ (polaroid photograph) (အဆေးအကူး လွတ်တဲ့ ချက်ချင်းရတဲ့ဓာတ်ပုံ) နဲ့ ဇီရောဂရပ်ဖီ (xerography ကော်ပီယာ-ဟန်ကူးပုံ) တွေ ပေါ်လာ ပါတယ်။ ဓာတ်ပုံပညာကို တကယ်တမ်း လွယ်ကူ ကောင်းမွန်အောင် လုပ်ပေးသူတွေ ဘယ်လိုများများ လွှစ်ဒဂွဲယာ ကိုပဲ အရေးပါဆုံး ဓာတ်ပုံပညာရှင်လို့ သတ်မှတ် လိုပါတယ်။ ပုံကူးလို့ရမှုနီး သိပေမယ့် တကယ်တမ်း သုံးလို့ရအောင် သူ့အထက်က ဘယ်သူမှ လုပ်မပေးနိုင်ဘူး။ သူ့နည်းကသာ လက်တွေ့သုံးနိုင်ပြီး တကယ်လည်း အများအပြား သူ့နည်းကို ယူငင် သုံးစွဲခဲ့ကြပါတယ်။ အဲဒါအပြင် သူက လူသိများအောင် လုပ်ပေးလို့သာ အများတကာစိတ်ဝင်စားပြီး ဝိုင်းဝန်း ဖြည့်စွက်ကြတာ ဖြစ်လို့ ဒီကိစ္စမှာ သူသာ အခရာ ဖြစ်ပါတယ်။ ဟုတ်ပါတယ်။ ကနေ့သုံးစွဲနေတဲ့ ဓာတ်ပုံ ရိုက်ကူးနည်း တွေဟာ သူ့ ဒဂွဲယာရိုတိုက် (daguerreo type) နဲ့ သိပ်ကွာ ပါတယ်။ ဒါပေမယ့် အခုနောက်နည်းတွေ ပေါ်မလာ လည်း သူ့နည်းနဲ့ပဲ သုံးဖြစ်ပါတယ်။

# (၄၈) ဆီမွန်ဘိုလီဗား (၁၇၈၃ – ၁၈၃၀)

# SIMON BOLIVAR (1783 – 1830)

ဆီမွန်ဘိုလီဗား (Simon Bolivar) ကို တောင်အမေရိကရဲ့ ဂျော့ဝါရှင်တန် (George Washington) လို့ တင်စားပြီး ခေါ်ကြတာဟာ၊ သူ့ကြောင့် စပိန်လက်အောက်က (ကိုလမ်ဘီယာ Columbia၊ ဗင်နီဇွဲလား Venezuela၊ အီကွေဒေါ Ecuador၊ ပီရူး Peru နဲ့ ဘိုလီးဗီးယား Bolivia စတဲ့) တောင်အမေရိကငါးနိုင်ငံဟာ လွတ်လပ်ရေး ရခဲ့တာကြောင့် ဖြစ်ပါတယ်။ တိုက်ကြီး တစ်တိုက်လုံးရဲ့ သမိုင်းမှာ သူ့လို နိုင်ငံရေး ခေါင်းဆောင်မျိုး အင်မတန်တွေ့ရခဲတယ်လို့ ဆိုလိုပါတယ်။

စပိန်မင်းမျိုးစိုးမျိုးက ဆင်းသက်လာတဲ့ ဘိုလီဗားကို ဗင်နီဇွဲလားနယ် ကာရကာ့စ် (Caracas) မှာ၊ ၁၇၈၃ မှာ မွေးဖွား ခဲ့ပါတယ်။ အသက် ကိုးနှစ်မှာ မိဘမဲ့သားဖြစ်ခဲ့ရတယ်။ အရွယ်ဝင်စမှာ ဘိုလီဗားကို ပြင်သစ် အမြင်ပွင့် (French Enlightenment) အတွေးအခေါ်နဲ့ စိတ်ကြိုက် ဆောင်ရွက်ချက် (ideas and ideals) တွေကို ကြားနာ မှတ်သားပြီး၊ အများကြီး လေးစား လိုက်နာဆောင်ရွက်လိုစိတ်တွေ ပွားများခဲ့ပါတယ်။ ဒဿနိက ကျမ်းတွေကို ဖတ်တဲ့အခါ ဂျွန်လော့ခ် (John Locke)၊ ရူးဆိုး (Rouusseau)၊ ဗောလ်တဲ (Voltaire) နဲ့ မွန်တက်ကြူ (Montesquicu) တို့စာတွေကို များများ ဖတ်ပါတယ်။

ငယ်ရွယ်စဥ်က ဥရောပနိုင်ငံတွေကို အလည်အပတ် သွားဖူးတယ်။ ရောမ အဗဲန်တိုင်တောင် (Avertine Hill) ထိပ်မှာ၊ ၁၈၀၅ မှာ ဘိုလီဗားက လူသိရှင်ကြား **'ငါ့အဖနိုင်ငံ စပိန်လက်ကမလွတ်မချင်း ငါ မနေမနား ကြိုးစားမယ်'** လို့ သစ္စာအဓိဋ္ဌာန်ပြုခဲ့တယ်။ နပိုလီယန် ဘိုနာပတ် (Napoleon Bonaparte)က စပိန်ကို ၁၈၀၈ မှာ ဝင်ရောက် တိုက်ခိုက်သိမ်းယူပြီး ညီတော်ရင်းကို စပိန်နိုင်ငံ အုပ်ချုပ်ရေး ဦးစီး ခန့်ထားခဲ့တယ်။ စပိန် မဟာမျိုးမဟာနွယ်တွေရဲ့ နိုင်ငံရေး ဩဇာကို ထိထိရောက်ရောက် ချိုးနှိမ်ပယ်ဖျက်ပြီး တောင်အမေရိက ကိုလိုနီတွေ လွတ်လပ်ရေးရအောင် ကြိုက်သလို လုပ်ကြတော့လို့ မဟာ အခွင့်အရေး ပေးလိုက်တယ်။

ဗင်နီဇွဲလားက ၁၈၁၀ မှာ စပိန်လက်အောက်က လွတ်အောင် သူပုန်ထတယ်။ ဗင်နီဇွဲလားရဲ့ စပိန်ဘုရင်ခံ ကို ရာထူးက ချလိုက်ကြတယ်။ လွတ်လပ်ပြီလို့ ၁၈၁၁ မှာ ကြေညာတယ်။ အဲဒီနှစ်မှာပဲ ဘိုလီဗားဟာ တော်လှန်ရေး တပ်မှာ

အရာရှိဖြစ်လာတယ်။ နောက်တစ်နှစ်ကျတော့ စပိန်တပ်တွေက ဗင်နီဇွဲလားကို ပြန်သိမ်းလိုက်တယ်။ တော်လှန်ရေး ခေါင်းဆောင် ဖရန်စစ်စကို မီရန်ဒါ (Francisco Miranda) ထောင်ကျတယ်။ ဘိုလီဗား ထွက်ပြေး လွတ်မြောက်သွားတယ်။ နောက်နှစ် နောက်နှစ်တွေမှာ တိုက်ပွဲတွေဖြစ်ကြ၊ တစ်ခါတစ်ရံ နိုင်ပါရဲ့ မရှုမလှရှုံးတာက များတယ်။ ဒါပေမယ့် ဘိုလီဗား စိတ်ဓာတ်ကတော့ မယိမ်းမယိုင်၊ တစ်ပြန်တစ်လှည့် အောင်နိုင်ရေးက ၁၈၁၉ မှာ စပါပြီ။ ဘိုလီဗားက သူ့ချိုကျိုးနွားရွက်ပဲ့ တပ်ငယ်ကို မြစ်ကူး၊ လွင်ပြင်ဖြတ်၊ အဲန်ဒိစ် (Andes) တောင်တန်း ကုန်းမြင့်လမ်းကြားက ဖြတ်ပြီး ကိုလံဘီယာမှာရှိတဲ့ စပိန်တပ်ကို ဝင်တိုက်တယ်။ အဲဒီမှာ အဆုံးအဖြတ်ပေးနိုင်တဲ့ ဗိုယာစ (Boyaca) စစ်ပွဲကို ၇ ဩဂုတ် ၁၈၁၉ မှာ သူကနိုင်လို့၊ အဲဒီကစပြီး သူ့နိုင်တဲ့ အလှည့်ချည်းပဲ ဖြစ်လာပါတော့တယ်။ ဗင်နီဇွဲလားကို ၁၈၂၁ မှာ ရန်သူ့လက်က ကယ်တင် နိုင်တယ်။ အီကွေဒေါကို ၁၈၂၂ မှာ ကယ်တင်နိုင်တယ်။ ဒီအတော အတွင်းမှာ အာဂျင်တိုင် (Argentina) မျိုးချစ် ဂျိုဆေဒေစန်မာတင် (Jose de San Martin)က စပိန် လက်အောက်က အာဂျင်တီးနား (Argentina) နဲ့ ချီလီ (Chile) လွတ်လပ်ပြီး ပီရူး (Peru) လွတ်လပ်အောင် ကြိုးစားဆဲဖြစ်တယ်။ ကယ်တင်ရှင်ကြီးနှစ်ယောက်ဟာ အီကွေဒေါ (Ecuador) က ဂွါယာကွေလ် (Guaya Quil)မြို့တော်မှာ ၁၈၂၂ နွေဦးမှာ တွေ့ဆုံကြတယ်။ သူတို့နှစ်ယောက် အချင်းချင်း တိုင်ပင်ပြီး စပိန်တပ်တွေကို ညီညီညွတ်ညွတ် ပူးပေါင်း တိုက်ခိုက်ခွင့် မရပါ။ စန်မာတင် (San Martin) က အလိုရမ္မက်ကြီးတဲ့ ဘိုလီဗားနဲ့ သူနိုင် ကိုယ်နိုင် အာဏာပြိုင်ဖို့ (ပြိုင်ရရင် စပိန်က ဝမ်းသာမှာပေါ့ ဆိုပြီး) စိတ်ဆန္ဒ မရှိတဲ့အတွက် သူ့ရာထူးက နုတ်ထွက်ပြီး တောင်အမေရိကက အပြီးပိုင် ထွက်သွား ပါတော့တယ်။ ၁၈၂၄ ရောက်တဲ့အခါ ဘိုလီဗားရဲ့ တပ်တွေက ပီရူးကို အပြီးအပိုင် ကယ်တင် နိုင်တယ်။ ၁၈၂၅ မှာ အထက်ပီရူး (ခု ဘိုလီးဗီးယား Bolivia) က စပိန်တပ်တွေကို တိုက်ခိုက် နှိမ်နင်းနိုင်ပါတယ်။ ဘိုလီဗားရဲ့ နောက်ပိုင်း ဝန်ထမ်းသက်မှာ ရှေးကလို သိပ်အောင်မြင်မှု မတွေ့ရတော့ပါ။

အမေရိကန်ပြည်ထောင်စုလို တောင်အမေရိက နိုင်ငံတွေရဲ့ ဖက်ဒရေးရှင်း (Federation) ထောင်ချင်စိတ် ရှိတယ်။ တကယ်ကလည်း ဗင်နီဇွဲလား၊ ကိုလံဘီယာနဲ့ အီကွေဒေါတို့ပေါင်းပြီး ကိုလံဘီယာကြီးသမ္မတနိုင်ငံ (Republic Of Greater Columbia) ကို ထူထောင်ပြီး၊ ဘိုလီဗားကို သမ္မတခန့်ထားပြီး ရှိနေပါပြီ။ ကံဆိုးချင်တော့ မြောက်အမေရိက ကိုလိုနီတွေမှာထက် တောင်အမေရိက မှာက အလယ်က ပွင့်အာပြီး ဖဲ့ထွက်တဲ့အားတွေက (centrifugal tendencies) ပိုများနေတယ်။ ဘိုလီဗားက စပိန် အမေရိက နိုင်ငံများ ကွန်ဂရက် (Congress Of Spanish America States) ကို ၁၈၂၆ မှာ ခေါ်ယူတဲ့အခါ လေးပြည်နယ်ပဲ တက်တယ်။ တကယ်က ကိုလံဘီယာကြီးကို ပေါင်းရမယ့်အစား သမ္မတနိုင်ငံမှာပဲ နယ်တွေက မကြာခင် ပဲ့ထွက်သွားကြပါတယ်။ ပြည်တွင်းစစ် ပေါ်လာပြီး ၁၈၂၈ မှာ ဘိုလီဗားကို လုပ်ကြံ သတ်ဖြတ်ဖို့ စီစဉ်ကြပါသေးတယ်။ ၁၈၃၀ မှာ ဗင်နီဇွဲလားနဲ့ အီကွေဒေါ တို့က ခွဲထွက်သွားကြတယ်။

ဘိုလီဗားကိုယ်တိုင်က **'ငါပဲ ငြိမ်းချမ်းရေးအန္တရာယ် ဖြစ်နေပါကလား'** ဆိုပြီး ပြော ၁၈၃၀ မှာ (သမ္မတ) ရာထူးက နုတ်ထွက် ပါတယ်။ ဒီဇင်ဘာ ၁၈၃၀ မှာ ကိုယ့်ဇာတိ ဗင်နီဇွဲလားက လက်လွတ်ထွက်ပြေးခဲ့ရပြီး လူဆင်းရဲ စိတ်ဆင်းရဲ အဖြစ်နဲ့ ကွယ်လွန်ရရှာတယ်။ ဘိုလီဗားဟာ အင်မတန်ရာထူးစည်းစိမ် ဂုဏ်ပကာသနကို မက်မောတဲ့လူ မှန်ပါတယ်။ လိုအပ်ရင် အာဏာရှင်လို ပြုမူကျင့်ကြံပါတယ်။ ဒါပေမယ့် ကိုယ်ကျိုးနဲ့ သူများအကျိုး ကြိုက်ရာ ရွေးမယ်ဆိုရင် သူများအကျိုးဘက်က နေသူပါ။ ဒီမိုကရေစီကို အရေးထားပြီး ခြွင်းချက်မရှိ သူ့အာဏာရှင် ဘဝကို စွန့်ရဲတယ်။ သူ့ကို ရှင်ဘုရင် လုပ်ပါလားလို့ ရာဇပလ္လင် အပ်ခဲ့ဖူးပါတယ်။ မယူပါ။ သူ့အနေနဲ့ ကယ်တင်ရှင်လို့ အခေါ်ခံရတာကို ဘဝရှင်မင်းတရားလို့ အခေါ်ခံ ရတာထက် နှစ်ခြိုက်ပါတယ်။

ကိုလိုနီအုပ်ချုပ်ရေး လက်တွင်းက စပိန်ပိုင် အမေရိက (Spanish America) ကို လွတ်လပ်ရေးရအောင် ကြိုးစား အားထုတ်တဲ့နေရာမှာ ဘိုလီဗားဟာ ဦးစီးကြိုးကိုင် ခေါင်းဆောင်ကြီး ဖြစ်တယ်ဆိုတာ ငြင်းစရာ မရှိပါ။ ဒီလှုပ်ရှားမှုကြီး တစ်ရပ်လုံးမှာ ဝါဒရေးရာ ခေါင်းဆောင်မှုကို သူပဲ ပေးနိုင်တယ်။ ပေးခဲ့တယ်။ ဆောင်းပါးတွေရေးတယ်။ သတင်းစာ ထုတ်တယ်။ မိန့်ခွန်းပေးတယ်။ စာတိုစာရှည် ရေးတယ်။ ဒီအရေးတော်ပုံအတွက် ငွေရှာရမယ် ဆိုရင်လည်း မမောမပန်း လုပ်နိုင်တယ်။ ပြီးတော့ သူပဲ တော်လှန်ရေး တပ်တွေကို ပဓာန ခေါင်းဆောင်သူ ဖြစ်တယ်။ ဒီလိုပြောလို့ ဘိုလီဗားကို စစ်ဗိုလ်ချုပ်ကြီးလို့ မထင်ပါနဲ့။ သူနိုင်လိုက်တဲ့ စစ်တပ်တွေက တပ်ကြီးတပ်ခိုင် မဟုတ်၊ ဘိုလီဗားကလည်း စစ်သေနင်္ဂဗျူဟာနဲ့ စစ်ပရိယာယ်မှာ တော်တယ်လို့ပြောနိုင်စရာ အကြောင်း မရှိ။ (စစ်လေ့ကျင့်ခန်း မရှိ၊ စစ်ပညာမတတ်တဲ့လူလို့ ပြောရင်လည်း အံ့သြစရာ မရှိ၊ ဟုတ်တယ်။) ဒီလစ်ဟင်းချက်တွေကို ဘာနဲ့ ဖာထေးသလဲဆိုရင် အညံ့မခံ အရှုံးမပေးစိတ်၊ အခက်အခဲကို ရင်ဆိုင်ရဲတယ် ဆိုတဲ့စိတ်နဲ့ ကြံ့ကြံ့ခံတယ်။ စပိန်ဘက်က နိုင်ပြီဆိုရင် အကုန်လုံး ထွက်ပြေးဖို့ပဲ ပြင်တယ်။ ဘိုလီဗားက အားမလျှော့၊ ရသမျှရုံးစုပြီး ဆက်တိုက်ပါတယ်။ ကျွန်တော့် အယူအဆကို ပြောရရင် ဘိုလီဗားဟာ ထင်ရှားကြီးကျယ်တဲ့ ဂျူလီယပ်စ်ဆီဇာ (Julius Caesar)၊ ရှာလမိန် (Sharlemagne) လို ပုဂ္ဂိုလ်တွေထက် ပိုပြီး တန်ခိုးသြဇာ ရှိတယ်လို့ထင်တယ်။ ဘာပြုလို့လဲဆိုတော့ သူ့ ဝန်ထမ်းသက်ဟာ ပိုကြာမြင့်တယ်။ သူ့အစီအမံကြောင့် အကျိုးခံစားရတဲ့ နယ်ဟာလည်း ပိုပြီးကျယ်ပြန့်တယ်။ ဒါပေမယ့် မဟာအလက်ဇန္ဒား (Alexander The Great)၊ အဒေါ့ဖ်ဟစ်တလာ (Adolf Hitler) နဲ့ နပိုလီယန် (Napoleon) တို့နဲ့စာရင် အဆင့်နိမ့်တယ်။ ဘာပြုလို့လဲ ဆိုတော့ အထက်ဖော်ပြပါပုဂ္ဂိုလ်တွေသာ မပေါ်ပေါက်ရင် သူတို့စွမ်းဆောင်ခဲ့တဲ့ ကိစ္စကြီးတွေဟာ ဘယ်လိုမှ မဖြစ်ပေါ်နိုင်ဘူး။ တောင်အမေရိက (South America) ရဲ့ လွတ်လပ်ရေးဆိုတာက ဘိုလီဗား မရှိလည်း ဒီအဖြစ်အပျက်ဟာ ပေါ်ပေါက်လာမှာပါပဲ။ ဘိုလီဗားကို ဂျော့ဝါရှင်တန်နဲ့ နှိုင်းတာကမှ စိတ်ဝင်စားဖွယ် ဖြစ်နိုင်တယ်။ ဝါရှင်တန်လိုပဲ ဘိုလီဗားဟာ အရေအတွက် နည်းနည်း၊ လေ့ကျင့်သားနည်းနည်းတပ်တွေသာ အချုပ်အခုပ် လုပ်ဖူးတာ

ငွေကြေးကလည်း နည်းနည်း ဆိုတော့ ခေါင်းဆောင်က အင်မတန် စိတ်ထက်သန်တဲ့ လူအနေနဲ့ ထိန်းပေးမှ တပ်သားတွေလည်း နိုးကြားလှုပ်ရှားလာမှာ ဖြစ်ပါတယ်။ ဝါရှင်တန်နဲ့ မတူတဲ့အချက်ကတော့ ဘိုလီဗားဟာ သူ့တစ်သက်မှာ သူပိုင်သမျှ ကျွန်အားလုံးကို ကျွန်ဘဝက လွှတ်ပေးတယ်။ အဲဒါအပြင် ကျွန်ကို နိုင်ငံအတွင်းမှာ သူ့ကြေညာချက်နဲ့လည်း လွှတ်တယ်။ နိုင်ငံဖွဲ့စည်းပုံ ဥပဒေအရလည်း လွှတ်တယ်။ သူလုပ်ချင်တိုင်း အောင်မြင်တာ မဟုတ်လေတော့ သူကွယ်လွန်တဲ့အချိန်မှာ သူအုပ်ချုပ်သွားတဲ့ နယ်တွေမှာ ကျွန်တွေ ရှိတုန်းပါပဲ။ ဘိုလီဗား ဘဝက အလွမ်းအသောစုံတယ်၊ ရဲရင့်တယ်၊ ချစ်ခန်း ဆွေးခန်းလည်း ပါတယ်။ လူက ချောတယ်၊ ချစ်သူ ဝိုင်းဝိုင်း လည်နေတယ်။ အတွေးသမား ဆိုပေမယ့် ရှေ့ရေးကို အမြင်သန်တယ်။ ဝါရှင်တန်လောက် အုပ်ချုပ်ရေးမှာ မတော်ပါ။ အမြောက်ပိုကြိုက်တယ်။ ဝါရှင်တန် ထက်လည်း သူ့ကြီးပွားရေးကို ပိုကြည့်တယ်။ အဲဒါနဲ့ သူ လွှတ်မြောက်အောင်လုပ်ပေးတဲ့ နယ်မြေရဲ့ အကျိုးကိုတောင် နည်းနည်းထိခိုက်တာမျိုး ပြုမိသွားတာ ရှိပါတယ်။ ဘိုလီဗားဟာ ငွေရဖို့ကိုတော့ ဘယ်တော့မှ ထည့်မတွက်ပါ။ နိုင်ငံရေး မလုပ်ခင်က လူချမ်းသာပါ။ နိုင်ငံရေးကို စွန့်တော့ မွဲနေပါပြီ။ ဘိုလီဗား လွတ်လပ်ရေးရအောင် ဆောင်ရွက် ပေးတဲ့နယ်ဟာ မူလ အမေရိကန်ပြည်ထောင်စုထက် နယ်ကျယ်တယ်။ ဒါပေမယ့် သူက ဝါရှင်တန်လောက် အရေးပါတဲ့လူ တစ်ယောက် ဖြစ်မလာပါ။ ဘာပြုလို့လဲ ဆိုတော့ အမေရိကန်ပြည်ထောင်စုက ဘိုလီဗားကြောင့် လွတ်လပ်သွားတဲ့ပြည်နယ်တွေထက် သမိုင်းမှာ ပိုပြီးအရေးပါတဲ့ဒေသ ဖြစ်လာတဲ့ အတွက်ဖြစ်ပါတယ်။

19, January, 2000.

# (၄၉) ရီနီဒေးကား (၁၅၉၆ – ၁၆၅၀)

# RENE DESCARTES (1596 – 1650)

ကျော်ကြားတဲ့ ပြင်သစ် ဒဿနိကဆရာ၊ သိပ္ပံပညာရှင်၊ သင်္ချာသမား ရီနီဒေကား (Rene’ Descartes) ကို ဟေး (Lahaye) မြို့မှာ ၁၅၉၆ က မွေးဖွား ခဲ့ပါတယ်။ သူငယ်ငယ်က အင်မတန်ကျော်ကြားတဲ့ လဖလက်ရှေ (Lafle’che) ကောလိပ်ခေါ်တဲ့ ဂျက်စူးဝတ် (Jesuit) ကျောင်းကောင်းမှာ တက်ခဲ့ရတယ်။

အသက် နှစ်ဆယ်မှာ ဥပဒေဘွဲ့ကို ပွိုက်တီးယားစ် (Poitiers) တက္ကသိုလ်က ရတယ်။ ဒါပေမယ့် ရှေ့နေ တစ်ခါမှ မလိုက်ဖူးပါ။ ပညာကောင်းကောင်း သင်ကြားခဲ့ရပေမယ့် သင်္ချာကလွဲရင် ဘယ်ပညာ ပဲဖြစ်ဖြစ် သိပ်ပြီး သိကြတာ မဟုတ်လို့၊ အားမကိုးလောက်ပါဘူးလို့ စိတ်မှာ စွဲစွဲမြဲမြဲ ယုံမှတ် ထားတယ်။ ဆရာသမား ဆီမှာ ဆည်းကပ်ပြီး အကျအနသင်ရတဲ့ ပညာကို ဆက်မလိုက်တော့ဘဲ ရပ်ပြီး၊ ဥရောပ အနှံ့ ခရီးထွက်ပြီး ကမ္ဘာကို ကိုယ်တွေ့ လေ့လာပြန်ပါတယ်။ မိဘက ချမ်းသာတော့ ဒေးကားမှာ မကြောင့်မကြ ခရီးသွားလိုရာသွားခွင့် ရနေပါတယ်။ အနှံ့အပြား ခရီးဆက်ထွက်တဲ့နှစ်တွေက ၁၆၁၆ မှ ၁၆၂၈ ထိ ဖြစ်ပါတယ်။ ဟော်လန် (Holland)၊ ဘာဗေးရီးယား (Bavaria) နဲ့ ဟန်ဂေရီ (Hungary) စစ်တပ်သုံးတပ်မှာ ပါဝင်ခဲ့ဖူးပေမယ့် တိုက်ပွဲ မဝင်ခဲ့ဖူးဘူး ဆိုတာတော့ ထင်ရှားပါတယ်။ အီတလီ (Italy)၊ ပိုလန် (Poland)၊ ဒိန်းမတ် (Denmark) နဲ့ တခြားနိုင်ငံတွေ ကိုလည်း ရောက်ခဲ့တယ်။ အဲဒီနှစ်တွေအတောအတွင်းမှာပဲ သူ့ဘာသာ အမှန်တရားကို ဘယ်ပုံဘယ်နည်း ရှာရမယ်လို့ ယေဘုယျနည်း တစ်ခုရပြီလို့ သူထင်တယ်။ အသက် သုံးဆယ့်နှစ်နှစ်မှာ ဒေးကားက သူ့နည်းနဲ့ ကမ္ဘာကြီးရဲ့ ပုံသဏ္ဍာန်ကို ပြည့်ပြည့်စုံစုံ ဖော်လို့ရပြီ ယူဆတယ်။ အဲဒီအခါကစပြီး သူဟော်လန်မှာ အခြေချပြီး၊ နောက်ဆယ့်တစ်နှစ် အကြာမှာ ကွယ်လွန်တဲ့အထိ အဲဒီနိုင်ငံမှာပဲ အခြေချ နေထိုင်သွားတယ်။ ဘာပြုလို့ ဟော်လန်ကို ရွေးချယ် နေထိုင်ပါသလဲဆိုရင် အဲဒီမှာ ဉာဏ်ကျက်စားဖို့ အများကြီး လွတ်လပ်လို့ ဖြစ်တယ်။ အဲဒါအပြင် ပါရီ (Paris) မှာလို လူမှုကိစ္စ အပျော်အပါး ကင်းချင်လို့ ဖြစ်ပါတယ်။ စိတ်စေစားဖို့ လမ်းကြောင်း သတ်မှတ်ချက် (Rules Of the Direction Of the Mind) ကို ၁၆၂၉ မှာ ရေးတဲ့အခါ သူ့နည်းစနစ်ကို စတင် ပုံဖော် ခဲ့ပါတယ်။ (ဒီကျမ်းကို ပြီးအောင်လည်း မရေးဖြစ်ပါ။ ပြီးတော့ ဒေးကား ကွယ်လွန်ပြီး အနှစ်ငါးဆယ်ကျော်မှ ပုံနှိပ်ရတာပါ။) သိပ္ပံပညာရပ်တွေ လေ့လာတဲ့အခါမှာ ဒေးကားက ၁၆၃၀ မှ ၁၆၃၄ အတွင်း သူ့နည်းစနစ်ကို

သုံးခဲ့တယ်။ ခန္ဓာဗေဒ (Anatomy) နဲ့ ဇီဝကမ္မဗေဒ (Physiology) ကို အရင်သိပြီးတာထက် ပိုသိချင်လို့ အမျိုးမျိုးခွဲစိပ် (disection) ကြည့်ပါတယ်။ အလင်းပညာ (Optics)၊ မိုးလေဝသပညာ (meteorology)၊ သင်္ချာ (mathematics)နဲ့ သိပ္ပံပညာအမျိုးမျိုး (various science) မှာလည်း သူတစ်ဦးတည်း အရာရောက်အောင် သုတေသန လုပ်ပါတယ်။

ဒေးကားရဲ့ရည်ရွယ်ချက်က သိပ္ပံဆိုင်ရာ သူတွေ့ရှိချက်တွေ ကို လမွန် (Le Monde) ကမ္ဘာဆိုတဲ့ နာမည်နဲ့ ကျမ်းတစ်စောင် တစ်ဖွဲ့ ရေးသားဖို့ရည်ရွယ်ပါတယ်။ ဒါပေမယ့် ၁၆၃၃ ရောက်လို့ ကျမ်းပြီးခါနီးဆဲဆဲမှာ အီတလီက ဘုရားကျောင်းတော် အာဏာပိုင်တွေက ကမ္ဘာက နေကို ပတ်ပြီး လှည့်နေတယ်လို့ ကော်ပါးနိကပ်စ် (Copernicus) ဖော်ထုတ်တဲ့သီအိုရီကို အကျယ်ထောက်ခံ ဟောပြောရေးသားမိတဲ့ အတွက် ဂယ်လီလီယို (Galileo) ကို ဒဏ်ထားတယ်လို့ သိရတယ်။ သူရောက်နေတဲ့ ဟော်လန်ထိအောင် ကက်သလစ် ကျောင်းတော်ရဲ့ဩဇာက ကင်းလွတ်ပေမယ့် သူ့စာအုပ်မှာ လည်း ကော်ပါးနိကပ်စ်ကို ထောက်ခံထားလို့ မထုတ်ဘဲ ထားတာပဲ ကောင်းပါတယ်လို့ဆိုပြီး အဲဒီစာအုပ်အစား နောက်အခါ သိပ်နာမည်ကျော်ကြားသွားတဲ့ သိပ္ပံပညာရပ်တွေမှာ ယုတ္တိတန်အောင်တွေးပြီး အမှန်ကိုရှာချင်ရင် လမ်းပြကောင်းကောင်းလိုအပ်ကြောင်း ရှင်းလင်း ပြောပြချက် (နာမည် အတိုနည်းစနစ် အကြောင်း Discourse On Method) ကို ၁၆၃၇ မှာ ပုံနှိပ်ဖြန့်ဝေ လိုက်ပါတယ်။ ဟောပြောချက် (Discourse) ကို ရေးစာပေပညာ (Classical Education) မရှိပေမယ့် ဉာဏ်စွမ်းဉာဏ်စ ရှိတဲ့လူတွေ သိနိုင်အောင် လက်တင် (Latin)နဲ့ မရေး၊ ပြင်သစ်လို ရေးခဲ့တယ်။ ဟောပြောချက် နောက်ဆက်တွဲမှာ သူ့နည်းစနစ်ကြောင့် အသိသစ် ရှာဖွေ အောင်မြင်ပုံ စံနမူနာသုံးမျိုးကို စာနဲ့ရေးသား ဖော်ပြ လိုက်တယ်။

နောက်ဆက်တွဲ (၁) မှာ၊ အလင်းပညာ (Optics) အကြောင်းနဲ့ ပတ်သက်ပြီး အလင်းယိုင်ခြင်း (refration Of light) ဥပဒေကို ဒေးကားက တင်ပြတယ်။ ဒီအကြောင်း ကို သူ့အရင် ဝီလီဘရွဒ်စနယ်လ် (Willebrord Snell) က တွေ့ရှိပြီးဖြစ်တယ်။ သူက မှန်ဘီလူးနဲ့ မျက်စိ အမြင်ဆိုင်ရာ ပစ္စည်းကိရိယာတွေအကြောင်း၊ လိုတာ မဖြစ်ဘဲ လမ်းချော်သွားတာတွေ အမျိုးမျိုး ရှိကြောင်းနဲ့ အလင်းသီအိုရီ (Theory Of light) ရဲ့ အရင်းမူလက လှိုင်းသီအိုရီ (Wave Theory) ဖြစ်တယ်ဆိုတဲ့အကြောင်းတွေကို တင်ပြတယ်။ ဒီအချက်ကို နောက်တော့ ခရစ်စတီယန်ဟွိုင်ဂျင်စ်ပုံသေနည်း (Christian Huygens formula) ချပေးပါတယ်။

နောက်ဆက်တွဲ (၂)က၊ မိုးလေဝသခန့်မှန်းချက် (meteorology) ကို ပထမဆုံး ခေတ်မီအောင် သုံးသပ်ချက် ဖြစ်ပါတယ်။ တိမ်၊ မိုးနဲ့လေ အကြောင်း ပြောရင်း သက်တံ့ရောင်စုံ (rainbow) ဘယ်ပုံဘယ်နည်း ဖြစ်လာသလဲဆိုတာကို မှန်ကန်အောင် ဖော်ထုတ် ပြောဆိုနိုင်ပါတယ်။ အပူရှိန်ဟာ မမြင်နိုင်တဲ့ အရည်ပဲလို့ ပြောပြချက်ကို မဖြစ်နိုင်လို့ ပြောနိုင်တယ်။ အမှန်က အပူရှိန် (heat)

ဟာ အတွင်းလှုပ်ရှားမှု (internal motion) တစ်မျိုးဖြစ်ကြောင်း အမှန်ကိုဖော်ထုတ်နိုင်တယ်။ (ဒါပေမယ့် ဒီတွေးဆချက်ကို ဖရန်စစ်ဘေကွန် Francis Bacon နဲ့ တခြားပုဂ္ဂိုလ်တွေ အထက်က ပြောခဲ့ဖူးပါပြီ။)

နောက်ဆက်တွဲ (၃) က၊ ဂျီသြမေတြီ (Geometry) ကို ဒေးကားက သူတွေ့ရှိချက်တွေထဲက အကောင်းဆုံး အရေးအပါဆုံး တွေ့ရှိချက်အဖြစ်နဲ့ သရုပ်ခွဲဂျီသြမေတြီ (Analytic geometry) ကို တင်ပြတာဖြစ်ပါတယ်။ သင်္ချာမှာ ဒီတွေ့ရှိချက်ဟာ အကြီးအကျယ်တိုးတက်ချက် ဖြစ်တယ်။ နောင် နယူတန် (Newton)၊ ကဲကုလပ်စ် (Calculus) တီထွင်နိုင်ဖို့ လမ်းခင်းပေးတာ ဖြစ်ပါတယ်။

ဒေးကားရဲ့ ဒဿနိကမှာ စိတ်ပါဝင်စားစရာ အကောင်းဆုံး အပိုင်းက သူ စတင်ပြောပုံပဲ ဖြစ်ပါတယ်။ လူအများက အမှန်ကို မမြင်နိုင်ဘဲ အလွဲလွဲအချော်ချော် စဥ်းစား နေကြတုန်းမှာ ဒေးကားက အတွေးမှန်ကို ရောက်ချင်ရင် ဘယ်သူနဲ့မှမတူတဲ့ လမ်းစသစ်ကို စသုံး ရမယ်။ အဲဒါကြောင့် ဘာတစ်ခုမှမကျန် အားလုံးကို မယုံဘူးဆိုတာက စပါတယ်။ ဆရာ အဆက်ဆက် ပြောခဲ့သမျှ သူကိုယ်တိုင်သိပ်နှစ်သက်တဲ့ အတွေးအဆ၊ သူ့ကိုယ်ပိုင်ဉာဏ်နဲ့ ထောက်ထားသမျှ ထာဝရ ကမ္ဘာ၊ ငါဆိုတာ ရှိမရှိ အားလုံးကိုပဲ စိတ်ချ လက်ချ ယုံမှတ်ထားဖို့ခက်တယ်ဆိုတာက စရမယ် လို့ သူက သိထားပါတယ်။ အဲဒီကစပြီး ပြဿနာပေါ်ပါတယ်။ အားလုံးကိုမယုံဘူးဆိုရင် ဒါကို ကျော်ဖောက်ပြီး တစ်ခုခုကို (Anything) စိတ်ချလက်ချ ပိုင်ပိုင်သိထားဖို့ မလိုပါလား။ ဒေးကားက သူ့ ထိုးထွင်းဉာဏ်နဲ့ တက္ကိက အချေအတင်ဆွေးနွေးချက်နဲ့၊ သူကော တကယ်ရှိသလားဆိုတာကို စစ်ဆေးပြီး ဒါ ငါပဲ။ ငါရှိတယ်၊ ဘုရားသခင် ရှိတယ်။ အပြင်ကမ္ဘာလောက ရှိတယ်။ အဲဒါတွေက ဒေးကား သီအိုရီအစ ဖြစ်လာပါတယ်။

ဒေးကားနည်းမှာ အဆစ်အပိုင်း နှစ်ပိုင်းရှိပါတယ်။

ပထမ၊ သူ့ဒဿနိကစနစ် အခြေခံအသိ ဘယ်က စသလဲဆိုတဲ့ မေးခွန်းကို မေးပါတယ်။ လူ့အသိဉာဏ်ရဲ့ အရင်းအစဟာ ဘာလဲဆိုတာကို မေးရပါမယ်။ ရှေးအထက်က ဒဿနိကဆရာတွေက ကမ္ဘာရဲ့သဘာဝကို ဖြေဆိုကြံစည်ကြတယ်။ ဒေးကားက ဒီလိုမေးတိုင်း ကျေနပ် လောက်အောင် ဖြေတတ်ကြရဲ့လားလို့ မေးတယ်။ ဒီလိုမေးခွန်းကို ငါဘယ်လိုသိသလဲဆိုတဲ့ မေးခွန်းနဲ့ တွဲဖက်မေးပါမှ အဖြေရနိုင်တယ်လို့ သူက ပြောပါတယ်။

ဒုတိယ၊ ဒေးကားက ယုံကြည်ချက်နဲ့ မစနဲ့၊ သံသယနဲ့ စပါတယ်။ (ဒီနေရာမှာ ခေတ်လယ် ထာဝရဘုရား လေ့လာခြင်း ပညာရှင်တွေထဲမှာ ထိပ်တန်းကဖြစ်တဲ့ စိန့်ဩဂတ်စတင်း (St. Augustine) က ယုံကြည်ချက်က ပထမလို့ပြောတာနဲ့ ဆန့်ကျင်ဘက် ဖြစ်နေပါတယ်။) ဒေးကားဟာ နောက်တော့ ရှေးရိုး အတိုင်း ယုံကြည်ချက်ဆရာတွေ နိဂုံးချုပ်သလို သူလည်းနိဂုံးချုပ်တာပဲဆိုရင် မှန်ပါတယ်။ ဒါပေမယ့် သူ့ပရိသတ်က သူ တစ်ဆင့်ပြီးတစ်ဆင့် စစ်ဆေး သုံးသပ်ပုံ ကို သူ့နောက်ဆုံး ဆုံးဖြတ်ချက်ထက် ပိုပြီး ဂရုပြုလေ့လာတယ်။ (ကျောင်းတော်က ဒေးကား နောက်ဆုံး ရောက်မယ့် နိဂုံးစကားဟာ တို့နဲ့ ကမောက်ကမ

ဖြစ်မယ်ဆိုတာလည်း ဟုတ်ပေသားပဲလို့ ဆိုနိုင်တယ်။)

ဒေးကားရဲ့ဒဿနိကမှာ စိတ်နဲ့ရုပ်ပစ္စည်းတွေကို ခြားပေးဖို့လိုတယ်လို့ တဖွဖွ ပြောဆိုနေပါတယ်။

ဒီနေရာမှာ သူ့အယူက တကယ့်ဒွိဟနှစ်မျိုး ရှိနေတယ်လို့ ဆိုလိုပါတယ်။ ရှေးကလည်း ဒီလိုခွဲကြည့်ကြပါတယ်။ အခု ဒေးကားခွဲပုံက အကြောင်းအချက်ကို ဒဿနိကကျကျ ဆွေးနွေးဖြစ်အောင် နှိုးဆွတာနဲ့ တူနေပါတယ်။ အဲဒီအချိန်ကစပြီး ဒဿနိကသမားတွေ နိုးကြားလာပေမယ့် ခုထိ ဘဝင်ကျတဲ့ အဖြေ မထွက်ပါ။

ဒေးကားရဲ့ စကြဝဠာ တည်ဆောက်ဟန် သဘောထားဟာ လူအများအပေါ်မှာ အထူးသြဇာ ရှိပါတယ်။ သူက ကမ္ဘာကြီး တစ်ခုလုံးဟာ ဘုရားသခင်နဲ့ လူ့ဝိညာဉ်တွေက စက်ယန္တရားလို လှည့်ပတ်နေတဲ့ အတွက် သဘာဝ အဖြစ်အပျက်တွေဟာ စက်ရဟတ်လည်သလို အဖြေထွက် တယ်လို့ ဆိုပါတယ်။ ဒါကြောင့် သူက နက္ခတ်ဗေဒင် ကိုလည်း ပယ်တယ်။ တခြား အယူသီးသမျှ ကိုလည်း ပယ်တယ်။ အဲဒါအပြင် သာသနာ ယုံကြည်ချက် ဆိုင်ရာ အဖြစ်အပျက် ရှင်းလင်းချက်တွေ ကိုလည်း ပယ်တယ်။ (ဒီတော့ ဘာမဆို စက်ယန္တရား အတိုင်း အလှည့်ကို စောင့်ရမယ်။ အယူအဆတစ်ခုနဲ့ ရှေ့လမ်းကြောင်း သတ်မှတ်ပြီး ချီတက် လှုပ်ရှား နေကြမယ် ဆိုတာကို လက်မခံပါ။) ဒေးကား အမြင်အားဖြင့် တိရစ္ဆာန်တွေဟာ ထူးခြားဆန်းကြယ်တဲ့စက်တွေ ဖြစ်တယ်။ လူ့ခန္ဓာလည်း စက်တွေရဲ့သဘောဥပဒေနဲ့ မကင်းဘူးလို့ စဉ်းစားတယ်။ အခုခေတ်ဒဿနိကမှာ ဒီအတွေးဟာ အခြေခံ စိတ်ကူး ဖြစ်လာပါတယ်။ ဒေးကားက သိပ္ပံ သုတေသနကို အားပေးတယ်။ သိပ္ပံကို လက်တွေ့ လူသားတွေ အကျိုးရှိအောင် ယူငင်သုံးရတယ်လို့ ဆိုပါတယ်။ သိပ္ပံကို လိုက်စားရင် မထင်မရှား စိတ်ကူးတွေကို ပယ်ရတယ်။ သင်္ချာနည်းနဲ့ ညီမျှခြင်း ကိုပဲ သုံးပြီး ပြဿနာကိုဖြေရမယ်။ ဒီတော့ သူ့စကားက သိပ်ခေတ်ရှေ့ပြေးကျတယ်။ ခေတ်ဆန် နေတယ်။ ဒေးကားဟာ ဒီလိုပြောသာပြောတယ်။ သိပ္ပံနည်းနဲ့ လက်တွေ့စမ်းသပ်ချက်ကို သိပ်ပြီး အရေးကြီး တယ်လို့ မထင်ကြခဲ့ပါ။ ဗြိတိသျှ ဒဿနိကသမား ဖရန်စစ်ဘေကွန်က သိပ္ပံနည်း စမ်းသပ်ကြပါ။ ဒါပဲ အလိုအပ်ဆုံးဖြစ်တယ်လို့ နှိုးဆော် ခဲ့တယ်။ အဲဒီကမှ အကျိုးအမြတ် အများကြီး ထွက်လာ နိုင်တယ်လို့ ဒေးကားထက် နှစ်အများကြီး စောပြီး ပြောဟောခဲ့ပါတယ်။ ပြီးတော့ ဒေးကားရဲ့ သိပ်ကြီးကျယ်တဲ့ မြွက်ဟချက်ဖြစ်တဲ့ **‘ငါတွေးနေတယ်၊ ဒါကြောင့် ငါရှိတယ်’** ဆိုတာလည်း သူက စပြောတာမဟုတ်လို့ ထင်ပါတယ်။ သူ့အထက် အရင် အနှစ် ၁၂၀၀ ကျော်ကပဲ (ဒီစကားနဲ့ ထပ်တူမဟုတ်ပေမယ့်) တစ်သဘောတည်း ဖြစ်တဲ့စကား ကို စိန့်သြဂတ်စတင်း ပြောခဲ့ပါတယ်။ ဒီလိုပဲ ဒေးကားရဲ့ ဘုရားဟာ ဘယ်ကစတယ်ဆိုတဲ့ စကားမျိုးကို စိန့်အဲန်ဆဲလ်မ် (St. Anselm ၁၀၃၃ – ၁၁၀၉) က စပြောခဲ့ပါတယ်။

ဒေးကားက ၁၆၄၂ မှာ နောက်ထပ်ကျော်ကြားတဲ့ ကမ္မဋ္ဌာန်း (Meditation) အမည်နဲ့ ကျမ်းစာအုပ် တစ်အုပ်ရယ်၊ ဒဿနိက အခြေခံသဘောတရား၊

ဒဿနိက လုပ်နည်း တစ်မျိုး (Principle of Philosophy) ကို ၁၆၄၄ မှာ ထုတ်ပါတယ်။ အဲဒီနှစ်ကျမ်းစလုံးဟာ လက်တင် ဘာသာနဲ့ ရေးတယ်။ ပြင်သစ် ဘာသာပြန်က ၁၆၄၇ မှာ ထွက်ပါတယ်။

ဒေးကားဟာ စာရေးကောင်းသူဖြစ်ပြီး စကားပြေ အရေးအသား ကောင်းပေမယ့် လေသံက အံ့ဩစရာ ကောင်းလောက်အောင် ရှေးဆန်နေပါတယ်။ တကယ်က သူက (အတွေးအခေါ်ကို အရင်းခံရလို့ ဖြစ်မယ် ထင်တယ်။) သိပ်ပြီး ခေတ်လယ်ပညာရှင်လေသံ ပေါက်နေတယ်။ ဆန့်ကျင်ဘက်က ဖရန်စစ်ဘေကွန် ဖြစ်ပါတယ်။ ဒေးကားထက် သုံးဆယ့်ငါးနှစ် စောပေမယ့် လေသံက ခေတ်ဆန်တယ်။ သူရေးတဲ့စာထဲမှာပါသလိုပဲ ဒေးကားဟာ ဘုရားသခင်ကို အသေအချာယုံကြည်တဲ့လူ ဖြစ်ပါတယ်။ သူက ကက်သလစ်ကောင်း တစ်ယောက် ဖြစ်တယ်။ ဒါပေမယ့် ကျောင်းတော် အာဏာပိုင်တွေက သူ့ အယူအဆတွေကို မကြိုက်ပါ။ အဲဒါကြောင့် သူ့ကျမ်းတွေကို မဖတ်ရစာရင်း (Catholic Index Of Forbidden books) ထဲမှာ ထည့်ထားပါတယ်။ ပရိုတက်စတင့် လွတ်လပ်တယ် ဆိုတာတောင် ဒေးကားကို ဘာသာ မရှိ (Atheist) လို့ သမုတ်ပြီး အာဏာပိုင်တွေရဲ့ ဆန့်ကျင်ဘက် ဖြစ်ရပါသေးတယ်။

ဒေးကားကို ဆွီဒင် (Sweden) ဘုရင်မ ခရစ်စတီနာ (Christina) က ရက်ရက်ရောရော ငွေထောက်ပံ့ခဲ့ပြီး စတော့ဟုမ်း (Stockholm) ကို သူ့ဆရာအဖြစ်နဲ့ လာဖို့ ဖိတ်တယ်။ ဒေးကားက အခန်းနွေးနွေးကြိုက်တယ်။ ညအိပ်တော့ ညဉ့်နက်မှ အိပ်တယ်။ ဘုရင်မက သူ့ကို မနက်ငါးနာရီမှာ စာသင်ပါဆိုတော့ နံနက် အအေးမိမှာ စိုးလို့တဲ့။ သူစိုးရိမ်တဲ့အတိုင်း ဆွီဒင်ကို ရောက်ပြီး လေးလအကြာ အအေးမိပြီး ဖေဖော်ဝါရီ ၁၆၅၀ မှာ သေဆုံးသွားပါတယ်။ ဒေးကားက လက်ထပ်မယား မရှိပေမယ့် ငယ်ကလွန်တဲ့ သမီး တစ်ယောက်အဖေ ဖြစ်ပါတယ်။

ဒေးကားရဲ့ ဒဿနိကကို သူနဲ့ရွယ်တူတွေက အများကြီး ဝေဖန်ကြတယ်။ ဘာပြုလို့လဲဆိုတော့ သူ့အတွေးမှာ ပတ်လည်လှည့်တဲ့ ဆင်ခြေတွေ ပါနေလို့ ဖြစ်ပါတယ်။ နောက်ပေါ်လာတဲ့ ဒဿနိကဆရာတွေက သူ့စနစ်ရဲ့ ချွတ်ယွင်းချက်တွေကို ထောက်ပြပေမယ့် ခုခေတ် လူတွေထဲက တချို့ကတော့ သူ့ကို စိတ်ပါလက်ပါ ထောက်ခံနေကြဆဲ ဖြစ်ပါတယ်။ ဒဿနိကဆရာရဲ့ တန်ဖိုးဟာ သူထင်တဲ့ စနစ်မှန်တာနဲ့ သိပ်မဆိုင်ပါ။ သူ့စိတ်ကူးဟာ သိပ်ပြီးအရာရောက်သလား၊ သူ့ကို ဘယ်သူတွေက ဘယ်လောက် ကိုးကား သလဲဆိုတာ ကြည့်ပြီး၊ သူ့ဩဇာ ပျံ့နှံ့တာကို စဉ်းစားဆုံးဖြတ် လေ့ရှိတယ်။ ဒီပုံစံအတိုင်း အကဲဖြတ်ရရင် ဒေးကားက အရေးပါတဲ့ ပုဂ္ဂိုလ်တစ်ဦး ဖြစ်တာကို သံသယရှိဖို့မလိုပါ။

ဥရောပအတွေးအခေါ်မှာ ဒေးကားရဲ့ အတွေး အနည်းဆုံး အချက်ငါးချက်က ထိရောက်လွှမ်းမိုးနေတယ်။

(၁) စကြဝဠာနဲ့ပတ်သက်တဲ့ သူ့စက်လှည့်ပုံအယူအဆ၊

(၂) သိပ္ပံနည်းစူးစမ်းရှာဖွေရေးတွေမှာ သူ့ရဲ့ အပြုနည်း ချဉ်းကပ်ပုံ၊
(၃) သိပ္ပံမှာ သင်္ချာကို ထိထိရောက်ရောက်သုံးရမယ်လို့ ဆန္ဒရှိပုံ၊
(၄) အခြေခံအားဖြင့် မယုံကြည်မှုကိုနှိုးဆော်ပုံနဲ့
(၅) အသိပညာရဲ့အရင်းခံနည်း (epistemology) ကို အလေးထားပုံ

ဆိုတဲ့အချက်တွေ ဖြစ်ပါတယ်။

ဒေးကားရဲ့တန်ဖိုးကို ခြုံငုံပြီးကြည့်ရင် သူ့ရဲ့ သိပ္ပံဆိုင်ရာ စွမ်းဆောင်ချက်တွေကို ထည့်စဉ်းစားရမယ်။

အထူးသဖြင့် သူက စိစစ်မှုဂျီသြမေတြီ (Analytic geometry)ကို စတင်တီထွင်တာကို ကြည့်ပါ။ ဒါကြောင့် အခုစာရင်းမှာ ဒေးကားကို ထင်ရှားတဲ့ တခြားဒဿနိက ဆရာတွေဖြစ်တဲ့ ဗော်လ်တဲ (Voltaire)၊ ရူးဆိုး (Rousseau) နဲ့ ဖရန်စစ်ဘေကွန် (Francis Bacon) တို့ထက် သိသိသာသာ ကြီးစွာတဲ့နေရာကို ပို့ရခြင်း ဖြစ်ပါတယ်။

15, March, 2001.

# (၅၀) မိုက်ကယ် အိန်ဂျဲလ်လို (၁၄၇၅ – ၁၅၆၄)

# MICHAEL ANGELO (1475 – 1564)

ရုပ်မြင်အနုပညာသမိုင်း (history of visual Art) မှာ ထင်ရှားကြီးမားတဲ့ ပုဂ္ဂိုလ်က အသိပညာပြန်လည် ဆန်းသစ်ခေတ် (Renaissance ရီနေးဆင့်) ခေတ်ပန်းချီ၊ ပန်းပု ပညာရှင်ကြီး မိုက်ကယ်အိန်ဂျဲလ်လို ဗျူနာရိုတီ (Michael Angelo Buonarroti) ဖြစ်ပါတယ်။ ပြိုင်စံရှားတဲ့ ပန်းချီဆရာ၊ ပန်းပုဆရာ၊ ဗိသုကာဆရာဖြစ်တဲ့ မိုက်ကယ် အိန်ဂျဲလ်လိုဟာ ပြီးခဲ့တဲ့ နှစ်ပေါင်းလေးရာအတွင်း သူ့လက်စွမ်း မျိုးစုံကို ရှုမြင်ရသူတိုင်း ရင်သပ်ရှုမောဖြစ်ကြရပါတယ်။ သူ့လက်ရာတွေဟာ သူ့နောက်ပိုင်း ဥရောပ ပန်းချီ၊ ပန်းပု ပညာကို အများကြီးလွှမ်းမိုးခဲ့ပါတယ်။ (သူတင်ခဲ့တဲ့ ‘စံ’ ကို အမှီလိုက်ကြရတာကို ဆိုလိုပါတယ်။)

အီတလီ(Italy)နိုင်ငံ၊ ဖလော်ရင့် (Florence) နဲ့ မိုင်လေးဆယ် ကွာတဲ့ ကက်ပရီဆီ (Caprese) မြို့မှာ ၁၄၇၅ မှာ မိုက်ကယ်အိန်ဂျဲလ်လိုကို မွေးဖွားခဲ့ပါတယ်။ သူဟာ အသက် ငယ်ငယ်ကပဲ အစွမ်းအစ ရှိတယ်လို့ တွေ့မြင်နေရပြီး အသက်တစ်ဆယ့်သုံးနှစ်မှာ ဖလော်ရင့်မှာ နာမည်ကျော် ပန်းချီဆရာ ဂီရိလန်ဒေယာ (GhirLandair) ရဲ့ လက်ထောက်ဖြစ်လာပါတယ်။ မိုက်ကယ်အိန်ဂျဲလ်လို အသက် တစ်ဆယ့်ငါးနှစ် ရှိတဲ့အခါ သူ့ကိုမြှောက်စားတဲ့ ဖလော်ရင့်မြို့စား ကျက်သရေရှင် လော်ရင်ဇို (Magnificient Lorenzo) က သူ့သားသမီးလို ခေါ်ယူထားတဲ့အတွက် မယ်ဒီစီ (Medici) နန်းတော်မှာ နေခဲ့ရပါတယ်။

မိုက်ကယ်အိန်ဂျဲလ်လိုရဲ့ အစွမ်းသတ္တိ ကြီးမားပုံက သိပ်ပြီး သိသာထင်ရှားလှတဲ့အတွက် သူ့လုပ်သက် တစ်လျှောက်မှာ မကြာခဏ ဆိုသလို ပုပ်ရဟန်းမင်းကြီးတွေ အပါအဝင် လူမင်းပေါင်းစုံက အနုပညာ လက်ရာတွေကို ပုံဆွဲပုံဖော်ဖို့ အလုပ်အပ်တာကို မကြာခဏခံရပါတယ်။ နေရာများစွာမှာ ရွှေ့ပြောင်းနေထိုင်ခဲ့ပေမယ့် သူ့တစ်သက်မှာ ရောမ (Rome) နဲ့ ဖလော်ရင့်မှာ အနေကြာ ပါတယ်။ ရောမမှာ အသက်ရှစ်ဆယ့်ကိုးနှစ် ပြည့်အံ့ဆဲဆဲမှာ ကွယ်လွန် သွားပါတယ်။ သူ့တစ်သက်မှာ တစ်ခါမျှ အိမ်ထောင် မပြုပါ။

သူနဲ့ခေတ်ပြိုင် သူ့ထက်နည်းနည်းကြီးတဲ့ လီယိုနာဒိုဒါဗင်ချီ (Leonardoda Vinci) လို ဘက်စုံ ထူးချွန်တဲ့ ပါရမီရှင် မဟုတ်ပေမယ့် မိုက်ကယ် အိန်ဂျဲလ်လို

လည်း ဘက်စုံ အင်မတန်တော်သူဖြစ်လို့ တွေ့ဖူးသူတိုင်း အံ့သြ ကြရပါတယ်။ လက်စွမ်းထက်တဲ့ ပညာရှင်တွေထဲမှာ သူတစ်ယောက်ပဲ သူများတွေ အဖို့ ဖြစ်နိုင်ခဲ့တဲ့ ပညာရပ် နှစ်ခုမှာ အမြင့်ဆုံး အဆင့်ကိုရောက်အောင် တက်လှမ်း နိုင်ခဲ့သူဖြစ်ပါတယ်။ ပန်းချီဆရာ အဖြစ် မိုက်ကယ်အိန်ဂျဲလ်လိုဟာ ထိပ်တန်း မဟုတ်တောင် ထိပ်တန်းနီးနီး ရောက်တယ်လို့ သူ့လက်ရာ ကောင်းတွေက ပြတယ်။ သူ့ကိုဆက်ခံတဲ့ နောက်ပန်းချီဆရာတွေကလည်း သူ့လက်ရာကို စံထားပြီး လုပ်ကြပုံကိုထောက်လို့ သူ့ဩဇာ ကြီးမားကြောင်း ထင်ရှားပါတယ်။ ရောမ စစ်စတိုင်း ဝတ်ကျောင်း (The Sistine Chapel) မျက်နှာကြက်မှာ အဆမတန်ကြီးမား ကျယ်ပြန့်တဲ့ ဖရက်စကို (frescoe) ရောင်စုံကားတွေကို အစုံလိုက်ရေးခဲ့ပုံကို မြင်ရင် ဒါမျိုးအရင်က မရှိဖူးသလို နောက်လည်း မပေါ်ပါ ကလားလို့ ချီးမွမ်းအံ့သြမဆုံး ဖြစ်ရပါတယ်။ ဒါပေမယ့် မိုက်ကယ် အိန်ဂျဲလ်လိုက သူ့ရဲ့အရင်းမူလ အလုပ်က ပန်းပုထုတာ ဖြစ်တယ်။ သူ့လက်ရာကို အကဲဖြတ်သူတွေကလည်း ဒီလိုပဲ ယူဆတယ်။ ပေါ်ထွန်းသမျှ ပန်းပုဆရာ တွေထဲမှာ သူပဲ အကြီးမြင့်ဆုံးလို့ သတ်မှတ်ပါတယ်။ ဥပမာ၊ သူ့လက်ရာ ဖြစ်တဲ့ ဒေးဗစ် (David) ပုံ၊ မိုးဇက် (Moses) ပုံတွေ အပြင် သိပ်ကျော်ကြားတဲ့ ပီယဲ့တာ (Pieta) ဆိုတာတွေက ဘယ်ပန်းပုမှ လိုက်မမီတဲ့ လက်ရာချွန်တွေ ဖြစ်ပါတယ်။

ဗိသုကာအတတ်မှာလည်း မိုက်ကယ်အိန်ဂျဲလ်လို ဟာ အများကြီး အဆင့်မြင့်အောင် တတ်ကျွမ်းတယ်။

ဒီနယ်ပယ်မှာ သူထူးချွန်ပုံကို သူ ပုံထုတ်ပြီး ဆောက်လုပ် ခဲ့တဲ့ ဖလော်ရင် မယ်ဒီစီဝတ်ကျောင်း (Medici Chapel) က ပြနေပါတယ်။ နှစ်ပေါင်း အကြာကြီး ရောမ စိန်ပီတာ ကျောင်းတော် ဆောက်လုပ်ရေးမှာ သူပဲ အကြီးအကြပ် ခေါင်းဆောင်လုပ်ခဲ့ပါတယ်။

မိုက်ကယ်အိန်ဂျဲလ်လိုဟာ သူ့တစ်သက်မှာ ကဗျာပေါင်း များစွာ စပ်ဆိုခဲ့တဲ့အတွက် အခုထိ ကဗျာ ၃၀၀ လောက် မတိမ်မမြုပ် ကျန်ရစ်ပါတယ်။ တချို့ ဆောနက် (Sonnet စာကြောင်းတစ်ဆယ့်လေးကြောင်းနဲ့ ကာရန် အချိတ်အဆက် သိမ်မွေ့တဲ့ကဗျာ) နဲ့ တခြား ကဗျာတွေကို သူကွယ်လွန်ပြီး ကာလအတော်ကြာမှ ပုံနှိပ်ကြ ပါတယ်။ သူ့ရဲ့အတွေးနယ်ကို ကောင်းကောင်း ဖော်ပြတဲ့ ကဗျာတွေ ဖြစ်ပါတယ်။ ကဗျာစပ်တဲ့ နေရာမှာလည်း ပြောင်မြောက်တဲ့ပုဂ္ဂိုလ် ဖြစ်ပါတယ်။

ရှိတ်စပီးယား (Shakespeare) အကြောင်း ရေးတုန်းက ကျွန်တော်ပြောခ့ဲတဲ့အတိုင်း အနုပညာသမား ပန်းချီဆရာရဲ့ အစွမ်းဟာ၊ လူ့သမိုင်းနဲ့ လူ့နေ့စဥ် နေထိုင်ရေးမှာ ဩဇာသက်ရောက်ခဲ့ပါတယ်။ ဒီအချက်ကြောင့် မိုက်ကယ် အိန်ဂျဲလ်လို (Michael Angelo) ဟာ ပန်းချီဆိုင်ရာမှာ အင်မတန်ကြီးမားတဲ့ ပါရမီရှင် ဖြစ်ပေမယ့် သူ့လောက် မကျော်ကြားပေမယ့် နည်းသစ် ပစ္စည်းသစ်ကို သိပ္ပံဘက်က တီထွင်တဲ့ ပုဂ္ဂိုလ်တွေ လောက် မြင့်တဲ့နေရာကို မပေးနိုင်တာ ဖြစ်ပါတယ်။

# (၅၁) ရဟန်းမင်းကြီး ဒုတိယ အာဗင် (၁၀၄၂ – ၁၀၉၉)

## POPE URBAN II (1042 – 1099)

ကနေ့ ရဟန်းမင်း ဒုတိယအာဗင် (Pope Urban II) ကို မှတ်မိတဲ့လူ ရှားမှရှားဖြစ်မယ်။ ဒါပေမယ့် ဒီပုဂ္ဂိုလ် ပြောစကားကို တိုက်ရိုက်ကြားနာရပြီး လူအများ လိုက်နာ ဆောင်ရွက်ပုံမျိုး လူ့သမိုင်းမှာ မရှိသေးပါ။

ဒုတိယအာဗင်က မူဆလင်(Muslim)တွေ လက်ထဲ ရောက်နေတဲ့ မြေမြတ် (The Holy Land)ကို ပြန်ရအောင် ခရစ်သာသနာဝင် မှန်သမျှ စစ်ခင်းရမယ်လို့ လှုံ့ဆော်လို့ ခရူးဆိတ်စစ်ပွဲ (Crusades) တွေ စတင် ပေါ်ပေါက်ရတာ ဖြစ်ပါတယ်။

နာမည်ရင်း အိုဒိုဒေလာဂေရီ (Odode Lagery) အမည်ရှိတဲ့ အာဗင်ကို ပြင်သစ်နိုင်ငံ ချာတီလောင် ဆူလ်မန်း (Chatillon–sur–Marne) မြို့တော်မှာ ၁၀၄၂ လောက်က မွေးဖွားခဲ့ပါတယ်။ ပြင်သစ်သူကောင်းက ဆင်းသက်သူဖြစ်ပြီး စာပေပညာကောင်းကောင်း သင်ခဲ့ရဖူးတယ်။ လူငယ်ဘဝကပဲ ရိုင်းမ် (Raime) မြို့မှာ ဂိုဏ်းထောက်ကြီး (Arch Deacon) ဖြစ်ခဲ့တယ်။ အဲဒီက ရာထူးအဆင့် တဖြည်းဖြည်း မြင့်တက်ပြီး ကလူနစ် ဆရာတော် (Cluniac monk)၊ ကျောင်းထိုင်ဆရာတော် (Prior) နဲ့ ရဟန်းမင်း အတိုင်ပင်ခံဂိုဏ်းအုပ် (Cardinal–bishop) ဖြစ်ပြီးမှ ၁၀၈၈ မှာ ရဟန်းမင်းကြီး (Pope) အရွေးခံရပါတယ်။

အာဗင်က အမှု ကိစ္စဆောင်ရွက်ရာမှာ ရွပ်ရွပ်ချွံချွံ ထိရောက်အောင် ဆောင်ရွက်နိုင်တယ်။ နိုင်ငံရေး မှာလည်း အကင်းပါးတယ်။ အဲဒါလောက်နဲ့ သူ့ကို ဒီစာအုပ်မှာ နေရာ ပေးတာ မဟုတ်ပါ။ ဒုတိယအာဗင်ကို တကယ်တမ်း ချီးကျူးပြီး ကျေးဇူးတင်မဆုံး သတိတရဖြစ်ခဲ့ရတဲ့ အရေးအခင်းက ၂၇ နိုဝင်ဘာ ၁၀၉၅ မှာ ဖြစ်ခဲ့ပါတယ်။ ပြင်သစ်နိုင်ငံ ကလာမွန် (Clermont) မြို့တော်မှာ ခရစ် အစည်းအဝေးကြီးတစ်ရပ်ကို သူက ခေါ်ယူ ကျင်းပတယ်။ လူပေါင်းထောင်သောင်းမက တက်ရောက်လာကြတော့ အာဗင်ဟာ သမိုင်းတစ်လျှောက်လုံးမှာ သိပ်အရေးပါတဲ့ လှုပ်ရှားမှုကြီး တစ်ရပ်ကို ပေါ်ထွန်းလာအောင် ထိရောက် နက်နဲတဲ့ မိန့်ခွန်းကြီး တစ်ရပ်ကို ပြောကြား

ခဲ့တယ်။ ဒီမိန့်ခွန်းရဲ့ အကျိုးဆက်ကို ဥရောပမှာ ရှေ့လာမယ့် ရာစုနှစ်ပေါင်းများစွာ ခံစားခဲ့ရပါတယ်။ ဆယ်ဂျူတာ့ခ် (Seljuk Turks)တွေဟာ မြေမြတ် (The Holy Land) မှာ ဝင်နေပြီး ခရစ်သာသနာဝင် (Christian) တွေ အထွတ်အမြတ် ထားတဲ့နေရာတွေကို စော်ကားတယ်။ ခရစ်ဘုရားဖူးတွေကို ဒုက္ခပေးတယ်။ ဒါကို အာဗင်က အပြင်းအထန် ကန့်ကွက်တယ်။

ဒါကြောင့် ခရစ်သာသနာ ဖြစ်ထွန်းရာ နိုင်ငံတွေ အားလုံး စုပေါင်းပြီး အင်မတန်ကြီးမားတဲ့ ခရူးဆိတ် (Crusade) အင်အားကိုပြင်ဆင်ပြီး ခရစ်သာသနာဝင် တွေ အတွက် မြေမြတ်ကို ပြန်ရဖို့ သာသနာရေးစစ် (The Holy War) ဆင်နွှဲရမယ်လို့ လှုံ့ဆော်တယ်။ အာဗင်က 'ကိုယ်ကျိုးမဖက် သာသနာအတွက်' လို့ တွန်းမပြောဘဲ **'အထွတ်အမြတ်နယ်ဟာ အခုငါတို့ ခရစ်သာသနာဝင်တွေ နေထိုင်တဲ့ ဥရောပလို ပြွတ်သိပ် ပြည့်ညပ်မနေဘဲ ကောက်ပဲသီးနှံ အထွက်များလို့ ဒီမှာ ထက်ပိုပြီး အများကြီး ချမ်းသာတဲ့ နယ်မြေဖြစ်တယ်'** လို့ ပြောပါတယ်။ နောက်ဆုံး ရဟန်းမင်းကြီးရဲ့ ကြေညာချက်မှာ **'ခရူးဆိတ် (Crusade) မှာ ပါဝင်ဆင်နွှဲနိုင်ရင် အပြစ် ကြီးငယ်က လွတ်မြောက်ဖို့ အာပတ်ဖြေတာနဲ့ အတူတူ ဖြစ်မယ်။ ခရူးဆိတ်တပ်သားဟာ အပြစ်အားလုံးက ချွတ်လွှဲပြီးဖြစ်မယ်'** လို့ နိဂုံးစကားပြောပါတယ်။

အာဗင်ရဲ့ ပြောင်မြောက်တဲ့မိန့်ခွန်းက နားထောင်တဲ့ ပရိသတ်ထဲမှာ ကိုယ်ကျိုးကိုယ့်စီးပွားကို အများကြီး တောင့်တတဲ့ ပုဂ္ဂိုလ်တွေကို အကောင်းဆုံး အမြင့်ဆုံး မျှော်လင့်ချက်ကို နှိုးဆွသလိုဖြစ်လို့ အားတက် သရော ထောက်ခံကြပါတယ်။ ရဟန်းမင်းကြီး မိန့်ခွန်း မဆုံးခင် လူအများက **'ဒါ ဘုရားသခင် အလိုတော်ပဲ့'** လို့ အော်ဟစ် ကြတယ်။ နောက်တော့ ဒီ 'ဘုရား အလိုတော်ပဲ့' ဆိုတာဟာ သိပ်ခေတ်စားတဲ့ ကြွေးကြော်သံ စစ်ချီသံ ဖြစ်လာပါတယ်။ သူပြောပြီးနောက် တစ်လနှစ်လ အတွင်းမှာပဲ ပထမ ခရူးဆိတ် (First Crusade) ဟာ ချီတက်စပြုပါပြီ။ အဲဒါနောက်မှာ သာသနာစစ်တွေ (အစုစုစစ်ပွဲကြီး ရှစ်ကြိမ်၊ အငယ် အကြိမ် အများကြီး) ပေါ်ခဲ့ပါတယ်။ အချိန်ကာလအားဖြင့်လည်း နှစ် နှစ်ရာနီးပါးကြာမြင့်ပါတယ်။

အာဗင်က ၁၀၉၉ မှာ ဘဝနတ်ထံ ပျံလွန်တယ်။ ဒီလို မကွယ်လွန်မီ သီတင်းနှစ်ပတ်က ပထမခရူးဆိတ်က ဂျေရုဆလမ် (Jerusalem) ကို သိမ်းယူနိုင်ခဲ့ပါတယ်။ ဒီအောင်ပွဲရ သတင်းကို ဆရာတော်ကြီး ကြားမသွားရရှာပါ။ ခရူးဆိတ်တွေရဲ့ အရေးပါ အရာရောက်ပုံကို အကျယ်ချဲ့ပြီး ပြောဖို့မလိုပါ။ စစ်တွေရဲ့ထုံးစံအတိုင်း ပါဝင် ဆင်နွှဲသူတွေနဲ့ တိုက်ရိုက်ပတ်သက်ပြီး စစ်လမ်းကြောင်းက ပြည်သူအများ ပျက်စီးကြေမွ သွားပါတယ်။

အဲဒါအပြင် နောက်တစ်ချက်ပြောစရာက အနောက် ဥရောပဟာ ဟိုအခါက သူတို့ထက် သိသိသာသာ အဆင့်မြင့် နေတဲ့ ဘိုင်ဇံတိုင်း (Byzantine) နဲ့ အစ္စလာမ် (Islamic) ယဉ်ကျေးမှုကို နီးနီးကပ်ကပ် တွေ့ဆုံခွင့်ရတဲ့ အချက်ဖြစ်ပါတယ်။ ဒီလိုကြုံတွေ့လိုက်ရလို့ ခေတ်ဥရောပ ယဉ်ကျေးမှု (Modern European Civilization) ဖူးပွင့်ဝေဆာလာအောင် ရီနေးဆန့် (Renaissance)

ရေးပညာရှိတွေကို ပြန်လည်လေ့လာ ဖော်ထုတ်ခြင်း ထွန်းကားလာရတာ ဖြစ်ပါတယ်။

ဒုတိယအာဗင်ကို အခုစာအုပ်မှာ နေရာ ပေးရခြင်းဟာ ဒီကိစ္စရဲ့ အကျိုးအမြတ်တွေဟာ အရေးပါလွန်း လို့ဆိုတဲ့ အချက် တစ်ခုတည်းကြောင့် မဟုတ်ပါ။ သူ့လှုံ့ဆော်ချက်မရှိရင် ခရူးဆိတ် မပေါ်နိုင် ဆိုတဲ့ အချက်ကြောင့် ဖြစ်ပါတယ်။ အခုလို ကြီးကျယ်တဲ့ လှုပ်ရှားမှုကြီးဖြစ်လာဖို့ အခြေအနေ ပေးနေပြီ ဆိုတာကတော့ ထင်ရှားတဲ့ အချက်ပါ။ လှုံ့ဆော်တဲ့ပုဂ္ဂိုလ်က အပြောဘယ်လို ကောင်းကောင်း အခြေအနေဆိုးကို ခံစားနေရသူ မများရင် သဲထဲရေသွန် ဖြစ်မှာအမှန်ပါ။ တစ်ဖက်က ကြည့်ပြန်တော့လည်း ဥရောပ တစ်တိုက်လုံး အံ့ကြွအောင် အရေးအခင်း ဖြစ်လာဖို့ကတော့ ဗဟိုက လွှမ်းမိုးချုပ်ကိုင် ပြောဟော နိုင်တဲ့ ခေါင်းဆောင်လိုပါတယ်။ နိုင်ငံတစ်ခုက အမျိုးသား ခေါင်းဆောင်၊ ရှင်ဘုရင် တစ်ပါးတလေက အခုလောက် ကြီးကျယ်အောင် မလုပ်နိုင်ပါ။ (ဥပမာ၊ ဂျာမန် ဧကရာဇ် တစ်ပါးထဲက တော့စ် Turks တွေကို သာသနာ့စစ် ကြေညာပြီး စစ်တိုက်ရင် အင်္ဂလိပ်သူရဲကောင်း English Knights ကပါ သူနဲ့အတူ ဝင်တိုက်မယ် မထင်ပါ။) အနောက် ဥရောပမှာ ပြည်နယ်၊ နိုင်ငံနယ်နိမိတ်တွေကို ကျော်ဖြတ်ပြီး ဩဇာရှိတဲ့ပုဂ္ဂိုလ်က တစ်ဦးတစ်ယောက်ပဲ ရှိပါတယ်။ ရဟန်းမင်းကြီး တစ်ပါးတည်းကသာ အနောက် ခရစ်ယာန်နိုင်ငံစုံ (All Western Christendom) က ပါဝင်ဆင်နွှဲမယ့် စီမံကိန်းကို လုပ်နိုင်ပါတယ်။ သူကခိုင်းရင် လူအများကြီး လိုက်နာမယ်လို့ ဆိုနိုင်ပါတယ်။ ရဟန်းမင်းကြီးက အကျိုးဆက်တွေ ကွက်ကွက် ကွင်းကွင်း မြင်အောင် လှုံ့ဆော် စကားမပြောရင် ခရူးဆိတ် ဆိုတဲ့ ဥရောပ အစိုင်အခဲကြီးလိုက် ကြွထလာဖို့ ဘယ်လိုမှ မဖြစ်နိုင်ပါ။

ရဟန်းမင်း ရာထူး ရထားတိုင်း အခုလို ခရူးဆိတ်စစ်ပွဲ စပြီး လုပ်ကြရအောင်လို့ ပြောဖြစ်မယ် မထင်ပါ။ ဘာပြုလို့လဲ ဆိုတော့ လက်တွေ့ လုပ်ဖြစ်နိုင်ဖို့ အင်မတန်ခက်ခဲတဲ့ အကြံဉာဏ် စိတ်ကူးဖြစ်တယ်။

တော်တော်ကလေး စဥ်းစား ဉာဏ်ထက်တဲ့လူဆိုရင် ဒါမျိုး စပြောဖို့ ဝန်လေးလိမ့်မယ်။ လုပ်ပြီးဆိုရင် အောင်မြင်ဖို့ မှန်းဆရ ခက်တယ်။ ဒါပေမယ့် ဒုတိယ အာဗင် (Urban II) က လုပ်ရဲတယ်။ ဒီလိုလုပ်လို့ လူသမိုင်းမှာ သူ့ထက်ပို ကျော်ကြားပြီး ဩဇာ သက်ရောက်တဲ့လူတွေထက် သူက ပိုပြီး ထိရောက်အောင် လုပ်နိုင်ခဲ့ပါတယ်။

22, March, 2001.

# (၅၂) ဥမာအိဗ်အယ်-ခတ္တဗ် (၅၈၆ - ၆၄၄)

## UMAR IBN AL-KHATTAB (586 - 644)

မူဆလင် (Muslim) ကလစ် (Caliph - မိုဟာမက် Muhammad ကို ဆက်ခံတဲ့ခေါင်းဆောင်) တွေထဲမှာ သူက ဒုတိယနဲ့ တန်ခိုးသြဇာအကြီးဆုံး ပုဂ္ဂိုလ် ဖြစ်ပါတယ်။ မိုဟာမက်နဲ့ ခေတ်ပြိုင်၊ သူက အသက်ငယ်တယ်။ တမန်တော် (Prophet) လို သူ့ကိုလည်း မက္ကာ (Mecca) မှာ မွေးတယ်။ မွေးနှစ်ကို မသိ၊ ၅၈၆ ဖြစ်လောက်မယ်။ အစက ဥမာ(Umar)ဟာ မိုဟာမက်ရဲ့ သူ့ယုံကြည်မှုသစ်ကို အပြင်းအထန် ဝေဖန်တိုက်ခိုက်သူဖြစ်ရာက ရုတ်တရက် ဆိုသလို ဥမာဟာ အစ္စလာမ် (Islam) ကို ပြောင်းပြီး၊ အဲဒီအချိန်ကစပြီး ဒီယုံကြည်မှုကို အကြီးအကျယ် ထောက်ခံ အားပေးသူ ဖြစ်လာပါတယ်။ (ခရစ်ယာန် သာသနာမှာ စိန့်ပေါလ် ကူးပြောင်း သက်ဝင်လာတာနဲ့ တော်တော့ကိုတူတယ်။) ဥမာဟာ တမန်တော် မိုဟာမက်ရဲ့ အရင်းနှီးဆုံး အကြံပေး ပုဂ္ဂိုလ်ဖြစ်ပြီး မိုဟာမက် အပေါ်မှာ တစ်သက်လုံး သစ္စာရှိရှိ နေထိုင်ခဲ့ပါတယ်။

မိုဟာမက်က သူ့ကို ဘယ်သူ ဆက်ခံရမယ်လို့ မပြောဘဲ ၆၃၂ မှာ သေဆုံးသွားပါတယ်။ ချက်ချင်းပဲ ဥမာက တမန်တော်ရဲ့အနီးကပ် မိတ်ဆွေလည်းဖြစ်၊ ယောက္ခမလည်း ဖြစ်တဲ့ အဘူဗက်ခ် (Abu Bakr) ကို ဆက်ခံဖို့ ထောက်ခံလိုက်တဲ့အတွက် ရာထူးလုပွဲ မပေါ်တော့ဘဲ အဘူဗက်ခ်ကို တစ်ညီတစ်ညွတ်တည်း မိုဟာမက်ကို 'ဆက်ခံသူ' ပထမကလစ် (Caliph) အဖြစ် ရွေးချယ်လိုက်ကြတယ်။ အဘူဗက်ခ်က လူတော် ခေါင်းဆောင်ကောင်း တစ်ယောက် ဖြစ်ပါတယ်။ ဒါပေမယ့် ကလစ် အဖြစ် နှစ်နှစ်ပဲ အုပ်ချုပ်ပြီး သေဆုံး သွားပါတယ်။ သူကလည်း ဆက်လက်ပြီး တမန်တော်ရဲ့ ယောက္ခမ တစ်ယောက်ဖြစ်တဲ့ ဥမာကို သူ့ကို ဆက်ခံစေလို့ ခန့်ထား လိုက်တော့ ရာထူးလုပွဲ အာဏာပြိုင်ပွဲ မဖြစ်ရဘဲ အေးအေး သာသာ ဆက်လက် အုပ်စိုးခွင့် ရပါတယ်။ ဥမာဟာ ၆၃၄ မှာ ကလစ် ဖြစ်ပြီး ၆၄၄ မေဒီနာ (Medina) မှာ ပါရှ (Persian) ကျွန်တစ်ယောက်က လုပ်ကြံလို့ သေတဲ့အထိ အာဏာကို ထိန်းနိုင်ခဲ့ပါတယ်။ သေအံ့မူးမူးမှာ ဥမာက ခြောက်ဦး ကော်မတီဖွဲ့ပြီး သူ့ကိုဆက်ခံသူကို ရွေးပါလို့ မှာကြားခဲ့တဲ့ အတွက် အာဏာလုပွဲ လွှန်မြောက် ခဲ့ရပြန်တယ်။ ကော်မတီက အော့သ်မင် (Othman)ကို တတိယကလစ် (Caliph) ရွေးလို့ ၆၄၄ မှ ၆၅၆ ထိ အုပ်ချုပ်သွားပါတယ်။

ဥမာ (Umar) ရဲ့ ကလစ် (Caliph) ဆယ်နှစ်အတွင်း အာရပ် (Arabs) တွေရဲ့ အရေးအပါဆုံး နယ်မြေ တိုက်ခိုက် သိမ်းယူပွဲတွေကို ဆောင်ရွက်နိုင်ခဲ့ပါတယ်။ ဥမာ (Umar) စိုးစံ စက အာရပ်တပ်သားတွေက ဆီးရီးယား (Syria) နဲ့ ပါလက်စတိုင်း (Palestine) ဆိုတဲ့ ဟိုအခါက ရှိခဲ့ဖူးတဲ့ ဘိုင်ဇံတိုင်း အင်ပါယာ (Byzantine Empire) အပါအဝင် နိုင်ငံတွေကို ဝင်ရောက် တိုက်ခိုက်တယ်။ ယာရ်မုတ် (Yormuk, 636) စစ်ပွဲမှာ အာရပ်တွေက ဘိုင်ဇံတိုင်း တပ်တွေကို နာလန် မထူနိုင်အောင် ချေမှုန်းနိုင်ခဲ့တယ်။ အဲဒီနှစ်မှာပဲ ဒမတ်စကပ် (Damascus) ကို သိမ်းယူတယ်။ ဂျေရုဆလမ် (Jerusalem)က နောက် နှစ်နှစ်ကြာတော့ လက်နက်ချ အညံ့ခံတယ်။ အာရပ်တွေဟာ ၆၄၁ ရောက်တဲ့ အခါ ပါလက်စတိုင်း (Palestine)နဲ့ ဆီးရီးယား (Syria) အားလုံးကို သိမ်းယူပြီးတဲ့အပြင် ကနေ့ တူရကီ (Turkey) ဆိုတဲ့ တိုင်းပြည်ထဲကိုပါ ချင်းနင်း ဝင်ရောက်နေပါပြီ။ အာရပ်တပ်တွေဟာ ၆၃၉ မှာ အီဂျစ် (Egypt) ကို ဝင်ရောက် ပါတယ်။ အီဂျစ်ကလည်း အဲဒီတုန်းက ဘိုင်ဇံတိုင်း လက်အောက်မှာပါ။ သုံးနှစ်အတွင်း အာရပ်တွေက အီဂျစ် တစ်နိုင်ငံလုံးကို သိမ်းယူနိုင်ခဲ့ပါတယ်။ အီရတ် (Iraq) နိုင်ငံက ဟိုတုန်းက ပါရှတွေရဲ့ စက်စနစ် လက်နက်နိုင်ငံ (Sassanid Empire) အပါအဝင် ဖြစ်ပါတယ်။ ဥမာ (Umar) ရာထူး လက်မခံရခင်ကပဲ အဲဒီနိုင်ငံကို ဝင်တိုက်နေပါပြီ။ အာရပ် အောင်ပွဲရဲ့ အရင်းအမြစ်က ကွာဒိစိယ (Qadisiya, 637) ကစပါတယ်။ ဥမာ လက်ထက်ပေါ့။ အီရတ် တစ်နိုင်ငံလုံး ၆၄၁ မှာ အာရပ် လက်အောက်ကို ကျဆင်းပါတယ်။ ဒါမျှမကပါ။ အာရပ်တပ်တွေက ပါရှ (Persia) နိုင်ငံကြီးကိုပါ ဝင်ရောက် တိုက်ခိုက်ပြီး နေဟာဗဲန် (Nehamend, 642) မှာ နောက်ဆုံး စက်စနစ် ဧကရာဇ်ရဲ့ တပ်တွေကို ပိုင်ပိုင်ကြီး အောင်နိုင်ခဲ့ပါတယ်။ ဥမာ ကွယ်လွန်တဲ့ ၆၄၄ မှာ အီရန် (Iran) ကို ကုန်သလောက် သိမ်းယူပြီး နေပါပြီ။ ဥမာသေလို့ အာရပ်တပ်တွေဟာ အရှိန်အဟုန် လျော့သွားမယ် မထင်ပါနဲ့။ အရှေ့ဘက်မှာ သူတို့တွေဟာ ပါရှ ကုန်အောင် သိမ်းယူတဲ့အပြင်၊ အနောက်မှာလည်း မြောက်အာဖရိကတိုက် (North Africa) ထဲ တိုးဝင်နေပါပြီ။ ဥမာရဲ့ အောင်နိုင်ရေးဟာ (ခေတ္တခဏ မဟုတ်) ရေရှည် စွဲမြဲတာကို တွေ့မယ်။ အီရန်က လူအားလုံး အစ္စလာမ် အယူရှိပေမယ့် အာရပ် စိုးမိုးရေးလက်အောက်က လွတ်မြောက်တာ မှတစ်ပါး ဆီးရီးယား၊ အီရတ်နဲ့ အီဂျစ်တို့က လွတ်အောင် ရုန်းမထွက်နိုင်ခဲ့ပါ။ အဲဒီနိုင်ငံတွေဆိုရင် လုံးလုံးလျားလျား အာရပ် ဆန်ပြီး၊ ကနေ့အထိ အာရပ်ရဲ့ဩဇာကို ထိန်းမြဲပဲ ဖြစ်ပါတယ်။ ဥမာက သူတိုက်ခိုက် သိမ်းသွင်းတဲ့ လက်နက် နိုင်ငံကြီးကို ဘယ်လို စီမံအုပ်ချုပ် ရမယ်ဆိုတာ စနစ် တီထွင် ရပါတယ်။ သူတို့ တိုက်ယူထားတဲ့ နေရာတွေမှာ အာရပ်က အခွင့်ထူးခံ အထက်တန်းစား ဖြစ်ရမယ်။ နေတော့ တပ်မြို့ (garrison cities) တွေမှာ နေမယ်။ တိုင်းရင်းသားနဲ့ သီးခြားနေရမယ်။ လက်အောက်ခံတွေက (အာရပ် အများပါဝင်တဲ့) စစ်အောင်နိုင်သူ တွေကို အခွန်ဆက်ရတယ်။ အဲဒါကလွဲလို့ ကိုယ့်ဘာသာ အေးအေးနေခွင့်ပေးထားပါတယ်။ အတိအကျ ပြောနိုင်တာက အစ္စလာမ်ကို ကူးပြောင်း သက်ဝင်ယုံကြည်ရမယ်လို့ အတင်းအကျပ် မခိုင်းပါ။ (ဒီစကားအရ အာရပ် အောင်နိုင်ရေးဟာ အမျိုးသားစစ် ဖြစ်တယ်။ မွန်မြတ်တဲ့စစ် (Holy War) မဟုတ်ပါ။ ဒါပေမယ့် ယုံကြည်မှုဘက်ကိုတော့ ယိမ်းတဲ့အချက်တွေ

ရှိပါတယ်။)

ဥမာရဲ့ စွမ်းဆောင်ချက်တွေဟာ တကယ့်ကို အံ့ဩလောက်ပါတယ်။ မိုဟာမက် ကလွဲရင် သူဟာ အစ္စလာမ် ပျံ့နှံ့ဖို့ ဆောင်ရွက်တဲ့ ထိပ်တန်း ခေါင်းဆောင် ဖြစ်တယ်။ သူ့အစီအမံနဲ့ မြန်မြန် အောင်ပွဲတွေသာ မရရှိခဲ့ရင် အစ္စလာမ်ဟာ အခုလောက် ပျံ့နှံ့နိုင်စရာ အကြောင်း မရှိပါ။ အဲဒါအပြင် သူနိုင်ခဲ့တဲ့ နေရာတွေမှာ ကနေ့အထိ အာရပ်အစွဲဟာ ကြီးမားတယ်။ (အာရပ် Arab တွေ ဖြစ်ကုန်တယ်။) ထင်ရှားတာက မိုဟာမက်ဟာ ထိပ်တန်း ဆော်ဩသူဖြစ်တဲ့အတွက် ချီးမွမ်းစရာရှိရင် သူ့ကိုပဲ ချီးမွမ်းရမယ်လို့ ဆိုရပေမယ့် ဥမာ ဝင်ရောက် ဖြည့်စွက်ချက်ကို ဖယ်ပစ်ရင် မှားမယ်။ မိုဟာမက် လှုံ့ဆော်ချက်ရဲ့ အလိုအလျောက် ပေါ်လာတဲ့ ရလာဒ်တွေ မဟုတ်ပါ။ တချို့နယ်ချဲ့ထွင်တာဟာ အလိုအလျောက် ဖြစ်နိုင်ဖွယ် ရှိပါတယ်။ ဒါပေမယ့် အများစုက ဥမာရဲ့ ပြောင်မြောက်အောင် ကောင်းတဲ့ ခေါင်းဆောင်မှုကြောင့် ဖြစ်ပါတယ်။ ဥမာ (Umar) လို ပုဂ္ဂိုလ်ကို အနောက်နိုင်ငံ တွေမှာ မသိ၊ ဒါပေမယ့် သူ့ဂုဏ်အဆင့်ဟာ ကျော်ကြား လှတဲ့ သျှားလမိန် (Charlemagne) နဲ့ ဂျူးလီးယက်ဆီဇာ (Julius Caesar) တို့ထက် မြင့်တယ်ဆိုရင် အံ့ဩကြမယ်။ တကယ်က ဥမာ လက်အောက်က အာရပ်တွေ တိုက်လို့ နိုင်တဲ့နိုင်ငံတွေ၊ အဲဒီနယ်မြေတွေ အပေါ်မှာ ချုပ်ကိုင် အုပ်စိုးထားနိုင်တဲ့ အချိန် ကာလတွေကို ကြည့်ရင် ဆီဇာ ထက်ဖြစ်ဖြစ်၊ သျှာလမိန်ထက် ဖြစ်ဖြစ် ပိုပြီး အရာ ရောက်တယ်လို့ သိမယ်။

22, March, 2001.

# (၅၃) အသောက (၃၀၀ ဘီစီခန့် – ၂၃၂ ဘီစီ)

# ASOKA(C. 300 B.C. – C. 232 B.C.)

အသောက (Asoka) ဟာ အိန္ဒိယသမိုင်းမှာ အရေးအပါဆုံး မင်းတစ်ပါးဖြစ်တယ်။ မောရိယ မင်းဆက် (Mauryan dynasty) ရဲ့ တတိယမင်း၊ မင်းဆက်ထူထောင်တဲ့ စစ်ခေါင်းဆောင် ဆန္ဒြဂုပ္တမောရိယ (Chandragupta Maurya) ရဲ့ မြေး၊ မင်းဆက်အနေနဲ့ တတိယ မင်းဆက် ဖြစ်တယ်။ မဟာအလက်ဇန္ဒား (Alexander The Great) က အိန္ဒိယမြောက်ပိုင်းကို ကျူးကျော်တိုက်ခိုက်ပြီးနောက် အိန္ဒိယသမိုင်းမှာ ကြီးကျယ်တဲ့ လက်နက်နိုင်ငံကြီးကို ပထမဆုံးအကြိမ် တည်ဆောက်နိုင်သူ ဖြစ်ပါတယ်။

အသောက မွေးတဲ့နှစ်ကို မသိပါ။ ခရစ်မပေါ်မီ ၃၀၀ လောက်က ဖြစ်မယ်။ ခရစ်မပေါ်မီ ၂၇၃ မှာ မင်းဖြစ်တယ်။ အဘိုးခြေရာ နင်းပြီး စစ်အင်အားနဲ့ နယ်ချဲ့ပါတယ်။ နန်းသက် ရှစ်နှစ်ရှိတော့ အိန္ဒိယ အရှေ့ဘက် (အခု သြရိစ Aurissa ခေါ်တဲ့) ကလိင်္ဂ (Kalinga) ကို တိုက်ခိုက် အောင်မြင်ပြီးတဲ့အခါ၊ ဒီလို အောင်ပွဲရဖို့ လူအများ သေပေးရပါကလားလို့ အသောက ထိတ်လန့်မိတယ်။ လူတစ်သိန်း သေတယ်။ ဒါထက်များတဲ့လူဦးရေက ဒဏ်ရာရတယ်၊ တုန်လှုပ်တယ်။ တရား သံဝေဂရတယ်။ အိန္ဒိယမှာ ဆက်ပြီး အသောက နယ်မချဲ့ချင်၊ ချုပ်ချယ်တဲ့စစ်မက်ကို ဆက်မလုပ်တော့လို့ ကြေညာပြီး ဗုဒ္ဓအယူကို ယူတယ်။ ဗုဒ္ဓဒဿနမှာ စိတ်ဝင်စားပြီး ဓမ(ဓမ္မ) ရဲ့ အနှစ်သာရကို အရယူဖို့ ကြိုးစားတယ်။ အမှန်တရားကို မျက်မှောက်ပြုပြီး ကြင်နာစိတ်နဲ့ အကြမ်းမဖက်တဲ့ဘက်ကို လိုက်ခဲ့ပါတယ်။ ပုဂ္ဂိုလ်ရေးကို ပြောရရင် အသောက အမဲလိုက်တာကို စွန့်ပြီး သက်သတ် လွတ်စားတယ်။ အရာရောက်တဲ့ ဆောင်ရွက်ချက်တွေက နိုင်ငံရေးမှာ ပျော့ပျောင်းတဲ့ဝါဒ အမျိုးမျိုးကို ကျင့်သုံးတယ်။ ဆေးပေးခန်းတွေ ဆောက် တယ်။ တိရစ္ဆာန်တွေ ဘေးမဲ့ပေးတဲ့ ဥယျာဉ်တွေကို နေရာအနှံ့ သတ်မှတ်ပေးတယ်။ ပြင်းထန်တဲ့ ဥပဒေတွေကို ဖျက်သိမ်းတယ်။ လမ်းဖောက်တယ်။ ဆည်မြောင်း ဖောက်လုပ်ရေးကို အားပေးတယ်။ အစိုးရ အမှုထမ်းတချို့ရဲ့ တာဝန်က ယုံကြည်မှု ဓမ(ဓမ္မ) ဝန်ထမ်းတွေ ဖြစ်တယ်။ ဘုရားကို ကြည်ညိုအောင်၊ ဘုရား တရားတော်အရ လူလူချင်းချစ်ကြည်မှုကို လိုက်နာဆောင်ရွက်တတ်အောင် လမ်းညွှန် ကြရပါတယ်။ နိုင်ငံတော်အတွင်းမှာ တခြား အယူဝါဒတွေကိုလည်း သည်းခံ ခွင့်ပြုထားတယ်။

ဒါပေမယ့် ဗုဒ္ဓဝါဒကိုတော့ အထူး စောင့်ရှောက် ပါတယ်။ ဗုဒ္ဓတရားတော်ကို ယုံကြည်သူ အများကြီး တိုးပွားလာပါတယ်။ ဗုဒ္ဓသာသနာပြုတွေကို တိုင်းတစ်ပါးကို စေလွှတ်တယ်။ အထူးသဖြင့် သီဟိုဠ် (သီရိလင်္ကာ) မှာ အောင်မြင်ပါတယ်။

အသောကမင်းကြီးက သူ့ကျယ်ပြန့်လှတဲ့ ပိုင်နက် အတွင်းမှာ သူ့ဘဝ၊ သူ့ဝါဒကို ဖော်ပြကြဖို့ ကျောက်တိုး ကျောက်တိုင်တွေမှာ စာရေးထိုးစေတယ်။ ဒီ အထိမ်းအမှတ် တွေထဲက ကနေ့အထိ မပျက်မစီး ကျန်သေးတာတွေ ရှိပါတယ်။ ဒီကျောက်တိုင်အမှတ်အသားတွေ တွေ့ရှိတဲ့ နယ်ပယ် ပထဝီဝင်ကို ကြည့်ရုံနဲ့ အသောက ပိုင်နက် ကြီးမားပုံကို သိနိုင်တယ်။ ကျောက်စာတွေကတော့ သူ့ဆောင်ရွက်ချက်ကို ဖော်ပြတဲ့ အရေးအပါဆုံး မှတ်တမ်းတွေ ဖြစ်လာပါတယ်။ ကံအားလျော်စွာ ဒီမှတ်တိုင်ကြီးတွေဟာ အနုပညာမြောက်တဲ့ လက်ရာတွေ ဖြစ်လာပါတယ်။

အသောက နတ်ရွာစံပြီး အနှစ်ငါးဆယ်အတွင်းမှာ မောရိယ လက်နက်နိုင်ငံကြီး (Mauryan Empire) ပြိုကွဲသွားပြီး၊ နောက်တစ်ဖန် ပြန်ပြီးမထူထောင်နိုင်တော့ပါ။ ဒါပေမယ့် ဗုဒ္ဓဝါဒကို ထောက်ပံ့ခြင်းကစပြီး အသောကရဲ့ ကမ္ဘာကို အကျိုးပြုတဲ့အရှိန်ဩဇာဟာ အင်မတန် ကြီးမားပါတယ်။ သူ နန်းရစက ဗုဒ္ဓဝါဒကို ယုံကြည်သူမများ၊ အိန္ဒိယ အနောက်မြောက်မှာ ဒေသငယ်ငယ် ကွက်ကွက် ကလေးပဲ ရှိနေတယ်။ အသောက (Asoka) နတ်ရွာစံပြီး တဲ့အခါ အိန္ဒိယမှာ ဗုဒ္ဓသာသနာဝင်တွေ ပွားများလာတယ်။

အနီးအစပ် နိုင်ငံတွေကို ပြန့်ပွားသွားတယ်။ ဗုဒ္ဓဂေါတမ ကိုယ်တော်မြတ် ကလွဲရင် အသောကပဲ ဗုဒ္ဓဝါဒကို ကမ္ဘာ့သာသနာကြီး တစ်ခုအဖြစ် ကြီးကျယ်အောင် တာဝန်ယူ ခဲ့တယ်လို့ ဆိုရပါမယ်။

22, March, 2001.

# (၅၄) စိန့်ဩဂတ်စတင်း (၃၅၄ - ၄၃၀)

# ST. AUGUSTINE (354 – 430)

ရောမအင်ပိုင်ယာကြီး (Roman Empire) ပြိုပျက်ချိန်မှာ သူ့ခေတ် သူ့အခါက အကြီးကျယ်ဆုံး ထာဝရ ဘုရား ယုံကြည်မှုဆိုင်ရာ ပညာရှင်မှာ ဩဂတ်စတင်း (Augustine) ဖြစ်ပါတယ်။ သူ့ရေးသားချက်တွေဟာ အလယ်ခေတ် ခရစ်ယာန်ဝါဒနဲ့ သဘောထားကို အများကြီး လွှမ်းမိုးခဲ့တယ်။ ကနေ့ထိလည်း လွှမ်းမိုး တုန်းပါပဲ။

ဩဂတ်စတင်းကို ၃၅၄ မှာ (အယ်ဂျီးရီးယား Algeria၊ နိုင်ငံ အခု ဆောက်အာရည် Souk Ahris ခေါ်တဲ့) တဂစတေ (Tagaste) မှာ မွေးပါတယ်။ (အဲဒီဇာတိရပ်ရွာဟာ အခု အင်နဗာ Annaba ခေါ်တဲ့) ဟစ်ပို (Hippo) ဆိပ်ကမ်းမြို့ ကြီးနဲ့ ၄၅ မိုင်ကွာတယ်။ သူ့ဖခင်က မိစ္ဆာဒိဋ္ဌိ၊ မိခင်က ခရစ်ဝါဒ ကို ထက်ထက်သန်သန် ကြည်ညို ဆည်းကပ်သူ ဖြစ်ပါတယ်။ သူ့ကို ငယ်စဉ်က နှစ်ခြင်း မင်္ဂလာ မပြုခဲ့ရပါ။ အရွယ်ရောက်တဲ့အခါ သူ့ဉာဏ်ပညာ ထက်မြက်ပုံမှာ အံ့ဩစရာ ဖြစ်ပါတယ်။ ပညာသင်ဖို့ အသက် တစ်ဆယ့်ခြောက်နှစ်မှာ သူ့ကို ကာသေ့ (Carthage) ကို လွှတ်တယ်။ တိတ်တဆိတ် အမျိုးသမီး တစ်ဦးနဲ့ ငြိစွန်းလို့ တရားဝင် မဟုတ်တဲ့ သားတစ်ယောက် ရတယ်။ အသက် တစ်ဆယ့်ကိုးနှစ်မှာ ဒဿနိက (Philosophy) ကို လေ့လာမယ် လို့ ဆုံးဖြတ်တယ်။ မကြာခင် ခရစ်နှစ် ၂၄၀ လောက်က ပေါ်တဲ့ တမန်တော်မနီ (Mani) ရဲ့ မနိကျအစ်ဇမ် (Manichacism) ကို လက်ခံခဲ့တယ်။ ငယ်ရွယ်သူ ဩဂတ်စတင်း အတွက် ရိုးစင်းလွန်းတယ်။ မနိကျအစ်ဇမ်ကို တွေ့မှ သူ့ဉာဏ်စေစားလို့ရတယ်လို့ ထင်တယ်။

ဒါပေမယ့် ရှေ့ကိုးနှစ်အတွင်းမှာ သူဟာ တဖြည်းဖြည်း မနိကျအစ်ဇမ်ကို စိတ်ပျက်လာတယ်။

ဩဂတ်စတင်း အသက် နှစ်ဆယ့်ကိုးနှစ်ရှိတော့ ရောမကို ရောက်လာတယ်။ နောက်နည်းနည်းကြာတော့ မြောက်အီတလီ က မီလန် (Milan) ကို ရောက်သွား ပြန်တယ်။ အဲဒီမှာ သူက နှုတ်မှုပညာပါမောက္ခ (Professor of Rhetoric) ဖြစ်လာတယ်။ အဲဒီကမှ တတိယ ရာစုနှစ်က ပလိုတိနပ် (Plotinus) စတင် ပြောဟောတဲ့ ပလေတို (Plato)ရဲ့ ဒဿနိက အမြင်သစ်ဖြစ်တဲ့ နီယိုပလေတိုနစ်ဇမ် (Neoplatonism) နဲ့ အကျွမ်းတဝင် ဖြစ်လာတယ်။

မီလန်ဂိုဏ်းအုပ်ဘုန်းကြီးက စိန့်အမ်ဗရို့စ် (St. Ambrose) ဖြစ်တယ်။ ဩဂတ်စတင်းဟာ အဲဒီဆရာတော်ရဲ့ တရားတွေကို နာရတဲ့အခါ ခရစ်အယူဝါဒရဲ့ ပိုပြီးနက်နဲတဲ့ အခြင်းအရာတွေကို စတင် သိရှိလာပါတယ်။

အသက် သုံးဆယ့်နှစ်နှစ် ရှိပြီဖြစ်တဲ့ ဩဂတ်စတင်းဟာ ခရစ်ယာန်ဖြစ်လာတဲ့အခါ၊ တစ်ခါက မယုံမကြည် ရှိတဲ့လူဟာ ခုတော့ ခရစ်ယာန်ဝါဒကို အလေးအနက် နှစ်သက်လိုက်နာသူ ဖြစ်ခဲ့တယ်။ ဩဂတ်စတင်းကို ၃၈၇ မှာ ဆရာတော် အမ်ဗရို့စ်က နှစ်ခြင်း မင်္ဂလာပြုပေးတယ်။ အဲဒီနောက် ဇာတိမွေးရပ် တဂစတေ ကို ပြန်သွားပါတယ်။

ဩဂတ်စတင်းဟာ ၃၉၁ မှာ ဟစ်ပိုဂိုဏ်းအုပ်ရဲ့ လက်ထောက် ဖြစ်လာတယ်။ ငါးနှစ်ကြာလို့ ဂိုဏ်းချုပ် ကွယ်လွန်တဲ့အခါ အသက်လေးဆယ့်နှစ်နှစ် ရှိပြီးဖြစ်တဲ့ ဩဂတ်စတင်းကို ဟစ်ပို ဂိုဏ်းချုပ်သစ် ခန့်လိုက်ပါတယ်။ သူသေဆုံးတဲ့အထိ ဒီအလုပ်မှာပဲ မြဲစွဲ လုပ်ဆောင်သွားပါတယ်။ ဟစ်ပိုဟာ ထင်ရှားတဲ့မြို့ကြီး တစ်မြို့ မဟုတ်ပေမယ့် ဩဂတ်စတင်းရဲ့ တောက်ပြောင်တဲ့ အစွမ်းနဲ့ မကြာမီ သူဟာ ကျောင်းတော်မှာ အရေးထား အခံရဆုံး ခေါင်းဆောင် ဖြစ်လာပါတယ်။ သူ့ကျန်းမာရေး ညံ့လို့ လက်ရေးတို စာရေးထားပြီး သူက တရားစာတွေ အမြောက်အမြား ရေးတယ်။ တရားစာ ၅၀၀ လောက် ကနေ့အထိ ကျန်ရစ်ပါသေးတယ်။ သူရေးတဲ့ စာပေး စာယူတွေလည်း ၂၀၀ ထက်ပိုမယ်။ သူ့စာအုပ် နှစ်အုပ်ဟာ သိပ်လူကြိုက်များပြီး ကျော်ကြားတယ်။

သူ့ပြောစကားကို နှစ်သက်စွဲလမ်းလိုက်နာကြတယ်။ တစ်အုပ် အမည်က ဘုရားသခင်မြို့တော် (The City Of God) ဖြစ်ပြီး၊ နောက်တစ်အုပ်က ကိုယ်တိုင်ဖြောင့် ဆိုဝန်ခံချက် (Confessions) ဖြစ်တယ်။ အဲဒီဒုတိယ ကျမ်းဟာ သိပ်နာမည်ကြီးတဲ့ ကိုယ်တိုင်ရေးအတ္ထုပ္ပတ္တိ ဖြစ်တယ်။ ကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိတွေထဲမှာ အကောင်းဆုံး လို့ ပြောရမယ်။ ဒီကျမ်းကိုရေးတော့ သူ့အသက်ဟာ လေးဆယ်ကျော်ပါပြီ။

ဩဂတ်စတင်းရဲ့စာတွေ၊ တရားစာတွေဟာ မနိကျအိယန် (Manichaeans) တွေ (ခရစ်ယာန်ဂိုဏ်းကွဲ) ဒိုနတစ် (Donatists) တွေနဲ့ အဲဒီခေတ်က ခရစ်ယာန် အမည်ခံပြီး အယူလွဲတဲ့ ပေလဂျိယန် (Pelagians) တွေရဲ့ ယုံကြည်ချက်ကို ချေဖျက်တဲ့ အကြောင်းအရာတွေ ဖြစ်ပါတယ်။ ပေလဂျိယန်တွေနဲ့ သူ့ငြင်းခုံချက်ဟာ ဩဂတ်စတင်းရဲ့ ကိုးကွယ်ယုံကြည်မှု ဝါဒရေးရာမှာ အရေးပါတဲ့ အခန်းက ပါဝင်ပါတယ်။

ပေလဂျိယာ့စ်ဆိုသူက အင်္ဂလိပ်ဘုန်းကြီး။ ရောမကို ခရစ်နှစ် ၄၀၀ ဝန်းကျင်က ရောက်လာပြီး ထာဝရဘုရား ယုံကြည်မှုဆိုင်ရာ စိတ်ဝင်စားဖွယ်ဝါဒများကို ဖော်ထုတ်နိုင်တဲ့ ပုဂ္ဂိုလ် ဖြစ်တယ်။ ပေလဂျိယာ့စ်က **'တို့တစ်တွေမှာ အခြေခံကပဲ အပြစ်ရှိတယ်ဆိုတာ မဟုတ်ဘူး။ တို့စိတ်ကြိုက် အကောင်းအဆိုး လိုရာလုပ်ခွင့် ရှိတယ်။ မှန်မှန်နေ၊ ကောင်းကောင်း လုပ်ရင် ဘယ်သူမဆို ကယ်တင်ခြင်း (Salvation) ကို ရနိုင်တယ်'** လို့ ပြောဟောသူဖြစ်ပါတယ်။

ပေလဂျီယာ့စ် အယူဝါဒကို မိစ္ဆာအယူလို့ ကြေညာ ခံရတာဟာ စိန့်ဩဂတ်စတင်းရဲ့ စာ အရေးအသား တွေကြောင့် တစ်ကြောင်း ဖြစ်ပါတယ်။ ပေလဂျီယာ့စ် ကိုတော့ အဲဒီအခါမှာ ရောမက ပြည်နှင်ဒဏ် ပေးပြီးသား ဖြစ်ပါတယ်။ အခုသူ့ကို အပေါင်းအသင်း မလုပ်ရလို့ ကြဉ်လိုက်ပါတယ်။

ဩဂတ်စတင်းအယူကို ပြောရရင် လူတိုင်းမှာ အာဒမ်ရဲ့ အပြစ်က ငြိစွန်းနေပြီးဖြစ်တယ်။ လူမှန်သမျှ ကိုယ့်ဘာသာ ကိုယ် ကယ်တင်လွတ်မြောက်အောင် မလုပ်နိုင်၊ ဘုရားသခင်ရဲ့ သနားကြင်နာမှုနဲ့ ယုယ ကယ်တင်မှသာ လွတ်မြောက်မှုရတယ်လို့ ဆိုလိုတယ်။ ဒီလိုသဘောထားမျိုးကို ရှေးယခင်ကလည်း ပြောခဲ့၊ ဟောခဲ့ကြပါတယ်။ ဩဂတ်စတင်းက ဒါကို အများကြီး ချဲ့ထွင်ပြီး ပြောဟောပါတယ်။ သူ့စာတွေက ကျောင်းတော် (Church) ရဲ့ အခြေအနေကို ခိုင်မြဲအောင် လုပ်ပေးတယ်။ အယူအဆတွေလည်း တစ်သမတ်တည်း ပြဋ္ဌာန်းပြီး ဖြစ်ပါတယ်။ ဩဂတ်စတင်း က ဘုရားသခင်ဟာ ဘယ်သူ့ကို ကယ်တင်တယ်၊ ဘယ်သူ့ကို မကယ်ဖို့ ဆုံးဖြတ်ပြီး ဖြစ်ပါတယ်။ ဒါကြောင့် လူသား တချို့ဟာ ကယ်တင်ခံရဖို့ သေချာပြီး ဖြစ်ပါတယ်။ ဒီလို ကြိုတင် စာရင်းဝင် နေတယ်ဆိုတဲ့ဝါဒကို နောက်ပိုင်း ထာဝရဘုရား ဝါဒီတွေဖြစ်တဲ့ စိန့်သောမတ်အကွိုင်နပ်စ် (St. Thomas Aquinas) နဲ့ ဂျွန်ကာလဗင် (John Calvin) တို့က သိပ်ကျေနပ်ကြပါတယ်။ စိန့်ဩဂတ်စတင်း ရဲ့ ကြိုတင်စာရင်းဝင်တယ်ဆိုတဲ့ ဝါဒ (doctrine of predestination) ထက်ပိုပြီး အရေးပါတဲ့ ဝါဒက သူ့ရဲ့လိင် (sex) အပေါ်မှာထားတဲ့ သဘောထားဖြစ်ပါတယ်။ ခရစ်ယာန်အဖြစ် ကူးပြောင်းလာကတည်းက ဩဂတ်စတင်းက လိင် (sex) ကိစ္စ နှီးနှောခြင်း လုံးဝမလုပ်တော့ပါ။ (သူရေးတဲ့စာတစ်စောင်မှာ `လိင်ဆက်ဆံရေး (sex relation) ထက် ရှောင်စရာ ဘာတစ်ခုမျှမရှိ’ လို့ ရေးဖူးတယ်)။ ဒါပေမယ့် တကယ်လက်တွေ့လုပ်ဖို့ သိပ်ခက်ခဲတယ်လို့ သူရေးတဲ့ ကိုယ်တိုင်ဝန်ခံချက် (Confessions) မှာ အကျယ်တဝင့် ရေးထား ပါတယ်။ သူက အဲဒီအခါ သိပ်နာမည်ကြီး နေပြီဖြစ်လို့ လိင်အပေါ် အများသဘောထားအပေါ်မှာ သူ့အယူက လွှမ်းမိုး သွားပါတယ်။ ဩဂတ်စတင်း ရေးတဲ့အထဲမှာ မူလအပြစ် (Original sin) နဲ့ ရာဂစိတ် (Sexual desire) ကိုလည်း ပေါင်းစပ် ရေးသား ဖော်ပြထားပါတယ်။

ဩဂတ်စတင်းရဲ့ ဘဝအတွင်းမှာပဲ ရောမအင်ပါယာ (Roman Empire) အလျင်အမြန် ပျက်စီးသွားပါတယ်။

အမှန်က ၄၁၀ ပြည့်နှစ်မှာ ရောမက အလာရစ် (Alaric) ဦးဆောင်တဲ့ ဗီစီဂို့သ် (Visigoths) တွေက ဖျက်ဆီး ပစ်ပါတယ်။ ဒီတော့ ထုံးစံအတိုင်း ကြွင်းကျန်သမျှ ရောမမိစ္ဆာဒိဋ္ဌိ (Roman pagans) တွေဟာ၊ ရောမသားတွေဟာ ခရစ်ယာန် ဝါဒကို နှစ်သက်ပြီး ရှေး အစဉ်အဆက် ကိုးကွယ်တဲ့ ဘုရားတွေကို ပစ်ပယ်လို့ ဒဏ်သင့်တာ ဖြစ်မယ်လို့ ပြောကြပါတယ်။ စိန့်ဩဂတ်စတင်းရဲ့ အကျော်ကြားဆုံး စာအုပ် ဘုရားသခင်မြို့တော် (The City Of God) ထဲမှာ ဒီစွပ်စွဲချက်ကို ပြန်လည်ချေပထားတဲ့ စာတစ်ပိုဒ်ပါတယ်။ ဒါပေမယ့် ဒီကျမ်းဟာ

သမိုင်းရဲ့ဒဿနိကကို အပြည့်အစုံဖော်ပြထားတယ်။ အဲဒီအယူအဆတွေက နောင် ဥရောပတိုးတက်ပြောင်းလဲမှုတွေကို လမ်းကြောင်း ပေးထားသလို သြဇာသက်ရောက်မှု ရှိပါတယ်။ ဩဂတ်စတင်းပြောတဲ့ **'ရောမအင်ပါယာ ဖြစ်ဖြစ်၊ ရောမမြို့တော်ပဲ ဖြစ်ဖြစ်၊ ကောင်းကင်မြို့တော် (Heavenly City) လောက် အဖိုးမတန်ပါ'** ဆိုတာက၊ လောကီရေးဟာ အလကား၊ လောကုတ္တရာရေးမှ တန်ဖိုးမြင့်တယ်လို့ ညွှန်ပြချက် ဖြစ်ပါတယ်။

ဒီလိုပြောတဲ့လမ်းကို ပို့နိုင်တာက ကျောင်းတော် (Church) ဖြစ်တယ်။ ဒါကြောင့် ဆက်ပြီးတင်ပြလိုတာက **'ကေရာဇ်ဆိုရင် မိစ္ဆာဒိဋ္ဌိဖြစ်ဖြစ်၊ ခရစ်ယာန်သာသနာ၀င် ဖြစ်ဖြစ်၊ လူကြမ်းဖြစ်ဖြစ်၊ ရဟန်းမင်း (Pope) နဲ့ ကျောင်းတော် (Church) လောက် အရေးမပါပါ'** လို့ ပြောပါတယ်။ ဩဂတ်စတင်းကိုယ်တိုင် ဒီအယူကို ဖြစ်မြောက်အောင် မလုပ်ပေး ခဲ့ပေမယ့် သူ့စကားကိုလိုက်ပြီး မင်းကေရာဇ် ဟာ ရဟန်းမင်း (Pope) လက်အောက်ဖြစ်စေဖို့ အများက လိုလားခဲ့ကြပါတယ်။

ခေတ်လယ်ရဟန်းမင်း (Medieval Popes) တွေဟာ စိန့်ဩဂတ်စတင်း စကားကို ကိုးကားပြီး အာဏာ ပြိုင်ဆိုင်ကြလို့ ကျောင်းတော်နဲ့ နိုင်ငံ အစိုးရရန်ပွဲဟာ ဥရောပသမိုင်းမှာ ရာစုနှစ်များစွာ ဖြစ်ပွား ခဲ့ရပါတယ်။

ဩဂတ်စတင်းရေးသမျှတွေထဲမှာ ဂရိဒဿန အကြောင်းအချက် တချို့ကို ခေတ်လယ်ဥရောပ အရောက် ပို့ဆောင်ချက်တွေပါရှိတာက ထင်ရှားတဲ့အချက်တစ်ခု ဖြစ်တယ်။ အတိအကျပြောရရင် နီယိုပလေတိုနစ်ဇမ် (Neoplatonism) ဟာ ဩဂတ်စတင်း အရွယ်ရောက်ပြီး ပေါ်လာတဲ့ အတွေးအခေါ်ကို အထူးလွှမ်းမိုး နေတယ်။ ဩဂတ်စတင်းကတဆင့် ခေတ်လယ် ခရစ်ယာန် ဒဿနိကကို လွှမ်းမိုးခဲ့တယ်။

ဩဂတ်စတင်းဟာ တိုက်ရိုက် ၀န်မခံပေမယ့် ဒေးကား (Descartes) ရဲ့ ကျော်ကြားတဲ့စကား **'ငါဆိုတာ ငါ့အထင်မှာပဲရှိတယ်'** ဆိုတဲ့အယူအဆကို သူယူသုံးပါတယ်။

ဩဂတ်စတင်းဟာ ခရစ်ယာန်ထာ၀ရ ဘုရား၀ါဒ ဆရာတွေထဲမှာ အမှောင်ခေတ် (Dark Age) မရောက်မီကပဲ ထင်ရှားခဲ့တဲ့ ပုဂ္ဂိုလ်ဖြစ်တယ်။ ကျောင်းတော်ရဲ့ ၀ါဒရေးရာကို သူက အရင်းကျကျ အခြေခံပုံဖော်ပေးသွားတာကို အလယ်ခေတ် (Middle Ages) တစ်လျှောက်လုံး သုံးစွဲခဲ့ပါတယ်။ သူဟာ လက်တင် ကျောင်းတော် (Latin Church) ရဲ့ ဆရာတော်တွေထဲမှာ အထင်ရှားဆုံး ဖြစ်တယ်။ သူ့စာကို ဘုန်းကြီးတွေအများဆုံး ဖတ်တယ်။ ကယ်တင်ခြင်း၊ လိင်၊ အရင်းခံအပြစ်နဲ့ အခြားအချက်တွေမှာလည်းပဲ၊ သူ့သြဇာဟာ ဆိုင်ရာ ဆိုင်ရာမှာ သက်ရောက်ပါတယ်။

နောက်ပိုင်း ကက်သလစ်ထာ၀ရဘုရား၀ါဒီ (Catholic Theologians) ဖြစ်တဲ့ စိန့်သောမတ်စ် အကွိုင်နပ်စ် အပြင် လူသာ (Luther) နဲ့ ကယ်လဗင် (Calvin)

တို့လို၊ ပရိုတက်စတင့် ခေါင်းဆောင်တွေ အပေါ်မှာလည်း သူ့ဩဇာ အများကြီးစူးရောက်နေတာ တွေ့ပါတယ်။

ဩဂုတ်စတင်းဟာ ဟစ်ပိုမှာပဲ ခရစ်နှစ် ၄၃၀ ပြည့်၊ အသက် ခုနစ်ဆယ့်ခြောက်နှစ်မှာ သေဆုံးတယ်။ လူကြမ်းမျိုး ဖြစ်တဲ့ ဗဲန်ဒယ် (Vandals) တွေက ပျက်စီး ယိုယွင်းနေတဲ့ ရောမအင်ပါယာကို ကျူးကျော် ဝင်ရောက် လာပြီး ဟစ်ပိုကို တပ်နဲ့ဝိုင်း ထားတယ်။ လအတန်ကြာ တော့ မြို့ကိုသိမ်းတယ်။ မီးတိုက်တယ်။ ကံအားလျော်စွာ ဩဂုတ်စတင်းရဲ့ စာကြည့်တိုက်နဲ့ ဘုရားရှိခိုးကျောင်း (Cathedral) မီးလွတ်တယ်။

23, March, 2001.

# (၅၅) ဝီလီယမ် ဟာဗေး (၁၅၇၈ – ၁၆၅၇)

# WILLIAM HARVEY (1578 – 1657)

သွေးလှည့်လည်ခြင်းနဲ့ နှလုံးရဲ့တာဝန်အကြောင်း စတင် တွေ့ရှိတဲ့ အင်္ဂလိပ်သမားတော်ကြီး ဝီလီယမ် ဟာဗေး (William Harvey) ကို အင်္ဂလန် (England) ဖုတ်စတုန်း (Folkestone) မြို့မှာ ၁၅၇၈ မှာ မွေးဖွားတယ်။ ဟာဗေးဟာ တိရိစ္ဆာန်တွေရဲ့နှလုံးနဲ့ သွေးလှုပ်ရှားပုံ ခန္ဓာဗေဒကျမ်း (An Anatomical Treatise On the Movement of the Heart And Blood in Animals) ကို ၁၆၂၈ မှာ ပုံနှိပ် ထုတ်ဝေပါတယ်။ ဇီဝကမ္မ သမိုင်းတစ်လျှောက်လုံးမှာ ဒီကျမ်းဟာ အရေးအပါဆုံး ဆိုတာ ပေါ်လွင်ပါတယ်။ ဇီဝကမ္မခေတ် သိပ္ပံမှာ ဒီကျမ်းက အစ ဖြစ်ပါတယ်။ အဲဒီကျမ်းရဲ့ မူလအကျဆုံး အသုံးဝင်ပုံက တိုက်ရိုက် ယူငင်သုံးစွဲနိုင်တာမျိုး မဟုတ်ပါ။ ဒီကျမ်းထဲမှာ လူ့ခန္ဓာကိုယ် ဘယ်လိုအလုပ်လုပ်နေသလဲ ဆိုတာကို အခြေခံကစပြီး ဖော်ပြထားတယ်။ အဲဒါပဲ အင်မတန် အသုံးဝင်ပါတယ်။

ခုခေတ်ခုခါတော့ ငယ်စဉ်ကစပြီး ခန္ဓာကိုယ်ထဲမှာ သွေးတွေ လည်ပတ်သွားလာနေတယ်ဆိုတာ သိပြီး ဖြစ်နေကြတော့ ဟာဗေးရဲ့ သီအိုရီဟာ ဘာမျှ မဆန်းပါလို့ ထင်ကြမယ်။ ဒါပေမယ့် ခေတ်ဦး ဇီဝဗေဒ ပညာရှင်တွေ အဖို့ ဒါကိုသိမှာ မဟုတ်ပါ။ ဇီဝဗေဒ အကြောင်း ရှေ့ဆောင်ရေးသားသူတွေက...

- (၁) နှလုံးထဲမှာ စားတဲ့အစာက သွေးဖြစ်တယ်။
- (၂) နှလုံးက သွေးကို ပူနွေးစေတယ်။
- (၃) သွေးလွှတ်ကြော (Arteries) တွေထဲမှာ လေရှိတယ်။
- (၄) နှလုံးက ခွန်အားရေ (Vital spirits) လုပ်ပေးတယ်။
- (၅) သွေးပြန်ကြော (veins)၊ သွေးလွှတ်ကြော (Arteries) တွေမှာ သွေးအဆင်းအတက် ရှိတယ်။ နှလုံးဘက်ကို သွားမယ်။ နှလုံးကနေ အဝေးကိုသွားမယ်။

အဲဒါလောက်ပဲ သိကြပါတယ်။

ရှေးက သိပ်နာမည်ကြီး ဂလင် (Glen) ဆိုတဲ့ သမားတော်ဟာ ဝေဒနာကို ခွဲစိတ်ကုသပေးတယ်။ နှလုံးနဲ့ သွေးကြောတွေ အကြောင်းလည်း သေသေချာချာ လေ့လာ တယ်။ ဒါပေမယ့် သွေးလှည့်ပတ်စီးနေတယ် (blood circulates) လို့

လုံးဝ မသိပါ။ ဒီကိစ္စကို ဇီဝဗေဒကို တခြား ပညာရပ်တွေလိုပဲ စိတ်ဝင်စားတဲ့ အရစ္စတိုတယ် (Aristotle) လည်း မသိပါ။ ဟာဗေးရဲ့စာအုပ် ထွက်လာပြီးတဲ့နောက်မှပဲ သမားတော် အတော်များများဟာ လူ့ခန္ဓာကိုယ်ထဲမှာ၊ သွေးဟာ သွေးကြောတွေ သီးသန့် အစီအစဉ်နဲ့ မပြတ် လှည့်ပတ်နေတယ်။ ဒီလိုလှည့်နိုင်အောင် နှလုံးက အားစိုက် (တွန်းထုတ်ဆွဲယူ) ပေးနေတယ်ဆိုတာကို လက်မခံပါ။

ဟာဗေးက သွေးလှည့်ပတ်တယ် ဆိုတဲ့စိတ်ကူးကို ရိုးရိုးဂဏန်း သင်္ချာနည်းနဲ့ပဲ တွက်ယူတာ ဖြစ်ပါတယ်။

သူ့တွက်ခြေအရ နှလုံးတစ်ခါ ခုန်တိုင်း သွေးနှစ်အောင်စ လွှတ်တယ်။ ဒီတော့ နှလုံးဟာ တစ်မိနစ်ကို ၇၂ ကြိမ် ခုန်တယ် ဆိုရင် ရိုးရိုး အမြှောက်နည်းနဲ့တွက်ရင် တစ်နာရီမှာ သွေးပေါင် ၅၄၀ ကို သွေးလွှတ်ကြောမ (Aorta) ထဲကို ရောက်မယ်။ ပေါင် ၅၄၀ ဆိုတာ လူတစ်ကိုယ်လုံးရဲ့အလေးချိန်ထက် များတယ်။ ကိုယ်မှာ ရှိနေတဲ့ သွေးအလေးချိန်ထက်လည်း အဆ အများကြီး ပိုနေတယ်။ ဒီလိုဆိုရင် သွေးဟာ ထွက်လိုက် ဝင်လိုက် လှည့်နေတာဖြစ်ရမယ်လို့ ဟာဗေးရဲ့စိတ်ကူးမှာ ထင်မြင် လာတယ်။ အဲဒီအကြမ်းနည်း (hypothesis) ကိုမှီးပြီး ဟာဗေးဟာ ကိုးနှစ် တိုင်တိုင် စမ်းသပ်ချက်တွေလုပ်ပြီး၊ အသေးစိတ် သိလာအောင် စောင့်ကြည့်ပြီးမှ သွေးလှည့်ပတ်စီးတဲ့ အကြောင်းကို ဆုံးဖြတ်ချက်ချပါတယ်။ သူရေးတဲ့ကျမ်းမှာ ဟာဗေးက သွေးလွှတ်ကြော (Arteries) ဟာ နှလုံးက သွေးထွက်သွားပြီး၊ သွေးပြန်ကြော (veins) တွေက နှလုံးကို သွေးသွင်း ပေးပါတယ်။ အဲဒီတုန်းက အဏုမြူကြည့်မှန်ဘီလူး (microscope) မရှိသေးလို့၊ ဟာဗေးဟာ သွေးကြောက အသေးဆုံး သွေးလွှတ်ကြောထဲကို သွေးပို့တဲ့ ဆံခြည်မျှင် သွေးကြော (capillary) တွေကို သူ ကြည့်လို့ မမြင်နိုင်ပါ။ ဒါပေမယ့် ဒီလိုအကြောလေးတွေကို ရှိရမယ် လို့ သူတွက်ဆပြီးဖြစ်ပါတယ်။ (ဟာဗေး ကွယ်လွန်ပြီး နှစ်အနည်းငယ်ကြာတော့မှ အီတလီလူမျိုး ဇီဝဗေဒ သမား မာလ်ပီဂီ (Malpighi) က ဆံခြည်မျှင် သွေးကြောကို ရှာဖွေတွေ့ရှိ ပြသနိုင်ပါတယ်။) ဟာဗေး အပြောက နှလုံးတာဝန်ဟာ သွေးလွှတ်ကြော (Artery) ထဲကို သွေးမှုတ်သွင်း (pump) ပေးဖို့ ဖြစ်တယ်။ ဒီကိစ္စမှာလည်း တခြား အရေးပါတဲ့ ကိစ္စတွေမှာလိုပဲ၊ ဟာဗေးက အသေအချာမှန်တယ် (essentially correct)၊ ဒါထက်ပိုသေးတယ်။ ဟာဗေးက စမ်းသပ်ချက် (experiments) တွေ အမြောက်အမြား လုပ်ပြီး၊ သူ့သီအိုရီကို ထောက်ခံဖို့အချက်အလက်စုံအောင် တင်ပြနိုင်တယ်။ ပထမတော့ သူ့သီအိုရီကို အပြင်းအထန် ဝေဖန် ကန့်ကွက်တယ်။ ဒါပေမယ့် သူမသေမီမှာပဲ သူပြောသမျှ လက်ခံလာကြတာကို တွေ့ပါတယ်။

ဟာဗေးက သန္ဓေဗေဒ (Embryology) ကိုလည်း လုပ်ပါတယ်။ ဒီသုတေသနလုပ်ငန်းကို သွေးလှည့်ပုံ သုတေသန လောက် အလေးအနက်ထားပြီး မလုပ်ပါ။ ဒါပေမယ့် ပေါ့ပေါ့တန်တန်မဟုတ်ပါ။ အင်မတန် စေ့စပ် သေချာတဲ့ အကဲဖြတ်သမား ဖြစ်လေတော့ သူရေးတဲ့ တိရစ္ဆာန်မျိုးပွား

ပုံကျမ်း (On the Generation Of Animals) ဟာ ၁၆၅၁ မှာ ပုံနှိပ်ပြီး ထွက်လာတော့ ခေတ်သန္ဓေဗေဒ (Modern study Of embryology) စတင်ပေါ်ပေါက်လာရပါတယ်။ သူ လေးစားကြည်ညိုတဲ့ အရစ္စတိုတယ်လို ဟာဗေးက အစ ကတည်းက အပြီးအစီးပါပြီးသား (preformation) ဆိုတာကို မယုံပါ။ သန္ဓေသားမှာ အရွယ်ရောက်ပြီး အကောင်ကြီးရဲ့ ခန္ဓာအစိတ်အပိုင်းတွေ အားလုံး ပါပြီးဖြစ်တယ်။ အကြီးအသေးပဲ ကွာတယ်ဆိုတဲ့ မူကြမ်း (hypothesis) ကို လက်မခံပါ။ ဟာဗေးက သန္ဓေရင့်လာမှ ခြေ၊ လက်၊ နား၊ နှာခေါင်း၊ ပါးစပ်၊ လိင်အင်္ဂါ အစိတ်အပိုင်းတွေ တဖြည်းဖြည်း ပေါ်ပေါက်ပီသလာမယ်လို့ မှန်းဆတာ မှန်တယ်။

ဟာဗေးက အသက်ရှည်တယ်။ သူ့ဘဝမှာ မှတ်လောက် သားလောက်ကိစ္စတွေ အများကြီး ကြုံတွေ့ပြီး အောင်မြင်တဲ့ဘဝဖြစ်ပါတယ်။ အသက်တစ်ဆယ် ကျော်ကျော်ကပဲ ကိမ်းဗရစ်တက္ကသိုလ် (Cambridge University) ရဲ့ ကေရပ်စ်ကောလိပ် (Caius College) မှာ တက်ခဲ့ရတယ်။ ၁၆၀၀ ပြည့်မှာ အီတလီ ပဒူဝါ တက္ကသိုလ် (Padua University) မှာ ဆေးပညာသင်တယ်။ ကမ္ဘာမှာ အဲဒီတုန်းက အဆင့်အမြင့်ဆုံး အကောင်းဆုံး ဆေးကျောင်း ဖြစ်တယ်လို့ ဆိုနိုင်ပါတယ်။ (ဟာဗေး သင်တန်းတက်စဉ်ဂယ်လီလီယို Galileo က ပဒူဝါမှာ ပါမောက္ခအဖြစ်နဲ့ ရှိတယ်။ သူတို့ အချင်းချင်း တွေ့မတွေ့တော့ မသိပါ။) ဟာဗေးက ၁၆၀၂ မှာ ပဒူဝါက ဆေးဘွဲ့ရခဲ့တယ်။ အင်္ဂလန်ကို ပြန်ရောက်တဲ့အခါ သမားတော် (Physician) အဖြစ်နဲ့ အောင်အောင်မြင်မြင် ဆေးဝါးကုသပြီး အသက်ရှည်ရှည် နေသွားရတယ်။ သူ့လူနာတွေထဲမှာ ပထမဂျိမ်း (James I) နဲ့ ပထမချားလ်စ် (Charles I) တို့လည်း ပါတယ်။ ထင်ရှားတဲ့ဒဿနိကဆရာ ဖရန်ဆစ်ဘေကွန် (Francis Bacon) လည်း သူ့လူနာ ဖြစ်တယ်။ ဟာဗေးဟာ လန်ဒန်သမားတော်ကောလိပ် (College Of Physicians) မှာ ခန္ဓာဗေဒ (Anatomy) ကို သင်ကြားပို့ချတယ်။ ကောလိပ်ကျောင်းအုပ် (president Of the college) အဖြစ်လည်း တစ်ခါအရွေးခံရတော့ (သူက အလုပ်တာဝန်ကို လက်မခံပဲ ငြင်းလိုက်ပါတယ်။) သူ့ဘာသာ ဆေးကုပေးတာ အပြင်၊ လန်ဒန် စိန့်ဘာသိုလိုမြူး (St. Bartholomew) ဆေးရုံမှာ သမားတော်ချုပ်အဖြစ် နှစ်ပေါင်းများစွာ နေခဲ့တယ်။ သူရေးတဲ့ သွေးလှည့်ပုံ စာအုပ်ကို ၁၆၅၈ မှာ ပုံနှိပ်တဲ့အခါ၊ ဥရောပ (Europe) မှာ သူဟာ ကျော်ကြားသူတစ်ယောက် ဖြစ်လာပါတယ်။ လန်ဒန် (London) မှာ နေထိုင်ရင်း အသက်ခုနစ်ဆယ့်ကိုးနှစ် ၁၆၅၇ မှာ ကွယ်လွန်ပါတယ်။

23, March, 2001.

# (၅၆) အားနက်စ် ရုသာဖို့ဒ် (၁၈၇၁ – ၁၉၃၇)

# ERNEST RUTHERFORD (1871 – 1937)

အားနက်စ်ရုသာဖို့ဒ် (Ernest Rutherford) ကို လူအများကပဲ စမ်းသပ်မှုရူပဗေဒ (experimental physics) မှာ ထိပ်တန်း အကျဆုံးပုဂ္ဂိုလ်ဖြစ်တယ်လို့ သတ်မှတ်ကြတယ်။ ရေဒီယိုသတ္တိကြွ (radio activity) နဲ့ပတ်သက်လို့ သိချင်စရာရှိရင် သူ့ကိုပဲ အားထား ကြရပါတယ်။ သူပဲ နျူကလီးယားရူပဗေဒ (nuclear physics) လေ့လာရေးကို လက်ဦး အစပြုလုပ်ခဲ့သူ ဖြစ်ပါတယ်။ ဒီပညာမှာ သီအိုရီပိုင်းဆိုင်ရာက အဆမတန် အရေးပါပြီး သူ့ရှာဖွေတွေ့ရှိချက်တွေကို ကျယ်ကျယ်ပြန့်ပြန့် ယူငင်အသုံးချတဲ့အခါ နျူကလီးယား လက်နက် (nuclear weapon)၊ နျူကလီးယားအားစက်ရုံ (nuclear power plants)၊ ရေဒီယိုသတ္တိကြွ အရင်းအငှတ်ရှာခြင်း (radio active tracers)၊ ရေဒီယိုသတ္တိကြွကိုဖော်ပြီး ရက်စွဲရှာခြင်း (radio active dating) တွေကို လုပ်နိုင်ပါတယ်။ ကမ္ဘာမှာ သူ့ကျေးဇူး၊ သူ့ဩဇာ ကြီးမားလှပေတယ်လို့ ပြောရတဲ့ အပြင် ဒီဂုဏ်သတင်းဟာလည်း ကြီးပွား တိုးတက်မြဲ၊ အရှည်သဖြင့် ရှင်သန်ကြီးပွားနေမြဲ ဖြစ်တယ်လို့ ပြောနိုင်ပါတယ်။

ရုသာဖို့ဒ်ကို နယူးဇီလန် (New ZeaLand) မှာ မွေးဖွားကြီးပြင်းခဲ့တယ်။ ကင်တာဗာရီကောလိပ် (Canterbury College) မှာ B.A., M.A., B.Sc. ဘွဲ့သုံးဘွဲ့ကို အသက်နှစ်ဆယ့်သုံးနှစ်မှာ ရရှိခဲ့တယ်။ နောက်တစ်နှစ် ၁၈၉၅ မှာ ပညာတော်သင်ဆုရလို့ အင်္ဂလန် (England) ကိမ်းဗရစ်ချ်တက္ကသိုလ် (Cambridge University) ရောက်လာပြီး သုံးနှစ် သုတေသနကျောင်းသားအဖြစ်နဲ့ ဟိုအခါက သိပ္ပံဆရာတွေရဲ့ ရှေ့သွားခေါင်းဆောင် ဂျေဂျေသွန်မဆွန် (J.J. Thomson) လက်အောက်မှာ နေခဲ့ရတယ်။ အသက်နှစ်ဆယ့်ခုနစ် နှစ်မှာ ကနေဒါ (Canada) မဂ္ဂီလ်တက္ကသိုလ် (Mc Gill University) မှာ ရူပဗေဒ ပါမောက္ခ ကိုးနှစ်လုပ်ခဲ့တယ်။ အင်္ဂလန်ကို ၁၉၇၀ မှာ ပြန်သွားပြီး မန်ချက်စတာတက္ကသိုလ် (Manchester University) ရူပဗေဒဌာနကို အုပ်ချုပ်ခဲ့ရပါတယ်။ ကိမ်းဗရစ်ချ်ကို ၁၉၁၉ မှာ ပြန်သွားတော့ ကဗန်ဒစ်ဓာတ်စမ်းရုံ (Cavandish Laboratory) ဒါရိုက်တာ ဖြစ်လာပြီ။ အဲဒီမှာပဲ အသက်ထက်ဆုံး နေသွား ပါတယ်။

ရေဒီယိုသတ္တိကြွကို ပြင်သစ်သိပ္ပံပညာရှင် အန်တိုနင် ဟင်နရီဗက်ကွာရယ် (Antoine Henri Becquerel) က ၁၈၉၆ မှာ ယူရေနီယမ် ဒြပ်ပေါင်း (Uranium

compound) ဆိုင်ရာ စမ်းသပ်ချက်တွေလုပ်ရင်း တွေ့ခဲ့တယ်။ ဒါပေမယ့် ဗက်ကွာရယ်က ဒီကိစ္စကိုဆက်ပြီး စိတ်မဝင်စားဘဲ ထားလိုက်လို့ အခုဒီနယ်မှာ အခြေခံ သိသမျှဟာ ရှာသာဖို့ဒ်က ကျယ်ကျယ်ပြန့်ပြန့် သုတေသန လုပ်မှ ပေါ်ထွက်လာတဲ့ အချက် အလက်တွေ ဖြစ်တယ်။ (မာရီ Marie နဲ့ ပီရာကြူရီ Pierre Curie တို့က ရေဒီယို သတ္တိကြွ ဓာတ်နှစ်ခု ဖြစ်တဲ့ ပိုလိုနီယမ် (Polonium) နဲ့ ရေဒီယမ် (Radium) ကို ထပ်တွေ့ပေမယ့် တကယ့် အရာရောက်တဲ့ တွေ့ရှိချက်တွေ မဟုတ်ပါ။

ရှာသာဖို့ဒ် ပထမတွေ့ရှိချက်က ယူရေနီယမ်က ရေဒီယိုသတ္တိကြွထုတ်လွှတ်ခြင်း (radioactive emission) မှာ ပါဝင်တဲ့ မျိုးခြားဓာတ်ပေါင်းနှစ်ခု ဖြစ်တယ်။ အယ်လ်ဖာ ရောင်ခြည် (Alpha rays)နဲ့ ဘီတာရောင်ခြည် (beta rays) လို့ခေါ်ပါတယ်။ ဒီဓာတ်ပေါင်းတွေရဲ့ သဘာဝကို သူက သရုပ်ပြနိုင်တယ်။ အပြောင်းအလဲ မြန်တဲ့ အမှုန်ဖြစ်တယ်။ တတိယ ဓာတ်ပေါင်းကို တွေ့ပြန်တဲ့အခါ ဂမ်မာရောင်ခြည် (gamma rays) လို့ အမည်ပေးပါတယ်။ ရေဒီယိုသတ္တိကြွရဲ့ အရေးပါတဲ့ အခြင်းအရာ တစ်ခုက စွမ်းအင် ထွက်တဲ့သတ္တိဖြစ်တယ်။ ဗက်ကွာရယ်၊ ကြူရီနဲ့ တခြား သိပ္ပံပညာရှင်တွေက စွမ်းအင်ကို အပြင်က ဖော်ထုတ် ရမယ်ထင်တယ်။ ဒါပေမယ့် ရှာသာဖို့ဒ် က၊ စွမ်းအင် ပါတာကို ဓာတ်ဖောက်ပြန်လို့ ပေါ်တဲ့အား ထက် အများကြီး ကြီးမားတယ်။ ယူရေနီယမ် အဏုမြူ ထဲမှာပဲ ရှိတယ်လို့ သက်သေပြတယ်။ ဒီလိုပြသတဲ့ အတွက် အဏုမြူစွမ်းအင် (Atomic energy) ဆိုတာ ပေါ်ထွန်းလာရပါတယ်။

သိပ္ပံပညာရှင်တွေက အဏုမြူဆိုရင် တစ်ခုချင်း ချေဖျက်မရ၊ ပြောင်းလဲ မရလို့ ယူဆထားကြတယ်။

ရှာသာဖို့ဒ်က (ဉာဏ်စွမ်းထက်မြက်တဲ့ လူငယ်လက်ထောက် ဖရက်ဒရစ်ဆော့ဒီ Frederick Soddy အကူအညီနဲ့) အဏုမြူက အယ်လဖာ ရောင်ခြည်ဖြစ်ဖြစ်၊ ဘီတာ ရောင်ခြည် ဖြစ်ဖြစ် ထွက်လာရင် အဏုမြူတစ်မျိုးကို ပြောင်းလဲ သွားတတ်ပါတယ်။ ဒါကို သိပ္ပံပညာရှင်တွေက ယုံဖို့ခက်တယ်လို့ ပြောကြတယ်။ ရှာသာဖို့ဒ်နဲ့ ဆော့ဒီတို့က ရေဒီယိုသတ္တိကြွ ဖျက်ဆီးပုံတွေကို အစဉ်လိုက် ထုတ်ပြပြီး ယူရေနီယမ်က ခဲ (lead) ဖြစ်ပုံကို ပြတယ်။ ပျက်စီးပုံနှုန်း ကိုလည်း တိုင်းတာပြတယ်။ အရေးပါတဲ့ သက်တမ်းဝက် (half life) အယူအဆကိုလည်း ပုံသေနည်း ထုတ်ပြီး ပြတယ်။ အဲဒါတွေပေါင်းစပ်ပြီး ရေဒီယို သတ္တိကြွ အချိန်ကာလ ဖော်နည်းရယ်လို့ ဖြစ်လာပါတယ်။ ဒီ (ရက်စွဲဖော်နည်း) ဟာ သိပ်အသုံးကျတဲ့ သိပ္ပံလက်နက် တစ်ခုဖြစ်တယ်။ သူ့ကိုသုံးတတ်ရင် ဘူမိဗေဒ (geology) ၊ မြေသဲသမိုင်း (Archaeology)၊ နက္ခတ္တဗေဒ (Astronomy) နဲ့ တခြားနေရာ အများကြီးမှာ ကျေးဇူးဖြစ်ထွန်းပါတယ်။ ရှာသာဖို့ဒ်က ဒီလိုမှင်သက်မိပြီး ဘာမှ မလုပ်တတ် မကိုင်တတ်ဖြစ်အောင် ကြက်သေ သေတာမျိုးဖြစ်အောင် အသစ် တွေ့ရှိချက်တွေကြောင့် ၁၉ဝ၈ မှာ နိုဘယ်လ်ဆု ရတယ်။ (နောက်တော့ ဆော့ဒီ Soddy လည်း နိုဘယ်လ်ဆု ရတယ်။) ဒါပေမယ့် သူ့အကြီးကျယ်ဆုံး အောင်မြင်မှုက နောက်မှ ပေါ်လာပါတယ်။ သူက အသွား

သိပ်မြန်တဲ့ အယ်လဖာဒြပ်ဟာ သိပ်ပါးတဲ့ရွှေပြားကို (အရာ မထင်ဘဲ ဖြတ်ဖောက်ထွက်နိုင်တယ်။ ဒီလိုဖြတ်တော့ နည်းနည်းပဲ တိမ်းစောင်းပါတယ်။ အဲဒါကြောင့် သိပ္ပံပညာရှင်တွေက ရွှေအဏုမြူ (gold Atom) ဟာ ဘိလိယက်သီး (billiard ball) မာမာနဲ့ ဖောက်ထွင်းဖို့ ခက်တဲ့ပစ္စည်း မဟုတ်၊ အတွင်းမှာ ပျော့နေ ရမယ်လို့ ပြောကြပြန်တယ်။ ငယ်လေ မာလေ အယ်လဖာဒြပ် (Alphaparticle) ဟာ ရွှေအဏုမြူမှာ သိပ်မြန်တဲ့ သေနတ်ကျည်ဆန်က ဂျယ်လီ (jelly) ကို ဖောက်ထွက် သလိုဖြစ်မယ်လို့ ပြောကြတယ်။

ရုသာဖို့ဒ်က (လူငယ်တွဲဖက် ဂိုက်ဂါ Geiger နဲ့ မာစဒဲန် Marsden တို့နဲ့ ပေါင်းပြီး ဖော်ထုတ်နိုင်တာက) အယ်လဖာဒြပ်တွေဟာ ရွှေပြား (gold foil) နဲ့ ထိတဲ့အခါ နောက် ပြန်ကျလာနိုင်သေးတယ်ဆိုတဲ့အချက် ဖြစ်တယ်။ ဒါကိုတွေ့တော့ ရုသာဖို့ဒ်က ဒီစမ်းသပ်ချက်က အရေးပါတဲ့ အဖြစ်အပျက်တစ်ရပ်ကို ဖော်ထုတ်နိုင်လိမ့်မယ် အထင်နဲ့ ထပ်ပြန်တလဲလဲလုပ်ပြီး ဒြပ်တွေကွဲပြီး လွင့်စင်ပုံကို ရေတွက်ကြည့်တဲ့အခါ သင်္ချာနည်းနဲ့ သိပ်ခက်ပေမယ့် သိပ်ပြတ်သားတာ ပေါ်ထွက်လာပါတယ်။ ရွှေအဏုမြူဟာ ဘယ်လောက်မှ မကြီးကျယ်လို့ နေရာယူတာ သိပ်နည်း တယ်။ ဒါကြောင့် အများကြီးစုမှ အလယ်မှာ 'နျူကလိယပ်စ် (Nucleus)' သိပ်ငယ်ငယ် ပဲရှိမယ်။ တစ်ချက်တည်းနဲ့ အများက ဒီလို ဖြစ်နိုင်တယ်လို့ တွေးဆ ထားတဲ့ ကမ္ဘာ့ပုံကို မဖြစ်နိုင်ပါလို့ ရုသာဖို့ဒ်က ၁၉၁၁ စာတမ်း တစ်စောင် တည်းနဲ့ ချေဖျက်လိုက်တယ်။ အကုန်လုံး အမာတကာ့ အမာလို့ထင်တဲ့ အရာတွေ အားလုံးဟာ ချေဖျက်လိုက်ရင် အစ သေးသေး ဖြစ်ပြီး လဟာပြင်ကြီးထဲမှာ ဟိုတိုးဒီတွေ့ ရှိနေပါ လိမ့်မယ်လို့ ပြောလိုက်တယ်။

ရုသာဖို့ဒ်ရဲ့ အဏုမြူနျူကလိယပ်စ် တွေ့ရှိချက်ကို အုတ်မြစ် အဖြစ်ထားပြီး အခုခေတ် အဏုမြူ တည်ဆောက်ပုံ သီအိုရီတွေ ဖြစ်ပေါ်လာပါတယ်။ နီးစ်ဘော (Niels Bohr) က နောက်နှစ်နှစ် ကြာတဲ့အခါ နေစနစ် (solar system) အသေးစားကလေးဟာ အဏုမြူပါပဲလို့ ကျော်ကြားတဲ့ စာတမ်းတစ်စောင်ကို ကွမ်တမ်မက္ကင်းနစ် (Quantum mechanics) ကိုသုံးပြီး ရေးသားလိုက်တယ်။ ဒီလိုပဲ ဟေစဲန်ဘာ့ဂ် (Heisenberg) နဲ့ စခရိုဒင်ဂါ (Schrodinger) တို့က ပိုပြီးခက်ခဲတဲ့ အဏုမြူပုံစံတွေက မက်ထရစ် မက္ကင်းနစ် (matrix mechanics) နဲ့ ဝေ့ မက္ကင်းနစ် (wave mechanics) ကို သုံးပြီး ရေးသားထုတ်ဝေတယ်။

ရုသာဖို့ဒ် တွေ့ရှိချက်တွေဟာ နျူကလိယပ်စ် လေ့လာရေးကို သိပ္ပံလမ်းခွဲ တစ်ခု ဖြစ်ပေါ်စေတယ်။ အဲဒီလမ်းခွဲမှာလည်း ရုသာဖို့ဒ်ဟာ ခေါင်းဆောင် ရှေ့သွား ပုဂ္ဂိုလ် ဖြစ်ပါတယ်။ ၁၉၁၉ မှာ နိုင်ထရိုဂျင်နျူကလေ (nitrogen nuclei) က အောက်ဆီဂျင် နျူကလေ (Oxygen nuclei) ပြောင်းလဲပုံကို အသွားနှုန်းမြန်တဲ့ အယ်လဖာ (Alpha) ဒြပ်တွေနဲ့ ပစ်ပေါက်ပြီး ပြောင်းလဲပြနိုင်တယ်။ ဒါဟာ ရှေးခေတ်က အဂ္ဂိရတ်ဆရာတွေရဲ့ အိပ်မက် (မျှော်လင့်ချက်)ကို ဖြစ်အောင်လုပ်ပြနိုင်ခဲ့တယ်လို့ ပြောရင်လည်း ဖြစ်ပါတယ်။

မကြာခင်ပဲ နျူကလီးယားပြောင်းလဲချက် (nuclear transformations) တွေက

နေရဲ့စွမ်းအားရဲ့ အရင်းအမြစ်ကို ဖော်ပြနေတာပဲဖြစ်ပါတယ်။ အဏုမြူ နျူကလီးယား ပြောင်းလဲခြင်းဟာ အဏုမြူ လက်နက်ကြီး (Atomic weapon) တွေနဲ့ နျူကလီးယားအားသုံး စက်ရုံကြီးတွေရဲ့ အစဖြစ်လာပါတယ်။ ရုသာဖို့ဒ်ရဲ့ အသစ် တွေ့ရှိချက်ဟာ ပညာသစ်ရှာမှီးလိုတဲ့ခေါထက် အဆများစွာ ပိုထွက်သွားပါတယ်။

ရုသာဖို့ဒ်ဟာ ‘နာမည်ကြီးတာထက် လူက ပိုကြီးပါလား’ (Larger than Life) လို့ သူ့ကိုတွေ့ဖူးသူတိုင်း သဘောပေါက်သွားပါတယ်။ ခန္ဓာကိုယ်လည်း တကယ် ကြီးမားပါတယ်။ အသံလည်းကျယ်ပါတယ်။ မကုန်နိုင်တဲ့ အားနဲ့၊ မပျက်တဲ့ ယုံကြည်ချက်နဲ့၊ နှိမ့်ချစိတ်ရယ်လို့ နည်းနည်းမှ မရှိဘဲ ပြောဆိုပြုမူနေတာကို တွေ့မယ်။ ရုသာဖို့ဒ်ကို သိပ္ပံသုတေသနမှာ လှိုင်းထိပ်က စီးနေသူလို့ တင်စားပြီး ပြောတဲ့အခါ သူကချက်ချင်း **‘ဟုတ်တာပေါ့၊ လှိုင်းကိုလည်း ကျုပ်ပဲလုပ်တာ’** လို့ဖြေတယ်။ ‘ဟာ ဒီလို ဘယ်ပြောသင့်မှာလဲလို့ ပြောမယ့်သိပ္ပံပညာရှင်’ ရှိမယ်မထင်ပါ။

24, March, 2001.

# (၅၇) ဂျွန် ကာလ်ဗင် (၁၅၀၉ – ၁၅၆၄)

# JOHN CALVIN (1509 – 1564)

ဥရောပသမိုင်းမှာ အထူးထင်ရှားတဲ့ပုဂ္ဂိုလ်ဟာ ပရိုတက်စတင့် (Protestant) ထာဝရဘုရားဝါဒနဲ့ လူ့ကျင့်ဝတ် ကောင်းအောင် ဟောပြောဆုံးမလို့ ကျော်ကြားသူ ဂျွန်ကာလ်ဗင် (John Calvin) ဖြစ်ပါတယ်။ ထာဝရ ဘုရားဝါဒ၊ တိုင်းနိုင်ငံ အုပ်ချုပ်ရေး၊ လူ့ကျင့်ဝတ်နဲ့ လုပ်ငန်း တာဝန်စည်းကမ်းဆိုတဲ့ အကြောင်းကိစ္စ အမျိုးမျိုးနဲ့ ပတ်သက်ပြီး သူ့ဟောပြောချက်ဟာ လူကုမ္ပဏီ ကုမ္ပဏီ အပေါ်မှာ အနှစ်လေးရာကျော် သြဇာ သက်ရောက်ခဲ့ပါတယ်။

ဂျွန်ကာလ်ဗင် (မူလနာမည် ဇန်ကောဗင် Jean Calvin) ကို ပြင်သစ် (France) နိုယောင် (Noyon)မြို့မှာ ၁၅၀၉ မှာ မွေးဖွားခဲ့ပါတယ်။ ပညာကောင်းကောင်း သင်ကြား ခဲ့ရပါတယ်။ ပါရီ (Paris) မှ မွန်တေဂူ ကောလိပ် (Collegede Montaingu) မှာ နေခဲ့ပြီး သြလင်း တက္ကသိုလ် (University Of Orleans) မှာ ဥပဒေ ပညာသင်ယူခဲ့တယ်။ ဘောဂတ် (Borges) မှာ ဥပဒေပညာကို ဆက်ပြီးသင်ယူတယ်။

ကာလ်ဗင် အသက်ရှစ်နှစ်ပဲ ရှိသေးတဲ့အချိန်က မာတင်လူသာ (Martin Luther) က ဝစ်တင်ဘာ့ဂ် (Wittanberg) ကျောင်းတော်တံခါးမှာ (ကန့်ကွက်ချက်) ကိုးဆယ့်ငါးချက်ကို ရေးပြီးဆွဲထားခဲ့တယ်။ အဲဒါကနေပြီး ပရိုတက်စတင့် ပြုပြင်ရေး (Protestant Reformation) စခဲ့တာပါပဲ။ ကာလ်ဗင် ငယ်ငယ်က ကက်သလစ် (Catholic) အဖြစ်ကြီးပြင်းခဲ့ရပါတယ်။ ဒါပေမယ့် လူငယ် ဘဝကပဲ ပရိုတက်စတင့်ဝါဒ (Protestantism) ကို လက်ခံခဲ့တယ်။ ဖမ်းဆီးနှိပ်ကွပ်ခြင်းကို လွတ်အောင် ပါရီက ထွက်ပြေးခဲ့ရတယ်။ တော်တော်ကြာအောင် ခရီးလှည့်လည နေပြီးမှ ဆွစ်ဇာလန် (Switzerland) ဘာဆဲလ် (Basel) မှာ နေပါတယ်။ အဲဒီမှာ နာမည်ဝှက်ယူထားပြီး ထာဝရဘုရား ဝါဒကို ဆက်လက်ပြီး အပြင်းအထန် လေ့နက် ပြည့်စုံအောင် လေ့လာတယ်။ အသက်နှစ်ဆယ့်ခုနစ်နှစ် ၁၅၃၆ မှာ လူသိများပြီး အကျော်ကြားဆုံး ခရစ်ယာန် ယုံကြည်မှု လေ့လာပုံအမျိုးမျိုး (The Institutes Of The Christian Religion) ကို ပုံနှိပ်ထုတ်ဝေ လိုက်ပါတယ်။ အဲဒီစာအုပ်ထဲမှာ ပရိုတက်စတင့်မျိုးစုံက ယုံကြည်ပုံကို စနစ်တကျပုံစံသွင်းပြီး အကြွင်းအကျန် မရှိအောင် အချုပ်ရေး ပေးနိုင်တဲ့အတွက် သူဟာ လူသိများပြီး ထင်ရှားလာရပါတယ်။ နောင်အခါ ၁၅၃၆ မှာ ပရိုတက်စတင့်တွေဟာ မြန်မြန်ကြီး အားကောင်း လာနေပြီ ဖြစ်လို့ ဆွစ်ဇာလန်နိုင်ငံ ဂျီနီဗာ (Geneva)

ကို ရွှေ့ပြောင်း နေထိုင်ပါတယ်။ အဲဒီမှာ ပရိုတက်စတင့် လူအုပ် ခေါင်းဆောင်နဲ့ ဆရာ အဖြစ်နဲ့ သူ့ကို ဆည်းကပ်ကြပါတယ်။ ဒါပေမယ့် သိပ်မကြာခင် စင်ကြယ်ဖို့ အားထုတ်တဲ့နေရာမှာ ကြောက်လန့်စရာကောင်း လောက်အောင် အယူပြင်းထန်တဲ့ ကာလ်ဗင်နဲ့ ဂျီနီဗာသားတို့ ရန်ပွဲစရပါတော့တယ်။ အဲဒါနဲ့ သူ့ကို ဂျီနီဗာမြို့တော်က ထွက်သွားအောင် နှင်လိုက် ကြတယ်။ ၁၅၄၁ မှာတော့ တောင်းပန်ပြီး ပြန်လာဖို့ ပင့်ဖိတ်ကြလို့ ပြန်လာတဲ့အခါ မြို့တော်ရဲ့ သာသနာ ယုံကြည်မှု ခေါင်းဆောင် သာမက အင်မတန်ထက်မြက်တဲ့ နိုင်ငံရေး ခေါင်းဆောင်အဖြစ် သူကွယ်လွန်တဲ့ ၁၅၆၄ ထိ (အဲဒီမြို့တော်မှာပဲ) နေသွားပါတယ်။

သဘောတရား (သီအိုရီ) အရ ကာလ်ဗင်ကို ဂျီနီဗာရဲ့ အာဏာရှင်လို့ ခန့်ထားခြင်း မရှိပါ။ မြို့တော်သားတွေမှာ (ကိစ္စအဝဝကို) မဲပေး ဆုံးဖြတ်ခွင့် ရှိတယ်။ နိုင်ငံရေး အာဏာကို ကောင်စီက ယူထားတယ်။ ကောင်စီဝင် နှစ်ဆယ့်ငါးဦး ရှိတယ်။ ကာလ်ဗင်က ကောင်စီဝင် မဟုတ်ပါ။ သူ့ကို အချိန်မရွေး နှင်ထုတ် နိုင်တယ်။ ဒီလိုပဲ ၁၅၃၈ က နှင်ထုတ်ခဲ့တာ ဖြစ်ပါတယ်။ သူ့ကို ကောင်စီဝင် အများစုက ထောက်ခံမှသာ သူ့ဩဇာ တည်ပါတယ်။ လက်တွေ့ကတော့ သူပဲ မြို့တော်ကို လွှမ်းမိုးနေတယ်။ ၁၅၅၅ နောက်ပိုင်းမှာ အတိအကျ ပြောရရင် တစ်ယောက်တည်းအုပ်ချုပ်တဲ့လူ ဖြစ်ခဲ့ပါတယ်။

ကာလ်ဗင်ခေါင်းဆောင်တဲ့ ဂျီနီဗာဟာ ဥရောပမှာ ရှေ့ဆောင် ပရိုတက်စတင့် ဗဟိုဒေသ ဖြစ်ခဲ့ပါတယ်။

တခြားနိုင်ငံတွေမှာလည်း ပရိုတက်စတင့် ကြီးထွား လာအောင် အားပေးကူညီတယ်။ အထူးသဖြင့် ပြင်သစ်မှာ ထွန်းကားစေချင်တယ်။ အချိန်အတော်ကြာအောင် လူအများက ဂျီနီဗာကို ပရိုတက်စတင့်တွေရဲ့ ရောမ လို့တောင် ခေါ် တယ်။ ဂျီနီဗာကို ပြန်ရောက်လာတဲ့ အခါ ပထမဆုံး ကာလ်ဗင်ရဲ့ ဆောင်ရွက်ချက်က လောကုတ္တရာ ဥပဒေ (ecclesiastical regulation) တွေကို ထုတ်ပြန်ပြီး ပြုပြင်ပြီး ကျောင်းတော်ကို ထူထောင်ခြင်း ဖြစ်ပါတယ်။ ဒီကပုံစံအတိုင်း ဥရောပမှာ ပြုပြင်ပြီး ကျောင်းတော်တွေကို တည်ထောင် စေတယ်။ ဂျီနီဗာမှာ နေထိုင်စဉ်က ကာလ်ဗင် ဟာ အင်မတန်လူကြိုက်များတဲ့ ယုံကြည်မှု လမ်းစဉ်တွေကို ရေးပြီး၊ အရင် ရေးသား ပုံနှိပ်ဖူးတဲ့ ခရစ်ယာန် ယုံကြည်မှု လေ့လာပုံ အမျိုးမျိုးကျမ်း ကို ပြန်လည်သုံးသပ်ပြင်ဆင် ရေးသားတယ်။ ပြီးမှ ထာဝရဘုရားအယူနဲ့ သမ္မာကျမ်းစာ ဆိုင်ရာ တရားပို့ချချက်တွေ အများကြီး ဆက်တိုက် ဟောပြော တယ်။

ကာလ်ဗင် လက်ထက် ဂျီနီဗာဟာ '(လောကီ လောကုတ္တရာကိစ္စအဝဝမှာ) အပြင်းအထန်သန့်ရှင်းရမယ်' လို့ အော်မြည် နေတဲ့အရပ်လို့ ဆိုလောက်ပါတယ်။ လင်ငယ် နေတာ၊ (မျိုးဆက် ရဖို့ဆိုတဲ့ အကြောင်းပြချက် မရှိဘဲ) လိင်ဆက်ဆံတာတွေကိုသာ အပြစ်ကြီးလို့ သတ်မှတ်တာ မဟုတ်၊ လောင်းကစားခြင်း၊ အရက် မူးလွန်ခြင်း၊ ကခုန်မြူးထူးခြင်း၊ ကြမ်းတမ်းတဲ့ သီချင်းတွေကို သီဆိုခြင်းတွေကိုလည်း ပိတ်ပင်တယ်။ ဒဏ်ကြီး

ပေးခံရဖွယ်ရှိတယ်။ ဥပဒေအရ ကျောင်းတော်မှာ သတ်မှတ်ချိန် အတိုင်း ဝတ်ပြုလာရမယ်။ တရား ကိုလည်း ရှည်ရှည်ဟောတာ ထုံးစံ ဖြစ်လာတယ်။ ကာလ်ဗင်က အလုပ်ခွင်မှာ ကြိုးစားဆောင်ရွက်တာကို သိပ်အားပေးတယ်။ သူ့လက်ထက် ဂျီနီဗာ တက္ကသိုလ် (University Of Geneva) ကို တည်ထောင်ခဲ့တယ်။ ကာလ်ဗင်ဟာ နည်းနည်းမှ သည်းခံစိတ်ရှိတဲ့လူ မဟုတ်ပါ။ သူ့စိတ်ထဲမှာ မိစ္ဆာဒိဋ္ဌိလို့ ထင်ရင် ခဏ ထိန်းသိမ်းခံရမယ်။ သူပေးတဲ့ အပြစ်ဒဏ် ခံရဖူးသူတွေထဲမှာ ထာဝရဘုရား သခင်ဝါဒ လေ့လာသူ စပိန် သမားတော် မိုက်ကယ် ဆာဗေတပ်စ် (Michael Sevetus) လည်းပါတယ်။ အဲဒီပုဂ္ဂိုလ်က အမြတ်သုံးပါးတရား (the doctrine Of the Trinity) ကို မယုံဘူးပြောလို့ ဖြစ်ပါတယ်။ ဆာဗေတပ်စ် ဂျီနီဗာ ရောက်လာတော့ ဖမ်းပြီး မိစ္ဆာဒိဋ္ဌိ အပြစ် ရုံးတင်ပြီး ကားစင်မှာ မီးရှို့အသတ် (၁၅၅၃မှာ) ခံရပါတယ်။

အဲဒါအပြင် ကာလ်ဗင် အုပ်ချုပ်ရေးခေတ်က စုန်းတတ်တယ် လို့ အယိုးခံရသူတွေ အများကြီး ကားစင်မှာ မီးရှို့သတ်ပါတယ်။ ကာလ်ဗင်ဟာ ဂျီနီဗာမှာ ၁၅၆၄ မှာ ကွယ်လွန်တယ်။ သူ့မယားက ၁၅၄၉ မှာ သေတယ်။ ငယ်ကလွန်တဲ့ သားသမီး တစ်ယောက်ရှိဖူးတယ်။ ကာလ်ဗင်ရဲ့ အရေးအပါဆုံး စွမ်းဆောင်ချက်ဟာ နိုင်ငံရေး မဟုတ်၊ သူ့ဝါဒရေးရာကို ပုံဖော် ဆောင်ရွက်ချက်သာ ဖြစ်တယ်။ သမ္မာကျမ်း (The Bible) သာ အာဏာအပိုင်ဆုံး၊ ကျမ်းအတိုင်း လိုက်နာဆောင်ရွက်ဖို့ဟာ အလိုလား အပ်ဆုံးလို့ သတ်မှတ်တယ်။ လူသာ (Luther)၊ စိန့်ဩဂတ်စတင်း (St. Augustine) နဲ့ စိန့်ပေါလ် (St. Paul) တို့လိုပဲ ကာလ်ဗင်ဟာ လူသားအားလုံးဟာ အပြစ်ရှိသူ (Sinmen) တွေဖြစ်တယ်။ ကယ်တင်ခြင်း (Salvation) ဆိုတာလည်း အလုပ်ကောင်းတာမဆိုင်၊ ယုံကြည်မှုနဲ့မဆိုင်။ ကာလ်ဗင်နဲ့ပတ်သက်ပြီး သိပ်ထင်ရှားတဲ့ အချက်နှစ်ခု ပြောစရာရှိတာက (ဘယ်သူမဆိုသူ) ရှေ့ဘာဖြစ်မယ်ဆိုတာ ဆုံးဖြတ်ပြီး (predestination) ဖြစ်တယ်။ ပြီးတော့ အပြစ်ရှိသူကို အပြတ်နှင်ထုတ်ခြင်း (reprobation) ဖြစ်တယ်။ ကာလ်ဗင်က ဘုရားသခင်က (ဘာမဆို) ဆုံးဖြတ်ပြီး ‘အခု ဘယ်လောက်ကောင်းကောင်း’ ဒီလူကိုကယ်၊ ဒီလူကိုပယ် လုပ်မှာပဲ။ ဒီလိုဆိုရင် လူတစ်ယောက်အနေနဲ့ ဘာအကျင့် စာရိတ္တကောင်းစရာ လိုတော့သလဲ မေးတဲ့အခါ၊ ကာလ်ဗင်က ‘ရွေးချယ်ပြီး’ လူဟာ ဘုရားသခင်က (ထိုက်တန်လို့သာ ရွေးထားတာ) အကျင့်စာရိတ္တ ကောင်းပြီးသား ဖြစ်တယ်။ (နောက်တစ်မျိုးပြောရရင်) ငါတို့ကောင်းလို့ ကယ်တင်ခံရတာ မဟုတ်၊ ငါတို့ ကယ်တင်ခံရပြီးဖြစ်လို့ ကောင်းတာပဲ လုပ်တတ်တယ်။ တချို့က ဒီစကားမျိုးဟာ ဆန်းတယ်လို့ထင်မယ်။ ဒီစကားကြောင့်ပဲ လူအများ လမ်းမှန်ရပြီး ဘုရားကို ယုံတယ်။ ကောင်းကောင်းနေတယ် ဆိုတဲ့ လူတွေများလာတယ်။ ဒါဟာ ကာလ်ဗင်ရဲ့ ကျေးဇူးဖြစ်တယ် လို့ဆိုရင် ငြင်းမယ့် လူနည်းပါတယ်။ ကာလ်ဗင်ရဲ့ ကျေးဇူး ကမ္ဘာတစ်ဝန်းမှာ ကြီးပါပေတယ်။ သူ့ထာဝရ ဘုရားဝါဒ ယုံကြည်လိုက်နာသူတွေရဲ့ အရေအတွက်ဟာ လူသာ တပည့်အရေအတွက်ထက် ပိုပါသေးတယ်။ မြောက်ပိုင်းဂျာမနီ (Germany) နဲ့ စကင်န်ဒီနေဗီးယား (Scandinavia) မှာ လူသာ တပည့်အများဆုံး ဖြစ်လာပေမယ့် ဆွစ်ဇာလန်နဲ့ နယ်သာလန်နိုင်ငံတွေက ကာလ်ဗင်တပည့်တွေ ဖြစ်လာပါတယ်။ ပိုလန်

(Poland)၊ ဟန်ဂေရီ (Hungary) နဲ့ ဂျာမနီတွေမှာ ကာလ်ဗင် တပည့်နည်းတယ် ဆိုပေမယ့် သိပ်မနည်းပါ။ စကော့တလန် (Scotland) မှာ ပရက်စ်ဗီတေရီယန် (Presbyterians) ဆိုတာလည်း ကာလ်ဗင့် တပည့်တွေဖြစ်သလို၊ ပြင်သစ် (France)၊ ဟုဂနို (Huguenots)၊ အင်္ဂလန် (England)၊ ပျူရီတန် (Puritans) တွေဟာလည်း ကာလ်ဗင့် တပည့်တွေ ဖြစ်ပါတယ်။ အမှန်အတိုင်း ပြောရရင် အမေရိကမှာ ပျူရီတန် ဩဇာ ရောက်နေတာကြာလှပြီ၊ (လူအရေအတွက်လည်း) များပြားပါတယ်။ ကာလ်ဗင် လက်ထက် ဂျီနီဗာရဲ့ အုပ်ချုပ်ရေးဟာ အများပြည်သူ့ဆန္ဒကို ညွှတ်တဲ့ (ဒီမိုကရေစီ) အုပ်ချုပ်ရေး မခေါ်နိုင်သေးပါ။ သာသနာဦးခိုက်တဲ့ အုပ်ချုပ်ရေး (Theocracy) ပဲဖြစ်ပါတယ်။ ဒါပေမယ့် ကာလ်ဗင်ဝါဒ (Calvinism) ရဲ့ နောက်ဆုံးရလဒ်က ဒီမိုကရေစီကို တိုးပွားဖို့ အားပေးခဲ့တယ်။ အမှန်က နိုင်ငံများစွာမှာ လူနည်းစုက သူတို့အကြိုက်ကို ဇွတ်ခိုင်းတာဖြစ်ပေမယ့် ကာလ်ဗင် ကျောင်းတော်တွေ (Calvinism Church) ရဲ့ အတွင်းဖွဲ့စည်းပုံက ဒီမိုကရေစီဖြစ်တာက (ရေရှည်မှာ) ထင်ရှားလာတာ ဖြစ်ပါတယ်။

ဘာကြောင့်ပဲဖြစ်ဖြစ် ကာလ်ဗင်ဝါဒ ရှင်သန်တဲ့ ဆွစ်ဇာလန်၊ ဟော်လန်နဲ့ ဂရိတ်ဗြိတိန် တွေက ဒီမိုကရေစီ နိုင်ငံတွေပဲ ဖြစ်ပါတယ်။ ကာလ်ဗင်ဝါဒ အရင်းခံ အကျဆုံးအခြင်းအရာဆိုရင် ‘ပရိုတက်စတင့် အလုပ်ခွင်ကျင့်ဝတ်’ (Protestant Work Ethic) နဲ့ အရင်းရှင်စနစ် (Capitalism) ဖော်ထုတ်ခြင်းဖြစ်တယ်။ ဒီစကား မှန်ကန်ပါတယ်လို့ ရက်ရက်ရောရော ပြောဖို့ ခက်တယ်။ တစ်ဖက်က ပြောဖို့လည်း ရှိတယ်။ ဥပမာ၊ ဒတ်ချ် (Dutch) တွေက ကာလ်ဗင် မမွေးမီ ရေးပဝေသဏီကပဲ လုံ့လ ဝီရိယကြီးတဲ့လူတွေပါ။ ဒါပေမယ့် ကာလ်ဗင်က သူ့တပည့်တွေကို စည်းကမ်းကြီးကြီး၊ ဝီရိယ များများ၊ စာရိတ္တ ကောင်းကောင်းနဲ့ မာမာတင်းတင်း ဆုံးမ သွန်သင်ခဲ့တာကို အလကားပါလို့ ပြောဖို့လည်း ခက်ပါတယ်။ (ထပ်ဖြည့်ပြောဖို့က ငွေတိုး ချေးစားတာကို ကာလ်ဗင်က ခွင့်မပြု၊ အထက်က ခရစ်ယာန် စာရိတ္တဆရာ အားလုံး ကလည်း ခွင့်မပြု၊ ဒါပေမယ့် အရင်းရှင်စနစ်မှာ ဒီဟာက အရင်းခံဖြစ်နေပါတယ်။)

ကာလ်ဗင်ကို ခုဒီစာအုပ်မှာ ဘယ်လောက် မြင့်တဲ့နေရာကို ပေးရမလဲ ချင့်ချိန်လိုက်ရင် ဒီအချက်တွေကို စဉ်းစားဖို့ လိုပါတယ်။ ကာလ်ဗင်ရဲ့ဩဇာဟာ အနောက် ဥရောပနဲ့ မြောက်အမေရိကမှာ အထိရောက်ဆုံး ဖြစ်တယ်။ အဲဒါထက် သူ့ဩဇာဟာ (တစ်ဆယ့်ကိုးရာစုနှစ်) ကစပြီး သိသိသာသာ ထိုးဆင်းသွားတယ်။ ဘယ်လိုပဲ ပြောပြော ကာလ်ဗင်ဝါဒဟာ ခေတ်ဦးခေါင်းဆောင်ဖြစ်တဲ့ ဂျီးစပ်စ် (Jesus)၊ စိန့်ပေါလ် (St. Paul) နဲ့ လူသာ (Luther) တို့ ကျေးဇူးကြောင့် ဖြစ်တယ်။

ပရိုတက်စတင့်ပြုပြင်ရေး (Protestant Reformation) ဟာ သမိုင်းမှာ သိပ်ကြီးကျယ်တဲ့ အဖြစ်အပျက်ပါ။ ဒီလိုအုံကြွမှုကြီးကို စတင်လှုံ့ဆော်သူဟာ မာတင်လူသာ (Martin Luther) ဖြစ်တယ်ဆိုတာလည်း ထင်ရှားပါတယ်။ ကာလ်ဗင် (Calvin) ဆိုတာက လူသာရဲ့ နောက်ပေါက် ပရိုတက်စတင့်

ခေါင်းဆောင် အများထဲက တစ်ယောက်ပဲဖြစ်တယ်။ ဒဿနိကဆရာထဲမှာတော့ ဗော်လ်တဲ (Voltaire) နဲ့ ရူးဆိုး (Rousseau) ထက် မြင့်တဲ့နေရာမှာ ထားရမယ်။ ဘာပြုလို့လဲဆိုတော့ အဲဒီဆရာတွေရဲ့ ဩဇာကြီးမားတဲ့ နှစ်ကာလထက် နှစ်ဆ ရှိတယ်။ ပြီးတော့ သူ့အတွေးအခေါ်တွေက သူ့တပည့်တွေရဲ့ ဘဝကို အများကြီးလေးနက်အောင် လွှမ်းမိုးနိုင်လို့ ဖြစ်ပါတယ်။

25, March, 2001.

# (၅၈) ဂရီဂေါ် မဲန်ဒဲလ် (၁၈၂၂ – ၁၈၈၄)

# GREGOR MENDEL (1822 – 1884)

ကနေ့ခေတ်မှာ မျိုးဆက်အခြေခံဥပဒေ (Basic Principles Of Heredity) ကို စတင်တွေ့ရှိသူလို့ ဂရီဂေါ်မဲန်ဒဲလ် (Gregor Mendel) ဟာ ထင်ရှားသူ ဖြစ်တယ်။ အခု ချက်ကိုစလိုဗက်ကီးယား (Czechoslovakia) နိုင်ငံရဲ့ တစ်စိတ်တစ်ပိုင်းဖြစ်ပြီး အရင် ဩစတြီးယားအင်ပါရာ (Austrian Empire) အဝင် ဟိန်ဇင်ဒေါ့ (Heinzendorf) မှာ ၁၈၂၂ မှာ မွေးဖွားပါတယ်။ ၁၈၄၃ မှာ အရင် ဩစတြီးယားနိုင်ငံ ဗရုန်း (Brunn)၊ အခု ချက်ကိုစလိုဗက်ကီးယားက ဩဂတ်စတင်း (Augustine) ဘုန်းကြီးကျောင်းမှာ သွားနေပြီး ၁၈၄၇ မှာ ရဟန်းဖြစ်လာတယ်။ ဆရာဖြစ် လက်မှတ်ရဖို့ ၁၈၅၀ ပြည့်နှစ်မှာ စာမေးပွဲဖြေဆိုပေမယ့် မအောင်မြင်ပါ။ ဇီဝဗေဒ (Biology) နဲ့ ဘူမိဗေဒ (Geology) မှာ အမှတ်အနည်းဆုံးရတယ်။ ဒါပေမယ့် ကျောင်းထိုင်ဆရာတော်က မဲန်ဒဲလ်ကို ဗီယန်နာ တက္ကသိုလ် (Vienna University) ကို လွှတ်လိုက်လို့ ၁၈၅၁ က ၁၈၅၃ အတွင်း၊ တက္ကသိုလ်မှာ နေထိုင်ပြီး သင်္ချာနဲ့သိပ္ပံပညာတွေကို သင်ကြားခဲ့ပါတယ်။ မဲန်ဒဲလ်ဟာ တစ်ခါမှ ဆရာဖြစ် လက်မှတ် မရခဲ့ပေမယ့် ၁၈၅၄ က ၁၈၆၈ ထိ ဗရုန်းခေတ်သစ်ကျောင်းမှာ ဆရာစစ်နေရာကို ခေတ္တယူတဲ့ အစားထိုးဆရာ (substitute teacher) လုပ်ခဲ့ပါတယ်။ အဲဒီ အတောအတွင်း ၁၈၅၆ ကစပြီး အပင်မွေးခြင်း (plant breeding) နဲ့ နာမည်ရလာပါတယ်။ ၁၈၆၅ ရောက်တဲ့အခါ ကျော်ကြားတဲ့ မျိုးဆက်ဥပဒေ (laws of heredity) ကို စာတမ်းရေးပြီး ဗရုန်း (Brunn) သဘာဝသမိုင်းအသင်း (Natural History Society) မှာ ဖတ်တယ်။ ၁၈၆၆ မှာ အဲဒီအသင်းရဲ့ လုပ်ငန်းတာဝန်များ (အစီရင်ခံစာ) ထဲမှာ သူ့စာတမ်းအပြင် 'အပင်ကပြားစမ်းသပ်ချက်' (Experiments with Plant Hybrids) ကို ထည့်သွင်း ပုံနှိပ်ပေးတယ်။ နောက်သုံးနှစ်ကြာတော့ ဒီဂျာနယ်ထဲမှာပဲ ဒုတိယ စာတမ်းကို ပုံနှိပ်ပေးပါတယ်။ အသင်းဂျာနယ်ဟာ သိပ်ပြီး လေးစားဂရုပြုခြင်း ခံရတာ မဟုတ်ပေမယ့် စာကြည့်တိုက်တွေမှာ တွေ့နိုင်ပါတယ်။ မဲန်ဒဲလ်က သူ့စာတမ်းမိတ္တူတစ်စောင်ကို မျိုးဆက်လေ့လာရေး ခေါင်းဆောင် နာဂေလီ (Nageli) ဆီကို ပို့လိုက်တဲ့အခါ ရှရှိကြောင်း စာရေးသားပေမယ့် သူ့စာတမ်းရဲ့ အဖိုးတန်အသုံးဝင်ပုံကို သတိပြုမိဟန် မတူပါ။ ဒီလိုနဲ့ မဲန်ဒဲလ်ရဲ့ စာတမ်းတွေကို ဘယ်သူမှ အရေးတယူမလုပ်ဘဲ အနှစ်သုံးဆယ်ကျော် လျစ်လျူ ပြုခံခဲ့ရပါတယ်။

မဲန်ဒဲလ်ကို ၁၈၆၈ မှာ သူ့အစု (chapter) မှာ သူ့ကို ခေါင်းဆောင် (Abbot)

ခန့်ထားလိုက်လို့ အုပ်ချုပ်ရေး ကိစ္စအဝဝ လုပ်နေရတာနဲ့ပဲ အပြင်စမ်းသပ်ချက်လုပ်ချိန် သိပ်မရပါ။ အသက်ခြောက်ဆယ့်တစ်နှစ် ၁၈၈၄ မှာ သူကွယ်လွန်တဲ့အခါ သူ့ပြောင်မြောက်တဲ့ သုတေသန အစွမ်းကို လူတွေက မေ့သလောက်ရှိပြီ။ ဒါအတွက် သူ့ကို အသိအမှတ်ပြုခြင်း ချီးကျူးခြင်း မခံခဲ့ရပါ။

မဲန်ဒဲလ်ရဲ့ကြိုးပမ်းချက်ကို ၁၉၀၀ ပြည့်နှစ် ရောက်ခါမှ ပြန်တွေ့ကြတယ်။ သိပ္ပံပညာရှင်သုံးဦး ဒတ်ချ် လူမျိုး ဟူဂိုဒေဗြီး (Hugo de Vries)၊ ဂျာမန်လူမျိုး ကာလ်ကော်ရဲန် (Carl Corrents) နဲ့ ဩစတြီးယန်းလူမျိုး အာရစ်ဗွန်ချာမက် (Erich von Tschermak) ဟာ ကိုယ့်ဘာသာ အလုပ်လုပ်ရင်း မဲန်ဒဲလ်ရဲ့စာတမ်းကို တွေ့ကြတယ်။ သုံးဦးစလုံး တစ်ယောက်ချင်း ရုက္ခဗေဒ စမ်းသပ်ချက်တွေ လုပ်ပြီး မဲန်ဒဲလ်ရဲ့ဥပဒေကို တွေ့ကြတယ်။ တွေ့ရှိချက်ကို ပုံနှိပ် ဖြန့်ဝေခြင်း မလုပ်ခင် (အထောက်အထား) စာရှာရင်း၊ မဲန်ဒဲလ်ရဲ့ မူရင်းစာတမ်းကို တွေ့တယ်။ မဲန်ဒဲလ်ရဲ့ စာတမ်းကို သေသေချာချာ ကိုးကားတယ်။ သူ့တွေ့ရှိချက်ဟာ မဲန်ဒဲလ် တွေ့ရှိချက်ကို ထောက်ခံတာပဲဖြစ်တယ်လို့ ပြောတယ်။ သုံးဦးသုံးဖက် တိုက်ဆိုင်ကြပုံ ဆန်းလှတယ်။ အဲဒါအပြင်၊ အဲဒီနှစ်ကပဲ ဝီလီယမ် ဘက်တေဆင် (William Bateson) ခေါ်တဲ့ တခြားသိပ္ပံပညာရှင်တွေကို (အဲဒီစာတမ်းရဲ့အကြောင်းကို) ပြောပြခဲ့တယ်။ နှစ်ကုန်ပိုင်းရောက်တော့ မဲန်ဒဲလ်ကို သူမသေမီက ကြီးကြီးကျယ်ကျယ် ရထိုက်တဲ့ဂုဏ်ပြုခြင်းကို ခုမှပဲ ပေးကြရတော့တယ်။

မဲန်ဒဲလ်တွေ့တယ်ဆိုတဲ့ မျိုးဆက် အကြောင်းက ဘာလဲ။ ဘယ်ဇီဝရုပ် (Organism) မဆို သူ့မှာ အခြေခံပုံစံ (Basic units) တွေရှိတယ်။ အဲဒီအခြေခံပုံစံကို ခုတော့ ဂျင်း (Gene အဦးအစ) ခေါ်နေကြပြီ။ အဲဒီဂျင်းအရ ဆက်ခံတဲ့ မျိုးဆက်က ဗီဇ အခြင်းအရာတွေကို အမွေရတယ်။ အပင်တွေမှာ မဲန်ဒဲလ် လေ့လာချက်အရ အရည်အချင်း တစ်ခုစီ၊ ဥပမာ အစေ့ရောင်ဖြစ်ဖြစ်၊ အရွက် ပုံသဏ္ဍာန် ဖြစ်ဖြစ် ပေါ်လာဖို့ ဂျင်း (genes) တစ်စုံက အဆုံးအဖြတ် ပေးတယ်။ အပင်တစ်ပင် ဆိုရင် မိဘ တစ်ဦးစီက ဂျင်းတစ်စုံက ဂျင်းတစ်ခုကို ဆင်းသက်ရရှိတယ်။ မဲန်ဒဲလ် တွေ့ရှိတာက မျိုးရိုးသတ္တိ (trait) တစ်ခုအတွက် ဂျင်းနှစ်ခု ဖြစ်နေရင် (ဥပမာ ဂျင်းတစ်ခုက အစေ့စိမ်းပြီး၊ နောက်တစ်ခုက ဝါနေရင်) ဒီမှာ အဝါက ဂျင်းသန်လို့ အဝါပဲ ထင်ရှား လာမယ်။ ဒါပေမယ့် ညံ့တဲ့ ဂျင်းက ပျက်စီးသွားတာ မဟုတ်ပါ။ နောက်မျိုးဆက်မှာ ပြန်ပါလာမှာ ဖြစ်ပါတယ်။ မဲန်ဒဲလ်က မျိုးပွားနိုင်တဲ့ ဆဲလ် တစ်ခုကို ဂမ်မိ (gamete) လို့လည်း ခေါ်တယ်။ လူမှာ သုတ်ကောင် (sperm) ဥဆဲလ် (egg cell) ဟာလည်း တစ်စုံ (One pair) မှာ ဂျင်း (genes) တစ်ခုပဲရတယ်။ သူက ဘယ်ဆဲလ်လာမယ် အတိအကျ မပြောနိုင်သလို ဂမ်မိ (gamete) ဟာ ဆက်ပွား ဆီကို ရောက်လာမယ်။

မဲန်ဒဲလ် ဥပဒေကို နည်းနည်း ပြင်ပြီး မျိုးရိုးပညာ(Genetics) ခေါ်တဲ့ ခေတ်သိပ္ပံတစ်ခု ဖြစ်လာပါတယ်။ မဲန်ဒဲလ်လို အပျော်တမ်း သိပ္ပံလေ့လာသူ တစ်ဦးက အခုလို သိပ်အဖိုးတန်တဲ့ ဥပဒေတွေကို အင်မတန် စွမ်းပြီး

အင်မတန်များတဲ့ ရက္ခဗေဒနဲ့ အသက်မွေးတဲ့ ပညာရှင်ကြီးတွေ မတွေ့လိုက်ရဘဲ ရှိနေတဲ့ ကိစ္စကို သူက ကျော်ပြီး သိရတယ်လို့ ဆိုတာ ဘယ်လိုလဲ လို့မေးပါ။ သူက လေ့လာရေးအတွက် ရွေးတဲ့ အပင်ပါ ဂျင်းတစ်မျိုးပဲထွက်တဲ့ အခြင်းအရာရှိတဲ့ အပင် ဖြစ်နေတယ်။ တကယ်လို့သာ ဂျင်းတွေ အစုံစုံပါတဲ့ ပင်မျိုးဆိုရင် သူလုပ်တဲ့သုတေသနလုပ်ငန်းဟာ သိပ်ခက်၊ သိပ်ရှုပ်သွားမယ်။ ဒါပေမယ့် ဒီလို ကံကောင်းတာ တစ်ခုတည်းနဲ့ မဲန်ဒဲလ်ဟာ ဒီလိုအောင်မြင်တာ မဟုတ်ပါ။ သူက အဆမတန် သည်းခံပြီး စမ်းသပ်ချက် (experiments) တွေကို လုပ်ပြီး စာရင်းအင်းစစ်ဆေးနည်း (Statistical Analysis) နဲ့ သူမြင်ထားတာတွေကို စစ်ဆေးပါတယ်။ စောစောက ပြောသလို ကံကောင်းရင် တိုက်ဆိုင်မှာပဲ ဆိုပြီး ဘယ်မျိုးရိုး သတ္တိက ဘယ်မျိုးဆက်ဆီ ရောက်မလဲလို့ ကြိုမသိနိုင်ပါ။ စမ်းသပ်ချက် တကယ့်ကို အများကြီး လုပ်ရလိမ့်မယ်။ မှတ်တမ်းအရ မဲန်ဒဲလ်ဟာ အပင် ၂၁၀၀၀ (နှစ်သောင်းတစ်ထောင်) စမ်းသပ်ပြီး စစ်ဆေး (Analysis) လုပ်နိုင်လို့ ဥပဒေလုပ်နိုင်တာ ဖြစ်ပါတယ်။ မျိုးရိုးဥပဒေ (laws of heredity) ဟာ လူ့အသိတွေထဲမှာ အရေးပါတယ်ဆိုတာ ထင်ရှားပါတယ်။ ဒါကို အခုထက်ရှေ့အနာဂတ်မှာ ပိုပြီး အရာရောက်အောင် သုံးတတ်ကြမှာပါ။

မဲန်ဒဲလ်ကို ဒီစာအုပ်မှာ ဘယ်နေရာ ပေးမလဲဆိုတဲ့ ကိစ္စကို ဆွေးနွေးရမှာပါ။ သူမသေခင်က သူ့တွေ့ရှိချက်ကို ဘယ်သူမှ ဂရုမပြုမိတာ မှန်ပေမယ့် သိပ္ပံပညာရှင် သုံးဦးက မတိုက်ဆိုင်ဘဲ တစ်ဦးချင်း သူ့ဥပဒေကို ပြန်တွေ့ရှိကြတာကို ထောက်ရင် မဲန်ဒဲလ် တွေ့ရှိချက်ကို ချဲ့လို့ရနိုင်သေးတယ် ဆိုတဲ့ သဘောရှိတယ်။ (ဆက်လက်အလုပ်လုပ်လို့ ရတယ်ဆိုတဲ့ သဘောပါပဲ။) ဒီအတွေးကို ဆက်ပြီး ပွားများကြည့်ရင် မဲန်ဒဲလ်ကို လေ့ဖ်အရစ်ဆင် (Leif Ericson)၊ အရစ်စ်တာချပ်စ် (Aristarchus) နဲ့ အစ်ဂနဇ် ဆဲမ်မယ်လ်ဝစ် (Ignaz Semmelweiss) တို့ကို ချန်ပြီး၊ ကိုလံဘတ်စ် (Columbus)၊ ကော်ပါးနိကပ်စ် (Copernicus) နဲ့ ဂျိုးဆက်လစ်စတာ (Joseph Lister) တို့ကို ထည့်သလို လုပ်ရမှာလား။ မဲန်ဒဲလ်ကိစ္စက သူများကိစ္စနဲ့ မတူပါ။ မဲန်ဒဲလ် အလုပ်ကို မေ့ထားတယ် ဆိုတာက ခဏမျှဖြစ်တယ်။ ပြန်တွေ့ပြီ ဆိုတာနဲ့ အမြန် ပျံ့နှံ့ပြီး ကျော်ကြားသွားတယ်။ အဲဒါအပြင် ဒေဗြီး (de Vries)၊ ကော်ရဲန် (Correns) နဲ့ ချာမက် (Tschermark) တို့က သူတို့ဘာသာ ရှာဖွေတယ်ဆိုပေမယ့် သူ့စာတမ်းကို ဖတ်တယ်။ သူ့တွေ့ရှိချက်ကို ကိုးကားတယ်။ နောက်ဆုံး ပြောစရာက မဲန်ဒဲလ်ကို ဒီသုံးယောက် ပေါ်မလာလည်း လုံးလုံး မေ့ထားလို့ရမယ် မဟုတ်ပါ။ မဲန်ဒဲလ် စာတမ်းကို (ဒဗလျူအိုဖုတ် W.O. Focke) ပြုစုပြီး အနှံ့ဖြန့်ထားတဲ့ ကျမ်းစာရင်း (bibliography) မှာ မျိုးဆက် (heredity) အကြောင်း စာရင်းပါထားပြီးဖြစ်တယ်။ ဒီလိုပါပြီးရင် အနှေးနဲ့အမြန် ပညာရှာသူ တစ်ယောက်ယောက်က တွေ့တော့မှာ အမှန် ဖြစ်ပါတယ်။ ပြီးတော့ သိပ္ပံပညာရှင် သုံးဦးက မျိုးရိုးပညာမှာ သူတို့ပထမလို့ ဘယ်သူကမှ မပြောပါ။ အများတကာကလည်း ဒီသိပ္ပံဥပဒေကို မဲန်ဒဲလ်ဥပဒေ (Mendel’s Laws) လို့ပဲ ခေါ်ကြတယ် ဆိုတာလည်း ထည့်စဉ်းစားပါ။ မဲန်ဒဲလ် တွေ့ရှိချက်ဟာ စတင်တွေ့ပုံနဲ့ အဖိုးတန်ပုံက ဟာဗေး (Hervey) ရဲ့ သွေးလှည့်ပတ်ခြင်း (blood

circulation) နဲ့ သိပ်ပြီးဆင်တယ်။ ဒါကြောင့် သူ့ကို အခုလို နေရာမှန်ပေးရခြင်း ဖြစ်ပါတယ်။

26, March, 2001.

# (၅၉) မက်စ် ပလင့်ခ် (၁၈၅၈ – ၁၉၄၇)

# MAX PLANCK (1858 – 1947)

မက်စ်ပလင့်ခ် (Max Planck) အမည်ရှိတဲ့ ဂျာမန် ရူပဗေဒဆရာက ဖြာထွက်စွမ်းအင် (radiant energy အလင်းရောင်လှိုင်းရဲ့အစွမ်း) ဟာ အစဉ်တစိုက်ဆင်းတဲ့ သဘောမရှိ၊ အတုံးအခဲ သဘောပဲဖြစ်လို့ ကွမ်တာ (quanta) ခေါ်ရမယ်လို့ ဒီဇင်ဘာ ၁၉၀၀ မှာ ရဲရဲဝံ့ဝံ့ သူ့ရဲ့ အဆိုကြမ်းကို ထုတ်ဖော်ပြောလိုက်တဲ့အခါ သိပ္ပံပညာရှင် လောက တစ်ခုလုံး ချောက်ချားသွားပါတယ်။ ပလင့်ခ်ရဲ့ အဆိုကြမ်းဟာ အလင်းရောင်နဲ့ လျှပ်စစ်သံလိုက်ပညာ (electromagnetism) ဆိုင်ရာ ရှေးအယူအဆ အားလုံးနဲ့ ဆန့်ကျင်ပြီး ကွမ်တမ် သီအိုရီ (quantum theories) တွေကို အစဖော်ပေးလို့ ရူပဗေဒ ပညာကို အကြီးအကျယ် တိုးတက် ပြောင်းလဲစေတယ်။ ရုပ်ဒြပ် (matter) နဲ့ ဖြာထွက် ရောင်ခြည် (radiation) တွေရဲ့သဘာဝကို ပိုပြီး နက်နဲအောင် သဘောပေါက်ဖို့ လမ်းစကို ပြသခဲ့ပါတယ်။

ပလင့်ခ်ကို ၁၈၅၈ မှာ ဂျာမနီ (Germany) ကေ (Kiel) မှာ မွေးဖွားတယ်။ ဘာလင် (Berlin) နဲ့ မြူးနစ် (Munich) တက္ကသိုလ်တွေမှာ ပညာသင်ပြီး ရူပဗေဒပညာ ဒေါက်တာဘွဲ့ (အချုပ်နဲ့ အမွှမ်း summa cum laude) ကို အသက်နှစ်ဆယ့် တစ်နှစ်ကပဲ မြူးနစ်တက္ကသိုလ် (Munich University) က ရရှိခဲ့တယ်။ အချိန်အတော်ကြာ မြူးနစ်တက္ကသိုလ်နဲ့ ကေ တက္ကသိုလ်တွေမှာ စာသင်ပေးခဲ့တယ်။ နောက် ဘာလင် တက္ကသိုလ် (Berlin University) မှာ အသက်ခုနစ်ဆယ် ၁၉၂၈ အငြိမ်းစား ယူတဲ့အထိ ပါမောက္ခ လုပ်ခဲ့ပါတယ်။

ပလင့်ခ်ဟာ တခြားသိပ္ပံပညာရှင်တွေလိုပဲ တကယ့်ကို အပီအသ မည်းတဲ့ အတုံးတစ်တုံးကို အပူခါတ် ပေးလိုက်ရင် လျှပ်စစ် သံလိုက်ခါတ် (electromagnetic) ဖြာထွက် (radiation) တယ်၊ မထွက်ဘူး ဆိုတာ ပြောနိုင်အောင် ရှာဖွေစမ်းသပ်ချင်စိတ် ရှိပါတယ်။ တကယ်မည်းတယ် ဆိုရင် အတုံး ပေါ်ကျတဲ့ အရောင်ဟာ ရောင်ပြန် (reflect) မထွက်နိုင်၊ ကျရောက် လာတဲ့ အရောင်ကို အားလုံး စုပ်ယူမှာသာ ဖြစ်တယ်လို့ ရှင်းလင်း ပြောပြလေ့ရှိကြတယ်။ လက်တွေ့စမ်းသပ်လိုတဲ့ ရူပဗေဒ ပညာရှင်တွေက အခုလိုဝတ္ထုပစ္စည်းက ဖြာထွက်ချက် ဘယ်လောက် ရှိနိုင်သလဲဆိုတာ သိရအောင် အသေအချာ ဂရုစိုက်ပြီး တိုင်းထွာနေကြပါပြီ။ အဲဒီနောက်မှ ဒီပြဿနာကို စုံစမ်းတဲ့လူစုထဲမှာ ပလင့်ခ် ဝင်လာတာ ဖြစ်တယ်။ ပလင့်ခ်ရဲ့ ပထမအောင်မြင်ချက်က

အမည်းတုံးကြီးရဲ့ အရောင်ဖြာထွက်ပုံကို အကျအန အကွာရာ သင်္ချာနည်းနဲ့ တွက်ယူနိုင်အောင် ပုံသေနည်း ပေးနိုင်တာပဲ ဖြစ်ပါတယ်။ ဒီပုံသေနည်းကို သီအိုရီဆိုင်ရာ ရူပဗေဒမှာ ကနေ့ထိ သုံးနေဆဲဖြစ်တယ်။ ဒီနည်းနဲ့ လက်တွေ့စမ်းသပ်ချက်ရဲ့ တွေ့ရှိပုံကို သေသေ သပ်သပ် အချုပ်သဘော ဖော်ပြနိုင်ပါတယ်။ ဒါပေမယ့် ပေါ်လာရတဲ့ပြဿနာက လက်ခံထားပြီး ရူပဗေဒ ဥပဒေအရ ထွက်ပေါ်လာတဲ့ အဖြေနဲ့ အခု ပုံသေနည်းက ပေးလာတဲ့အဖြေနဲ့ မကိုက်ညီပဲ တလွဲစီ ဖြစ်နေပါတယ်။ ပလင့်ခ်က ဒီပြဿနာကို အလေးအနက် ထားပြီး စဥ်းစားတဲ့အခါ ပြောင်ပြောင်တင်းတင်း သီအိုရီ အသစ်တစ်ခုကို ရှာဖွေ တွေ့ရှိလာပါတယ်။ ဖြာထွက်စွမ်းအင် (radiation energy) ရှိတယ် ဆိုတာမှာ အတိအကျ တူညီတဲ့ အခြေခံယူနစ် (elementary Unit) တွေ အကြိမ်ကြိမ်ပေါ်လာတာကို ဆိုလိုတယ်။

ပလင့်ခ်က ဒီယူနစ်ကို ကွမ်တမ် (quantum) လို့ အမည်ပေးပါတယ်။ ပလင့်ခ်ရဲ့သီအိုရီအရ အလင်းရဲ့ ကွမ်တမ်ပမာဏ (quantum magnitude) ဟာ အလင်းကြိမ်နှုန်း (light frequency) ပေါ်မှာ တည်တယ်။ ပြီးတော့ ရူပဗေဒ မတ္တာ (Physical quantity) ရဲ့ အချိုးတူကိန်း (proporation) နဲ့လည်း ဆိုင်တယ်။ ပလင့်ခ်က အဲဒီကိန်းကို အတိုကောက်နည်းနဲ့ ‘h’ လို့ သတ်မှတ်ပေမယ့် အခုတော့ ပလင့်ခ်ကိန်းသေ (Planck’s constant) လို့ ခေါ်ပါတယ်။ ပလင့်ခ်ရဲ့အဆိုကြမ်းက အဲဒီခေတ်က ရူပဗေဒအတွေးအခေါ်တွေနဲ့ အထင်အရှား ဆန့်ကျင်နေတယ်။ ဒါပေမယ့် သူ့နည်းနဲ့သူ အမည်းတုံးရဲ့ ဖြာထွက်ရောင်ခြည်ကို မှန်အောင်တွက်ဖို့ ပုံသေနည်း (formula) ကို ဖော်ထုတ်ပေးနိုင်ခဲ့ပါတယ်။

ပလင့်ခ်ရဲ့အဆိုကြမ်း (Hypothesis) က သိပ်ပြီး ကြီးကျယ်လွန်းလို့ အရူးစကား၊ အပေါစကား လို့တောင် ပယ်နိုင်စရာ ရှိတယ်။ ဒါပေမယ့် ပလင့်ခ်ဟာ မှီငြမ်းပြုစရာ ရင့်မာတဲ့ သမရိုးကျ ရူပဗေဒ ဆရာကျော်ဖြစ်လို့၊ ဒီလို ပြီစလွယ် ဖယ်ရှားပစ်တာကို မခံရတာဖြစ်တယ်။ သူ့အဆိုကြမ်းဟာ သိပ်ဆန်းကြယ်ပေမယ့် ဒီတစ်ခါတော့ ပုံသေနည်းမှန်ကို ဖော်ထုတ်နိုင်တဲ့အထိ အောင်မြင် သွားပါတယ်။

အစပထမမှာ (ပလင့်ခ် ကိုယ်တိုင်ပါဝင်တဲ့) ရူပဗေဒ ပညာရှင်အများက သူ့အဆိုကြမ်းကို ခပ်ပေါ့ပေါ့ သင်္ချာလုပ်ဇာတ် တစ်ခုထက်တိုးပြီး အလေးမထားပါ။ ဒါပေမယ့် နှစ်ကာလသိပ်မကြာခင်မှာပဲ အမည်းတုံး ဖြာထွက် ရောင်ခြည်သာမက ရူပဗေဒ အခြင်းအရာ အမျိုးမျိုးမှာပါ ပလင့်ခ်ရဲ့ ကွမ်တမ် အယူအဆကို ယူပြီး သုံးနိုင်တာ တွေ့လာကြတယ်။ အိုင်းစတိုင်း (Einstein) က ၁၉၀၅ မှာ အလင်းလျှပ်စစ် အကျိုးကို ရှင်းပြတဲ့အခါမှာ ဒီအယူအဆကို ယူသုံးတယ်။ နီးစ်ဘော (Niels Bohr) က ၁၉၁၃ မှာ အက်တမ်တည်ဆောက်ပုံသီအိုရီ (theory of Atomic structure) ကို ဖော်ပြတဲ့အခါမှာ ဒီအယူအဆ ကို သုံးတယ်။ ပလင့်ခ်ကို ၁၉၁၈ မှာ နိုဘယ်ဆု (Nobel Prize) ပေးတော့ သူ့အဆိုကြမ်းဟာ အခြေခံက စပြီး မှန်ကန်တယ်။ ဒီအယူဟာ ရူပဗေဒ သီအိုရီပိုင်းမှာ မရှိမဖြစ်အောင် အရေးပါတယ်ဆိုတာ

ထင်ရှားလာပါတယ်။

ပလင့်ခ်ရဲ့ နာဇီဆန့်ကျင်ရေးအယူ (Anti–Nazi Views) ကြောင့် ဟစ်တလာခေတ် (Hitler era) မှာ အသက်အန္တရာယ် စိုးရိမ်ရတယ်။ သူ့သား အငယ်က ၁၉၄၅ မှာ ဟစ်တလာကို အရာရှိတွေ လုပ်ကြံစဉ်က မအောင်မြင် တော့ ဒီအရေးမှာ ပါဝင်လို့ အသတ်ခံရတယ်။ ပလင့်ခ်က ၁၉၄၇ အသက်ရှစ်ဆယ့်ကိုးမှာ ကွယ်လွန် ပါတယ်။

ကွမ်တမ်မက္ကင်းနစ်ပညာဟာ နှစ်ဆယ်ရာစုနှစ် အတွင်း သိပ္ပံပညာ တိုးတက်ရေးမှာ အရေးအပါဆုံးလို့ ဆိုလောက်တယ်။ အိုင်စတိုင်းရဲ့ ဆက်နွယ်မှု သီအိုရီတွေ (theories Of relativity) ထက်တောင် ပိုပြီး အရေးပါ အရာရောက်ပါတယ်။ ပလင့်ခ်ရဲ့ကိန်းသေ ‘h’ ဟာ ရူပဗေဒ သီအိုရီတွေမှာ အရေးပါတဲ့ အတွက် အရာရောက်တဲ့ ရူပဗေဒကိန်းသေ နှစ်မျိုးသုံးမျိုးထဲမှာ သူလည်းပါတယ်။ အက်တမ်တည်ဆောက်ပုံ သီအိုရီမှာ ပါတဲ့အပြင် ဟိုင်ဆန်ဘာ့ဂ် (Heisenberg) ရဲ့ မသေချာတဲ့ နိယာမ မှာလည်း ပါတယ်။

ဖြာထွက်ရောင်ခြည်သီအိုရီမှာလည်း ပါတယ်။ အဲဒီလို သိပ္ပံဆိုင်ရာ ပုံသေနည်း အများမှာလည်း ပါနေတယ်။ ပလင့်ခ်ရဲ့ အရင်းခံမှန်းဆချက်မှာ ဒီအယူအဆရဲ့ ဂဏန်းတန်ဖိုးဟာ အခုလက်ခံ ထားတဲ့ တန်ဖိုးထက် နှစ်ရာခိုင်နှုန်းပဲ ရှိပါတယ်။ ပလင့်ခ်ကို ‘ကွမ်တမ်မက္ကင်းနစ်ပညာ (quantum mechanics) ရဲ့ဖခင်’ လို့ အများက အသိအမှတ်ပြုထားပါတယ်။ ဒီသီအိုရီရဲ့ နောက်ပိုင်း တိုးတက်မှုတွေမှာ သူ့အပိုင်းကဏ္ဍက သိပ်နည်း သွားတာတောင် သူ့ကို လျှော့တွက်လို့မရပါ။ စတင် ဖော်ထုတ်တဲ့အပိုင်းဟာ သိပ်ကိုအရေးပါတယ်။ အရင်က အယူအဆလွဲမှားတာကို ခေါင်းထဲက ထုတ်ပစ်ပါ လို့ ပြောရတာမလွယ်ပါ။ ဒါကိုကျော်နိုင်လို့သာ ဒီကနေ့ အခုလို တံခွန်ထူနိုင်တာ ဖြစ်တယ်။

29, May, 2001.

# (၆၀) ဂျိုးဆက် လစ္စတာ (၁၈၂၇ – ၁၉၁၂)

# JOSEPH LISTER (1827 – 1912)

လူနာကို ခွဲစိတ်တဲ့အခါ အပုပ်နိုင်ဆေး (Antiseptic) နည်းတွေကို စတင်အသုံးပြုတဲ့ ဗြိတိသျှ ခွဲစိတ်ကု ဆရာဝန် ဂျိုးဆက်လစ္စတာ (Joseph Lister) ကို အင်္ဂလန် အပ်ပ်တန် (Upton) မှာ ၁၈၂၇ မှာ မွေးဖွားခဲ့ပါတယ်။ လန်ဒန် ယူနီဗာစီတီ ကောလိပ် (University College, London) က ၁၈၅၂ မှာ ဆေးပညာဘွဲ့ရတယ်။ စာတော်တယ်လို့ နာမည်ရတယ်။ ၁၈၆၀ က ဂလပ်စဂိုလူနာရုံတော် (Glasgow Royal Infirmary) မှာ ခွဲစိတ်ဆရာဝန် (surgeon) ဖြစ်လာတယ်။ အဲဒီအလုပ်ကို ရှစ်နှစ် လုပ်ပါတယ်။ အတိအကျ ပြောရရင် အဲဒီအချိန် ကာလအတွင်းမှာ သူထွင်တဲ့ အပုပ်နိုင် ဆေးနည်းနဲ့ ခွဲစိတ်ပုံကို တော်တော်ကြီး ဖြစ်မြောက်အောင် ဖော်နိုင်ခဲ့ပါတယ်။ ဂလပ်စဂို လူနာရုံတော်မှာ လစ္စတာက ခွဲစိတ်ကုဆောင် တစ်ဆောင်လုံး (block) ကို အုပ်ချုပ် ရတယ်။ ခွဲပြီးမှ သေတဲ့ လူနာဦးရေများလို့ စိတ်မသက်မသာ ဖြစ်နေတယ်။ ခွဲစိတ်ပြီးတာနဲ့ ဆိုးဝါးတဲ့ အသားပုပ်ဆွေးနာ (gangrene) ဝင်လို့ ဒုက္ခတွေ့ကြရတယ်။ လစ္စတာက လူနာဆောင်ကို သိပ်ပြီး သန့်ရှင်းအောင် ထားပေမယ့် မလုံလောက်ဘူး။ လူနာတွေ သေမြဲသေနေကြတယ်။ ဆရာဝန် အများက ဆေးရုံဝန်းကျင်မှာ လေညစ်ညမ်း (miasmas noxious vapours) တာတွေကြောင့် အနာရင်းတာလို့ ပြောလေ့ရှိတယ်။ ဒီအဖြေကို လစ္စတာက လက်မခံပါ။

လူဝီပါ့စချာ (Louis Pasteur) က ၁၈၆၅ မှာ ရေးသား ဖတ်ကြားတဲ့ 'အနာရောဂါဟာ ပိုးကြောင့်' ဆိုတဲ့သီအိုရီ (the germ theory of disease) ကို ဖတ်ရတယ်။ အဲဒါဟာ လစ္စတာအတွက် (လျှို့ဝှက်ခန်း) သော့ဖြစ်ပါတယ်။ အနာရင်းတာဟာ ပိုးကြောင့်လို့ဆိုတာကို လက်ခံရင်၊ ခွဲထားတဲ့အနာထဲကို ပိုးမဝင်အောင် ပိုးကို သတ်နိုင်ရမယ်။ ဒါဆိုရင် ခွဲစိတ်ခံရတဲ့လူနာဟာ အနာရင်းပြီး မသေနိုင်တော့ပါ။ ကာဘော်လစ်အက်ဆစ် (Carbolic Acid) ကို ပိုးသတ်ဆေး အဖြစ်နဲ့ သုံးရာက လစ္စတာဟာ တခြား ပိုးသတ်နည်းတွေကို တသီကြီး သုံးစွဲပါတော့တယ်။ ခွဲစိတ်တာ မစခင် လက်ကို ဂရုတစိုက်ဆေးတယ်။ အဲဒါအပြင် သုံးစွဲတဲ့ လက်နက် ကိရိယာလည်း သန့်စင် ရမယ်။ အနာစည်းတဲ့ ပတ်တီးလည်း လုံးဝသန့်ရမယ်။ ခွဲစိတ်ခန်းမှာ ကာဘော်လစ် အက်ဆစ်ရည်ကို လေထဲမှာ ရေပန်း (spray) နဲ့ ပန်းထားလိုက်သေးတယ်။ အဲဒီတော့ ခွဲပြီး လူနာသေနှုန်းဟာ သိသိသာသာကြီး ကျဆင်း လျော့နည်းသွားတယ်။ ၁၈၆၁ –

၁၈၆၅ အတွင်း အမျိုးသား လူနာခန်းမှာ ၄၅ ရာနှုန်း သေတယ်။ ၁၈၆၉ ရောက်တော့ ၁၅ ရာနှုန်းပဲ သေတော့တယ်။ လစ္စတာရဲ့ အင်မတန်ကျော်ကြားတဲ့ ခွဲစိတ်တဲ့အခါ အနာမရင်းအောင် ကာကွယ်နည်း စာတမ်းကြီးဟာ ၁၈၆၇ မှာ ပေါ်ထွက် ပုံနှိပ်ဖြန့်ဝေပါတယ်။ သူ့စိတ်ကူးကို ပထမက ချက်ချင်း အရေးမယူ၊ မဆောင်မရွက် နေကြသေးတယ်။ သူ့ကိုတော့ ၁၈၇၅ မှာ အီဒင်ဘာ့ဂ် တက္ကသိုလ် (Edinburgh University) ရဲ့ ခွဲစိတ်ဆေးခန်းမှူး အဖြစ် ခန့်ထားပါတယ်။ ဂျာမနီကို ၁၈၇၅ မှာ အန်ံ့သွားပြီး သူ့စိတ်ကူး၊ သူ့နည်းတွေကို ဟောပြော ပို့ချပါတယ်။ နောက်တစ်နှစ် (၁၈၇၆) မှာ အမေရိကကို သွားပြီး ဒီလိုပဲ ဟောပြောပါတယ်။ ဒါတောင် ဆရာဝန် အများစုက သူပြောတာကို သိပ် သဘောပေါက် နားလည်ပြီလို့ မပြောနိုင်သေးပါ။ လစ္စတာကို ၁၈၇၇ မှာ လန်ဒန်ဘုရင့်ကောလိပ် (King’s College) ရဲ့ ဆေးခန်း ခွဲစိတ်ပါမောက္ခ ခန့်ထား လိုက်တယ်။ ဒီနေရာမှာ တစ်ဆယ့်ငါးနှစ် အမှုထမ်းတယ်။ အဲဒီလို အမှုထမ်းခိုက် သူက အနာမရင်းအောင် ခွဲစိတ်ပုံကို လက်တွေ့လုပ်ပြတာများတော့ ဆေးဆရာဝန် အသိုင်းအဝိုင်းမှာ သူ့ကို ယုံကြည်ပြီး သူ့နည်းကို ထောက်ခံ လိုက်နာသူ များလာပါတယ်။ သူကွယ်လွန်ချိန်မှာတော့ သူထွင်တဲ့ အနာမရင်းအောင် ခွဲစိတ်နည်းဟာ တစ်ကမ္ဘာလုံး လက်ခံ လိုက်နာပြီး ဆရာဝန်မှန်သမျှ ကျင့်ကြံကြရတဲ့ နည်းတစ်ခု ဖြစ်လာပါတယ်။ အခုလို နည်းတစ်ခုကို စတင် ဆောင်ရွက် လိုက်တာကြောင့် လစ္စတာကို အများကြီး ဂုဏ်ပြုကြပါတယ်။ အသင်းတော် (Royal Society) မှာ ဥက္ကဋ္ဌ အဖြစ်နဲ့ ငါးကြိမ် အရွေးခံရတယ်။ ဘုရင်မဝိတိုရိယ (Queen Victoria) ရဲ့ သမားတော် ခန့်ထားခြင်းခံရတယ်။ ဇနီးရှိပေမယ့် သားသမီးမရပါ။ အသက် ၈၅ ထိ နေသွားတယ်။ ၁၉၁၂ အင်္ဂလန် (England) ဝါလမာ (Walmer) မှာ သေဆုံးတယ်။

ခွဲစိတ်တဲ့နေရာမှာ လစ္စတာရဲ့ နည်းသစ်ကြောင့် အင်မတန် ကြီးမားတဲ့ ပြောင်းလဲချက်တွေ ပေါ်လာ ခဲ့ပါတယ်။ အသက်ပေါင်း သန်းပေါင်း များစွာကိုလည်း ကယ်နိုင်ခဲ့ပါတယ်။ ခွဲစိတ်လို့သေတဲ့လူ နည်းသွားတယ်လို့ ပြောရရုံသာမဟုတ်ပါ။ အသေခံမယ်၊ အခွဲမခံဝံ့ပါ ဆိုတဲ့ လူတွေလည်း အရင်နှစ် တွေကထက် အခု အများကြီး အခွဲခံကြလို့ ဝေဒနာက လွတ်မြောက်ပြီး အသက်ရှင်ခဲ့ရတဲ့ လူတွေလည်း မနည်းပါ။ အဲဒါအပြင် ဆရာဝန်တွေကလည်း သူ့နည်းကို အားကိုးပြီး အရင်က အနာရင်းမှာ စိုးရိမ်ပြီး မခွဲရဲတာတွေကို အခုခွဲရဲလာလို့ ခွဲစိတ်ပညာမှာ အများကြီး တိုးတက်လာခဲ့ရပါတယ်။ ဥပမာ အရင် အနှစ်တစ်ရာက အခုအခါလို ရင်ဘတ်ကျဥ်း(chest cavity) ကို မဖွင့်ရဲပါ။ ကနေ့ ပိုးသတ်ပြီး ခွဲတဲ့နည်းဟာ လစ္စတာနည်း အတိုင်းပဲလို့ မပြောလိုပါ။ လုပ်နည်းလုပ်ဟန်တွေ အများကြီး တိုးတက်နေပါပြီ။ ဒါပေမယ့် အခြေခံ စိတ်ကူးနဲ့ ဆောင်ရွက်ပုံက သူ့အတိုင်းပြဲဖြစ်လို့ လစ္စတာရဲ့နည်းကို ဆက်ခံ သုံးစွဲကြရပါတယ် လို့ ပြောရမှာဖြစ်ပါတယ်။ လစ္စတာရဲ့ စိတ်ကူးဟာ ပါ့စချာက စတာဖြစ်လို့ သူ့ကို ဒါလောက် ဂုဏ်ပြု မနေသင့်လို့ ပြောလာရင်လည်း နည်းကိုပြောတာနဲ့ နည်းကို လက်တွေ့ဖြစ်အောင် လုပ်သူဟာ ကွာခြားပါတယ်။ နှစ်ဦး နှစ်မျိုးကိုပဲ ဂုဏ်ပြုရမှာ ဖြစ်တယ်။ ပြီးတော့ ဒီစာအုပ်မှာ နှစ်ယောက်

စလုံးပါနေတော့ ဆောင်ရွက်ချက် တစ်မျိုးတည်းကို နှစ်ခါ ထပ်ပြောနေတယ်လို့ စွပ်စွဲကြမှာဖြစ်တယ်။ ဒါပေမယ့် ဒီပိုးကြောင့် ဒုက္ခရောက်ရတယ်ဆိုတဲ့ သီအိုရီအတွက် ပါ့စချာ (Pasteur)၊ လီဥဝဲန်ဟောက် (Leeuwonhoek)၊ ဖလဲမ်မင်း (Fleming) နဲ့ လစ္စတာ (Lister) အားလုံးကိုပေါင်းပြီး ဂုဏ်ပြုလို့လည်း မရပါ။ သူတို့ဆောင်ရွက်ချက်ဟာ သိပ်ပြီးကြီးကျယ်လို့ ဒီစာအုပ်မှာ သူတို့အားလုံးကို တစ်နေရာစီ ပေးပြီး ဖြစ်ပါတယ်။

စာရင်းချတော့ လစ္စတာကို ရှေ့တင်ထားတာကို ကန့်ကွက် နေဦးမှာလား။ သူ့အရင် အနှစ် နှစ်ဆယ်လောက်က ဟန်ဂေရီ (Hungary)က ဆရာဝန် အစ်ဂနာ့ဇ် ဆဲမ်မလ်ဝစ် (Ignaz Semmel weiss 1818 – 1865) က၊ ဗီယင်နာ ပြည်သူ့ဆေးရုံကြီး (Vienna General Hospital) မှာ အထင်အရှား ပိုးသတ်နည်းနဲ့ သားဖွား (obstetrics) အခွဲအစိတ်မှာ အသုံးချပြခဲ့ပါတယ်။ ဆဲမ်လ်ဝစ်က ပါမောက္ခလည်း ဖြစ်ခဲ့ပါတယ်။ ကျမ်းလည်းပြုပါတယ်။ ဒါပေမယ့် သူ့ကိုလူသိနည်းတယ်။ သူ့နည်းလည်း မပြန့်ပွားပါ။ ဂျိုးဆက်လစ္စတာ (Joseph Lister) က ရေးပြတယ်၊ ဟောပြောတယ်၊ လက်တွေ့လုပ်ပြတယ်။ ဒါကြောင့် ဆေးပညာရှင် နယ်ပယ်မှာ သူ့ကြောင့်ပျံ့နှံ့ပြီး သူ့ပိုးသတ်နည်း၊ အနာမရင်းအောင် လုပ်နည်းကို ဆေးဘက်က ပုဂ္ဂိုလ်တွေ လိုက်သုံးလာတာ ဖြစ်ပါတယ်။

11, June, 2001.

# (၆၁) နစ်ကိုလာ့စ် ဩဂတ်စ် ဩတို (၁၈၃၂ - ၁၈၉၁)

## NIKOLAUS AUGUST OTTO (1832 – 1891)

နစ်ကိုလာ့စ်ဩဂတ်စ် ဩတို (Nikolas August Otto) ဟာ ဂျာမန် အမျိုးသား နည်းသစ်၊ ပစ္စည်းသစ် တီထွင်သူ ဖြစ်တယ်။ ၁၈၇၆ မှာ လေးမောင်းဆွဲ အတွင်း လောင်ခြင်း အင်ဂျင်စက် (four stroke internal combustion engine) ကို စတင် တီထွင်ခဲ့တယ်။ အဲဒီ အင်ဂျင်ဟာ နောင်သိန်းသန်းချီပြီး အလားတူ လိုက်လုပ်မယ့် စက်တွေရဲ့ မူလအစ ဖြစ်ပါတယ်။ အတွင်းလောင်ခြင်း အင်ဂျင်ဟာ ကြိုက်သလို ပုံစံမျိုးစုံ သုံးလို့ရတဲ့ပစ္စည်း ဖြစ်ပါတယ်။ မော်တော်ဘုတ်၊ မော်တော်ဆိုင်ကယ်တွေမှာလည်း ဒီစက်ပဲ၊ စက်မှုလက်မှု အမြောက်အမြားမှာလည်း သူ့ကိုပဲသုံးရတယ်။ လေယာဉ်ပျံ တီထွင်ရာမှာလည်း အရေးအပါဆုံး မရှိမဖြစ်တဲ့ ပစ္စည်း ဖြစ်ပါတယ်။ (ပထမ ဂျက်လေယာဉ်ပျံ Jet Plane စတင်ပျံသန်းတဲ့ ၁၉၃၉ အထိ၊ လေယာဉ်ပျံတိုင်း ဒီအတွင်း လောင်ခြင်းအင်ဂျင်ကို ဩတို လည့်စက် (Otto cycle) နဲ့ မောင်းရပါတယ်။ ဒီအင်ဂျင်ကို အသုံးပြုရာမှာ အထူး အားထားရတာက လူ၊ တိရစ္ဆာန် မဆွဲမတွန်းပဲ သူ့အားနဲ့သူ သွားတဲ့ယာဉ်တွေကို အားသွင်းပေးတာပဲဖြစ်ပါတယ်။

ဩတိုရဲ့ အင်ဂျင် မပေါ်ခင်က ဒီလိုစက်မျိုး ဖြစ်အောင် ကြံစည်အားထုတ်ကြဖူးပါတယ်။ ကြိုးစားကြသူ တချို့ရဲ့ နာမည်ကိုပြောရရင် ဆစ်ဂ်ဖရစ်ဒ် မာကပ်စ် (Siefried Marcus 1875)၊ တေန်းလေနွာ (E’teinne Lenoir 1862) နဲ့ နီကိုလပ်စ် ဂျိုးဆက်ကပ်ဂနော့ (Nicolas Joseph Cugnot 1769) တို့ဖြစ်တယ်။ သူတို့ဟာ သူ့ဘာသာ ပြေးဆွဲတဲ့ ပုံစံငယ်လေးတွေကို ဖြစ်မြောက်အောင် လုပ်နိုင်ကြပါတယ်။ ဒါပေမယ့် သင့်တော်တဲ့ အမျိုးအစား၊ ခပ်ပေါ့ပေါ့နဲ့ အား ကောင်းကောင်းရအောင် လုပ်မပေးနိုင်ကြပါ။ နောက်ပြီး ဩတိုရဲ့ လေးမောင်း ဆွဲစက်ပေါ်ပြီး တစ်ဆယ့်ငါးနှစ် အတွင်းမှာပဲ တီထွင်သူ သီးခြားပုဂ္ဂိုလ်နှစ်ဦး ကားလ်ဘဲန်ဇ် (Karl Benz) နဲ့ ဂေါ့တလစ်ဗ် ဒိမ်မလာ (Gottlieb Daimler) တို့က ကိုယ့်ဘာသာ လှုပ်ရှား သွားလာနိုင်တဲ့ ယာဉ်ကိုတီထွင်ပြီး ဈေးကွက်ကို တင်လာ ကြပါတယ်။ ဒီလိုယာဉ်မျိုးကို အားဖြည့်တဲ့ စက်အမျိုးစုံ ပေါ်လာတယ်။ ရှေ့မကြာခင်မှာ ကိုယ့်တွန်းအားနဲ့ကိုယ် မောင်းနှင်နိုင်တဲ့ယာဉ်တွေ ပေါ်လာမယ့် သဘောရှိတယ်။ ရေနွေးငွေ့စက်၊ လျှပ်စစ် ဘက်ထရီ၊ အဲဒါအပြင် ဒါထက်ပိုပြီး ထူးခြား

ကောင်းမွန်တဲ့စက်တွေလည်း ပေါ်ပေါက် လာနိုင်စရာ အလားအလာ ရှိတယ်။ အများကြီး သာလွန် ကောင်းမွန် နိုင်ပါတယ်။ ဒါပေမယ့် အရင် (၁၉ ရာစုနှစ် အတွင်းက) သိန်းသန်းချီပြီး လုပ်သမျှစက်တွေရဲ့ ၉၉ ရာနှုန်းဟာ လေးမောင်းဆွဲ အတွင်းလောင်တဲ့ အင်ဂျင်တွေပဲ ဖြစ်ပါတယ်။ ဒီဇယ်အင်ဂျင်ဟာ တစ်မျိုးတစ်ဖုံ အစွမ်းထက်တဲ့ စက်ဆိုတယ်။ မော်တော်ကား အကြီးအငယ်စုံနဲ့ သင်္ဘောတွေကို မောင်းနှင်ပေးနေတယ် ဆိုပေမယ့် ဆီထည့်တဲ့ပုံစံကသာ ပြောင်းတာ၊ အရင်း မူလစက်ကတော့ လေးမောင်းဆွဲ ဩတိုရဲ့ စနစ်ကိုသာ သုံးရတာ ဖြစ်ပါတယ်။

သိပ္ပံပညာ တီထွင်မှုဆိုရာမှာ လက်နက်နဲ့ ဗုံးကလွဲရင် လူသားကို တစ်နည်းမဟုတ်တစ်နည်း အကျိုးပြုတာပဲ ရှိတယ်။ ဥပမာ ပြောကြစို့ဆိုရင် တို့များ ရေခဲစက်ကို ဆက်မသုံးချင်ဘူး။ ပန်နီစလင် (penicillin) ကိုလည်း မသုံးချင်ပါ။ ဒါမှမဟုတ်ရင်၊ ဒါတွေကို သိပ်များများ မသုံးကြနဲ့နော်လို့ သတိပေး တားမြစ်ချက်ရယ်လို့ မရှိနိုင်ပါ။ ရှေးခေတ်က ကိုယ့်ဘာသာသွားတဲ့ ယာဉ်ရထားဆိုတာ ချို့ယွင်းချက်တွေလည်း ရှိပါတယ်။ သူတို့ဟာ အသံမြည်လွန်းတယ်။ လေထုကို ညစ်ညမ်း စေတယ်။ လောင်စာကလည်း ရှားလွန်းတယ်။ တစ်နှစ် တစ်နှစ် ဒီယာဉ်တွေကြောင့် တိုက်ခိုက်ဒဏ်ရာရသူ၊ သေဆုံးသူတွေ မရေမတွက်နိုင်အောင် များလာတယ်။ အကောင်းဘက်ကလည်း ပြောစရာတွေ အများကြီးရှိလို့သာ ဒီစက်ကို လုံးလုံးကြီး မပစ်သေးတာလို့ ဆိုရမယ်။ ကိုယ်ပိုင်ကားဟာ အများသုံး ဘတ်စ်ထက် သာတဲ့ အချက်တွေ အများကြီးရှိပါတယ်။ မီးရထား ဆိုရင် ဘူတာကို သွားစီးရတယ်။ နောက် ဘူတာမှာပဲ ဆင်းရတယ်။ ကိုယ်ပိုင်ယာဉ်ဆိုရင် ကိုယ့် အိမ်ပေါက်က သူ့အိမ်ပေါက်ကို တိုက်ရိုက် ဝင်သွားလို့ရတယ်။ သွားချင်လို့ရှိရင်လည်း ဘယ်နေရာမဆို ရောက်အောင် ပို့နိုင်စွမ်းရှိတယ်။ ခရီးသွားတဲ့နှုန်းမြန်တယ်။ ထိုင်လိုက်တာ သက်သာတယ်။ သယ်ချင်တဲ့ပစ္စည်းလည်း အလွယ်နဲ့ ပါလာတယ်။ ကိုယ့်ဘာသာကိုယ် အရှိန်သတ်လို့ရတယ်။ သွားလိုရာ ခရီးနေရာ သတ်မှတ်လို့ရတယ်။ လူတစ်ဦးစီရဲ့ ကိုယ်ပိုင် အခွင့်အရေး လွတ်လပ်မှု အများကြီး ဖြည့်စွမ်း နိုင်ပါတယ်။ ကောင်းကျိုး ရှိသလို ဆိုးပြစ်လည်းရှိတတ်တာပဲ မဟုတ်လားလို့ မေးလာရင် အခြေအတင် ပြောကြရမှာ ရှိပေမယ့် အခုယာဉ်ကျေးမှုမှာ သူက အရေးပါတဲ့ အစိတ်အပိုင်းမှာ ပါဝင်နေတယ်။

အမေရိကန်မှာတင် ကား သန်း ၁၈၀ သုံးစွဲနေတယ်။ ခရီးသွားတဲ့လူ အရေအတွက် တစ်နှစ်ကို မိုင်သန်းပေါင်း တစ်သန်းရဲ့ အကြိမ်သုံးဆယ်ရှိတယ်။ ခြေလျင်၊ လှေ၊ လှည်း၊ သင်္ဘော၊ လေယာဉ်ပျံ စီးသူတွေ အားလုံး ပေါင်းထက် အဆအဆများပါသေးတယ်။ ဒီယာဉ်တွေထားဖို့ ကားရပ်နားစရာ ကွင်းတွေကလည်း ဧက အများကြီး ကျယ်နေပြီ။ သူတို့ပြေးဆွဲနိုင်ဖို့ ကားလမ်းမကြီးတွေ ကလည်း ဆောက်လို့ကို မပြီးနိုင်သလောက် ရှည်လျား နေပါပြီ။ လမ်းမကြီး တစ်လျှောက် မြင်ကွင်း ကလည်း အများကြီး ပြောင်းလဲခဲ့ရပါတယ်။ အရင်က မကြုံဖူးအောင် လွယ်ကူတဲ့ခရီး သွားလာခွင့်ကို ရကြတယ်။ ဒီကားတွေ မရှိခင်က အခု လှုပ်ရှားသွားလာပြီး၊ အမှုကိစ္စ

ဆောင်ရွက်ပုံမျိုးလို ဘယ်နည်းနဲ့မှ မဆောင်ရွက်နိုင်ခဲ့ပါ။ ကြိုက်ရာမှာ နေမယ်၊ ကြိုက်ရာကိုလုပ်မယ် ဆိုရင် ဖြစ်တဲ့ ခေတ်အခါကို ရောက်ခဲ့ပါပြီ။ အရင်က မြို့ကြီးနေမှ ခံစားနိုင်တဲ့ စည်းစိမ်ကို မြို့စွန်မြို့ဖျားသာမက ဇနပုဒ်နေတဲ့ လူတွေလည်း ခံစားခွင့် ရှိလာတယ်။ ဒါကြောင့်လည်း အမေရိကမှာဆိုရင် အခုဆယ်နှစ်ပိုင်းမှာပဲ မြို့ကြီးရဲ့ အလယ်ပိုင်းဟာ ခြောက်ကပ်ကပ် ဖြစ်သွားပြီ။ နှစ်ကိုလာ့စ် ဩဂတ်စ်ဩတိုကို ဂျာမနီ (Germany) ဟိုလဇော်ဆန် (Holzhausen) မြို့မှာ ၁၈၃၂ မှာ မွေးဖွားခဲ့တယ်။ သူငယ်စဥ်ကပဲ ဖခင်သေဆုံးတယ်။ စာသင်ကျောင်းမှာ တော်တယ်။ ဒါပေမယ့် အလုပ်လုပ်ဖို့ အသက်တစ်ဆယ့်ခြောက်နှစ်၊ အထက်တန်း မအောင်ခင် ကပဲ ကျောင်းထွက်ရတယ်။ မြို့ငယ်လေးက ဟင်းသီး ဟင်းရွက် ရောင်းတဲ့ဆိုင်မှာ အရောင်းစာရေးလုပ်ရတယ်။ နောက် ဖရန့်ခ်ဖတ် (Frankfurt) မှာ စာရေးလုပ်တယ်။ နောက် နယ်လှည့် အရောင်းကိုယ်စားလှယ် ဖြစ်လာတယ်။ ဩတိုက ၁၈၆၀ ပြည့်နှစ်လောက်ကပဲ ဓာတ်ငွေ့သုံးအင်ဂျင် (gas engine) အကြောင်း တစ်ဆင့်စကားကြားတယ်။ တေန်းလေနွား (E’teinne Lenoir ၁၈၂၂ – ၁၉၀၀) က ပထမဆုံးသုံးလို့ဖြစ်တဲ့ အတွင်းလောင်အင်ဂျင်ကို စတင် တီထွင်ခဲ့ပါတယ်။ ဩတိုက လေနွာအင်ဂျင်ကို လောင်စာ အရည် (Liquid fuel) ထည့်ပေးနိုင်ရင် အလုပ် အများကြီးမှာ တွင်တွင်ကျယ်ကျယ် သုံးနိုင်မှာဖြစ်တယ်လို့ သဘောပေါက်တယ်။ ဒီလိုသာ လုပ်ပေးနိုင်ရင် ဓာတ်ငွေ့ပေါက် (gas outlet) သီးခြား လုပ်ပေးရမယ်။ အဲဒါနဲ့ ဩတိုက ကာဗျူရေတာ (carburetor) ကို တီထွင် ပေးပါတယ်။ သူ့တီထွင်ချက်ကို သွားပြီး မှတ်ပုံတင်တဲ့အခါ မှတ်ပုံတင်ရုံးက ဒါမျိုးတီထွင်ပြီး ဖြစ်နေပြီဆိုပြီး သူ့တီထွင်ချက်ကို မှတ်ပုံတင်ခွင့်မပေးပါ။

ဩတို စိတ်ပျက်မသွားပါ။ လေနွာအင်ဂျင်ကို ကောင်းသထက် ကောင်းအောင် ဆက်ပြီးကြံဆ ပြုပြင် နေပါတယ်။ ၁၈၆၁ ခပ်စောစော အခါကပဲ အခြေခံ ကနေစပြီး သစ်ဆန်းတဲ့ အင်ဂျင်တစ်မျိုးကို လုပ်တယ်။ အသစ်စက်က လေနွာရဲ့ စက်ဟောင်းလို နှစ်မောင်းထိုး မဟုတ်ဘဲ လေးမောင်းထိုး ဖြစ်ပါတယ်။

ဩတိုက ဇန်နဝါရီ ၁၈၆၂ မှာ တကယ် သုံးလို့ရပြီ ဖြစ်တဲ့ လေးမောင်းထိုးအင်ဂျင်ကို အပြီးသတ် လုပ်ပေးနိုင် ပါတယ်။ အခက်အခဲတွေ ထပ်တွေ့ပြန်တယ်။ စက်သစ်ကို သုံးလို့ ဖြစ်အောင် စတင်ရှို့ပေး (ignition) ဖို့ ပြဿနာ ဖြစ်တယ်။ အဲဒါကို ဖြေရှင်းလို့ရတော့ သူ့ကို မသုံးဘဲ ပစ်လိုက်ပြီး နောက်စက်တစ်မျိုးကို ထွင်ပါတယ်။ ဓာတ်ငွေ့ (gas) သုံးပြီး လည်ပတ်တဲ့ နှစ်မောင်းထိုး လေထုအင်ဂျင် (Atmosphere engine) ပေါ်လာပါတယ်။ ဒီစက်ကို မှတ်ပုံတင် တာ ကတော့ ၁၈၆၃ မှာ ဖြစ်တယ်။ ငွေရင်းစိုက်ဖို့ ပူးတွဲ ဆောင်ရွက်သူ ယူဂျဲန်လန်ဂျဲန် (Eugen Langen) ဖြစ်ပါတယ်။ စက်ရုံကလေးတစ်ခု တည်ထောင်ပြီး ဒီအင်ဂျင်ကို ကောင်းသထက် ကောင်းအောင် ပြုပြင် မွမ်းမံ ကြပါတယ်။ ၁၈၆၇ ပါရီပြပွဲမှာ နှစ်မောင်းထိုး အင်ဂျင်ကို ပြသတဲ့အခါ ရွှေတံဆိပ် ရပါတယ်။ အဲဒီနောက် သိပ်ပြီး အရောင်းသွက်တဲ့ စက်ပစ္စည်း တစ်ခု ဖြစ်လာပါတယ်။ ကုမ္ပဏီရဲ့

အမြတ်အစွန်းဟာလည်း မို့မောက် မြင့်မား လာတယ်။ အင်မတန်တော်တဲ့ ဂေါ့တလစ်ဗ်ဒိမ်မလာ (Gottlieb Daimler) ကို ငှားတယ်။ သူက စက်ရုံ စီမံရေး ကျွမ်းတယ်။ သူတို့ရဲ့ စက်ကို အမြောက်အမြား ထုတ်ကြ ရပါတယ်။

နှစ်မောင်းထိုးအင်ဂျင် ရောင်းလို့ရတဲ့ အမြတ်က ကြီးမားပါတယ်။ ဩတိုက သူပစ်ထားရတဲ့ လေးမောင်းထိုး အင်ဂျင်ကိုပဲ စိတ်မှာ စွဲလမ်းနေတယ်။ ဒီလေးမောင်းထိုးမှာ လေနဲ့ ဓာတ်ငွေ့ကို ရောပြီး ရှို့ပေးဖို့ ကြံနိုင်ရင် လေနွာရဲ့ နှစ်မောင်းထိုး အင်ဂျင် ဘယ်လောက်ကောင်းကောင်း သူ့စက် (လေးမောင်းထိုး)ကို မမီ၊ ဒီက အများကြီး သာမယ်လို့ ယုံတယ်။ ဩတိုက ၁၈၇၆ မှာ ရှို့နည်းကောင်းတဲ့ လေးမောင်းထိုး အင်ဂျင်ကို အောင်မြင် ပါတယ်။ ပထမဆုံးစက်ကို မေ ၁၈၇၆ မှာ ထုတ်ပြီး နောက်တစ်နှစ်မှာ မှတ်ပုံတင် လိုက်ပါတယ်။ ဒီလေးမောင်းထိုးအင်ဂျင်ဟာ ပေါ်ပေါက်ဖူးသမျှ စက်တွေထက် ပိုပြီးကောင်းတယ်။ ပိုပြီး သုံးစွဲရာမှာ လွယ်ကူတယ် ဆိုတာ ထင်ရှားပါတယ်။ ဒါကြောင့် ချက်ချင်းပဲ သိပ်အရောင်းရ တွင်ကျယ်တဲ့ပစ္စည်း ဖြစ်လာပါတယ်။ နောက်ဆယ်နှစ်အတွင်းမှာ အင်ဂျင်အစု အစု ၃၀၀၀၀ ရောင်းရလို့ လေနွာ အင်ဂျင်ဟာ ရှေးဟောင်း ပစ္စည်းဘ၀ကို ရောက်သွားရပါတော့တယ်။ ဩတိုရဲ့ ဂျာမန်မှတ်ပုံတင် (German Patent) ကို ပယ်ဖျက်ပေးပါလို့ ၁၈၈၆ မှာ တရားစွဲခံရပါတယ်။ ဘာပြုလို့လဲဆိုတော့ ၁၈၆၂ ကပဲ ပြင်သစ် အယ်လဖောင် ဆေဘောဒေရောရှ (Alphonse Beau de Rochao) က ပြင်သစ်မှာ မှတ်ပုံတင်ပြီး ရှိနေလို့ ဒီလို တရားစွဲတာခံရတယ်။ ဒါပေမယ့် ဩတိုက မှုစရာမလိုပါ။ ပြင်သစ်စက်က တစ်ခုတလေမှ လက်တွေ့လုပ်ဖို့ ထုတ်လုပ် ရောင်းချတာ မတွေ့ရလို့ ဖြစ်ပါတယ်။ ဩတိုကလည်း သူ့စက်က ခိုးယူဖို့ဆိုတာ ဘယ်လိုမှ မဖြစ်နိုင်ပါ။ ဒါပေမယ့် မှတ်ပုံတင် ရုပ်သိမ်းခံရတယ်။ စက်ကိုတော့ ဆက်လက်ထုတ်ပြီး ငွေရမြဲ ရနေပါတယ်။ သူ ၁၈၉၁ မှာ ကွယ်လွန်တဲ့အခါ သူဌေးကြီး ဖြစ်နေပါပြီ။

၁၈၈၂ မှာ ဂေါ့တလစ်ဗ်ဒိမ်မလာက သူတို့ကုမ္ပဏီက အလုပ်ထွက်ပြီး ဩတိုရဲ့စက်ကိုပဲ လေးဘီးပေါ်တင်ပြီး မောင်းတဲ့ အခါသုံးဖို့ အဓိဋ္ဌာန်နဲ့ ဆောင်ရွက်ပါတော့တယ်။ သူက ၁၈၈၃ မှာ အရင်ထက် အများကြီးသာတဲ့ ရှို့ပေးပုံ (ignition) စနစ်ကို စတင်ပြုလုပ် ပြီးစီးပါတယ်။ (အခုအခါ အများသုံးတဲ့စက်က သူ့စက် မဟုတ်ပါ။) သူ့စက်က တစ်မိနစ်ကို အပတ်ပေါင်း ၇၀၀ က ၉၀၀ အထိ လည်နိုင်တယ်။ (ဩတိုစက်က တစ်မိနစ်အပတ် ၁၈၀ – ၂၀၀ ပဲ လည်ပေးနိုင်ပါတယ်။ ) အဲဒါအပြင် ဒိမ်မလာက ကိုယ့်အားနဲ့ကိုယ်သွားနိုင်တဲ့ လေးဘီး တပ်ယာဉ် (Automobile) ကို တီထွင်လိုက်တယ်။ တကယ်ကတော့ ကားလ်ဘဲန်ဇ် (Karl Benz) က ဒီတစ်ချီ သူ့ကို ချိုးနိုင်တယ်။ ဘဲန်စ်ရဲ့ယာဉ်က သုံးဘီးတပ်၊ ဒီယာဉ်ကလေးက သူ့အားနဲ့သူ သွားတယ် ဆိုတာကို ဘယ်သူကမှ မငြင်းနိုင်ပါ။ ဒိမ်မလာရဲ့ယာဉ်က ဩတို လေးမောင်းထိုး အင်ဂျင်ထက် လနည်းနည်း စောပြီး ဖြစ်အောင်လုပ်နိုင်ခဲ့တယ်။ ဘဲန်ဇ်အင်ဂျင်က တစ်မိနစ် အပတ် ၄၀၀ ပဲလည်တယ်။ ဒါလောက်ဆိုရင် ကားစက် အဖြစ်သုံးဖို့ လုံလောက်တယ်။ ဘဲန်ဇ်က သူ့ကားကို အမျိုးမျိုး

ကောင်းသထက် ကောင်းလာအောင် ပြင်ဆင် မွမ်းမံတယ်။ နှစ်အနည်းငယ်ကြာတော့ အောင်မြင်တယ်။ ဂေါ့တစ်ဗ်ဒိမ်မလာက ဘဲန်ဇ်ထက် နောက်ကျတယ်။ ဒါပေမဲ့ သူ့ကားလည်း ရောင်းရပါတယ်။ ဒါနဲ့နောက်တော့ ဘဲန်ဇ်နဲ့ ဒိမ်မလာတို့ ပါတနာ ဖြစ်လာကြပြီး ကားထုတ်ကြပါတယ်။ ယာဉ်ရုံထား (Automobile) လုပ်ငန်းမှာ ထည့်ပြောဖို့ နောက်တစ်ယောက် ရှိပါသေးတယ်။ သူက အမေရိက နည်းသစ် ပစ္စည်းသစ်လုပ်ငန်းရှင် ဟင်နရီဖို့ဒ် (Henry Ford) ဖြစ်ပါတယ်။

ဈေးပေါတဲ့မော်တော်ကားကို အများကြီး ထုတ်ပေး နိုင်သူ ဖြစ်ပါတယ်။ အတွင်းလောင်ခြင်း အင်ဂျင်စက် (internal combustion engine) နဲ့ ကိုယ့်အားကိုယ်သုံး ယာဉ် (Automobile) ဟာ သိပ်အံ့သြ ကြီးကျယ်အရာရောက်တဲ့ စက်ဖြစ်ပါတယ်။ တစ်ယောက်တည်းက ဖော်ထုတ်ဆောင်ရွက်တယ်ဆိုရင် ဒီစာအုပ်မှာ ထိပ်ဆုံးနားမှာ နေရာယူမယ့် ပုဂ္ဂိုလ်ပေါ့။ ဒါပေမယ့် စတင်တီထွင်သူတွေက လေနွာ၊ သြတို၊ ဒိမ်မလာ၊ ဘဲန်ဇ်နဲ့ ဖို့ဒ်တို့ပါ။ အားလုံးထဲမှာ သြတိုရဲ့ ပါဝင်ချက်က အရာရောက်ဆုံး ဖြစ်ပါတယ်။ လေနွာက လက်တွေ့မှာ သိပ်မကောင်းဘူး။ သြတိုကားက လက်တွေ့မှာ တကယ် မှန်တယ်။ သြတို စလုပ်စ ၁၈၇၆ က လက်တွေ့ အသုံးချလို့ ရမယ့်ကား မရှိသေးပါ။ ၁၈၇၆ နောက်ပိုင်း ရောက်မှ မရှိမဖြစ် ဖြစ်ပေါ်လာပါတယ်။ နစ်ကိုလော့စ် သြဂတ်စ်သြတိုကိုပဲ ခေတ်ကမ္ဘာကို အမှန်တကယ် တည်ဆောက်သူတစ်ဦးလို့ ဂုဏ်ပြုချီးကျူးရမှာ ဖြစ်ပါတယ်။

18, June, 2001.

# (၆၂) ဖရန့်စစ်စကို ပီဇာရို (၁၄၇၅ ခန့် – ၁၅၄၁)

## FRANCISCO PIZARRO (C. 1475 – 1541)

စာပေမတတ်တဲ့ စပိန် (Spain) မှ စွန့်စားသူ ဖရန့်စစ်စကိုပီဇာရို (Francisco Pizarro) က ပီရူး (Peru) မှာ ရှိတဲ့ အင်ကာကေရာဇ် (Inca Empire) ကို သိမ်းယူခဲ့တယ်။ သူ့ကို စပိန် ထရူဂျီလို (Trujillo) မြို့တော်မှာ ၁၄၇၅ ခုနှစ်လောက်က မွေးဖွားတယ်။ သူနဲ့လုပ်ပုံကိုင်ပုံ အတော်တူတဲ့ ဟာနန်ဒိုကော့တေ့စ် (Hernando Corte's) လို ပီဇာရိုလည်း အကျော်အစောနဲ့ ဥစ္စာခနေ အရရှာမယ်ဆိုတဲ့စိတ်နဲ့ ကမ္ဘာသစ် (New World အမေရိကတိုက်) ကို ရောက်လာတာဖြစ်တယ်။ ပီဇာရိုက ၁၅၀၂ မှ ၁၅၀၉ ထိ၊ အခု ဟေတီ (Haity) နဲ့ ဒိုမီနီကန် သမ္မတနိုင်ငံ (Dominican Republic) ရှိတဲ့ ကာရစ်ဘီယံကျွန်း (Caribbean Island) ပေါ်က ဟစ္စပန်နီအိုလ (Hispaniola) မှာ နေတယ်။ ၁၅၁၃ မှာ ပစိဖိတ်သမုဒ္ဒရာကို ရှာဖွေတွေ့ရှိတဲ့ ဗာစကိုနူးနဲ့ဇ် ဒေဗာလဗို (Vasco Nunez de Balboa) ရဲ့ ရှာဖွေရေး အဖွဲ့မှာ သူလည်း ပါဝင်ခဲ့တယ်။ ၁၅၁၉ မှာ ပနားမား (Panama) ကို ရွှေ့ပြောင်းပြီး၊ အဲဒီမှာပဲ အခြေတကျ နေတယ်။ ၁၅၂၂ မှာ စပိန်လူမျိုး နေရာသစ် ရှာဖွေသူ ပါစုယယ် ဒေအန်ဒေဂိုယာ (Pascual de Andagoya) က အင်ကာ ဧကရာဇ်နိုင်ငံဆိုတာ တကယ်ရှိတယ်။ ငါကိုယ်တိုင် ရောက်ဖူးတယ်လို့ ပြောတာကို ကြားရဖူးတယ်။ အဲဒီအခါ ပီဇာရိုရဲ့ အသက်က လေးဆယ့်ခုနစ်နှစ် ရှိပါပြီ။ ဟာနန်ဒို ကော်တေ့စ် ကမကြာမီကပဲ မက္ကစီကို သိမ်းယူခဲ့တာကို တွေ့မြင်ရလို့ အားကျပြီး၊ ငါလည်း အင်ကာကေရာဇ်နိုင်ငံကို သိမ်းယူမယ်လို့ ဆုံးဖြတ်ပါတယ်။ ဒီရည်ရွယ်ချက်နဲ့ ၁၅၂၄–၂၅ မှာ လုပ်ငန်းစတယ်။ မအောင်မြင်ပါ။ သူ့သင်္ဘောနှစ်စင်းဟာ ပီရူး မရောက်မီ ပြန်လာခဲ့ရပါတယ်။ ၁၅၂၆–၂၈ မှာ နောက်တစ်ကြိမ် ကြိုးစားပြန်တယ်။ ဒီတစ်ခါတော့ ပီရူးကမ်းခြေ ရောက်ပြီး ရွှေတွေ၊ လာမ (Llama) အကောင်တွေနဲ့ အင်ဒီယန်း (Indian)တွေကို ယူပြီး ပြန်လာခဲ့ပါတယ်။ စပိန်ကို သူ ၁၅၂၈ မှာ ပြန်လာပြီးနောက်တစ်နှစ်မှာ ကေရာဇ် ပဉ္စမမြောက် ချားလ်စ် (Emperor Charles V) က သူ့ကို စပိန်အတွက် ပီရူးကို သိမ်းယူစေလို့ ခွင့်ပေးတဲ့အပြင် ဒီကိစ္စအတွက် ငွေ၊ ရိက္ခာ၊ လက်နက် လူသူတွေကို ထောက်ပံ့လိုက်ပါတယ်။ ပီဇာရိုဟာ ပနားမားကို ပြန်လာပြီး ပီရူးသိမ်းယူရေးကို ပြင်ဆင် ပါတယ်။ ပနားမားက ၁၅၃၁ မှာ စတင် ထွက်ခွာတဲ့ အခါ ပီဇာရိုရဲ့အသက်က ငါးဆယ့်ခြောက်နှစ် ဖြစ်နေပါပြီ။ သူစည်းရုံးနိုင်တဲ့ လူအင်အားက ၂၀၀ တောင်

မပြည့်တတ်ဘူး။ သူသွားတိုက်မယ့် လက်နက် နိုင်ငံမှာ လူဦးရေက ခြောက်သန်းကျော်ရှိတယ်။ နောက်တစ်နှစ် ပီရှူးကမ်းခြေကိုရောက်သွားပြီး လူ ၁၇၇ ယောက်၊ မြင်း ၆၂ ကောင်နဲ့ ကုန်းတွင်းပိုင်းကို ချီတက်ခဲ့ပါတယ်။ ပီဇာရိုက ကဇမာက (Cajamarca) မြို့ကို ရောက်အောင် အင်ဒီးစ် (Andes) တောင်ပေါ်ကို မြင့်နိုင်သမျှမြင့်အောင် တက်စေတယ်။ တောင်ပေါ်မှာ အင်ကာဘုရင် အတဟွာလ်ပ (Atahualpa) က စစ်သည်သူရဲလေးထောင်နဲ့ တပ်ချပြီး စောင့်နေပါတယ်။ ကဇမကကို ပီဇာရိုရဲ့တပ်က ၁၅ နိုဝင်ဘာ ၁၅၃၂ မှာ ရောက်သွားတယ်။ နောက်တစ်နေ့ ပီဇာရိုရဲ့ တောင်းဆိုချက်အရ သူ့စစ်တပ်ကြီးကို ထားခဲ့ပြီး လက်နက် မပါတဲ့နောက်လိုက် လူငါးထောင်နဲ့ ပီဇာရိုကို လာရောက် တွေ့ဆုံဆွေးနွေးပါတယ်။ အတဟွာလ်ပ (Atahualpa) က တစ်ဖက်ရန်သူကို အကြောင်းသိ ဖြစ်လာရင် အခု သူ့အပြုအမူဟာ နားမလည်နိုင်အောင် ဆန်းကြယ်နေပါတယ်။

သင်္ဘောပေါ်က တက်လာတဲ့အချိန်ကစပြီး စပိန်သားတွေက ရက်စက် ရိုင်းစိုင်းကြမ်းတမ်းပြီး ရန်လိုတာကို မဖုံးမကွယ် ပြသခဲ့တယ်။ ဒါကိုသိပါလျက်နဲ့ ပီဇာရိုရဲ့တပ်ကို ကဇမာကအထိ ရောက်အောင် မတားမဆီး မဆို့မပိတ် ဘဲနေတာ ဘာသဘောလဲ၊ တောင်ပေါ်လမ်းမှာ ကျဥ်းမြောင်းတဲ့ လမ်းကလေးတွေမှာ ပီဇာရိုရဲ့မြင်းတွေဟာ ဘာမှအသုံးမကျဘူး။ အဲဒီလိုနေရာမှာ ဝင်ပြီး တိုက်ခိုက် ချေမှုန်းနိုင်တယ်။ ပြီးတော့ ရန်သူမှန်းသိလျက်နဲ့ လက်နက် မပါဘဲလာတာလည်း သိပ်ဆန်းတယ်။ အင်ကာ စစ်တိုက်ခိုက်ရေးမှာ ချုံခိုပြီး ချောင်းမြောင်းတိုက်ခိုက်တာ လုပ်လေ့ရှိတာကို၊ အခုဘာပြုလို့ မလုပ်သလဲ ဆိုတာကို စဥ်းစား မရနိုင်အောင် ရှိပါတယ်။

ပီဇာရိုကတော့ ဒါလောက်ကောင်းတဲ့အခွင့်အရေးကို လက်လွှတ်ခံမယ့် လူစား မဟုတ်ပါ။ အတဟွာလ်ပနဲ့ လက်နက် မပါတဲ့ သူ့ကိုယ်ရံတော်တပ်ကို တိုက်ခိုက်တယ်။ တကယ်က တိုက်ခိုက်တယ်လို့ မပြောနိုင်၊ နာရီဝက်ကြာအောင် ထိုးခုတ် သတ်ဖြတ်တယ်လို့ ပြောရမယ်။ စပိန်သား သူရဲ တစ်ယောက်မှ မသေ၊ ပီဇာရို တစ်ယောက်ပဲ အတဟွာလ်ပကို လက်ရ ဖမ်းစဥ်မှာ၊ အတဟွာလ်ပကို ဒဏ်ရာမရအောင် ကာဆီးလို့ သူ့မှာ ဒဏ်ရာ နည်းနည်းရသွားတယ်။ ပီဇာရိုရဲ့ စစ်ပရိယာယ်ဟာ ခြွင်းချက်မရှိ အောင်မြင်သွားတယ်။ အင်ကာ လက်နက်နိုင်ငံမှာ ဗဟိုကြိုးကိုင် စနစ်က အများကြီး စနစ်ကျလေတော့ ထိပ်ဆုံးက တရားမျှတ သြဇာကြီးတဲ့ အင်ကာကို ဖမ်းဆီးရမိတယ် ဆိုရင်၊ နောက်လိုက် ငယ်သား ဘယ်သူကမျှ ဆက်လက် တိုက်ခိုက်ဝံ့တယ်လို့ မရှိပါ။ အင်ဒီးယန်း (Indians) တွေက စပိန် ကျူးကျော်စစ်ကို အညံ့ခံရပါတော့တယ်။ ပြန်လွှတ်လို လွှတ်ငြား အတဟွာလ်ပက ရွှေငွေကို ပုံပြီးပေးတယ်။ ဒေါ်လာ ၂၈ သန်း ကျော်မယ်လို့ မှန်းပါတယ်။ ဒါပေမယ့် နှစ်လသုံးလ အတွင်းမှာပဲ ပီဇာရို အမိန့်နဲ့ အသတ်ခံရတယ်။ အတဟွာလ်ပကို ဖမ်းယူပြီး တစ်နှစ်အကြာ နိုဝင်ဘာ ၁၅၃၃ မှာ ၊ ပီဇာရိုရဲ့တပ်တွေက အင်ကာမြို့တော် ကုဇ်ကို (Cuzco) ကို မတိုက်မခိုက်ရဘဲ သိမ်းယူ လိုက်တယ်။ အဲဒီမှာ ပီဇာရိုက သူ့စိတ်ကြိုက် အင်ကာတစ်ယောက်ကို ရွေးပြီး နာမည်ခံမင်းမြှောက်လိုက်တယ်။ ၁၅၃၅ မှာ

လီမာမြို့သစ် တည်ပြီး ပီရူးမြို့တော်လို့ သတ်မှတ် လိုက်ပါတယ်။ အမည်ခံ အင်ကာဟာ ၁၅၃၆ မှာ တိတ်တဆိတ် ပြေးထွက်ပြီး စပိန်တွေကို မောင်းထုတ်ဖို့ သူပုန်ထတယ်။ လီမာနဲ့ ကုဇ်ကိုမှာ စပိန်တွေ အတော်ကြာ အဝိုင်းခံ နေရတယ်။ ဒါပေမယ့် နောက်တစ်နှစ်မှာ နိုင်ငံ တစ်ခုလုံးလောက် ပြန်ရတယ်။ ၁၅၇၂ ရောက်တော့မှ သူပုန် အားလုံးကို ချေမှုန်းနိုင်တယ်။ အဒီအခါမှာ ပီဇာရို ကွယ်လွန်ပြီး ဖြစ်နေပါပြီ။

ပီဇာရိုကျဆင်းရတာရဲ့ အကြောင်းရင်း ကတော့ စပိန်သားတွေ အချင်းချင်း တိုက်ခိုက် ကြလို့ ဖြစ်ပါတယ်။

ပီဇာရိုနဲ့ အရင်းနှီးဆုံး ဖြစ်တဲ့ ဒီယေဂို ဒေအောလ်မဂရို (Diego de Almagro) က သူတို့လုယက်လို့ရတဲ့ ပစ္စည်း တွေထဲက သူရသင့်တဲ့ ဝေစုကို ပီဇာရိုက မပေးဘူး ဆိုပြီး ၁၅၃၇ မှာ ပုန်ကန်တယ်။ အာလ်မဂရိုကို ဖမ်းပြီး ကွပ်မြက် လိုက်ပေမယ့် ပြဿနာဟာ မပြေလည်ဘူး။ ၁၅၄၁ ရောက်တော့ အာလ်မဂရို ဘက်တော်သားတွေက လီမာမှာရှိတဲ့ ပီဇာရိုနန်းတော်ကို ဝင်လာပြီး အသက်ခြောက်ဆယ့်ခြောက်နှစ်ရှိ ခေါင်းဆောင်ကို သတ်ဖြတ်လိုက်ကြတယ်။ ကုဇ်ကို အောင်မြင်ပြီး ရှစ်နှစ်အကြာမှာ ပျက်စီးခဲ့ရပါတယ်။ ဖရန်စစ်စကို ပီဇာရိုဟာ ရဲရင့်တယ်။ သန္နိဋ္ဌာန်အတိုင်း ဖြစ်အောင် လုပ်နိုင်တယ်။ အကင်းပါးတယ်။ သေအံ့ဆဲဆဲ ပီဇာရိုဟာ မြေပြင်မှာ သူ့သွေးနဲ့ သူကိုယ်တိုင် လက်ဝါးကပ်တိုင်ပုံကို ရေးဆွဲပြီး နောက်ဆုံး ပြောစကားက ဂျီးစပ်စ် (Jesus) ဖြစ်တယ်လို့ ပြောစမှတ်ပြုကြပါတယ်။

တစ်ဖက်ကကြည့်တော့ သူက မယုံနိုင် လောက်အောင် အလိုရမ္မက်ကြီးတယ်။ ရက်စက်တယ်။ တန်ခိုးသြဇာ အရှိန်အဝါ အကြီးကျယ်ဆုံး ဖြစ်ချင်တယ်။ ယုံကြည် စိတ်ချထိုက်သူ မဟုတ်။ သစ္စာဖောက်ဖို့ ဝန်မလေး၊ လုယက်တိုက်ခိုက် သတ်ဖြတ်ပြီး မင်းတက် လုပ်တဲ့လူတွေ ထဲမှာ သူက အဆိုးဆုံးလို့ ပြောရမယ့်လူ ဖြစ်ပါတယ်။ သူ့ကို လူယုတ်မာစာရင်းသွင်းပြီး တစ်ခါတည်း ပစ်ပယ် လိုက်လို့တော့ မရပါ။ သူ့ရဲ့စစ်မှုရေးရာ အောင်မြင်မှုက အတိုင်းအဆ အားဖြင့် သိပ်ပြီး ကြီးကျယ်ပါတယ်။ ၁၉၆၇ မှာ အစ္စရေး (Israel) တွေက သူတို့ထက်အင်အား လက်နက်အင်အား အများကြီးသာတဲ့ အာရပ် (Arab) ပေါင်းစုံကို လုလုပပကြီးနိုင်လိုက်လို့ အများတကာ အံ့သြကြရပါတယ်။ တကယ့်ကို မှတ်သား လောက်တဲ့ အောင်ပွဲဖြစ်ပါတယ်။ ဒါပေမယ့် သမိုင်း တစ်လျှောက်မှာ ဒီလိုလူနည်းစုက သိပ်ကြီးမားတဲ့ လူအများစုကို အောင်နိုင်ပုံနမူနာတွေ အများကြီး ရှိပါတယ်။ နပိုလီယံ (Napoleon)၊ မဟာအလက်ဇန္ဒား (Alexander The Great) တို့ဟာ စစ်တပ်ကြီးတွေကို ကြိမ်ဖန်များစွာ နိုင်ခဲ့ဖူးပါတယ်။ ဂျင်ဂျစ်ခန် (Genghis Khan) ကို ဆက်ခံတဲ့ မွန်ဂိုတွေဟာ သူတို့လူဦးရေထက် အနည်းဆုံး အဆသုံးဆယ် ရှိတဲ့နိုင်ငံကို တိုက်ခိုက်အောင်မြင်ခဲ့တယ်။ ဒါပေမယ့် ပီဇာရိုဟာ လူ ၁၈၀ နဲ့ လူခြောက်သန်းရှိတဲ့ ဧကရာဇ်နိုင်ငံကို သိမ်းယူတယ်ဆိုတာကတော့ သမိုင်းမှာ အံ့သြစရာ အဖြစ်အပျက်တစ်ခု ဖြစ်ပါတယ်။ ကော့တေ့စ် (Corte's)

နဲ့ယှဉ်မယ်ဆိုရင် ဟိုက လူ ၆၀၀ နဲ့၊ လူဦးရေ ငါးသန်းရှိတဲ့ နယ်ကြီးကို အောင်မြင်တာ ဖြစ်လို့၊ သူကပဲ သာတယ်ဆိုရမယ်။ မဟာအလက်ဇန္ဒား ဖြစ်ဖြစ်၊ ဂျဲန်ဂျစ်ခန် ဖြစ်ဖြစ် ပီဇာရိုကို ယှဉ်နိုင်မှာလားလို့ မေးစရာရှိပါတယ်။ မထင်ပါ။ ဘာပြုလို့လဲ ဆိုတော့ အဲဒီပုဂ္ဂိုလ်တွေဟာ အခုလောက်ကွာဟနေရင် တိမ်းရှောင်သွားမယ် ထင်ပါတယ်။

စပိန်တွေရဲ့ သေနတ်က လွှမ်းခြုံပြီး အသာရ စေတယ်လို့ ပြောရင်ကော မဖြစ်ဘူးလား။ မဖြစ်ပါ။ အဲဒီအခါက သေနတ် ဆိုတာ အဟန့်ကောင်းပါရဲ့၊ အသံသိပ်မြည်တယ်။ ပစ်မှတ် ဝေးကွာရင် သုံးမရ၊ တစ်ခါပစ်ပြီး သေနတ်မောင်း နောက်တစ်ခါ ထပ်တင်ဖို့ သိပ်ခက်တယ်။ လေးနဲ့မြားက အများကြီးပိုပြီး ထိရောက် ပါလိမ့်မယ်။ တကယ်ကတော့ ပီဇာရို၊ ကဇမက ကို ဝင်တဲ့အခါ သူ့မှာပါတဲ့ လူတွေမှာ သုံးချောင်းထောက် ခက်ရင်းခွပေါ်တင်ပြီး ပစ်ရတဲ့ ဟာကျူဗတ်စ် (Harquebus) သုံးလက်နဲ့ ဒူးလေး နှစ်ဆယ်ထက် မပိုပါ။ အင်ဒီးယန်း၊ အမေရင်ဒီးယန်း (Indian or Amarindian) တွေကို သတ်တဲ့အခါ လှံ၊ ဓားနဲ့ ထိုးခုတ်ပါတယ်။ မြင်းကောင်ရေ နည်းနည်း၊ သေနတ် နည်းနည်း ပါတာကလွဲလို့ စပိန်သားတွေဟာ တိုက်ပွဲကို ဝင်တဲ့အခါ အသာစီးရတဲ့ အခြေအနေမျိုးလည်း လုံးဝ မရှိပါ။ ခေါင်းဆောင်ကောင်းနဲ့ (သေမြေကြီး ရှင်ရွှေထီးဆိုတဲ့) ဆုံးဖြတ်ချက် ခိုင်ခိုင်နဲ့ လက်နက် အားကိုးသက်သက် မဟုတ်ဘဲ ရွပ်ရွပ်ချွံချွံ တိုက်လို့ စပိန်တွေ အောင်ပွဲရခဲ့တာလို့ ဆိုရပါမယ်။ ပီဇာရိုလည်း သိပ်ကံကောင်းတယ်။ **'ကြောက်လွဲ ရဲမင်းဖြစ်'** ဆိုတဲ့စကားပုံ ရှိတယ်မဟုတ်လား။ ဖရစ်စစ်စကို ပီဇာရိုကို တချို့စာရေးဆရာတွေက သူသတ်ပါးကွက် အာဏာသားထက် နည်းနည်းပဲ ပိုတယ်လို့ ဆိုပါတယ်။ တခြားလူသတ်သမားတွေ သမိုင်းမှာ သူ့လို အရာ ရောက်ပါသလားလို့ မေးရင် ဖြေဖို့ခက်တယ်။ သူတိုက်ခိုက် အောင်နိုင်ခဲ့တဲ့ အင်ပါယာဟာ ကနေ့ ပီရူး (Peru)၊ အီကွေဒေါ် (Ecuador)၊ မြောက်ပိုင်းချီလီ (Northern Chili) နဲ့ ဘိုလီးဗီးယား (Bolivia) တစ်စိတ်တစ်ပိုင်း ပါတယ်။ လူဦးရေနဲ့ ပြောရင် ကျန်တဲ့ တောင်အမေရိက (South America) စုစုပေါင်းလူဦးရေထက် သူ့လက်အောက်က လူဦးရေက အများကြီးပိုသေးတယ်။ သူအောင်နိုင်လိုက်လို့ အဲဒီကျယ်ပြန့်တဲ့ နေရာကြီးတစ်ခုလုံးမှာ စပိန်ရဲ့ အယူဝါဒနဲ့ ဓလေ့ လွှမ်းမိုးသွားပါတယ်။ အဲဒါအပြင် အင်ကာ အင်ပါယာ ပျက်စီးသွားပြီးတဲ့နောက် ဥရောပ ဖောက်ထွင်း လာရောက်ခြင်းကို ဘယ်နိုင်ငံမှ အပြီးရောက်အောင် တွန်းလှန်နိုင်စွမ်း မရှိတော့ပါ။

တောင်အမေရိကမှာ အမေရင်ဒီးယန်း ကနေ့ထိ သန်းပေါင်းများစွာ ရှိနေပါတယ်။ ဘယ်နေရာမှာမှ သူတို့နိုင်ငံရေး ဩဇာ မရမရှိ၊ ဥရောပဘာသာစကား၊ အယူဝါဒနဲ့ ဓလေ့တွေကပဲ ရှေ့ဆောင်လွှမ်းမိုးနေပါတယ်။ ကော်တေ့စ်နဲ့ ပီဇာရိုတို့က လူအားနည်းနည်း ကလေးနဲ့ အက်ဇ်တကစ်နဲ့ အင်ကာလက်နက်နိုင်ငံ အင်ပါယာတွေကို ခပ်မြန်မြန် လွှမ်းမိုးသိမ်းပိုက်နိုင်တာကို ကြည့်ပြီး လူအတော်များများက သူတို့ မပေါ်ရှိပေမယ့် မက္ကဆီကိုနဲ့ ပီရူးကို ဥရောပတိုက်သားတွေက မလွဲဧကန် သိမ်းမှာပဲလို့ ပြောကြတယ်။

မှန်ပါတယ်။ အက်ဇ်တကစ်လို လက်နက်နိုင်ငံဟာ အခြေအနေအရ လက်အောက်ခံ အဖြစ်ကို မရောက်မနေ ကျဆင်းနေပြီ။ သူ့ဝန်းကျင်ဖြစ်တဲ့ (မက္ကဆီကိုပင်လယ်ကွေ့ Gulf of Mexico ထဲမှာ သိပ်မလှမ်းမကမ်းမှာ ကျူးဘား Cuba ကျွန်းရှိနေတယ်။) အဲဒီက စပိန်က လာပြီး တိုက်ခိုက် နိုင်ပါတယ်။ ကော်တေ့စ်ရဲ့ တပ်အင်အားသေးသေးကို အက်ဇ်တက်စ် (Aztecs) တွေ ချေမှုန်းနိုင်တယ် ဆိုတာတောင်၊ ပိုပြီး အားကောင်းတဲ့ စပိန်တပ်တွေက အနေးနဲ့အမြန် ဆိုသလို ရောက်လာပြီး၊ သူတို့နိုင်ငံကို သိမ်းယူတော့မှာ ဖြစ်ပါတယ်။

တစ်ဖက်မှာ အင်ကာလက်နက်နိုင်ငံဆိုရင် (ပင်လယ်ရပ်ခြား ရောက်လာတဲ့ ရန်သူကို) ခုခံဖို့ အခြေအနေ သာတယ်။ (ရန်သူဟာ) ပစိဖိတ်သမုဒ္ဒရာ ဆိပ်ကမ်းကပဲ တက်လာနိုင်မှာ ဖြစ်တယ်။ အဲဒီဘက်ကိုလည်း အတ္တလန္တိတ် သမုဒ္ဒရာမှာလို စပိန် သင်္ဘောတွေ အသွားအလာ မများဘူး။ စစ်တပ်ကြီးလည်း ဖွဲ့စည်းပြီးသား ရှိတယ်။ လူဦးရေ များတယ်။ စည်းစနစ်ကျကျ အုပ်ချုပ်ထားတယ်။ ပြီးတော့ ပီရူး မြေမျက်နှာပြင်က တောတောင်လျှိုမြောင် ထူထပ်လို့ ဥရောပ တန်ခိုးကြီးနိုင်ငံတွေ လာရောက်မင်းမူဖို့ မလွယ်ပါ။ တစ်ဆယ့်ကိုးရာစုနှစ်ကထက် အဆအဆ သာလွန်နေပေမယ့် အီတလီ (Italy) က အီသီယိုးပီးယား (Ethiopia)ကို ရအောင် မတိုက်နိုင်ပါ။ ဒီလိုပဲ ဗြိတိသျှတွေဟာ တောင်ထူထပ်တဲ့ အိန္ဒိယ အနောက်မြောက် နယ်စပ်က လူမျိုးစုတွေနဲ့ ပဋိပက္ခဟာ မဆုံးနိုင်အောင် ဖြစ်နေပါတယ်။ အဲဒါအပြင် တောင်ထူတဲ့ နီပေါ (Nepal)၊ အာဖဂန်နစ္စတန် (Afghanistan) နဲ့ အီရန် (Iran) လိုနေရာတွေမှာ ဥရောပတိုက်သားတွေက အောင်မြင်တဲ့ ကိုလိုနီ ထူထောင်ဖို့ မဖြစ်နိုင်ပါ။ ပီဇာရိုရဲ့ ကျူးကျော်စစ်သာ ရှုံးနိမ့်ခဲ့ပါရင်၊ အင်ကာတွေမှာ ဥရောပ စစ်လက်နက်နဲ့ စစ်ပရိယာယ်တွေကို အတွေ့အကြုံရှိပြီး ဖြစ်ခဲ့ရင်၊ နောင် ဒါထက်ကြီးမားတဲ့ ဥရောပတပ်တွေကို ကောင်းကောင်း တိုက်ခိုက် တွန်းလှန်နိုင်လိမ့်မယ် ထင်ပါတယ်။ ရှေးအနေအထားမှာပဲ ၁၅၃၆ မှာ၊ အင်ဒီးယန်း သူပုန်ကို စပိန်က သုံးဆယ့် ခြောက်နှစ် နှိမ်ယူရတယ်။ အဲဒီတုန်းက အင်ဒီးယန်းတွေမှာ သေနတ်ဆိုလည်း များများစားစား မရှိ၊ လူအင်အားလည်း ပီဇာရို တိုက်သိမ်း စဉ်ကလို အင်အား မကောင်းပါ။ ပီဇာရို ရှိရှိ မရှိရှိ၊ စပိန်ကတော့ အင်ကာကို သိမ်းယူမှာ မလွဲကြောင်း ပါလို့ ပြောဖို့ခက်ပါတယ်။ အဲဒါတွေကြောင့် ဒီစာအုပ်မှာ ကော့တေ့စ်ထက် နည်းနည်းမြင့်တဲ့နေရာမှာ ထားလိုက် ပါတယ်။ ကော့တေ့စ်က သမိုင်းဖြစ်စဉ်ကို မြန်စေတယ်။ ပီဇာရိုက သမိုင်းစဉ်ကို လမ်းပြောင်းပေးနိုင်မယ့်သဘော ရှိပါတယ်။

# (၆၃) ဟာနန်ဒို ကောတေ့စ် (၁၄၈၅ – ၁၅၄၇)

# HERNANDO CORTES (1485 – 1547)

မက္ကဆီကို (Mexico) အောင်နိုင်သူ ဟာနန်ဒို ကောတေ့စ် (Hernando Corte's) ကို စပိန် (Spain) မက်ဒယ်လင် (Madelin) မှာ ၁၄၈၅ မှာ မွေးဖွားပါတယ်။ သူ့ဖခင်က သူကောင်း မျိုးနွယ်ထဲမှာ ပါဝင်ပါတယ်။ ငယ်စဉ်က ကောတေ့စ်ဟာ ဆလမန်က တက္ကသိုလ် (Salamanca University) ဥပဒေသင်ခဲ့တယ်။ အသက် တစ်ဆယ့်ကိုးနှစ်မှာ အသစ်ရှာဖွေတွေ့ရှိစ အနောက်ကမ္ဘာခြမ်း (Western Hemisphere) ကို ဥစ္စာ ရှာထွက်ခဲ့ပါတယ်။ ဟစ်စပန်နီအိုလ (Hispaniola) ကို ၁၅၀၄ ခုနှစ်ကရောက်ရှိပြီး ဟိုမှာ ဂုဏ်သရေရှိ တောင်သူ ဘဝ၊ ဒေသခံ မိန်းမလိုက်စားသူ ဒွန်ဂျွန် (Don Juan) အဖြစ်နဲ့ ပျော်ပျော်နေခဲ့ပါတယ်။ စပိန်က ကျူးဘား (Cuba) ကို တိုက်ခိုက်သိမ်းယူတဲ့စစ်ပွဲမှာ ပါဝင်ခဲ့တယ်။ ဒီစွန့်စားခန်း နောက်ဆက်တွဲအဖြစ်နဲ့ ကျူးဘား ဧကရာဇ်ဘုရင်ခံ ဒီယေဂိုဗေလာ့စ်ကွက် (Diego Vela'squez) ရဲ့ခယ်မကို လက်ထပ်ခဲ့တယ်။ အဲဒီအခါမှာ သူ့ကို စန်တီယာဂို (Santiago) မြို့ဝန် ရာထူးခန့်ပါတယ်။

ဗေလာ့စ်ကွက် (Velasquez) က ကောတေ့စ်ကို မက္ကဆီကို တိုက်ခိုက်ရေးမှာ ဗိုလ်ကြီးခန့်ပြီး ထည့်လိုက် ပါတယ်။ ဘုရင်ခံက ကောတေ့စ်ရဲ့ တိုးတက် ကြီးမြင့်ချင်တဲ့ စိတ်ကို နည်းနည်း ထိန်းပေးဖို့ လိုတယ်ယူဆပြီး သူ့အမိန့်ကို ပြင်ဆင်ဖို့လုပ်ပေမယ့် ကောတေ့စ်ကို ရပ်မရနိုင်တော့ပါ။ သူက ဖေဖော်ဝါရီ ၁၅၁၉ မှာ သင်္ဘော ၁၁စင်း၊ သင်္ဘောသား ၁၁၀၊ စစ်သား ၅၅၃ ယောက်အပြင် (လက်နက်ငယ် သေနတ် ၁၂၊ ဒူးလေး ၃၂ အပါအဝင်) အမြောက်ကြီး ၁၀၊ အမြောက်ငယ် ၄၊ မြင်း ၁၆ ကောင်နဲ့ စစ်ထွက်ခဲ့ပါတယ်။ အခု ဗေရာခရုဇ် (Veracruz) မြို့တော်နေရာမှာ အီစတာ (Easter) အကြိုနေ့ ကမ်းတက်ခဲ့ကြပါတယ်။

(အီစတာမှာ ဂျီစပ်စ် ရှင်သန်ထမြောက်သောနေ့၊ ဂွတ်ဖရိုက်ဒေး Good Friday က ဂျီးစပ်စ်ကို လက်ဝါးကပ် တိုင်တင်သောနေ့) ကောတေ့စ်က ဆိပ်ကမ်း အနီးမှာ မက္ကဆီကို သတင်းနားထောင်ရင်း ခေတ္တ ရပ်နားတယ်။ မက္ကဆီကိုကို စိုးမိုး အုပ်ချုပ်တဲ့ အက်ဇ်တက်ခ် (Aztec) တွေရဲ့ မြို့တော်ဟာ ကုန်းအတွင်းပိုင်းမှာ ရှိတယ်။ အဲဒီမြို့တော်မှာ ရွှေ၊ ငွေတွေ အများကြီး စုဆောင်းပြီး ရှိတယ်။ သူတို့က တခြား အင်ဒီးယန်း (Indian, Amerindian အခု အမေရိက အလယ်ပိုင်းကို၊ ခရစ် ၁၅ ရာစုနှစ် ကုန်ပိုင်းလောက်က ရောက်လာတဲ့

စပိန်သားတွေက အိန္ဒိယ လို့ထင်ပြီး၊ အဲဒီမှာတွေ့တဲ့ လူတွေကို အင်ဒီးယန်း Indian လို့ ခေါ်လိုက်တယ်။ အဲဒီ အင်ဒီးယန်းဟာ ကုလား မဟုတ်ပါ။ ဒါကြောင့် တချို့က အမေရင်ဒီးယန်း Amerindian လို့ နာမည်သစ် ပေးပါတယ်။ ဒါပေမယ့် နာမည်သစ်က သိပ်မတွင်ပါ။ အင်ဒီးယန်းလို့ပဲ ဆက်ခေါ်နေတာ များပါတယ်။) ကို ဖိနှိပ်အုပ်စီး ထားတဲ့အတွက် သူတို့ကို မုန်းတဲ့လူ(ရန်သူ) ပေါများတယ် လို့ သတင်းရတယ်။

ကောတေ့စ်ကတော့ အောင်ပွဲ ရလိုစိတ် ပြင်းထန် တဲ့အတွက် ကုန်းတွင်း အက်ဇ်တက်ခ်နယ်ကို တိုက်ယူမယ် လို့ ဆုံးဖြတ်လိုက်တယ်။ ငယ်သားတွေကတော့ သူ လောဘကြီး တိုင်းလုပ်ရင် ကြုံတွေ့ရမယ့် အခက်အခဲက ကြီးလှတယ် ဆိုပြီး စိုးရိမ် ကြောက်ရွံ့စိတ်တွေ ဝင်နေတာကို ချိုးနှိမ်ဖို့ ခရီးထွက်ခဲ့တဲ့ သင်္ဘောတွေကို ဖျက်ခိုင်းတယ်။ ဒါမှ အင်ဒီးယန်းတွေကို မသတ်နိုင်ရင် မင်းတို့ အသတ်ခံ ရမယ်လို့ အသိစိတ်ဝင်ပြီး ရှုပ်ရှုပ်ချုံချုံ တိုက်အောင် လှုံ့ဆော်တာပဲ ဖြစ်တယ်။ အတွင်းဘက်ကို စစ်ချီတက် တဲ့အခါ သီးခြား လွတ်လပ်တဲ့ တလက်စ်ကလန် (Tlexcalans)ဆိုတဲ့ အစွမ်းထက်တဲ့အင်ဒီးယန်းနဲ့ စတင် တိုက်ခိုက်ရတယ်။ သူတို့စစ်တပ်နဲ့ ပြင်းပြင်းထန်ထန် တိုက်ရလို့၊ သူတို့ရှုံးပြီးခါမှ သူတို့က အက်ဇ်တက်ခ်တွေဟာ ငါတို့ရန်သူ ဖြစ်တယ်။ ဒါကြောင့် ငါတို့စပိန်သားတွေနဲ့ ပေါင်းပြီး အက်ဇ်တက်ခ်တွေတိုက်မယ်လို့ လာပြီး ပူးပေါင်း ပါတယ်။ ဒီတော့ ကောတေ့စ်က ချိုလုလ (Cholula) ကို ချီတက် တယ်။ အဲဒီအရပ်မှာ အက်ဇ်တက်ခ်မင်း ဒုတိယ မွန်တေဇုမ (Montezuma) က စပိန်တွေရောက်မှ ဖြုန်းခနဲ တိုက်ဖို့ စောင့်နေတယ်။ အင်ဒီးယန်းတွေ ဒီလို လုပ်လိမ့်မယ်လို့ ကောတေ့စ်က ကြိုတင်ပြီး သတင်း ရထားတော့ လက်ဦးအောင် စတိုက်ပြီး ချိုလုလမှာ လူတွေ ထောင်နဲ့ချီပြီး သတ်ဖြတ်ပါတယ်။ ပြီးတော့ ယခု မက္ကဆီကိုမြို့တော်ဖြစ်တဲ့ တေနော့ချ်တစ်လန် (Tenochtitlan) အထိတက်ပြီး ၈ နိုဝင်ဘာ ၁၅၁၉ မှာ မတိုက်ခိုက်ရပဲ မြို့တွင်းကို ဝင်ပြီး မွန်တေဇုမကို ဖမ်းပြီး နာမည်ခံ ဘုရင် အဖြစ် ဆက်ထားလိုက်တယ်။ ဒီမှာ ကိစ္စ အားလုံး ပြီးမြောက်ပြီလို့ ထင်ရပါတယ်။

ဒါပေမယ့် ပန်ဖိလိုဒေနာ ဗအက်ဇ် (Pa’nfilo de narvae’z) ခေါင်းဆောင်တဲ့ စပိန်တပ် တစ်တပ် ကမ်းရိုးတန်းကို ရောက်လာတယ်။ ကောတေ့စ်ကို ဖမ်းဖို့ အမိန့်လည်း ပါလာတယ်။ ကောတေ့စ်က တေနော့ချ် တစ်လန်ကို အစောင့်တပ် နည်းနည်းထားခဲ့ပြီး ကမ်းရိုးတန်းကို အမြန်ဆုံး ချီတက်ပြီး နာဗက်ဇ်တပ်ကို ချေမှုန်း လိုက်နိုင်တယ်။ ကျန်သမျှ လူတွေကို သူ့ဆီမှာ အမှုထမ်းဖို့ လက်ခံတယ်။ တေနော့ချ် တစ်လန်မှာ ထားခဲ့သူက အက်တက်ခ်တွေကို သည်းမခံနိုင်လောက်အောင် ညှဥ်းပန်းလို့၊ ၃၀ ဇွန် ၁၅၂၀ မှာ သူပုန်ထကြလို့ စပိန်တပ်သားတွေ အများကြီး သေဆုံးသွားတယ်။ ကျန်သမျှက တလက်စကလေ (Tlexcala) ကို ဆုတ်ခွာခဲ့ရတယ်။ ကောတေ့စ်က လူပြန်စုပြီး၊ မေလမှာ တေနော့ချ်တစ်လန်ကို ဝန်းရံတယ်။ မြို့တော်ဟာ ၁၃ ဩဂုတ် ၁၅၂၀ မှာ လက်နက်ချပါတယ်။ အဲဒီနောက်တော့ မက္ကဆီကိုမှာ စပိန်တွေ ခိုင်ခိုင်မြဲမြဲ

အုပ်စီးနိုင်ပြီလို့ ဆိုနိုင်လောက်တယ်။ ကောတေ့စ်ကတော့ ဝန်းကျင်ကို ဆက်လက် သိမ်းသွင်းခဲ့တယ်။ တေနော့ချ်တစ်လန်ကို အသစ် ပြန်တည်ဆောက်ပြီး မက္ကဆီကို မြို့တော်လို့ သမုတ်တယ်။ နယူးစပိန် (စပိန်သစ် New Spain) ကိုလိုနီရဲ့မြို့တော် ဖြစ်လာပါတယ်။

ကောတေ့စ်မှာ ပါလာတဲ့တပ်ကလေးနဲ့ လူဦးရေ ငါးသန်းရှိတဲ့ အင်ပါယာကို သိမ်းယူနိုင်တာကိုပဲ အင်မတန် ထူးခြားမှတ်သားလောက်တဲ့ အစွမ်းဖြစ်တယ်လို့ ခေါ်နိုင် ပါတယ်။ သမိုင်းမှာ အခုလိုပဲ တစ်ဖက်အား သိပ်ကြီး ပါလျက်နဲ့အောင်နိုင်တာကို ယှဉ်တွဲပြီး ပြောနိုင်စရာ အဖြစ်အပျက်ကတော့ ဖရန်စစ်စကို ပီဇာရို (Francisco Pizarro) က ပီရူးမှာ အင်ကာတွေကို အောင်နိုင်ခြင်းပဲ ဖြစ်ပါတယ်။

ကောတေ့စ်ဘာကြောင့် ဘယ်လို အောင်မြင်ပါ သလဲလို့ သိလိုကြမှာပါ။ သူ့တပ်မှာ မြင်းနဲ့ သေနတ် ပါတာဟာ အောင်မြင်ဖို့ အကြောင်းတစ်ချက်လို့ ပြောကြမယ်။ ဒါပေမဲ့ အဲဒီလက်နက်ဟာ သူ့နိုင်တဲ့ ရန်သူ ပမာဏနဲ့စာရင် အင်မတန်ကို သေးငယ်လွန်းတယ်။ (အထက်က စပိန်တွေက တပ်လှတ်ပြီး တိုက်ခိုက်ခဲ့တာ နှစ်ကြိမ် ရှိခဲ့ဖူးတယ်။ ကိုလိုနီ မထူထောင်နိုင်ပါ။ ပြီးတော့ မြေရေယာကို အကြာအရှည် သိမ်းမထားနိုင်ပါ ဆိုတဲ့ အချက်ကို ထည့်ပြောဖို့လိုပါတယ်။) အမှန်ကိုပြောရရင် ကောတေ့စ်ရဲ့ အမိဋ္ဌာန်နဲ့ သတ္တိက ဒီနေရာမှာ အခရာဖြစ်ပါတယ်။ အလားတူ ထူးချွန်တဲ့ နောက်တစ်ချက် ကတော့ သူ့အပြောအဟော ကျွမ်းကျင် လည်ပတ်လို့ ဖြစ်ပါတယ်။ သူလည်ပတ်လို့ ရှိသမျှ အင်ဒီးယန်း အချင်းချင်း စိတ်ဝမ်းကွဲပြီး အများအပြား သူ့ဘက်ကဝင်ပြီး အက်ဇ်တက်ခ်ကို ဝိုင်းတိုက်အောင် သူလုပ်နိုင်ခဲ့ပါတယ်။

အက်ဇ်တက်ခ် ပုံပြင်တစ်ခုကလည်း ကောတေ့စ်ကို ကူညီခဲ့တယ်။ အင်ဒီးယန်း ပုံပြင်တစ်ခုမှာ နတ်မင်း ကွက် ဇာလ်ကုတ်လ် (Quetzalcoatl) ဆိုတာ အင်ဒီးယန်းတွေကို စိုက်ပျိုးရေး၊ သတ္တု အရည်ကြိုပြီး လက်ဝတ်ရတနာ ပြုလုပ်ရေး၊ အုပ်ချုပ်ရေး ဆိုတာတွေကို သင်ပေးခဲ့တယ်။ အရပ်အမောင်း ရှည်ပြီး အသားရောင်ဖြူတယ်။ မုတ်ဆိတ်ကြီး ဖားဖားနဲ့တွေ့ရတယ်။ ဒီနတ်မင်းက အင်ဒီးယန်း တွေဆီကို နောက်တစ်ခါ လာခဲ့ဦးမယ်ဆိုပြီး အရှေ့ပင်လယ် (Gulf of Mexico မက္ကဆီကိုပင်လယ်အော်) ကို ဖြတ်ကျော်ပြီး ထွက်သွားတယ်လို့ ပြောနေကြတယ်။ အဲဒီမှာ ကောတေ့စ် ရောက်လာတော့ အရပ်ရှည်ရှည် အသားဖြူဖြူမုတ်ဆိတ်ကြီးနဲ့ သူ့ကို သူတို့ဆီ ပြန်လာမယ်ပြောသွားတဲ့ ကျေးဇူးရှင်နတ်မင်း ပြန်လာပြီ ထင်ကြလို့ မွန်တေဇုမ (Montezuma) က စပိန် ကျူးကျော်စစ်ကို စစ်သွေးကြွပြီး ပြင်းပြင်းထန်ထန် မခုခံဘဲ ခပ်လျော့လျော့ စိတ်မပါ့တပါ ဖြစ်သွားရတယ်လို့ ပြောနိုင်ပါတယ်။

စပိန်သားတွေရဲ့ ကိုးကွယ် ယုံကြည်စိတ် ပြင်းထန် တာကလည်း အောင်မြင်ခြင်းရဲ့ အချက်တစ်ချက် ဖြစ်ပါတယ်။ အခုပြန်ကြည့်တဲ့အခါ ကောတေ့စ်ရဲ့ တိုက်ခိုက် သတ်ဖြတ်ခြင်းကို ခွင့်မလွှတ်နိုင်စရာလို့ ယူဆမယ်။ ဒါပေမယ့် ကောတေ့စ်ကတော့ သူလုပ်ပုံဟာ ခရစ်ဝါဒ ပြန့်ပွားရေး အနေနဲ့

အပြည့်အဝ ထောက်ခံချက်ရတဲ့ အပြုအမူပါပဲလို့ စွဲစွဲမြဲမြဲ ယုံတယ်။ သူက သူငယ်သားတွေကို **'တို့ကိစ္စဟာ မှန်မြတ်လို့ မုချအောင်ရမယ်'** လို့ ပြောနိုင်တယ်။ အဲဒီလိုပဲ တကယ် ပြောပါတယ်။ ငါတို့ဟာ လက်ဝါးကပ် အောင်လံတော်နဲ့ ချီတက်နေတာလို့ စိတ်မှာစွဲထားခိုင်းတယ်။ အဲဒီစကားတွေကို တကယ်ယုံတယ်။ သူနဲ့လာပြီး မဟာမိတ်ဖွဲ့တဲ့ အင်ဒီးယန်းတွေကို အတင်းအကျပ် ခရစ်သာသနာဘက်ကို ဝင်ခိုင်းလို့ စစ်ဆင်ရေးမှာ လူလျော့ပြီး ထိခိုက်နစ်နာနိုင်ပါတယ်။ ကောတေ့စ်ဟာ အင်ဒီးယန်းတွေနဲ့ ဆက်ဆံတဲ့အခါ ထူးချွန်အောင်မြင်သလို စပိန်သား ပြိုင်ဖက်တွေနဲ့ ဆက်ဆံတဲ့အခါ မအောင်မြင်ပါ။ စပိန်မင်းက သူ့ကို မြေတွေအများကြီး ပေးတယ်။ မာကွစ် (Marquis မြို့စားငယ်) ရာထူးအဆင့် ပေးတယ်။ ဒါပေမဲ့ မက္ကဆီကို ဘုရင်ခံရာထူးက ဖယ်ပစ် ပါတယ်။ ကောတေ့စ်ဟာ ၁၅၄၀ ပြည့်နှစ်မှာ စပိန်ကို ပြန်လာပြီး မသေမီ ခုနစ်နှစ်အတွင်းမှာ စပိန်သစ်မှာ သူ့ကိုပြန်ပြီး စိုးမိုးအုပ်ချုပ်ခွင့်ကို အကြိမ်ကြိမ် တောင်းခံ စောင့်စားရင်း သိပ်ချမ်းသာပေမယ့် သိပ်မကျေမနပ်ဖြစ်တဲ့ ပုဂ္ဂိုလ်အဖြစ်နဲ့ စဗီလ် (Seville) မှာ ၁၅၄၇ မှာ ကွယ်လွန် သွားပါတယ်။ မက္ကဆီကိုက သူပိုင်မြေတွေကို သူ့သားက အမွေရလိုက်ပါတယ်။

ကောတေ့စ်ဟာ လောဘကြီးတယ်။ တန်ခိုးအာဏာ မက်မောတယ်။ သူ့ကို ကောင်းကောင်း သိပြီး လေးစားသူ တစ်ယောက်က **'ဒီလူဟာ မညှာမတာ ရက်စက်ကြမ်းကြုတ်ပြီး မတော်မတည့်လုပ်ချင်တာ ဇွတ်လုပ်ပြီး အင်မတန်ရန်လိုတယ်'** လို့ ပြောပါတယ်။ ဒါပေမဲ့ ကောင်းတဲ့ အရည်အချင်းတွေလည်း အများကြီး ရှိပါတယ်။ သတ္တိရှိတယ်။ ဇွဲကောင်းတယ်။ ဉာဏ်အမြော်အမြင် ကြီးတယ်။ ရွှင်ရွှင်ပျပျ နေလိုစိတ် ရှိတယ်။ စစ်ခေါင်းဆောင် အနေနဲ့ ဆုံးဖြတ်ဆောင်ရွက်ချက်တွေ ခိုင်မာပေမယ့် 'သူ့အသက်ကို အသက်မမှတ်' လေရူးတေ့သလို အမျိုးမျိုး အကြိမ်ကြိမ် နှိပ်စက်ညှဉ်းပန်းလေ့ရှိတယ်။ ပီဇာရိုလို လူတိုင်းက မုန်းတဲ့ လူတစ်ယောက်လို့ မခေါ်နိုင်ပါ။ သူဟာ အင်ဒီးယန်းတွေနဲ့ ဆက်ဆံတဲ့အခါ ကောင်းတယ်။ အကြမ်းမဖက်ဘဲ ပြေပြစ်တယ်။ ရုပ်ချောတယ်။ ချစ်စဖွယ် မက်မောစရာ အမူအကျင့် မြင်ရတယ်။ မိန်းမတွေ ဝိုင်းဝိုင်း လည်နေတဲ့လူ ဖြစ်ပါတယ်။

ကောတေ့စ် သေတမ်းစာမှာ အင်ဒီးယန်းကျွန်တွေ သူ့မှာ ရှိနေတယ်။ ဒီလိုပိုင်ဆိုင်ခွင့် သင့်မသင့် သံသယ ရှိတယ်လို့ ရေးတယ်။ ဒါအတွက် သူစိတ်မအေးဘူး။ ဒါကြောင့် အမွေ ဆက်ခံတဲ့သားကို **'မင်း ဒီကိစ္စကို အသေအချာစဉ်းစားပါ'** လို့ မှာတယ်။ သူ့ခေတ်အခါကတော့ စစ်သုံ့ပန်း ဆိုရင် သတ်လိုသတ်၊ ရောင်းလိုရောင်း လုပ်နိုင်တယ်လို့ လူတိုင်း ယူဆနေတဲ့အခါက သူ့ အတွေးအခေါ်ဟာ အဆင့်မြင့်ပြီး ခေတ်ဆန် နေတယ်။ ဖရန်စစ်စကို ပီဇာရိုလို ပုဂ္ဂိုလ်၊ ခရစ်စတိုဖာကို လမ်ဗတ်စ်လို ပုဂ္ဂိုလ်တွေက ဒီပြဿနာနဲ့ စိတ်ဆင်းရဲ နေတယ်ဆိုတာ ယုံချင်မှ ယုံမယ်။ အချုပ်မှာ ကောတေ့စ် တစ်ယောက်သာ ရည်မွန်တဲ့လူပဲလို့ ထင်စရာဖြစ်လာပါတယ်။

ကောတေ့စ်နဲ့ ပီဇာရိုတို့ မွေးရာဒေသတွေဟာ မိုင်းငါးဆယ် အတွင်းမှာ ရှိတယ်။

အသက်ကလည်း ပီဇာရိုက ဆယ်နှစ်ပဲကြီးတယ်။ (ဆွေမျိုးနီးစပ်လည်း ဖြစ်ဟန်တူတယ်။) လုပ်ဆောင်ပုံချင်းကတော့ သိသိသာသာကြီး တစ်ထပ်တည်းကျနေတယ်။ သူတို့နှစ်ယောက်စလုံး တိုက်ကြီး အရွယ်နီးနီးရှိတဲ့ နယ်မြေကိုသိမ်းယူနိုင်တယ်။ သူတို့ ဒီလိုအောင်နိုင်တဲ့ အရပ်ဒေသမှာပဲ အောင်နိုင်သူတို့ဘာသာစကား၊ အောင်နိုင်သူတို့ ကိုးကွယ် ယုံကြည်မှု၊ အောင်နိုင်သူတို့ဓလေ့ကိုဖွတ်သွင်းပေးခဲ့လို့ ကနေ့အထိ အဲဒီနေရာတွေမှာ နိုင်ငံအုပ်ချုပ်ရေး အာဏာကိုဥရောပ သွေးပါသူတွေသာ ရယူနိုင်ပါတယ်။ ကောတေ့စ်နဲ့ ပီဇာရိုနှစ်ဦးပေါင်းသြဇာဟာ ဆီမွန်ဘိုလီဗာ (Simon Bolivar) ရဲ့သြဇာထက် ကြီးမားပါတယ်။ ဘိုလီဗာ တိုက်ခိုက်အောင်မြင်လို့ တောင်အမေရိကမှာ နိုင်ငံရေး အာဏာသာအင်ဒီးယန်းတွေလက်ထဲက ဥရောပ တိုက်သား လက်ထဲကို ရောက်တယ်။ ဒီစာအုပ်မှာ ကောတေ့စ်ကို ပီဇာရိုထက် ရှေ့က ထားသင့်ပါတယ်လို့ပြောကောင်းပြောမယ်။ ဘာပြုလို့လဲ ဆိုတော့ ကောတေ့စ်ရဲ့အစွမ်းတွေကပီဇာရိုကို နောက်က လိုက်လုပ်ချင်အောင် လမ်းပြ ဖြစ်နေလို့ဖြစ်တယ်။ အဲဒါအပြင် ပီရူးမှ အင်ဒီးယန်း ထကြွပုန်ကန်မှုဟာ ပီဇာရို သေတဲ့အထိလက်ကျန် ရှိနေသေးတယ်။ မက္ကဆီကိုမှာ ဆိုရင် ကောတေ့စ်က တစ်ခါတည်းလက်စသတ် ပြီးစီးအောင် ဆောင်ရွက်နိုင်ပါတယ်။ ဒါပေမယ့် အဲဒါတွေထက်သာတဲ့ အချက်တစ်ချက် ကျန်နေတယ်။ အဲဒီအချက်ကစပိန်လူမျိုးတွေရဲ့ နိုင်လိုစိတ်နဲ့ လက်နက် ကောင်းတာက ရှေ့တန်းကပါဝင်နေလို့ အက်ဇ်တက်ခ်နဲ့ အင်ကာ အဖို့ သိပ်ကြီးကျယ်တဲ့ အန္တရာယ်ဖြစ်တာမှန်ပါတယ်။ ဒါပေမယ့် ပီရူးမှာက မြေအနေအထားအရ တောတောင် လျှိုမြောင်ချိုင့်ဝှမ်းတွေ အားကိုးနဲ့ လွတ်လပ်ရေးကို ထိန်းထားဖို့ ဖြစ်နိုင်တယ်။ ပီဇာရိုရဲ့သတ္တိနဲ့ တိုက်ခိုက်ရေး အောင်မြင်လို့ ရာဇဝင်လမ်းကြောင်းပြောင်းသွားရတာဖြစ်တယ်။ အက်ဇ်တက်ခ်နယ်တွေက ပီရူးမှာလိုတောင်မများပါ။ ပြီးတော့ မက္ကဆီကိုမှာ ပီရူးနဲ့ မတူတဲ့ အချက်ကတောတောင်နည်းတယ်။ အတ္တလန္တိတ် သမုဒ္ဒရာ ကမ်းခြေဆိုတော့ စပိန်တပ်တွေအလွယ်တကူ ရောက်လာနိုင်တယ်။ ဒါကြောင့် စပိန်က မက္ကဆီကို ကိုသိမ်းယူမှာမုချဖြစ်နေတယ်။ ကောတေ့စ်ရဲ့သတ္တိနဲ့ ခေါင်းဆောင်မှုကောင်းလို့ခပ်စောစော တိုက်ခိုက် သိမ်းယူတာ ဖြစ်တာပဲ ဖြစ်တယ်။

21, June, 2001.

# (၆၄) သောမတ်စ် ဂျက်ဖာဆင် (၁၇၄၃ – ၁၈၂၆)

## THOMAS JEFFERSON (1743 – 1826)

အမေရိကန်ပြည်ထောင်စုရဲ့ တတိယမြောက် သမ္မတ၊ လွတ်လပ်ရေးကြေညာစာတမ်းရေးတဲ့ပုဂ္ဂိုလ် သောမတ်စ် ဂျက်ဖာဆင်ကို ဗာဂျီးနီးယားနယ်၊ ရှက်ဝဲလ် (Shadwell) မှာ ၁၇၄၃ က မွေးဖွားပါတယ်။ ဖခင်က မြေတိုင်းဆရာ၊ အောင်မြင်တဲ့ စိုက်ပျိုးရေးသမား၊ သူ့သေတော့ အမွေခံသား အတွက် ကြီးမားတဲ့ မြေရေယာကြီး တစ်ခုကို ထားရစ်တယ်။ ဝီလီယမ်နဲ့ မေရီကောလိပ် (College Of William and Mary) မှာ ဂျက်ဖာဆင် နှစ်နှစ်တက်ဖူးတယ်။ ဘွဲ့လက်မှတ်မရဘဲ ကောလိပ်က ထွက်ခဲ့ပါတယ်။ ပြီးတော့ နှစ်အတော်ကြာ ဥပဒေပညာကို ဆည်းပူးတယ်။ ၁၇၆၇ ကစပြီး ဗာဂျီးနီးယား ပြည်နယ်မှာ ရှေ့နေစာရင်းဝင် ဖြစ်ခဲ့ပါတယ်။ နောက် ခုနစ်နှစ် အတွင်းမှာ တစ်ဖက်က ရှေ့နေလိုက်ရင်း တစ်ဖက်က ကောက်ပဲစိုက်တယ်။ ဗာဂျီးနီးယားနယ် အောက်လွှတ်တော် အဖွဲ့ဝင်တစ်ဦး ဖြစ်လာပါတယ်။ ဗြိတိသျှပိုင် အမေရိကရှိ လူတို့ ရပိုင်ခွင့်ကို အချုပ် တင်ပြချက်မှာ ၁၇၇၄ တွင် ဂျက်ဖာဆင်ရေးတဲ့ ပထမဆုံး အရေးပါတဲ့ အက်ဆေး (လေ့လာချက်) ဖြစ်ပါတယ်။ နောက်တစ်နှစ်မှာ သူ့ကို ဒုတိယ ကွန်တီနင်တယ် ကွန်ဂရက်မှာ ဗာဂျီးနီးယားနယ်ရဲ့ ကိုယ်စားလှယ် တစ်ဦးအနေနဲ့ ရွေးကောက် လိုက်ကြတယ်။ ၁၇၇၆ မှာ လွတ်လပ်ရေးကြေညာ စာတမ်းကို ရေးဆွဲတယ်။ အဲဒီနှစ်နှောင်းပိုင်းမှာ ဗာဂျီးနီးယား ဥပဒေအဖွဲ့မှာ အရေးကြီးတဲ့ ပြုပြင်ရေးတွေကို ဆောင်ရွက်ဖို့ ရှေ့ဆောင် ရှေ့ရွက်ပြုပါတယ်။ သူအဆိုတင်သွင်းတဲ့ အရေးကြီးတဲ့ အကြံပြုချက်နှစ်ချက်မှာ လွတ်လပ်စွာ ကိုးကွယ်ယုံကြည်ခွင့်အတွက် ဗာဂျီးနီးယားဥပဒေ (the statute Of Virginia for Religious Freedom) နဲ့ အသိဉာဏ်ကို ပိုပြီး ရောနှောပျံ့နှံ့အောင် ဆောင်ရွက်ရန် ဥပဒေကျမ်း (Bill for the more Diffusion of Knowledge) ဆိုတဲ့ ပြည်သူ့ပညာရေးဆိုင်ရာ အကြံပြုချက်တွေ ဖြစ်တယ်။

ပညာနဲ့ ပတ်သက်လို့ ဂျက်ဖာဆင်ရဲ့ အကြံပြုချက် ထဲမှာ မူလတန်းပညာကို အများပြည်သူ အကုန်တတ် ရမယ်။ ပြည်နယ်တက္ကသိုလ်မှာ ဉာဏ်ကောင်းတဲ့လူတွေ အဆင့်မြင့် ပညာမှာ သင်ယူနိုင်ခွင့် ရှိရမယ်။ ဒီလို ဉာဏ်ပညာ ထူးချွန်သူတွေအတွက် ပညာသင် ထောက်ပံ့ကြေး စနစ်

တစ်ခုရှိရမယ်။ သူ့ပညာရေး စီမံကိန်းကို ဟိုတုန်းက ဗာဂျီးနီးယားက လက်ခံကျင့်သုံးခြင်း မရှိပါ။ နောက်တော့ အလားတူစီမံကိန်းတွေ ပြည်နယ်အားလုံးမှာပဲ လိုက်နာ ကျင့်သုံးနေကြပါပြီ။

ကိုးကွယ် ယုံကြည်မှု အယူဝါဒမှာ လုံးဝ လွတ်လပ်ရေး ရှိရမယ် ဆိုတာက ယုံကြည်မှုအရေးမှာ အနှောင့်အယှက် မပြုဘဲ ကြိုက်သလို လုပ်ခွင့်ပြုခြင်း၊ ကြိုက်သလို လုပ်ခွင့်ပြုတာကို သည်းခံနေခြင်း ဖြစ်တယ်။ နိုင်ငံ (State) နဲ့ ကျောင်းတော် (Church) ကို တသီးတခြား မပတ်သက်အောင် ထားမယ်လို့ ဆုံးဖြတ်တယ်။ (အရင်က ဗာဂျီးနီးယားမှာ အဲန်ဂလီကဲန်ကျောင်းတော်ဟာ အခြေခိုင်ပြီး ရှိနေပါတယ်။)

ဂျက်ဖာဆင်ရဲ့ တင်ပြချက်ကို ကန့်ကွက်သူတွေ အတော်များများ ရှိခဲ့ဖူးပါတယ်။ ဒါပေမယ့် နောက်ဆုံးတော့ ၁၇၈၆ မှာ ဗာဂျီးနီးယား ဥပဒေပြုအဖွဲ့က ဥပဒေအဖြစ် ပြဋ္ဌာန်းခဲ့ပါတယ်။ ဒီစိတ်ကူးတွေကိုပဲ တခြား ပြည်နယ်တွေမှာ အခွင့်အရေး ဥပဒေကြမ်းတွေအနေနဲ့ ယူငင် အသုံးပြုတယ်။ နောင်အခါ အမေရိကပြည်ထောင်စု အခြေခံအုပ်ချုပ်ရေး စည်းကမ်းမှာလည်း ထည့်သွင်းခဲ့ပါတယ်။ ဂျက်ဖာဆင်က ဗာဂျီးနီးယားမှာ ၁၇၇၉က ၁၇၈၁ ထိ ဘုရင်ခံ အဖြစ် အုပ်ချုပ်ခဲ့တယ်။ အဲဒီနောက်မှာ နိုင်ငံရေးက အနားယူ လိုက်တယ်။ အနားယူတုန်း ကျမ်း တစ်စောင်တည်းပဲ ရေးတယ်။ ဗာဂျီးနီးယား ပြည်နယ်မှတ်စု (Notes On the state of Virginia) ဖြစ်ပါတယ်။ အဲဒီစာအုပ်က အကြောင်းအရာ အထွေထွေပါတဲ့ အထဲမှာ ဂျက်ဖာဆင်က ကျွန်စနစ်ကို သူ့အနေနဲ့ မနှစ်သက်ကြောင်း ရှင်းလင်း ပြတ်သားစွာ ရေးသားထားပါတယ်။ ၁၇၈၂ မှာ ဂျက်ဖာဆင်ရဲ့ ဇနီး ကွယ်လွန်သွားပါတယ်။ (အိမ်ထောင်သက် ဆယ်နှစ်၊ သားသမီးခြောက်ယောက် မွေးတယ်။) ဂျက်ဖာဆင် အသက် ၃၉နှစ်၊ ငယ်ပါသေး တယ်။ ဒါပေမဲ့ နောက်ထပ် အိမ်ထောင်မပြုပါ။ ဂျက်ဖာဆင် အနားယူရာက ထွက်လာပြီး ကွန်ဂရက်မှာ ဝင်လာပြန်တယ်။ အဲဒီအခါ သူတင်သွင်းတဲ့ ငွေကြေး သုံးစွဲရာမှာ ဆယ်လီ စနစ် (Adecimal system) ကို အများ သဘောတူ လက်ခံကြပါတယ်။ အလားတူ အလေးချိန်နဲ့ အတိုင်းအတာကို ဆယ်ချိုး သုံးကြဖို့ အဆို တင်သွင်းတဲ့အခါ လက်မခံကြပါ။ (အဲဒီအခါက ဆယ်လီစနစ် မပေါ်သေးပါ။ ပြည်နယ်သစ် တိုင်းမှာ ကျွန်မထားရ အဆိုကတော့ တစ်မဲတည်းနဲ့ ကပ်ရှုံးသွားတယ်။)

ဂျက်ဖာဆင်ဟာ ၁၇၈၄ မှာ သံတမန်ရေးရာ ဆောင်ရွက်စရာရှိလို့ ပြင်သစ်ကို သွားတယ်။ မကြာမီ အမေရိကန် သံအမတ်အဖြစ် ဘင်ဂျမင်ဖရန်ကလင် (Benjamin Franklin) ကို ဆက်ခံတယ်။ ပြင်သစ်မှာ အစုစု ငါးနှစ်နေတယ်။ အဲဒါကြောင့် အမေရိကန် ပြည်ထောင်စု ဖွဲ့စည်းပုံ ဥပဒေရေးဆွဲတဲ့ ကာလတစ်ခုလုံးမှာ သူ အမေရိကမှာ မရှိ၊ ဒါပေမယ့် ဒီစည်းမျဉ်းထဲမှာ လူ့အခွင့်အရေး ကိုတော့ ဥပဒေ တစ်ရပ်အနေနဲ့ ထည့်သွင်းဖို့ သူက လေးလေးနက်နက် ထောက်ခံခဲ့ပါတယ်။ ဂျက်ဖာဆင် အမေရိကကို ၁၇၈၉ ခုမှာ ပြန်ရောက်တယ်။ ချက်ချင်း ဆိုသလို သူ့ကို တစ်နိုင်ငံလုံးရဲ့ နိုင်ငံခြားရေးရာ

ပထမ အတွင်းဝန်အဖြစ် ခန့်လိုက်တယ်။

ကက်ဘိနက်အထဲမှာ မကြာခင် ဘဏ္ဍာရေး အတွင်းဝန် အလက်ဇန္ဒား ဟမ်မီလ်တန် (Alexander Hamilton) ရဲ့ နိုင်ငံရေးအမြင်နဲ့ အတော်များများ မတူလို့ ဂျက်ဖာဆင်နဲ့ အတိုက်အခံ ဖြစ်ကြရတယ်။ နိုင်ငံအတွင်းမှာ ဟမ်မီလ်တန် ပေါ်လစီကို ထောက်ခံသူတွေ စုရုံးပြီး ဖက်ဒရယ် ပါတီ (Federalist Party) ရယ်လို့ ဖြစ်ပေါ်လာတယ်။ ဂျက်ဖာဆင် ဘက်တော်သားတွေ ကစုပြီး ဒီမိုကရက်တစ် ရီပတ်ဗလင်ကင်ပါတီ ဖြစ်လာတယ်။ နောက်တော့ ဒီမိုကရက်တစ်ပါတီ (Democratic Party) ရယ်လို့ ဖြစ်လာတယ်။

ဂျက်ဖာဆင်ဟာ ၁၇၉၆ မှာ သမ္မတ အဖြစ် ဝင်ပြီး အရွေးခံတယ်။ ဂျွန်အဒမ် (John Adams) ရဲ့နောက်က ဒုတိယလူ ဖြစ်သွားတယ်။ အုပ်ချုပ်ပုံ စည်းမျဉ်းဥပဒေအရ ဒုတိယရသူက ဒုတိယ သမ္မတဖြစ်ခဲ့တယ်။ ၁၈၀၀ ပြည့်နှစ် ရောက်တဲ့အခါမှ အဒမ်ကို နိုင်ပါတယ်။ သမ္မတ အနေနဲ့ ဂျက်ဖာဆင်ဟာ အရင်က အတိုက်အခံတွေကို မျှမျှတတ ပြေပြေလည်လည် ဆက်ဆံတယ်။ အဲဒါ အမေရိကန်ပြည်ထောင်စု သမ္မတနိုင်ငံ အတွက် ကောင်းတဲ့ အစဉ်အလာတစ်ခု စတင်ခြင်း ဖြစ်ပါတယ်။ သူ့လက်ထက်မှာ ရေရှည် ကောင်းကျိုးရှိပြီး အင်မတန် ထင်ရှားကြီးကျယ်တဲ့ ကိစ္စကတော့ လူစီယားနား ဝယ်ယူခြင်းပဲ ဖြစ်ပါတယ်။ အကြမ်းဖျင်း မူလ အမေရိက ပြည်ထောင်စုလောက်ရှိတဲ့ မြေကို ဝယ်ယူလိုက်တာဟာ သမိုင်းမှာ ဒီလို အေးအေးဆေးဆေးနဲ့ မြေတွေအများကြီးကို လက်ပြောင်းလက်လွှဲ လုပ်တာ အရင်က မကြုံဖူး မရှိဖူးတဲ့ အတွက် ထူးခြားတယ်။ အမေရိကပြည်ထောင်စုကိုလည်း တန်ခိုးကြီးနိုင်ငံ တစ်ခုဖြစ်စေမယ့် အထောက်အကူကြီး ဖြစ်ပါတယ်။ ပြီးတော့ နှစ်ရှည်လများ အရေးပါ အရာရောက်တဲ့ ကိစ္စကြီး တစ်ရပ် ဖြစ်ပါတယ်။ ဒီလူစီယားနား ဝယ်ယူခြင်းဟာ တကယ်လို့သာ သောမတ်စ်ဂျက်ဖာဆင် တစ်ဦးတည်း ဒီလိုလုပ်ဖို့ စတင် စိတ်ကူးတယ်၊ ဖြစ်အောင်လည်း အသေးစိတ် ဆောင်ရွက်တယ် ဆိုရင် ဒီစာအုပ်မှာ သူ့ကို အတော်မြင့်တဲ့နေရာကို ပေးရမှာပါ။ ခုတော့ ပြင်သစ် ခေါင်းဆောင် နပိုလီယန်ဘိုနာပတ်က အမေရိကကို ဒီမြေကြီး ရောင်းမယ်လို့ အရေးကြီးတဲ့ ဆုံးဖြတ်ချက် ချသူဖြစ်တယ်။ တကယ်ရောင်း ဖြစ်အောင်လည်း ဆောင်ရွက်သူ ဖြစ်နေပါတယ်။

ဒီလူစီယားနား အဝယ်တော်နဲ့ အထူးပတ်သက်တဲ့ အမေရိက အမျိုးသားကို ပြောပါဆိုတောင် ဒီလိုဝယ်ရင် ကောင်းမယ်လို့ ဘယ်လိုမှ မမျှော်မှန်းတဲ့ ဂျက်ဖာဆင် မဟုတ်ပါ။ ပါရီရောက် အမေရိကန် သံတမန်တွေဖြစ်တဲ့ ရောဗတ်လစ်ဗင်းစတုံး (Robert Living stone) နဲ့ ဂျိမ်းစ်မွန်ရိုးတို့ကသာ ဒီလို ထူးခြားတဲ့ အခွင့်အရေးကောင်း တစ်ခုကို လက်မလွှတ်အောင် ရောင်းသူဝယ်သူ ပြေလည်အောင် စေ့စပ် ပေးကြတယ်။ (ဂျက်ဖာဆင်က သူ့သင်္ချိုင်းစာကို သူကိုယ်တိုင် ရေးထားခဲ့တဲ့အခါ သူကိုယ်တိုင် ဆောင်ရွက် အောင်မြင်ခဲ့တဲ့ ထူးခြားတဲ့ ကိစ္စတွေ စာရင်းမှာ ဒီလူစီယားနား အဝယ်တော် အကြောင်း ထည့်မရေးတာလည်း မှတ်သားစရာ အချက်တစ်ချက် ဖြစ်ပါတယ်။)

ဂျက်ဖာဆင်ကို ၁၈၀၄ မှာ သက်တမ်း နောက်တစ်ကြိမ် သမ္မတ အဖြစ်နဲ့ အရွေးခံပေမယ့် ၁၈၀၈ မှာ သက်တမ်း တတိယအကြိမ် အရွေးမခံတော့တာက ဂျော့ဝါရှင်တန် ထားရစ်တဲ့ (လူတစ်ဦးတည်း သမ္မတ သုံးကြိမ် ဆက်တိုက် မလုပ်ဘူးဆိုတဲ့) အစဉ်အလာ ကောင်းတစ်ရပ်ကို ခိုင်မြဲအောင် ထောက်ခံချက် ဖြစ်ပါတယ်။ ဂျက်ဖာဆင်ဟာ ၁၈၀၉ မှာ အနားယူပြီးမှ အစိုးရ အုပ်ချုပ်ရေးစတဲ့ အမှုကိစ္စ ဆောင်ရွက်ချက် ဆိုလို့ (၁၈၁၉ လုပ်ငန်းကြီးတစ်ခု ထူထောင်ဖွင့်လှစ်ခွင့်နဲ့ အလုပ် လျှာထားချက်စာချုပ် ချာတာ Charter ချုပ်ဆိုပြီး) ဗာဂျီးနီးယား တက္ကသိုလ် တည်ထောင်ပေးခြင်းပဲ ဖြစ်ပါတယ်။ ဒီကိစ္စက အရင် အနှစ်လေးဆယ့်သုံးနှစ်က ဉာဏ်ကြီးသူတွေ အတွက် အဆင့်မြင့်ပညာကိုရယူဖို့ တက္ကသိုလ်ရှိရမယ်လို့ ဗာဂျီးနီးယား ဥပဒေလွှတ်တော်မှာ သူပြောခဲ့ဖူးတဲ့စကားကို လက်တွေ့ ဆောင်ရွက်ချက် ဖြစ်ပါတယ်။

အမေရိကန် လွတ်လပ်ရေး ကြေညာချက် အနှစ်ငါးဆယ်မြောက် ၄ ဇူလိုင် ၁၈၂၆ မှာ အသက် ရှစ်ဆယ့် သုံးနှစ်ကျော်ထိ အကျိုးရှိရှိနေသွားတဲ့ ဂျက်ဖာဆင် ကွယ်လွန်ပါတယ်။

ဂျက်ဖာဆင်မှာ နိုင်ငံရေး အစွမ်းအပြင် တခြား စွမ်းတာတွေ ရှိပါသေးတယ်။ နိုင်ငံခြားဘာသာစကား ငါးမျိုး ခြောက်မျိုးတတ်တယ်။ သဘာဝသိပ္ပံ (natural science) နဲ့ သင်္ချာကို စိတ်ဝင်စားတယ်။ စိုက်ပျိုး မွေးမြူရေးမှာ ထူးချွန်သူဖြစ်တယ်။ သိပ္ပံနည်းကျ စိုက်ပျိုး မွေးမြူတယ်။ ကုန်ပစ္စည်း ထုတ်လုပ် ရောင်းချသူ၊ အသေးအဖွဲ တီထွင်လုပ်ဆောင်သူ၊ တော်တော်ကောင်းတဲ့ ဗိသုကာ ဖြစ်ပါတယ်။

ဂျက်ဖာဆင်လို ပါရမီကောင်းတဲ့ လူရည်ချွန် တစ်ယောက်ရဲ့ သမိုင်းကို ရေးတဲ့အခါ နည်းနည်း ပိုရေးမိမှာ စိုးရိမ် ရတယ်။ သူ့ဆောင်ရွက်ချက်ရဲ့ တကယ့် အကျိုးဆက်ကို ရှာချင်ရင် လွတ်လပ်ရေးကြေညာချက်က စသင့်ပါတယ်။ အကြမ်းရေးစဉ်ကစပြီး သိပ်ကောင်း တယ်လို့ သတင်းထွက်ပြီး ဖြစ်တယ်။ ဒီလွတ်လပ်ရေး ကြေညာ စာတမ်းပါ အချက်တွေကို အမေရိကန် ပြည်ထောင်စု သမ္မတအုပ်ချုပ်ရေး ဥပဒေတွေနဲ့ ဖော်ထုတ် ပါသလားလို့ မေးရင် မဖော်ထုတ်ပါဘူးလို့ပဲ ဖြေရမယ်။ ကြေညာချက်ရဲ့ ပဓာန ရည်ရွယ်ချက်က အမေရိကသားတွေ နှစ်သက်တဲ့ ဆန္ဒသဘောထားကိုသာ ဖော်ပြ ထားတာဖြစ်ပါတယ်။ အဲဒါအပြင် ဒီဆန္ဒတွေက ဂျက်ဖာဆင် တစ်ယောက်တည်းက စတင် ဖော်ထုတ်ခဲ့တာ မဟုတ်ပါ။ အများစုက ဂျွန်လော့ခ် (John Locke) ရေးသားချက်က ဆင်းသက်လာတာ ဖြစ်ပါတယ်။ ကြေညာချက်ဟာ ဒဿနိက မဟုတ်၊ ဟုတ်ရမယ် လို့လည်း မရည်ရွယ်၊ တကယ်ကတော့ အမေရိကသား အများစုက နှစ်သက် လက်ခံပြီးသား ယုံကြည်ချက်တွေကို စုစည်းပြီး တိုတိုရှင်းရှင်း ရေးထားတာပဲ ဖြစ်ပါတယ်။ ဂျက်ဖာဆင်ရဲ့ ခမ်းနား တင့်တယ်တဲ့ စကားလုံးတွေနဲ့ ကြေညာချက်ကို အရေးကောင်းလို့ အမေရိကန်သားတွေက လွတ်လပ်ရေး ကြေညာမယ်လို့

ဆုံးဖြတ်တာလည်း မဟုတ်ပါ။ တော်လှန်ရေး စနစ် (Revolutionary War) က လက်ဇင်တန် (Laxinton) နဲ့ ကွန်ကော့ဒ်တိုက်ပွဲတွေ တိုက်ရတဲ့ ဧပြီ ၁၇၇၅ ကပဲ စတင်ခဲ့ပါတယ်။ (လွတ်လပ်ရေး ကြေညာချက်ထက် တစ်နှစ်ကျော်စောတယ်။) ဖော်ပြခဲ့တဲ့ စစ်ပွဲ နှစ်ပွဲ၊ နောက်လပေါင်းများစွာ အချိန်အတွင်း အမေရိကန် ကိုလိုနီတွေမှာ အရေးကြီးတဲ့ ဆုံးဖြတ်ချက်ကို ချဖို့ခက်နေတယ်။ အပြီးအပိုင် လွတ်လပ်ရေးကို အပြတ် တောင်း ရမလား၊ အင်္ဂလိပ်အစိုးရနဲ့ စေ့စပ် ဖြန်ဆိုချက် လုပ်ရကောင်းမလား (ဒီလို နှစ်ခွတွေးပြီး မပြတ်မသား ဖြစ်နေပါတယ်။) ၁၇၇၆ နွေဦးပေါက်မှာ ကွန်တီနင်တယ် ကွန်ဂရက် (Continental Congress) မှာ ပထမ သဘောထားကို လိုလားသူ အားကောင်းလာပါတယ်။ ဆုံးဖြတ်ချက်ချဖို့ နှိုးဆော်သူက ဂျက်ဖာဆင် မဟုတ်ပါ။ ဗာဂျီးနီးယားက ရစ်ချက်ဟင်နရီလီး (Richard Henry Lee) ၇ ဇွန် ၁၇၇၆ မှာ ကိုလိုနီတွေက ဂရိတ်ဗြိတိန် (Great Britain) လက်အောက်က အပြီးထွက်ဖို့ ကြေညာ ပါလို့ အဆိုပြုတယ်။ ကွန်ဂရက်က လီတင်သွင်းတဲ့အဆိုကို အချိန်ယူပြီး စဉ်းစားမယ်လို့ ဆုံးဖြတ်တယ်။ ဂျက်ဖာဆင် ခေါင်းဆောင်ပြီး ဖွဲ့ပေးတဲ့ ကော်မတီက ဘာကြောင့် လွတ်လပ်ရေး ကြေညာသင့်တယ်လို့ အများသိ ထုတ်ပြန်ချက်ရေးဖို့ ခိုင်းလိုက်တယ်။ (ကော်မတီဝင်တွေက ဂျက်ဖာဆင်ကို တစ်ဦးတည်းရေးပါလို့ လွှဲအပ်တယ်။ အဲဒီလိုပဲ လုပ်သင့်ပါတယ်။) ကွန်ဂရက်က လီတင်သွင်း သွားတဲ့အဆိုကို ၁ ဇူလိုင် ၁၇၇၆ မှာ ပြန်ပြီး စဉ်းစားဖို့ ဇူလိုင် ၁၇၇၆ မှာ မဲပေးတာဟာ လွတ်လပ်ရေးပဲယူမယ်လို့ ပြတ်ပြတ်သားသား ဆုံးဖြတ် ခဲ့တာဖြစ်ပါတယ်။ ဒီလို မဲဆန္ဒရပြီးမှ ဂျက်ဖာဆင်ရဲ့ ကြေညာချက် မူကြမ်းကိုယူပြီး ဆွေးနွေး ကြပြန်တယ်။ (အသင့်အတင့်ပြင်ပြီး) နောက်နှစ်ရက် ကြာတော့မှ ၄ ဇူလိုင် ၁၇၇၆ မှာ ကွန်ဂရက်က ကြေညာတာ ဖြစ်ပါတယ်။

လွတ်လပ်ရေးကြေညာချက်ဟာ လူအများထင်သလို သိပ်အရေးမပါဘူးဆိုရင် ဂျက်ဖာဆင်ရဲ့ တခြား ဆောင်ရွက်ချက်တွေ ထောက်ပြီး သူ့ကို ဒီစာအုပ်ထဲမှာ ထည့်လို့ရမယ် မဟုတ်လားလို့ မေးပါ။ သူကိုယ်တိုင် ရေးတဲ့ သူ့သင်္ချိုင်းစာမှာ ဂျက်ဖာဆင်က သူ့ကို အစဉ်အမြဲ သတိရစရာ အချက်နှစ်ချက်ရှိ ပါတယ်လို့ ဖော်ပြတယ်။ တစ်ခုက သူဟာ ဗာဂျီးနီးယား တက္ကသိုလ်ကို ထူထောင်သူ ဖြစ်တယ်ဆိုတဲ့ အချက်ပါပဲ။ ချီးမွမ်းစရာ ကောင်းတဲ့အချက် မှန်ပေမယ့် ဒါလောက်နဲ့ ဒီစာအုပ်ထဲ ထည့်နိုင်စရာမရှိပါ။

ဒုတိယဆောင်ရွက်ချက်က လွတ်လပ်စွာ ကိုးကွယ် ယုံကြည်ခွင့် အတွက် ဗာဂျီးနီးယား ဥပဒေစာအုပ်ကို ရေးသားနိုင်တာဖြစ်တယ်။ အဲဒါကတော့ အရေးပါ အရာရောက်ပါတယ်။ ကြိုက်နှစ်သက်ရာ အယူဝါဒကို ယူခွင့်ပြုပါ ဆိုတဲ့စကားကို ဂျက်ဖာဆင်ရဲ့ အထက် အထက်က ဂျွန်လော့ခ်နဲ့ ဗောလ်တဲလိုလို ထင်ရှားတဲ့ ဒဿနိက ဆရာတွေက ပြောခဲ့ပြီးဖြစ်ပါတယ်။ ဒါပေမဲ့ လော့ခ်ပြောဖူး သမျှထက် ဂျက်ဖာဆင်ရဲ့ဥပဒေမှာ ပိုများပါတယ်။ ပြီးတော့ ဂျက်ဖာဆင်က သူပြောသမျှကို နိုင်ငံရေးမှာ ပါဝင်လှုပ်ရှားရင်း နိုင်ငံရဲ့ဥပဒေ အဖြစ် ပြဋ္ဌာန်းအောင် လုပ်နိုင်တဲ့အပြင် တစ်ခြားနယ်တွေမှာ အခွင့်အရေး ဥပဒေကြမ်း (Bills Of Rights) တွေ ရေးဆွဲ ဖြစ်အောင် လှုံ့ဆော်နိုင်ခဲ့ပါတယ်။

ဒီတော့ နောက်ထပ်မေးခွန်းမေးစရာ ပေါ်လာ ပါသေးတယ်။ ဂျက်ဖာဆင်ဟာ ပြည်ထောင်စု တစ်ခုလုံးနဲ့ ဆိုင်တဲ့ ဖက်ဒရယ် အခွင့်အရေး ဥပဒေကြမ်း (the Federal Bill Of Rights) ရေးဆွဲဖြစ်အောင် ဘယ်လောက် ဆောင်ရွက်နိုင်ပါသလဲ။ ဂျက်ဖာဆင်ဟာ အခွင့်အရေး ဥပဒေကြမ်းကို လိုလားသူတွေရဲ့ ကိုယ်စားလှယ် ဆိုရင်လည်း ဟုတ်တယ်။ အဲဒီအစုထဲမှာ ဉာဏ်ထက်မြက်တဲ့ ခေါင်းဆောင် တစ်ဦး ဆိုရင်လည်း ဟုတ်တယ်။ ဒါပေမယ့် ဂျက်ဖာဆင်ဟာ ဖွဲ့စည်းပုံ ဥပဒေပြုလွှတ်တော်ပြီးပြီးချင်း အခွင့်အရေး ဥပဒေကြမ်းတွေ အောင်မြင်အောင် အကြိတ်အနယ် ကြိုးစားကြရတဲ့ ၁၇၈၄ က ၁၇၈၉ ခုနှစ်ကုန်လောက် အထိ ကာလ အတွင်းမှာ ပြည်တွင်းမှာ မရှိ၊ နိုင်ငံအပ ရောက်နေတယ်။ ဒီကိစ္စကို တကယ် အားကြိုးမာန်တက် ဆောင်ရွက်သူက ဂျိမ်းမက်ဒီဆင် (James Madison) ဖြစ်တယ်။ သူက ကွန်ဂရက်မှာ ဥပဒေကြားဖြတ် ပြင်ဆင်ချက်ကို ၂၅ စက်တင်ဘာ ၁၇၈၉ မှာ အောင်မြင်စွာ လုပ်ပြီးတဲ့အထိ ပြည်ထောင်စုကို ပြန်မလာနိုင်ခဲ့ပါ။

ဂျက်ဖာဆင်ရဲ့ ရာထူး လက်ရှိ ဆောင်ရွက်ချက် မဟုတ်ဘဲ သူ့သဘောထား အယူအဆတွေက သာ ပြည်ထောင်စုမှာ အများကြီး အကျိုးပြုတာ ဖြစ်ပါတယ်။ ဒါတောင် ဂျက်ဖာဆင်ရဲ့စိတ်ကူးတွေကို အမေရိက လူမျိုးက ဘယ်လောက်အထိ လက်ခံသင့်သလဲလို့ ဆုံးဖြတ်ဖို့ မလွယ်ပါ။ ဂျက်ဖာဆင်ကို ပုဂ္ဂိုလ်အရ လေးစားပါတယ်။ ဒါပေမယ့် တခြားဝါဒကို ထောက်ခံတဲ့လူတွေ မနည်းပါ။ ဥပဒေမှာ သူ့စကား အတိုင်း လူလူချင်း အနာအကျင် မလုပ်ကြရအောင် တားမြစ် ပေးနိုင်တဲ့ အစိုးရ၊ လူတစ်ဦးချင်း ကိုယ်ကြိုက်သလို လက်မှုစက်မှု ဆောင်ရွက်ပြီး (လူတွေရဲ့) တိုးပွားမှုကို အားပေးတဲ့အစိုးရ၊ အဲဒီလို အစိုးရ ငယ်ငယ်ရှိရင် ကောင်းမယ် လို့ သူအမြဲပြောတယ်။ ဒီလိုအစိုးရသာ လိမ္မာတယ်၊ အကုန်အကျ နည်းတယ်လို့ သူဖော်ပြ ပြောဆိုလေ့ရှိတယ်။ ဒီလိုတွေးတာမှာ ဂျက်ဖာဆင်က မှန်ဖို့များပါတယ်။ အမေရိကန်ပြည်သူအများက သူပြောတာ နားမလည်ကြောင်း အရင်အနှစ်ငါးဆယ်တွင်း မဲပေးပုံက ထင်ရှားအောင် သက်သေပြနေပါတယ်။ ဒုတိယ ဥပမာ တစ်ခုက ဖွဲ့စည်း အုပ်ချုပ်ပုံဥပဒေကို အဓိပ္ပာယ် ဖွင့်ဆိုတဲ့နေရာမှာ နောက်ဆုံး ဆုံးဖြတ်ချက်ကို တရားလွှတ်တော်ချုပ်က လုပ်ပိုင်ခွင့်ရှိတယ် ဆိုတဲ့ အချက်ကို ဂျက်ဖာဆင်က မကြိုက်၊ အပြင်းအထန် ကန့်ကွက်ပေမယ့် နောက်ဆုံးမှာ ကွန်ဂရက်လုပ်တဲ့ ဥပဒေကို တရားလွှတ်တော်ချုပ် (the Supreme Court) က ဒီဥပဒေဟာ ဖွဲ့စည်းပုံ အလိုကျမဟုတ်လို့ ပယ်ဖျက်ခွင့် ပေးတယ်။ သူက ဒီလိုလုပ်ရင် အများဆန္ဒအရ ဆောင်ရွက်တဲ့ အစိုးရမူဝါဒနဲ့ ဆန့်ကျင်တယ်လို့ ယူဆတယ်။

အခုဖတ်ပြီးတဲ့ အထက်စာပိုဒ် အတိုင်းဆိုရင် သောမတ်စ် ဂျက်ဖာဆင်မှာ ဘာမျှ သြဇာမရှိလို့ ဆိုရာ ရောက်နေပါတယ်။ ဒီလိုဆိုရင် ဒီစာအုပ်ထဲတောင် မထည့်သင့်လို့ ဖြစ်လာမယ်။ သစ်တစ်ပင်ကိုပဲ ဂရုစိုက်ရင် တောကိုမြင်တော့မှာ မဟုတ်ပါ။ အခုလို အသေးစိတ် အကွက်တစ်ကွက်လောက် ထောက်ပြရုံနဲ့ ဂျက်ဖာဆင်ရဲ့ စွမ်းဆောင်ချက် အခန်းကဏ္ဍတစ်ခုလုံးကို မထိခိုက်သင့်ပါ။ ဂျက်ဖာဆင်ရဲ့ တစ်ဘဝ ဆောင်ရွက်ချက်ကို ခြုံငုံကြည့်တဲ့အခါကျမှ သူဟာ

‘လူသားတွေရဲ့ လွတ်လပ်ရေးမှာ ရှေ့ဆောင် ရှေ့ရှုက် ပြောဟောသူအဖြစ်နဲ့ အရေးပါတယ်ဆိုတဲ့ လူတွေထဲမှာပဲ အရေးပါဆုံး (Preeminent Spokesman) ဖြစ်တယ်။’ ဂျော့ဝါရှင်တန်ထက် ဂျက်ဖာဆင်ကို အဆင့် ပိုပေးရမလား။ လျှော့ပေးရမလာ းလို့ မေးမြန်းရင် အမေရိကန် လွတ်လပ်ရေးနဲ့ လူအများ အကျိုးဆိုင်ရာ အဖွဲ့အစည်း ရယ်လို့ နှစ်မျိုးနှစ်စား ရှိရာ လက်ရုံးရည်သမားရော နှလုံးရည် သမားပါ ဘက်စုံဝင်ရလိမ့်မယ်။ နှစ်ဦးစလုံး ပါရမယ်။ ဒါပေမယ့် စာရေးသူ အမြင်ကတော့ လက်ရုံးထက် နှလုံးက ပိုပြီး အရေးပါ အရာရောက်ပါတယ်။ အုပ်ချုပ်ရေးပိုင်းမှာ ဂျော့ဝါရှင်တန်က အမှန်ပဲ ထိပ်ဆုံးက ပုဂ္ဂိုလ်ပါ။ နှလုံးရည်ပိုင်းမှာကတော့ ကျေးဇူးပြုသူများ တယ်။ အမေရိကန်သား ဆိုရင် ဂျက်ဖာဆင်နဲ့ ဂျိမ်းစ်မက်ဒီဆင်၊ ဥရောပတိုက်သား ဆိုရင် ဂျွန်လော့ခ်၊ ဗောလ်တဲ ဆိုသလို ရှိပါတယ်။ ဒီအချက်ကြောင့် သောမတ်စ် ဂျက်ဖာဆင် (Thomas Jafferson) ဟာ ပါရမီထူးသူ ဂုဏ်သမ္ဘာရင့်သူ ဆိုပေမယ့် ဂုဏ်ပြုစရာ ဂျော့ဝါရှင်တန် အဆင့်ထက် လျော့နေရခြင်းဖြစ်ပါတယ်။

23, June, 2001.

# (၆၅) မိဖုရား အစ္စဘဲလာ (၁) (၁၄၅၁ – ၁၅၀၄)

# QUEEN ISABELLA(1451 – 1504)

ကနေ့လူတွေက ကက်စတီး (Castile) မိဖုရား ပထမ အစ္စဘဲလာ ဆိုရင် အတ္တလန္တစ် သမုဒ္ဒရာကိုဖြတ်ပြီး ရေလမ်း ခရီးသွားဖို့ ခရစ်စတိုဖာ ကိုလမ်ဘတ်စ်ကို စရိတ်ငွေတော် အမြောက်အမြား ထုတ်ပေးခဲ့တယ်လို့ပဲ သိနေကြတယ်။ တကယ်က ဘုရင်မက သွက်လက် ချက်ချာပြီး အစွမ်းထက်တဲ့ အုပ်ချုပ်သူ တစ်ဦး ဖြစ်တယ်။ ရှေ့ရာစု နှစ်ပေါင်းအကြာကြီး စပိန်နဲ့ လက်တင် အမေရိက အကျိုးပြုနိုင်မယ့် အရေးပါတဲ့ ဆုံးဖြတ်ချက် အများကြီးချမှတ်ခဲ့လို့ တိုက်ရိုက် အကျိုးပေး မဟုတ်ပေမယ့် ဆက်သွယ်ပြီး အခုခေတ်ထိ လူပေါင်း သိန်းသန်းကုဋေ အကျိုးခံစားနေကြရပါတယ်။ ဘုရင်မ ချမှတ်တဲ့ ပေါ်လစီတွေဟာ သူ့လိုပဲ အကင်းပါးပြီး အလုပ်လုပ်နိုင်စွမ်း အများကြီးရှိတဲ့ ကြင်ယာတော် အရ ဂုန်ဘုရင် ဖာဒီနန်နဲ့ တွဲဖက်ပြီး ညှိနှိုင်းဆောင်ရွက်ခဲ့တာ ဖြစ်တယ်။ မင်းမိဖုရား တွဲဖက် ဆောင်ရွက်တယ်ဆိုရင် မင်းမိဖုရား နှစ်ပါးစလုံးက ဒီစာအုပ်မှာ အတူတူတွဲဖက် ဂုဏ်ပြုထိုက်တယ်လို့ ဆိုရင် ဟုတ်မှာပါ။ ဒါပေမယ့် အရေးပါတဲ့ ဆုံးဖြတ်ချက် တွေကို ဘုရင်မကသာ ရှေ့ဆောင်ပြီး ဆုံးဖြတ်ချက် ပေးသွားတယ်လို့ သိရလို့ အခုလို ဘုရင်မ/မိဖုရား တစ်ဦးတည်းကို ရွေးနုတ် တင်ပြရတာ ဖြစ်ပါတယ်။

အခု စပိန် (Spain)အတွင်း ကက်စတီး (Castile) နိုင်ငံ၊ မဒရိဂါလ်မြို့မှာ အစ္စဘဲလာကို ၁၄၅၁ မှာ မွေးဖွား ပါတယ်။ ကလေးငယ်အရွယ်ကစပြီး ဘာသာတရား ကိုင်းရှိုင်းအောင် ဂရုတစိုက်သွန်သင်ဆုံးမတာကို ခံရတယ်။ ဒါနဲ့ ဘာသာတရားကို အင်မတန် ကြည်ညို လေးစားတဲ့ ကက်သလစ် တစ်ယောက် ဖြစ်လာပါတယ်။ အဖေတူ အမေကွဲ မောင်တော် စတုတ္ထ ဟင်နရီဟာ ၁၄၅၄ ကစပြီး နတ်ရွာစံတဲ့ ၁၄၇၄ အထိ ကက်စတီးရဲ့မင်း ဖြစ်ခဲ့တယ်။ အဲဒီတုန်းက စပိန်နိုင်ငံရယ်လို့ မရှိသေးပါ။ အခု စပိန်ကို ဟိုတုန်းက လေးနိုင်ငံခွဲထားတယ်။ ကက်စတီးက အကြီးဆုံး၊ အရဂုန်က ကနေ့စပိန်ရဲ့ အရှေ့မြောက်၊ ပရနဒက တောင်၊ နဗာက မြောက်မှာ ဖြစ်ပါတယ်။

၁၄၆၀ ကျော်နှောင်းပိုင်းမှာ အစ္စဘဲလာဟာ ကက်စတီး ရာဇပလ္လင်ကို အမွေ ရဖို့ အလားအလာ ရှိလေတော့ အဲဒီအခါက ဥရောပမှာ အချမ်းသာဆုံး အမွေရှင်လို့ သတ်မှတ်ကြပါတယ်။ ဒီတော့ ဒီမင်းသမီးကို လက်ထပ် ချင်တဲ့ မင်းသားတွေ ပေါ်တယ်။ အဖေတူ အမေကွဲမောင်တော် စတုတ္ထ ဟင်နရီဘုရင်က

ပေါ်တူဂီဘုရင်နဲ့ ထိမ်းမြား စေချင်တယ်။ ဒါပေမယ့် ၁၄၆၉ ခု အရွယ်တော် တစ်ဆယ့်ရှစ်နှစ်မှာ အစ္စဘဲလာက ဒီအစီအမံကို ဖွတ်ရှောင်တိမ်းပြီး အရဂုန် (Aragon) ထီးမွေကိုရမယ့် ဖာဒီနန်ကို လက်ထပ်လိုက်တယ်။ အစ္စဘဲလာက သူ့အစီအမံကို မလိုက်နာလို့ ဟင်နရီက သူ့သမီးဂျွန်သာ သူ့အရိုက်အရာကို ဆက်ခံစေလို့ ဆုံးဖြတ် လိုက်တယ်။ ဒါပေမယ့် ၁၄၇၄ မှာ ဟင်နရီ နတ်ရွာစံတော့ အစ္စဘဲလာက ကက်စတီး ထီးမွေကို သူသာ ဆက်ခံပိုင်ခွင့် ရှိတယ်လို့ တောင်းဆိုပါတယ်။ ဂျွန်ကို ထောက်ခံသူတွေက တင်းတင်းမာမာ ခုခံကြလို့ ပြည်တွင်းစစ်ဖြစ်ပါတယ်။ ဖေဖော်ဝါရီ ၁၄၇၉ မှာ အစ္စဘဲလာတပ်တွေက အနိုင်ရ တယ်။ အရဂုန် ဘုရင် ဒုတိယဂျွန်က အဲဒီနှစ်မှာပဲ နတ်ရွာစံပြန်တော့ ဖာဒီနန်က အရဂုန် ဘုရင်ဖြစ်လာတယ်။ အဲဒီကစပြီး ဖာဒီနန်နဲ့ အစ္စဘဲလာ ဇနီးမောင်နှံဟာ စပိန်နယ် အကုန်လိုလို သူတို့အုပ်စိုးနိုင်ပါတယ်။ သဘောတရား အရ အရဂုန် တစ်နိုင်ငံ၊ ကက်စတီး တစ်နိုင်ငံ ဖြစ်ပါတယ်။ အစိုးရဖွဲ့စည်းပုံကလည်း တစ်နိုင်ငံ တစ်မျိုး ခြားနားပါတယ်။ လက်တွေ့မှာတော့ ကိစ္စအဝဝကို မင်းမိဖုရား အတူတူ စဥ်းစား ဆုံးဖြတ်လေ့ ရှိပါတယ်။ သူတို့ကလည်း စွမ်းဆောင်နိုင်သမျှ ကြိုးစားပြီး စပိန်ကို ပူးတွဲ အုပ်ချုပ်ပါတယ်။ နှစ်ဦးပေါင်းစပ် အုပ်ချုပ်ချိန် နှစ်ဆယ့်ငါးနှစ် အတွင်းမှာ သူတို့ရဲ့အခြေခံဝါဒက စပိန်နိုင်ငံကို အားလုံး ပေါင်းပြီး တန်ခိုးကြီးဘုရင်က အုပ်ချုပ်ဖို့ပဲ ဖြစ်ပါတယ်။ သူတို့ရဲ့ ပထမဆုံး စီမံကိန်းက ဂရာနာဒါ (Granada) ကို သိမ်းယူဖို့ဖြစ်တယ်။ အိုင်ဘီရီယ (Iberia) အမည်ရှိတဲ့ ကျွန်းဆွယ်မှာ မူဆလင် အုပ်ချုပ်တဲ့ နိုင်ငံဟာ ဂရာနာဒါ တစ်နိုင်ငံပဲ ကျန်ပါတယ်။ ၁၄၈၁ က စစ်စပါတယ်။ ၁၄၉၂ စစ်ပြီးချိန်မှာ ဖာဒီနန်နဲ့ အစ္စဘဲလာတို့ အောင်နိုင်ပါတယ်။ ဂရာနာဒါပြီးတဲ့အခါ ကနေ့စပိန် အတိုင်းရှိတဲ့ မြေဧရိယာကို သူတို့စိုးမိုးအုပ်ချုပ်ခွင့် ရခဲ့ပါတယ်။ (နဗားနယ် ကလေးကိုတော့ အစ္စဘဲလာ နတ်ရွာစံပြီးမှ ၁၅၁၂ မှာ ဖာဒီနန်က သိမ်းယူပါတယ်။) ဒီမင်းမိဖုရား နှစ်ပါး အုပ်စိုးချိန် စတဲ့အခါကပဲ စပိန် မိစ္ဆာဒိဋ္ဌိ နှိပ်ကွပ်ရေး (Spanish Inquisition) စပါတယ်။

မိစ္ဆာဒိဋ္ဌိနှိပ်ကွပ်ရေး ဆိုတာက တရားသူကြီး ဂျူရီ (ဆုံးဖြတ်ချက်ကို ညှိနှိုင်းတင်ပြတဲ့ လူကြီးအဖွဲ့) တရားလို ရှေ့နေနဲ့ ပုလိပ် ထောက်လှမ်းရေး အားလုံး ပေါင်းထားတဲ့ ဘာသာယုံကြည်မှုဆိုင်ရာ တရားရုံးတော် ဖြစ်ပါတယ်။ ပြစ်ဒဏ်ပေးတဲ့ နေရာမှာ သိပ်ရက်စက်တယ်။ ရုံးတော် လုပ်ထုံးမှာလည်း အင်မတန် ဘက်လိုက်ပြီး မတရားသဖြင့် စီးစီးနင်းနင်း လုပ်တယ်လို့ သိပ်သတင်းကြီး ပါတယ်။ သိပ်မသကာဘူးလို့ စွဲချက်အတင်ခံရရင် လွတ်ဖို့ မျှော်လင့်ချက် မရှိပါ။ တရားခံကို ဘာပြစ်မှုနဲ့ စွဲဆိုထားတယ်၊ ဘယ်သူက စွဲဆိုတယ်ဆိုတာတောင် ပြည့်စုံအောင် မသိရဘဲ စီရင်ချက်ချ ပစ်တယ်။ စွဲဆိုတာကို မဟုတ်ပါလို့ ငြင်းရင် ဟုတ်တယ်လို့ ပြင်မပြော မချင်း အင်မတန် ကြမ်းတမ်း ရက်စက်တဲ့ ညှဥ်းဆဲနည်းတွေကို သုံးပြီး နှိပ်စက်ပါတယ်။ စပိန် မိစ္ဆာဒိဋ္ဌိနှိပ်ကွပ်ရေး ပေါ်ပြီး အနှစ်နှစ်ဆယ်အတွင်းမှာ လူနှစ်ထောင်ထက် မနည်း မီးရှို့ပြီး အသတ်ခံရတယ်ဆိုတာ လျှော့တွက်ထားတာ ဖြစ်တယ်။ ပြစ်ဒဏ်ဟာ မီးရှို့တဲ့အထိ မကျရောက်ပေမယ့် အနှိပ်စက်ခံရသူ အရေအတွက်က မီးရှို့ပြီး သတ်တဲ့ နှစ်ထောင်ထက် အဆအများကြီးပိုပါတယ်။

စပိန်မိစ္ဆာဒိဋ္ဌိ နှိပ်ကွပ်ရေးကို တစ်ဖက်စွန်းရောက်ပြီး အယူသီးတဲ့ သောမတ်စ် ဒေတော်ကွေမဒ (Tomas de Torque mada) ခေါင်းဆောင်တယ်။ သူက အစ္စဘဲလာကို အာပတ် ဖြေပေးတဲ့ ဘုန်းကြီးဖြစ်ပါတယ်။ ဒီမိစ္ဆာဒိဋ္ဌိ နှိပ်ကွပ်ရေး လုပ်ခွင့်ကို ရဟန်းမင်း (Pope) က ခွင့်ပြုထားတယ် ဆိုပေမယ့် စပိန်ရှင်ဘုရင်တွေ ကြိုက်သလို လုပ်နေကြပါတယ်။ ဆိုလိုတာက ယုံကြည်မှု တူညီရမယ်။ ဆန့်ကျင်တဲ့ နိုင်ငံရေးသမားကို နှိမ်နင်းမယ် ဆိုတဲ့ ရည်ရွယ်ချက်နဲ့ ဆောင်ရွက်နေပါတယ်။ အင်္ဂလန်မှာ ဆိုရင် ပဒေသရာဇ် (နယ်ရှင်ပယ်ရှင်) တွေက ရှင်ဘုရင် ထင်သလို မင်းမူတာကို တားနိုင်တယ်။ စပိန် ပဒေသရာဇ်တွေကတော့ တစ်ခါတုန်းက တန်ခိုးကြီး ခဲ့ပေမယ့် အခုတော့ ရှင်ဘုရင်က သူတို့ကို ချိုးနှိမ်ဖို့ လက်နက်သဖွယ် အခုပြောတဲ့ ရုံးကို ကောင်းကောင်းကြီး အသုံးချနေပါတယ်။ ဒီလိုနဲ့ ရှင်ဘုရင်ရဲ့ ဗဟိုက ချုပ်ကိုင်တဲ့စနစ် သက်ဦးဆံပိုင် ရှင်ဘုရင်စနစ် (A centralized And absolute monarchy) ကို ခိုင်ခိုင် တည်ဆောက်နိုင်ခဲ့ပါတယ်။ စပိန်ဘုန်းကြီးတွေ အပေါ်မှာလည်း ဒီနည်းနဲ့ ချုပ်ကိုင်တာဖြစ်ပါတယ်။ တကယ့်ရည်ရွယ်ချက်က ခရစ်ဝါဒီတွေထဲက ယိမ်းယိုင် သူတွေကို သုတ်သင်မယ် ဆိုပေမယ့် လက်တွေ့မှာ ဂျူး (Jews) နဲ့ မူဆလင် (Muslims) ဘာသာဝင်တွေထဲက ဟန်ဆောင်နာမည်ခံ (nominal converts) ခရစ်ယာန် ဖြစ်လာပေမယ့် တိတ်တဆိတ် အရင်အယူကို ယူမြဲဖြစ်တဲ့ လူတွေကို အထူးညှိုး ပါတယ်။ (တစ်ဖက်သတ်) အယူသီးတဲ့ တော်ကွေမဒက အတင်း တိုက်တွန်းလို့ ဖာဒီနန်နဲ့ အစ္စဘဲလာတို့က စပိန်သား ဂျူးမှန်သမျှ ခရစ်ယာန်ဝါဒကို ကူးပြောင်းရမယ်၊ သို့မဟုတ် ရှိတဲ့ပစ္စည်းကို ထားခဲ့ပြီး နိုင်ငံက လေးလ အတွင်း ထွက်ခွာသွားပါလို့ အမိန့်တော် တစ်ရပ်ကို လက်မှတ်ထိုး ကြေညာရပါတယ်။ စပိန်သားဂျူး ၂၀၀၀၀၀ ကျော်အတွက် ဒီလိုပြည်နှင်ဒဏ်ပေးတာဟာ သိပ်ပြီး ဆင်းရဲပင်ပန်း ဖြစ်ရတယ်။ ဘေးကင်းရာ အရပ်မရောက်မီ သေဆုံးကြတာလည်း များတယ်။ စပိန် အတွက်လည်း တိုင်းပြည်မှာ လက်မှုပညာ အကျွမ်းဆုံး၊ အတော်ဆုံး၊ အကြိုးစားဆုံး ဆိုတဲ့ လူအများကြီး လျော့နည်းသွားလို့ စီးပွားရေး အများကြီး ကျဆင်းရတယ်။

ဂရာနာဒါ (Granada) လက်နက်ချပြီး ငြိမ်းချမ်းရေး စာချုပ်ချုပ်တဲ့ အခါ စပိန်မှာရှိပြီး မူဆလင်တွေ နှစ်သက်ရာ အယူဝါဒကို ယူခွင့်ပေးတယ်လို့ ပါရှိပေမယ့် စပိန်အစိုးရက ဒီစာအုပ်ပါ အချက်ကိုပဲ ချိုးဖောက်ပါတယ်။ မိုး (Moors) တွေ သူပုန် ထပေမယ့် ရှုံးနိမ့်ပါတယ်။ ၁၅၀၂ မှာ စပိန်မှာ ရှိတဲ့ မူဆလင် မှန်သမျှ ခရစ် အယူကိုယူ၊ မယူရင် တိုင်းပြည်က ထွက်ဆိုတဲ့ အရင်ဆယ်နှစ်က ဂျူးတွေကို ကြိုက်ရာ ရွေးခိုင်းသလို သူတို့လည်း ကြိုက်ရာတစ်ခုကို ရွေးကြရပါတယ်။

အစ္စဘဲလာက ကက်သလစ် အယူဝါဒပေါ်မှာ ကြည်ညို သဒ္ဒါပြင်းပြပေမယ့် စပိန်အမျိုးသားရေးနဲ့ အယူဝါဒက နိုင်ငံရေးကို ရောနှောစွက်ဖက်တာ မရှိရလေ အောင် သတိပြုပြီးထိန်းပါတယ်။ သူနဲ့ဖာဒီနန်တို့က စပိန်ရဲ့ ကက်သလစ် ကျောင်းတော်ကို စပိန်မင်းတွေကသာ အုပ်ချုပ်၊ ရဟန်းမင်း မအုပ်ချုပ်စေရအောင် ကြိုးစား စီမံပါတယ်။ တစ်ဆယ့်ခြောက်ရာစုနှစ်

ပရိုတက်စတင့် ပြုပြင်ရေးဟာ စပိန်ကို မထိုးဖောက် မဝင်ရောက် နိုင်တာဟာ အခုပြောတဲ့အချက်ကြောင့်လည်း ဖြစ်နိုင် ပါတယ်။

အစ္စဘဲလာ လက်ထက် အထင်ရှားဆုံး ပေါ်ပေါက်တဲ့ ကိစ္စက ကမ္ဘာသစ်ကို ခရစ္စတိုဖာ ကိုလမ်ဘတ်စ်က ကထတဲ့နှစ် လို့ဆိုရမယ့် ၁၄၉၂ မှာ ရှာဖွေတွေ့ရှိတဲ့ကိစ္စ ဖြစ်ပါတယ်။ ကိုလမ်ဘတ်စ်ကို ကက်စတီး နိုင်ငံက ငွေကြေးပံ့ပိုးတယ်။ (မိဖုရားအစ္စဘဲလာက လိုသလောက် ငွေရအောင် လက်ဝတ်ရတနာတွေ ပေါင်နှံရတယ် ဆိုတဲ့ ပုံပြင်က မမှန်ပါ။)

အစ္စဘဲလာက ၁၅၀၄ မှာ နတ်ရွာစံတယ်။ သားတစ်၊ သမီးလေး ကျန်ရစ်တယ်။ သား ဂျွန်က ၁၄၉၇ က သေဆုံးတယ်။ သမီးထဲမှာ ထင်ရှားတာက ဂျွန် (Juana) ဖြစ်တယ်။ ဖာဒီနန်နဲ့ အစ္စဘဲလာတို့က မင်းလှ ပထမဖိလစ် (Philip I, the Handsome) ဆိုတဲ့ ဩစတြီးယား ဟက်စဗာ့တ် (Austrian Hapsburg) ဧကရာဇ် သားတော်၊ ဘာဂန်ဒီ (Burgundy) နိုင်ငံကို အမွေဆက်ခံရမယ့် မင်းသားနဲ့ ပေးစားဖို့ စီမံတယ်။ ဒီလို မကြုံစဖူးထူးကဲတဲ့ ဆက်သွယ်ပေးခဲ့တဲ့အတွက် အစ္စဘဲလာရဲ့မြေးတော် ပဥ္စမချားလ်စ်ဟာ ဥရောပသမိုင်းမှာ အကျယ်ပြန့်ဆုံး ဧကရာဇ်နိုင်ငံကို အုပ်ချုပ်ရသူ ဖြစ်လာပါတယ်။ သူ့ကို မြတ်သော ရောမ ဧကရာဇ်လို့ ဘွဲ့တပ်ခေါ်ဝေါ်တယ်။ ဥရောပမင်း ဧကရာဇ်တွေထဲမှာ သူ့ခေတ်က တန်ခိုး အကြီးဆုံး၊ အချမ်းသာဆုံး ဖြစ်ပါတယ်။ ဧကရာဇ်က တိုက်ရိုက် နာမည်ခံ အုပ်ချုပ်တဲ့ တိုင်းပြည်တွေက စပိန်၊ ဂျာမနီ၊ ဟော်လန်၊ ဘယ်လ်ဂျီယမ်၊ ဩစတြီးယား၊ ဆွစ်ဇာလန်၊ အီတလီ (အတော်များများ) ၊ ပြင်သစ် (ခပ်တန်တန်)၊ ချက်ကိုစလိုဗက်ကီးယား၊ ပိုလန်၊ ဟန်ဂေရီနဲ့ ယူဂိုစလားဗီးယားတို့ ဖြစ်ပါတယ်။ တကယ်က အနောက်ခြမ်း ကမ္ဘာမှာရှိတဲ့ ပြည်နယ် ကုန်သလောက် နီးနီးဟာ သူ့လက်အောက်ခံ ဖြစ်ပါတယ်။ ပဥ္စမချားလ်စ်နဲ့ သားတော် ဒုတိယဖိလစ်တို့က အင်မတန် စိတ်ထက်သန်တဲ့ ကက်သလစ် အယူရှိသူတွေ ဖြစ်လို့ သူတို့ကြာမြင့်အောင် ထီးနန်း စိုးစံရတဲ့ အချိန်အတွင်းမှာ ကမ္ဘာသစ်က ဝင်ငွေ ရသမျှနဲ့ အနောက် ဥရောပရှိ ပရိုတက်စတင့်နိုင်ငံတွေကို တိုက်ခိုက်ဖို့ စစ်စရိတ် အဖြစ် သုံးခဲ့ပါတယ်။ ဒါကြောင့် မင်းဧကရာဇ်တွေ မောင်လဲနှမလဲ လက်ထပ်ပွဲကို ဖာဒီနန်နဲ့ အစ္စဘဲလာတို့ လုပ်ခဲ့တာဟာ သူတို့ မရှိတဲ့ နောက် တစ်ရာစုနီးပါး ဥရောပ သမိုင်းမှာ သူတို့ဩဇာ အရှိန်အဝါ ကျန်ရစ်တယ်လို့ ပြောနိုင်ပါတယ်။ ဖာဒီနန်နဲ့ အစ္စဘဲလာတို့ စွမ်းဆောင်ပုံနဲ့ ဩဇာ သက်ရောက်ပုံကို အချုပ်ပြန်ပြီး ကြည့်ရအောင် ဒီမင်းနှစ်ပါး ပူးတွဲ ဆောင်ရွက်လို့ စပိန်ဟာ ခုလို ပေါင်းစပ်ခဲ့ပြီး နောက်ပိုင်း ခုထိ ငါးရာစုနှစ်ကြာသည့် တိုင်အောင် စပိန်နိုင်ငံရဲ့ နယ်နမိတ်ဟာ တည်တန့် နေပါတယ်။ ဗဟိုက ကျကျနန ချုပ်ကိုင်နိုင်တဲ့ သက်ဦးဆံပိုင် ဘုရင်စနစ် စပိန်မှာ ကြီးပွားခဲ့တယ်။ မိုး (Moors)နဲ့ ဂျူး (Jews) တွေကို နှင်ထုတ်ခြင်းကြောင့် အနှင်ခံရသူတွေရော နှင်သူတွေပါ အရေးပါတဲ့ နောက်ဆက်တွဲ အဖြစ်အပျက်တွေ ကြုံတွေ့ရတယ်။ ယုံကြည်မှု အစွဲအလန်းနဲ့ သင့်/မသင့်၊ ရာမရာ ဉာဏ်ပညာနဲ့ မနိုင်းဆဘဲ ထင်သလို ရိုင်းရိုင်းစိုင်းစိုင်း လုပ်တယ်။ မိစ္ဆာဒိဋ္ဌိနှိပ်ကွပ်ရေး လုပ်တယ်။ အဲဒါတွေကြောင့်

စပိန်ရဲ့နောက်ပိုင်းသမိုင်းမှာ (ကြီးကျယ်) တဲ့ အကျိုးအပြစ်တွေ ပေါ်လာရပါတယ်။

နောက်ဆုံးအချက်ကို ဆက်ဆွေးနွေး ရပါလိမ့်မယ်။ ရိုးရိုးပြောရရင် မိစ္ဆာဒိဋ္ဌိ နှိပ်ကွပ်ရေးကြောင့် အကျပ်အတည်းတွေနဲ့ ရင်ဆိုင်ရတယ်။ ၁၄၉၂ ကစပြီး ရှေ့ရာစုနှစ် ပေါင်းများစွာမှာ အနောက်ဥရောပဟာ ဉာဏ်ပညာ မျက်စိဖွင့်ပြီး သိပ္ပံပညာ ထွန်းကားလို့ အသီးအပွင့် အကျိုးခံစားခွင့်တွေနဲ့ ဝေဝေဆာဆာ ဖြစ်ပေါ်သလို စပိန် မဖြစ်နိုင်ပါ။ သတ်မှတ်ထားတဲ့ လမ်းကြောင်း ကနေ နည်းနည်း တိမ်းစောင်းတာကို ပြောမိရင် မိစ္ဆာဒိဋ္ဌိ နှိပ်ကွပ်ရေး ရန်မူတာကို ခံရမှာ ကြောက်တာနဲ့ ကိုယ်ပိုင် ထိုးထွင်းဉာဏ် တုံးသွားတယ်။ တခြား ဥရောပနိုင်ငံတွေမှာတော့ အတွေးအခေါ် ကွဲလွဲခွင့် ပေးတယ်။ စပိန်မှာ ဆိုရင် မိစ္ဆာဒိဋ္ဌိနှိပ်ကွပ်ရေးက ရှေးမူမပျက် ကက်သလစ်ဝါဒနဲ့ ညီညွတ်အောင် ပြောမပြော စောင့်ကြည့်နေတယ်။ ၁၇၀၀ ပြည့်ရောက်တော့ စပိန်ဟာ အတွေးအခေါ်ဘက်က အနောက်တိုင်း နိုင်ငံတွေနဲ့စာရင် ရေသေ ရေပုပ်အိုင်ထဲမှာ နစ်နေတယ်။ စင်စစ် ဖာဒီနန်နဲ့ အစ္စဘဲလာတို့ စပိန်မိစ္ဆာဒိဋ္ဌိ နှိပ်ကွပ်ရေး စတင် ဆောင်ရွက်တာ နှစ်ငါးရာရှိပြီး မိစ္ဆာဒိဋ္ဌိနှိပ်ကွပ်ရေးကို အပြီးတိုင် ဖျက်ပစ်တာက အနှစ် ၁၅၀ ရှိပြီ၊ ဒါပေမယ့် အဲဒီလိုလုပ်မိတဲ့ ဆိုးပြစ်ကို ခံရတာက ခုထိ နာလန် မထူသေးဘူးလို့ ဆိုရတယ်။ ဆက်ပြောစရာ ရှိသေးတယ်။ ကိုလမ်ဘတ်စ်ကို တောင်နဲ့ဗဟို အမေရိက ရှာဖို့ ငွေကြေးမတည်ပေးတဲ့ အစ္စဘဲလာကြောင့် ဒီနေရာတွေဟာ စပိန် ကိုလိုနီတွေ ဖြစ်ခဲ့ပါတယ်။ ဆိုလိုတာက စပိန်ဓလေ့နဲ့ မိစ္ဆာဒိဋ္ဌိနှိပ်ကွပ်ရေး အပါအဝင် အဖွဲ့အစည်း တွေလည်း အနောက်ကမ္ဘာခြမ်းကို ရောက်သွားတယ်။ ဒီလိုဆိုရင် အနောက် ဥရောပမှာ စပိန်ဟာ တခြားနိုင်ငံတွေထက် ဉာဏ်ပညာ ဘက်မှာ အောက်တန်းကျ ကျန်ရစ်တောင် အမေရိက စပိန် ကိုလိုနီတွေမှာလည်း ဉာဏ်ပညာဘက်က မြောက်အမေရိက အင်္ဂလိပ် ကိုလိုနီတွေနဲ့ ဉာဏ်ပညာဘက်က ကွာတာဟာ ဘာအံ့သြစရာရှိသလဲ။ အစ္စဘဲလာကို ဒီစာအုပ်မှာ ဘယ်နေရာက ထည့်မလဲလို့ စဉ်းစားရင် ပထမ ထိပ်ဆုံး မေးစရာက ဒီမိဖုရားသာ မပေါ်ခဲ့ရင် ခုပြောတာတွေ ဖြစ်မှာပဲလားလို့ မေးကြည့်သင့်တယ်။ ခရူးဆိတ်သတ္တိက စပိန်မှာ ထက်သန် နေဆဲဖြစ်တယ်။ ဘာပြုလို့လဲ ဆိုတော့ အိုင်ဘီရီယန် (Iberian စပိန်ပေါ်တူဂီ) ကျွန်းဆွယ်ကို မူဆလင်တွေလက်က ပြန်လုယူရတာ အနှစ် ၇၀၀ ကြာတယ်။ ဒီပွဲမှာ ၁၄၉၂ မှာ အောင်ပွဲရတော့ ဘယ်လမ်း ဆက်လျှောက်မလဲဆိုတာကို တွေးဆ ရပြန်တယ်။ ဖာဒီနန်နဲ့ အစ္စဘဲလာတို့က အတိအကျ ပြောရရင် အစ္စဘဲလာက စပိန်ဟာ စေ့စပ်ဖြန်ဆိုရေးကို လုံးဝ လက်မခံဘဲ ရှေးဆန်တဲ့ သာသနာရေး အယူအဆ သက်သက်လမ်းကို လိုက်မယ်လို့ ဆုံးဖြတ် ပါတယ်။ မိဖုရားကြောင့်သာ မဟုတ်ရင် စပိန်ဟာ ပျမ်းမျှလိုက်လျောတဲ့ နှစ်ဘက်လှ လူ့အဖွဲ့အစည်း ဖြစ်နိုင်စရာ ရှိပါတယ်။

အစ္စဘဲလာကို အင်္ဂလန် ပထမ အယ်လီဇဘက်နဲ့ နှိုင်းယှဉ်ကြည့်ရင် သဘာဝကျပါတယ်။ အယ်လီဇဘက် လည်း အစ္စဘဲလာလိုပဲ အစွမ်းအစ

ထက်ပါတယ်။ သူ့မှာ ကြွင်နာတယ်။ သည်းခံတယ် ဆိုတဲ့ ပေါ်လစီကြောင့် သာလွန်ပြီး ကြည်ညိုစရာ ဖြစ်ပါတယ်။ ဒါပေမယ့် ထွင်ဉာဏ်မှာ အစ္စဘဲလာကို မမီပါ။ ဒီတော့ အစ္စဘဲလာ တီထွင်တဲ့ မိစ္ဆာဒိဋ္ဌိ နှိပ်ကွပ်ရေးလို ကြီးကျယ်တဲ့ကိစ္စ မဖြစ်နိုင်ပါ။ အစ္စဘဲလာရဲ့ ပေါ်လစီ တချို့ဟာ ရှုံ့မုန်းစရာဖြစ်ပေမယ့် သမိုင်းမှာ သူ့လောက် အရည်သဖြင့် ဩဇာရှိတဲ့ အုပ်စိုးသူမျိုး မရှိပါ။

24, June, 2001.

# (၆၆) ဂျိုးဆက် စတာလင် (၁၈၇၉ – ၁၉၅၃)

# JOSEPH STALIN (1879 – 1953)

မူလနာမည် အိယိုဆစ် ဗစ္စရိယိုနိုဗစ် ဇုဂရှ်ဗတီ (Iosif Vissanionovich Dzhugashviti) ရှိတဲ့ စတာလင် (Stalin) ဟာ ဆိုဗီယက်ပြည်ထောင်စုမှာ အာဏာရှင် အဖြစ် နှစ်အများကြီး ကြာအောင် အုပ်စိုးသွားပါတယ်။ သူ့ကို ကော့ကေးရှပ်စ် (Caucaous) နိုင်ငံ၊ ဂျော်ဂျီယာနယ် ဂိုရီ (Gori) မြို့မှာ ၁၈၇၉ က မွေးဖွားခဲ့တယ်။ သူ့ဂျော်ဂျီယာနယ်က ဘာသာစကားဟာ ရုရှဘာသာ စကားနဲ့ အများကြီး ကွဲပြားခြားနားလို့ နောက်မှ ရုရှလို သင်ယူရလို့ ဂျော်ဂျီယာ (Georgion) လေယူလေသိမ်း သိသိသာသာပါနေတယ်။ စတာလင် ငယ်ငယ်က ဆင်းရဲတယ်။ သူ့အဖေက ဖိနပ်ချုပ်တယ်။ အရက်အလွန်အကျွံ သောက်တယ်။ သားကို ရက်ရက်စက်စက် ရိုက်နှက်တယ်။ သူသေတော့ သူ့သား အိယိုဆစ်ပ်ဟာ အသက် တစ်ဆယ့်တစ်နှစ်ပဲ ရှိသေးတယ်။ ငယ်ငယ်က ဂိုရီခရစ် ကျောင်းတော်မှာ စာသင်ခဲ့တယ်။ ခရစ်ကျမ်းစာကို တိဖ်လစ် (Tiflis) ကျမ်းစာသင်ကျောင်း (Theological School) မှာ ဆယ်ကျော်သက် အရွယ်က တက်ခဲ့ဖူးပါတယ်။ ၁၈၉၉ မှာ ဖောက်ပြန်တဲ့ အယူဝါဒတွေကို ဖြန့်သူဆိုပြီး ၁၈၉၉ က ကျောင်းထုတ် ခံရတယ်။ မာ့က်စ်ဝါဒ မြေအောက် လှုပ်ရှားမှုမှာ ပါဝင်ခဲ့တယ်။ ပါတီနှစ်ခြမ်းကွဲတော့ သူက ဗော်ရှီဗစ် ဘက်တော်သား ဖြစ်လာတယ်။ အဲဒီကစပြီး ၁၉၁၇ ထိ သူဟာ ပါတီမှာ တက်တက်ကြွကြွ ဆောင်ရွက် လာတယ်။ ခြောက်ကြိမ်တိုင်တိုင် အဖမ်းအဆီး ခံရဖူးတယ်။ (ဒါပေမဲ့ သူ့ကို ပြစ်ဒဏ် ပေါ့ပေါ့ပဲ ပေးခဲ့တယ်။ တစ်ကြိမ်မက လွတ်အောင် ပြေးပုန်းနိုင်တယ်လို့လည်း သိရတယ်။ အဲဒီတော့ နှစ်ဖက်လွှ ခေါ်တဲ့ တစ်ဖက်က ထည့်ထားတဲ့ သူလျှို လို့လည်း စွပ်စွဲစရာ ဖြစ်နေပါတယ်။) အဲဒီတုန်း ကစပြီး စတာလင် (Stalin လူသံမဏိ) ဆိုတဲ့ နာမည်ကို ယူခဲ့တာဟာ သူနဲ့ မဆီမဆိုင်လို့ ပြောမဖြစ်ပါ။

စတာလင်ဟာ ၁၉၁၇ ကွန်မြူနစ် တော်လှန်ရေးမှာ ရှေ့တန်း ခေါင်းဆောင် မဟုတ်ပါ။ ဒါပေမဲ့ အဲဒီကစပြီး ရှေ့နှစ်နှစ် လုံးလုံး အင်မတန် တက်ကြွတယ်။ ၁၉၂၂ မှာ ကွန်မြူနစ်ပါတီရဲ့ အထွေထွေ အတွင်းရေးမှူးချုပ် ဖြစ်ခဲ့ပါတယ်။ ဒီရာထူးကြောင့် ပါတီ အုပ်ချုပ်ရေးမှာ သူသိပ်သြဇာကြီး လာပြီး လီနင် ကွယ်လွန်ပြီး သူအာဏာ ရလာနိုင်အောင် အကြိတ်အနယ် ကြိုးစား ရတဲ့ပွဲမှာ သူအနိုင်ရဖို့ အများဆုံး အထောက်အကူ ပေးတဲ့ ရာထူးဖြစ်ပါတယ်။ လီနင် (Lenin) က လီယွန်ထရော့စကီး (Leon Trotsky) ကို သူ့ဆက်ခံသူ ဖြစ်စေချင်တာ ထင်ရှားပါတယ်။ သူ့နိုင်ငံရေး ထောက်ခံချက်မှာ စတာလင်ဟာ

ရက်စက် ကြမ်းကြုတ်လွန်းလို့ အထွေထွေ အတွင်းရေးမှူးချုပ်က ဖြုတ်ပစ်ရမယ်လို့ ရေးခဲ့တယ်။ ဒါပေမယ့် ၁၉၂၄ နှစ်ဦးမှာ လီနင် သေဆုံးတော့ လီနင် ထောက်ခံချက် (Lenins Testament) ကို စတာလင်က မထေမဲ့မြင် ပြုနိုင်ခဲ့တယ်။ အဲဒါအပြင် ပါတီဦးစီး အဖွဲ့ (politburo) မှာ အရာရောက်တဲ့ လက်ဗ် ကာမိနက်ဖ် (Lev Karmenev) နဲ့ ဂရီဂိုရီ ဇီနိုဗီယက် တို့နဲ့ ပေါင်းစည်းပြီး သုံးပွင့်ဆိုင် (troika) အမည်ခံ သုံးဦး အာဏာရှင် ဖွဲ့စည်းနိုင်ခဲ့ပါတယ်။ ဒီသုံးဦးအဖွဲ့က ထရော့စကီး နောက်လိုက်တွေကို နှိမ်နင်း နိုင်တယ်။ အတွင်း စက်ပုန်းခုတ်တဲ့နေရာမှာ ထူးခြား ပြောင်မြောက်တယ်လို့ ဆိုရလောက်အောင် ဇီနိုဗီယက် နဲ့ ကာမိနက်ဖ်တို့ကိုလည်း နှိမ်နင်း လိုက်နိုင်ပါတယ်။ ခုလို ဘယ်ဘက်ဂိုဏ်း ဆန့်ကျင်သူ တွေဖြစ်တဲ့ ထရော့စကီး၊ ကာမိနက်ဖ်၊ ဇီနိုဗီယက်နဲ့ ပရိသတ်ပြုကွဲပြီးတော့မှ စတာလင်ဟာ သူ့အလိုကျ နိုင်ငံရေးလမ်းစဉ်ကို စတင်ချမှတ်ခဲ့ပါတယ်။ အဲဒါနောက် မကြာမီမှာလည်း စတာလင်ဟာ သူ့ရဲ့အခိုက်အတန့် ထောက်ခံ အားပေးသူတွေဖြစ်တဲ့ ကွန်မြူနစ်ပါတီရဲ့ လက်ယာဂိုဏ်း ခေါင်းဆောင်တွေကို ဖျက်ဆီး ချေမှုန်း နိုင်တယ်။ အဲဒီမှာလည်း သူပဲ အနိုင်ရပြန်တယ်။ ၁၉၃၀ ပြည့်ကစတဲ့ ဆယ်စုနှစ်ဦးမှာ သူဟာ ဆိုဗီယက် ယူနီယံရဲ့ တစ်ယောက်တည်းဖြစ်တဲ့ အာဏာရှင် ဖြစ်လာပါတယ်။ ရာထူးကြောင့် ၁၉၃၄ ကစပြီး တန်ခိုး အာဏာရှိလာတဲ့ စတာလင်ဟာ နိုင်ငံရေး အရ မရှိသင့်လို့ သူ့သဘောနဲ့ သူ ဆုံးဖြတ်တဲ့လူတွေကို ပိုက်စိပ်တိုက် ရှာဖွေပြီး သတ်ဖြတ် သုတ်သင်ပါတော့တယ်။ သာမည လိုက်နာကျင့်သုံးတဲ့ နည်းကတော့ ရုတ်တရက်ဝင်ပြီး သတ်ဖြတ် (Assassination) တာပဲ ဖြစ်ပါတယ်။

ဘယ်သူကစသလဲဆိုတော့ စတာလင်ရဲ့ အကြံပေး ပုဂ္ဂိုလ်လည်းဖြစ်၊ ကွန်မြူနစ် အရာရှိကြီး လည်းဖြစ်တဲ့ ဆာဂိုင်ကိရော့ဗ် (Sergi Kirov) ကို ၁ ဒီဇင်ဘာ ၁၉၃၄ က လုပ်ကြံခြင်း ဖြစ်ပါတယ်။

စတာလင်ကိုယ်တိုင်က ကိရော့ဗ်ကို ဆက်လက် မသုံးလိုတဲ့အတွက် အသတ်ခိုင်းလိုက်တာ ဖြစ်စရာရှိတယ်။

ဒါပေမယ့် ဒါကိုပဲ အကြောင်းရင်း တစ်ခုလုပ်ပြီး ဆက်လက် လုပ်ကြံမှုတွေကို လုပ်ပါတယ်။ နောက်ဆက်ပြီး နှစ်အတော်ကြာအောင် ၁၉၁၇ တော်လှန်ရေးအချိန်က ထင်ရှားတဲ့ ကွန်မြူနစ်ပါတီ ခေါင်းဆောင်တွေရယ်၊ လီနင် (Lenin) အုပ်ချုပ်ရေး ကာလက ထင်ရှားတဲ့ပုဂ္ဂိုလ်တွေရယ် စတာလင် ကိုယ်တိုင်က (ပါတီအပေါ်) သစ္စာဖောက်တယ်၊ (တော်လှန်ရေး ဦးတည်ချက်ကို) သစ္စာဖောက်တယ်ဆိုပြီး ပြည်သူ့ အစည်းအဝေးပွဲကြီး လုပ်ပြီး အဲဒီပြည်သူ့ခုံရုံးကြီးမှာ ကာယကံရှင် ကိုယ်တိုင်က အပြစ် ရှိပါတယ်လို့ ဝန်ခံ ခိုင်းပြီးမှ သတ်ပစ်တာဖြစ်ပါတယ်။ ဥပမာ ပြောရရင် သောမတ်စ် ဂျက်ဖာဆင် သမ္မတဖြစ်လာတဲ့အခါ လွတ်လပ်ရေး ကြေငြာချက်နဲ့ အုပ်ချုပ်ပုံကို ပြောဆိုသူ တိုင်းကို ရှာဖွေပြီး သစ္စာဖောက်လို့ စွဲချက်တင်ပြီး ကိုယ်တိုင် မှားပါတယ် ဝန်ခံခိုင်းပြီး သတ်တဲ့ သဘောမျိုး ဖြစ်ပါတယ်။ စွဲချက်ကလည်း ကွန်မြူနစ်ကို

ဆန့်ကျင်တယ်။ တော်လှန်ရေး တန်ပြန်လုပ်ငန်းတွေကို မပြောပါ။ ပါတီမှာ သူတို့ကို ဆက်ထားဖို့ မလိုဆိုပြီး ဒါမျိုး သတ်ဖြတ်တာကို လီနင်လည်း လုပ်ခဲ့ပါတယ်။ စတာလင်ကတော့ ကွန်မြူနစ်ကို သတ်တဲ့နေရာမှာ ဇာဘုရင် (Czar) ရဲ့ပုလိပ်ထက် သာတယ်။ ဥပမာ ၁၉၃၄ ပါတီကွန်ဂရက်က ရွေးကောက် တင်မြှောက်ခဲ့တဲ့ ဗဟိုကော်မတီ (Central Committee) မှာ ပါဝင်သူတွေရဲ့ သုံးပုံနှစ်ပုံကို နောက်ပိုင်းမှာ 'အရှင်း' (Purge) ခံကြရပါတယ်။ အဲဒီလုပ်ပုံ လုပ်နည်းကိုကြည့်ပြီး စတာလင်ရဲ့ အခြေခံ သဘောထားက နိုင်ငံတွင်းမှာ အာဏာပိုင် အဖွဲ့ရယ်လို့ နှစ်မျိုး နှစ်ဖွဲ့ မရှိစေချင်တဲ့ သဘောဖြစ်တယ်။ စတာလင်က လျှို့ဝှက်ပုလိပ် (Secret Police) ကို ပိုင်ပိုင်နိုင်နိုင် အသုံးချတယ်။ ဖမ်းမိန့် မပါဘဲ ဖမ်း၊ စစ်ဆေးပြီး စီရင်ချက် မလုပ်ဘဲ ချက်ချင်းသတ်၊ ထောင်ထဲမှာ အကြာကြီးထား၊ အလုပ်ကြမ်း စခန်းကိုပို့၊ သူ့ကို ဆန့်ကျင်မယ့် လူမှန်သမျှ အားလုံးကို ဒီလုပ်နည်းနဲ့ ရှင်းတာဖြစ်တယ်။ နည်းနည်းလေးမှ အဝေဖန်မခံ၊ အားလုံး ပြားပြား ဝပ်ပြီး ကြောက်လန့် တုန်လှုပ်တဲ့အထိ နှိပ်ကွပ် ပစ်ပါတယ်။ ၁၉၃၀ ဆယ်စုနှစ် ကုန်တဲ့အခါ ခေတ်သစ် အခါမှာပေါ်တဲ့ သက်ဦးဆံပိုင် အာဏာရှင်စနစ် ထွန်းကားလာတယ်။ အစိုးရက အလွှာ အသီးသီးကို ထိုးဖောက်ဝင်ရောက်ပြီး အများဆန္ဒဆိုတာ ဆိတ်သုဉ်း ပျောက်ကွယ်သွားပါတယ်။

စတာလင် (Stalin) ရဲ့ စီးပွားရေး ပေါ်လစီဆိုတာက စုပေါင်း စိုက်ပျိုးရေးမှာ အုပ်ချုပ်ရေးက သတ်မှတ်တဲ့သီးနှံကို စုပေါင်းပြီး စိုက်ပျိုး ထုတ်လုပ်ပေးရတာပဲ ဖြစ်တယ်။ တောင်သူက အင်မတန် မကြိုက်တဲ့ အမိန့်ကို နာခံရတာမို့ လိုက်မလုပ်တဲ့လူတွေ ရှိလေတော့ ၁၉၃၀ ဆယ်စုနှစ်ထဲက စတာလင် အမိန့်နဲ့ တောင်သူ သန်းပေါင်းများစွာ အသတ်ခံရ၊ အငတ်ထားလို့ သေရနဲ့ အများကြီး ဆုံးရှုံး နစ်နာခဲ့ရပါတယ်။ နောက်ဆုံးတော့ သူလိုချင်တဲ့ပုံစံ အောင်မြင် သွားပါတယ်။

စတာလင်ရဲ့ နောက်ဝါဒတစ်ခုက ဆိုဗီယက် ယူနီယံကို အလျင်အမြန် စက်မှုထွန်းကားအောင် ဆောင်ရွက် ပေးကြရပါတယ်။ ငါးနှစ် စီမံကိန်းတွေ တစ်ခုပြီး တစ်ခု ဆက်တိုက် အများကြီး ပေါ်ထွက် လာတယ်။ သူ့လုပ်ပုံကို ဆိုဗီယက် မဟုတ်တဲ့ နိုင်ငံတွေကလည်း လိုက်လုပ် ကြပါတယ်။ သူ့နည်းမှာ ညံ့ကွက်တွေ ဟာကွက်တွေ များပေမယ့် ရေတို အောင်မြင်တယ်လို့ ပြောရမယ်။ ဒုတိယ ကမ္ဘာစစ်အတွင်းက ဝတ္ထုပစ္စည်း အမြောက်အမြား ဆုံးရှုံးခဲ့ရပေမယ့် စစ်ပြီးတော့ စက်မှုမှာ အအောင်မြင်ဆုံး ဒုတိယလိုက်တဲ့ တန်ခိုးကြီးနိုင်ငံ ဖြစ်လာပါတယ်။ (ရေရှည်မှာတော့ သူတွန်းတင်တဲ့ စိုက်ပျိုးရေး စက်မှုရေးတွေဟာ ဆိုဗီယက် စီးပွားရေးကို အများကြီး ထိခိုက် နစ်နာစေပါတယ်။) ဟစ်တလာနဲ့ စတာလင်တို့ ဩဂုတ် ၁၉၃၉ မှာ သဘောတူ လက်မှတ် ထိုးတဲ့ တစ်ဦးကိုတစ်ဦး မတိုက်ခိုက်ရေး မဟာမိတ် စာချုပ်ကို လက်မှတ်ထိုးကြတယ်။ လက်မှတ်ထိုးပြီး သီတင်း နှစ်ပတ်အတွင်းမှာပဲ ဟစ်တလာက ပိုလန်ကို အနောက်က ဝင်တိုက်သလို၊ မရေးမနှောင်းမှာပဲ ပိုလန်ကို စတာလင်က အရှေ့ဘက်က ဝင်တိုက်တယ်။ အဲဒီနှစ်မှာပဲ ဆိုဗီယက်

ယူနီယံက လွတ်လပ်တဲ့ လတ်ဗီးယား (Latvia)၊ လစ်သူရေးနီးယား (Lithuania) နဲ့ အက်စ်တိုးနီးယား (Estonia) တွေကို တပ်နဲ့ ကျူးကျော်ဝင်ရောက်တယ်။ သုံးနိုင်ငံစလုံး ကလည်း နည်းနည်းမှ မခုခံဘဲ လက်နက်ချ လိုက်ကြလို့ ယူအက်စ်အက်စ်အာ ထဲမှာ အပါအဝင် နိုင်ငံတွေ ဖြစ်သွားပါတယ်။ ရူမေးနီးယား (Rumania) ကိုလည်း အင်အားသုံးပြီး တိုက်မယ် ခြိမ်းခြောက် တယ်။ သိမ်းယူလိုက်တယ်။ ဖင်လဲန် (Finland) က အညံ့မခံ ဘဲနေလို့ တိုက်ယူ လိုက်တယ်။ ဒီလိုသိမ်းရတာ နာဇီ ဂျာမနီရဲ့ရန်ကို ကာကွယ်ဖို့ ဒီနယ်တွေကို အုပ်စီး ထားရပါတယ်လို့ အကြောင်းပြတယ်။ ဒါပေမယ့် စစ်ကြီးပြီးသွားတယ်။ ဂျာမနီလည်း လုံးဝ ခေါင်းမထောင်နိုင်အောင် ရှုံးသွားတယ်။ စတာလင်က စောစောက သူသိမ်းခဲ့တဲ့နိုင်ငံတွေကို ပြန်ပြီး လွတ်လပ်ရေး မပေးဘဲ ဆက်သိမ်း ထားတယ်။

ဒုတိယ ကမ္ဘာစစ်ကြီးပြီးတဲ့အချိန်မှ ဆိုဗီယက် တပ်တွေက အရှေ့ဥရောပ ကိုထားပြီး အဲဒီဒေသတွေမှာ စတာလင်က အခွင့်ကောင်းယူပြီး ကွန်မြူနစ် အစိုးရတွေ ထူထောင် ပေးထားတယ်။ ဆက်လက်ပြီး ဆိုဗီယက် ယူနီယံရဲ့ လက်အောက်ခံတွေ ဖြစ်နေခဲ့ပါတယ်။ ယူဂိုစလားဗီးယားမှာ မာ့က်စ်ဝါဒီ အစိုးရ ပေါ်လာတယ်။ ဒါပေမယ့် အဲဒီနိုင်ငံမှာ ရုရှတပ်တွေ မရှိပါ။ ဒါကြောင့် ယူဂိုစလားဗီးယားဟာ ရုရှရဲ့နောက်တွဲ အဖြစ် မရောက်ပါ။ စစ်ပြီးတာနဲ့ တခြား အရှေ့ဥရောပရှိ ကွန်မြူနစ်နိုင်ငံတွေ ယူဂိုစလားဗီးယား အတု မလိုက်နိုင်အောင် စတာလင်က ဖြုတ်ထုတ်သုတ် လုပ်စေတယ်။

အဲဒါတွေနဲ့တစ်ချိန်တည်း စစ်ပြီးကာလ စစ်အေး ပေါ်လာပါတယ်။ တချို့က ဒီစစ်အေးဟာ အနောက်နိုင်ငံက ခေါင်းဆောင်တွေ ဖန်တီးတာလို့ စွပ်စွဲပေမယ့် စတာလင်ရဲ့ နယ်ချဲ့ဝါဒဟာ စစ်အေး (Cold War) ပေါ်ပေါက်စေတဲ့ အကြောင်းရင်း တစ်ခုလို့ အတိအလင်းပြောလို့ရပါတယ်။ သူ့ဆန္ဒက ကွန်မြူနစ်စနစ်ကို၊ ဆိုဗီယက်သြဇာကို တစ်ကမ္ဘာလုံး ဖြန့်ချင်တယ်။ ဆိုဗီယက် အစိုးရက ဇန်နဝါရီလ ၁၉၅၃ မှာ ဆိုဗီယက် အရာရှိကြီးတွေကို သေကြောင်းကြံတယ်ဆိုပြီး ဆရာဝန်တွေကို အစုလိုက် တပြုံကြီး ဖမ်းလိုက်တယ်။ စတာလင်ဟာ နောက်တစ်ကြိမ် အကြီးအကျယ် ဖြုတ်ထုတ်သုတ် လုပ်လိမ့်ဦးမယ်လို့ ကြောက်ကြတယ်။ ဒါပေမယ့် ၅ မတ် ၁၉၅၃ မှာ အသက် ၇၃ နှစ်ရှိတဲ့ အာဏာရှင်ကြီးဟာ မော်စကို ကရင်မလင် (Kremlin) မှာ ကွယ်လွန်သွားပါတယ်။ သူ့ရုပ်အလောင်းကို မပုပ်မသိုးအောင် ဆေးစီရင်ပြီး ပြည်သူတွေလာရောက် ဂုဏ်ပြုနိုင်ဖို့ ရင်ပြင်နီသင်္ချိုင်းတော်မှာ လီနင် အလောင်းနဲ့ ယှဉ်ပြီး ပြင်ဆင်ထားပါတယ်။

စတာလင်ကို ကြည်ညိုသူ ချက်ချင်း သိသိသာသာ ကျဆင်း နည်းပါး သွားတဲ့အတွက် သူ့ကို မင်းဆိုးမင်းညစ်လို့ သူစိုးစံသမျှ ဒေသ အားလုံးက လူတွေက ရွံရှာမုန်းတီး သွားပါတယ်။ စတာလင်ရဲ့ အိမ်ထောင်ရေးလည်း မသာယာပါ။ ၁၉၀၄ က လက်ထပ်ပြီး ဇနီးက သုံးနှစ်ကြာတော့ အဆုတ်နာနဲ့ ကွယ်လွန်ပါတယ်။ သူတို့ရဲ့ တစ်ဦးတည်းသား ဂျက်ကော့ (Jacob) ကို

ဒုတိယကမ္ဘာစစ် အတွင်း ဂျာမနီက ဖမ်းရသွားတယ်။ နောက် အကျဉ်းသားချင်း လဲမယ်လို့ ဂျာမနီက ပြောတော့ စတာလင်က မလဲတဲ့အတွက် ဂျက်ကော့ဟာ ဂျာမန် အကျဉ်းထောင်စခန်းမှာ ကွယ်လွန် သွားပါတယ်။ စတာလင် ၁၉၁၉ မှာ ဒုတိယ အိမ်ထောင်ပြုပါတယ်။ ဒုတိယမယားဟာ ၁၉၃၂ မှာ သူ့ဘာသာသူ သေကြောင်းကြံပြီး သေဆုံး သွားတယ်လို့ ပြောပေမယ့် စတာလင်ကိုယ်တိုင် သတ်ပစ်တယ်လို့ ထင်ကြပါတယ်။ ဒုတိယမယားနဲ့ ကလေး နှစ်ယောက် ရတယ်။ သားက ဆိုဗီယက် လေတပ်မှာ အမှုထမ်းတယ်။ အရက် အလွန်အကျွံသောက်တယ်။ ၁၉၆၂ မှာ သေဆုံးတယ်။ သမီး စဗက်လာနာ (Svetlana) က ဆိုဗီယက် ယူနီယံမှ ထွက်ပြေးသွားပြီး ၁၉၆၇ မှာ အမေရိကန် ပြည်ထောင်စုကို ရောက်သွားတယ်။

စတာလင်မှာ မှတ်မှတ်ရရ ပြောစရာ မှတ်စရာ အချက်က မညှာမတာ ရက်စက်တာပဲ ဖြစ်ပါတယ်။

လုပ်စရာရှိရင် ထောက်ထားစိတ်၊ စွဲလမ်းစိတ် လုံးဝမရှိပါ။ အဲဒီအပေါ်မှာ မသင်္ကာစိတ် ပြင်းထန်တယ်။ ဘဝင်မြင့်ပြီးရူး (paranoia) တယ်။ ဒါပေမယ့် သိပ်အစွမ်းကောင်းတဲ့ပုဂ္ဂိုလ် ဖြစ်ပါတယ်။ လုံ့လ ဝီရိယကြီးတယ်။ စိတ်ဇွဲကြီးတယ်။ ပါးနပ်တယ်။ ထက်မြက်တယ်။ သူ့ မယုံသာအောင် စိတ်တန်ခိုးကြီးတယ်။ ဆိုဗီယက် ယူနီယံမှာ အနှစ် အစိတ် လောက် အာဏာရှင် ဖြစ်ခဲ့ရလို့ အသက်ပေါင်းများစွာ အပေါ်မှာ အကြီးအကျယ် ဩဇာလွှမ်းမိုးခဲ့သူ ဖြစ်ပါတယ်။ အာဏာရှင် တစ်ယောက်ရဲ့ သူ့ဘဝ သက်တမ်း အတွင်းမှာ ဘယ်လောက် ဩဇာရှိသလဲဆိုတာ သိချင်ရင် သူအုပ်စိုးထားတဲ့ နယ်မြေထဲမှာ လူဦးရေ ဘယ်လောက် ရှိတယ် ဆိုတာနဲ့ တိုင်းတာရမှာ ဖြစ်ပါတယ်။ ဒီလို လွှမ်းမိုးရာမှာလည်း သူက ဘယ်အဆင့်အထိ ချုပ်ချယ် သလဲ ဆိုတာလည်း ကြည့်ရပါမယ်။ သူ့ဩဇာ ရှိနေတဲ့ အချိန်ကာလကို ထည့်စဉ်းစားလိုက်ရင် စတာလင်ဟာ သမိုင်း တစ်လျှောက်မှာ ထိပ်ဆုံးက ဖော်ပြရမယ့် အာဏာရှင် ဖြစ်တယ်လို့ ယူဆရမှာပါ။ သူ့တစ်သက်မှာ လူတွေ သန်းနဲ့ချီပြီး သတ်ပစ်ပါတယ်။ လူတွေကို အတင်း နှိပ်စက်ခိုင်းစေတဲ့ အလုပ်စခန်းတွေကို ပို့ပစ်တယ်။ လူတွေ အများကြီး ငတ်သေအောင်လုပ်တယ်။ (ဒီလိုလုပ်လို့ အမှန်တကယ် သေတဲ့လူစာရင်းကို ကောက်ယူဖို့ ခက်ပါတယ်။ ဒါပေမယ့် အမျိုးမျိုး သတ်ခဲ့လို့ ၃၀၀၀၀၀၀၀ (သုံးကုဋေ) ဝန်းကျင်ရှိမယ် ထင်ပါတယ်။ စတာလင်ရဲ့ အုပ်စိုး သက်တိုတိုမှာပဲ သူ့အန္တရာယ်က သိပ်ကြီးမားတယ်လို့ ပြောနိုင်တယ်။

သူနဲ့ခေတ်ပြိုင်ဖြစ်တဲ့ အဒေါ့ဖ်ဟစ်တလာနဲ့ သူ့ကို နှိုင်းယှဉ်ပြိုင်ဆိုင် ကြည့်တတ်ကြတဲ့ အတိုင်း ယှဉ်ကြည့် ပေမယ့် သူ့တန်ခိုးဩဇာဟာ ဘယ်လောက် ကြာရှည် ခံမလဲဆိုတာ ဖော်ထုတ်မရနိုင်ပါ။ စတာလင်ရဲ့ ဘဝ သက်တမ်းအတွင်းမှာ ဆိုဗီယက်ယူနီယံရဲ့ ပိုင်နက်ဟာ ကျယ်လာတယ်။

အရှေ့ဥရောပမှာ မှီခိုနယ်တွေ ပေါ်လာပြီး ဆိုဗီယက် ယူနီယံကို တန်ခိုးကြီး နိုင်ငံဖြစ်စေတယ်။

တစ်ကမ္ဘာလုံးကို သူ့ဩဇာ အရှိန်အဝါ ပျံ့နှံ့နိုင်ခဲ့တယ်။ ဒါပေမယ့် အခုနှစ်အနည်းငယ် အတွင်းမှာပဲ အရှေ့ ဥရောပ ပိုင်နက်ကြီး ပြိုကျသွားပါပြီ။ ဆိုဗီယက်ယူနီယံလည်း တစ်ဆယ့်ငါး နိုင်ငံအထိ ကွဲထွက်သွားပြီ။ စတာလင်ရဲ့ စီးပွားရေး လမ်းစဉ်ဟာ မာ့က်စ်နဲ့ လီနင်တို့ စိတ်ကူးကို ဖော်ထုတ် တာပဲ ဖြစ်ပါတယ်။

မာ့ခ်စ် လက်ထက်က ပေါ်လစီ (Policies) သက်သက်၊ လီနင်က နည်းနည်းစပြီး အကောင်အထည် ဖော်ပါတယ်။ စတာလင်ကျမှ ဆိုဗီယက်ယူနီယံ (USSR) မှာ လူတစ်ဦးချင်း စိတ်ကြိုက် လယ်ယာ စိုက်ပျိုးခြင်းနဲ့ ပုဂ္ဂလိက စီးပွားရေး အများကြီး ပျောက်ကွယ်သွားအောင် လုပ်နိုင်ခဲ့ပါတယ်။

တကယ်လုပ်ကြည့်တဲ့အခါ အဲဒီ ပေါ်လစီတွေက ရေရှည် မကောင်းလို့ အခုအခါ ဒါမျိုး မလုပ်မိအောင် တတ်နိုင် သလောက် ပစ်ပယ် ထားလိုက်ကြပါပြီ။ ဒါတောင် စတာလင်ရဲ့ ဩဇာကို အများကြီး လျှော့တွက် မိတယ်လို့ စိတ်ထဲမှာ စွဲမှတ်နေမိပါတယ်။ ဂျိုးဆက် စတာလင်ဟာ သိပ်ကြီးမား ကျယ်ပြန့်တဲ့ တိုင်းနိုင်ငံကို အနှစ် နှစ်ဆယ့်ငါးနှစ် အုပ်စိုးနိုင်တဲ့အတွက် သူဟာ အာဏာ ငမ်းတဲ့ အာဏာရှင် သက်သက် မဟုတ်ဘူးလို့ ဆိုရမယ်။ စစ်အေးကို ပေါ်ပေါက် စေနိုင်တဲ့အတွက် သူကွယ်လွန်ပြီး နှစ်ပေါင်း များစွာကြာအောင် ကမ္ဘာ့သမိုင်းကို လွှမ်းမိုး ချုပ်ကိုင် သွားနိုင်ခဲ့ပါတယ်။ သမိုင်းမှာ စစ်အေးလို တစ်ကမ္ဘာလုံး ထိခိုက်အောင် ဒုတိယ ကမ္ဘာစစ် အပါအဝင် ဘယ်စစ်မှ ဒီလိုထိခိုက်အောင် မလုပ်နိုင်ပါ။ အမေရိကန်နဲ့ ဆိုဗီယက်တွေဟာ သံတမန် ရေးရာရော စီးပွားရေးမှာပါ ထိခိုက်အောင် လုပ်နိုင်တာ မဟုတ်။ တချို့ဒေသတွေမှာ လက်နက်စွဲပြီး သတ်ဖြတ်ကြတာလည်း ရှိပါတယ်။ ကမ္ဘာပေါ်က တစ်နိုင်ငံ မလွတ် ထိခိုက်ပြီး တချို့ နေရာတွေမှာ သံတမန်နည်း ပြောဆိုငြင်းခုံ ပြိုင်ဆိုင်ရုံ သာမက လက်နက်စွဲပြီး ပစ်ခတ်တဲ့အထိ အမှုအခင်းတွေ ဖြစ်ပွား ခဲ့ပါတယ်။ အထူး တန်ခိုးကြီး နိုင်ငံနှစ်ခု ပြိုင်ဆိုင် ကြတာဟာလည်း သမိုင်းမှာ အရင်က ဒါမျိုး မရှိဖူးတဲ့အပြင် ငွေအကုန်ဆုံးဖြစ်ပါတယ်။ မီလီယံဒေါ်လာက ဘီလီယံ ဒေါ်လာ၊ အဲဒီက ထရီလီယံ ဒေါ်လာအထိ စရိတ် ကုန်ကျကြ ရပါတယ်။ အဆိုးဝါးဆုံးက ခုနေများ နျူကလီးယား စစ်ကြီးဖြစ်ခဲ့ရင် ငါတို့ယဉ်ကျေးမှုကြီး တစ်ခုလုံး ပျက်စီး ရချေရဲ့လို့ နှစ်ပေါင်းများစွာ အင်မတန် ထိတ်လန့် ခဲ့ရပါတယ်။

စစ်အေးကို နေရာတိုင်းက ရွံတယ်။ ဒါကြီး မြန်မြန် ပြီးပါစေလို့ လိုလားတောင့်တသူ များတယ်။ ဆယ်စုနှစ် ပေါင်း အကြာကြီး လူသေ၊ လူယုတ် စတာလင်ရဲ့ စီမံချက် ဒဏ်ဟာ တစ်ကမ္ဘာလုံး ခံစားကြရတယ်။ ဘယ်နိုင်ငံရေး သမားမှ သူ့လောက်ကြာကြာ လူတွေကို ချောက်ချားအောင် အန္တရာယ်ပေး မသွားနိုင်ပါ။ သမိုင်းထဲက တခြား လူတွေထက် သူက ‘မကောင်းတာ လုပ်မိရင် သံသရာ အဆက်ဆက် ခံပေတော့’ ဆိုတဲ့စကားဟာ သိပ်မှန် ပါကလားလို့ တွေ့ကြရမှာဖြစ်ပါတယ်။

စစ်အေး (Cold War) အခု မရှိတော့ပါ။ စတာလင် (Stalin) ရဲ့ ယုတ်မာတဲ့ စီမံကိန်း ဒဏ်တွေလည်း အဆုံးသတ် သလောက် ရှိပါပြီ။ စတာလင်ကိုသာ

အမည် တပ်ပေမယ့် တချို့က လီနင် (Lenin) ကစတာ ဆိုပြီး ဆိုးသွမ်းသူက တစ်ဦး တစ်ယောက်တည်း မဟုတ်ပါလားလို့ ပြောရင်လည်း ရမှာပါ။ ဘာပြောပြော သမိုင်းမှာ စတာလင်က မင်းဆိုးမင်းယုတ်၊ မကောင်းကျိုးပေးဖို့ ပါရမီပါသူ၊ တော်တော်နဲ့ သူ့ကို ရွံမုန်းတဲ့စိတ် ပျောက်သွားမယ် မထင်ပါ။

17, July, 2001.

# (၆၇) ဂျူးလီးယပ်စ် ဆီဇာ (၁၀၀ ဘီစီ – ၄၄ ဘီစီ)

## JULIUS CAESAR (100 B.C – 44 B.C)

နာမည်ကြီးတဲ့ ရောမ နိုင်ငံရေး၊ စစ်ရေး ခေါင်းဆောင် ဂေယပ်စ် ဂျူးလီးယပ်စ် ဆီဇာ (Gaius Julius Caesar) ကို ရောမ (Rome) မှာ ခရစ်မပေါ်မီ အနှစ် ၁၀၀ က မွေးဖွားခဲ့ပါတယ်။ ခရစ် မပေါ်မီ ဒုတိယရာစုနှစ်က ကာသေ့ချ် တိုက်တဲ့ ဒုတိယပူနစ် (Punic) စစ်မှာ ရောမတွေ အောင်ပွဲရပြီးနောက် ရောမတွေမှာ အင်ပါယာကြီး တစ်ခု ထူထောင်နိုင်ခဲ့ပါတယ်။ ဒီလိုအောင်နိုင်တဲ့အတွက် ရောမသားတွေဟာ သိပ်ပြီး ချမ်းသာ ကြွယ်ဝ လာကြပါတယ်။ စစ်နိုင်တယ် ဆိုပေမယ့် ရောမရဲ့ ယခင် လူမှုစီးပွားရေးကို ရစရာ မရှိအောင် ဖျက်ဆီး ချေမှုန်း ပစ်လိုက်ပြီလို့ ပြောစမှတ်ဖြစ်ခဲ့ရပါတယ်။ တောသား တွေမှာတော့ ပစ္စည်း ဆုတ်ယုတ် ကုန်ပါတယ်။ ရောမ ဆီးနိတ်ဟာ အစပထမက မြို့ကလေး ငယ်ငယ်မှာ လူကြီးတချို့နဲ့ ဖွဲ့ထားတဲ့အဖွဲ့ ဖြစ်လေတော့ ကြီးကျယ်တဲ့ အင်ပါယာကို ပိုင်ပိုင်နိုင်နိုင် မအုပ်ချုပ် တတ်ပါ။ နိုင်ငံရေးမှာ လာဘ်ပေး လာဘ်ယူက သိပ်ကြီးမားလာတဲ့အခါ မြေထဲပင်လယ် ကမ္ဘာကြီး တစ်ခုလုံး ရောမရဲ့ အုပ်ချုပ်ပုံ ညံ့တဲ့ဒဏ်ကို ခံစားနေရပါတော့တယ်။ ရောမမှာလည်း ခရစ်မပေါ်မီ ၁၃၃ ခုနှစ်ကစပြီး နှစ်ရှည်လများ စည်းမဲ့ကမ်းမဲ့ ဖြစ်ချင်တာ ဖြစ်ဆိုပြီး အထက်က လုပ်သမျှ အောက်က ခံကြရပါတယ်။ နိုင်ငံရေး၊ စစ်ရေးခေါင်းဆောင် အမည်ခံသူ၊ ကိုယ်ကျိုးရှာသူတွေ အာဏာလုကြ (ဘီစီ ၈၇ မရိုင်းယပ်စ် Marius ရဲ့တပ်၊ ဘီစီ ၈၂ ဆာလာ Sulla ရဲ့တပ်တွေကို ) ကိုယ်ပိုင်တပ်တွေက ရောမမြို့တော် ထဲမှာပဲ ဝင်ရောက်ပြီး ပြောင်ပြောင်ထင်ထင် လုပ်ချင်တာ လုပ်နေကြပါတယ်။ လူတိုင်းက အုပ်ချုပ်ရေး ပျက်နေပြီလို့ သိပေမယ့် ရောမနိုင်ငံသား အများက သမ္မတ အစိုးရကို ဆက်ပြီး ရှိစေချင်တယ်။ အရေးပါတဲ့ နိုင်ငံရေး ခေါင်းဆောင် ထဲမှာ ဂျူးလီးယပ်စ်က စတင်ပြီး ရောမ ဒီမိုကရေစီ အစိုးရကို ဆက်လက် မထားသင့်လို့ အသေအချာ သိရှိသူ ဖြစ်မယ်လို့ ထင်ရပါတယ်။

ဆီဇာ ကိုယ်တိုင်ကတော့ ရှေးရောမ သူကောင်းမျိုး (Old patrician family) က ဆင်းသက်ပေါက်ဖွားလာသူ ဖြစ်တယ်။ ငယ်စဉ်က ပညာကောင်းကောင်း သင်ကြားခွင့် ရခဲ့တယ်။ လူငယ်ဘဝကပဲ နိုင်ငံရေးနယ်ထဲကို ဝင်လာ ခဲ့တဲ့လူ ဖြစ်ပါတယ်။ သူထမ်းရွက်ခဲ့တဲ့ ရာထူးမျိုးစုံ၊ ပေါင်းသင်း ခဲ့တဲ့ လူ အထွေထွေ

ဆိုတော့ သူ့နိုင်ငံရေး ဘဝဟာလည်း အဆိုးအကောင်း တွဲဖက်ပြီး မရှင်းမလင်း တာတွေ ရှိပေမယ့် ဒီနေရာမှာ ပြန်ပြီး မဖော်တတ်တော့ပါ။ ဒါပေမယ့် ခရစ် မပေါ်မီ ၅၈ ခုနှစ်၊ သူ့အသက် ၄၂ မှာ ဂျူးလီးယပ်စ်ကို ရောမပိုင် နိုင်ငံခြားပြည်နယ် သုံးခုမှာ ဘုရင်ခံ ခန့်ထားလိုက်ပါတယ်။ အဲဒီနယ်တွေက စစ်ဆာလပိုင် ဂေါလ် (Cisalpine Gaul) အီတလီ မြောက်ပိုင်း၊ အီလီရီကမ် ကနေ ယူဂိုစလားဗီးယား ပင်လယ်ကမ်းမြောင်ဒေသနဲ့ နာဗွန့်နိစ်ဂေါလ် (Narbonnese Gaul) ဖြစ်ပါတယ်။ သူ့လက်အောက်မှာ အဲဒီအခါက ရောမလီဂျင် (Rome legion) ရောမ တပ်လူ ၃၀၀၀၀–၆၀၀၀၀ လေးခုရှိလို့ လူနှစ်သိန်းလောက်ရှိပါတယ်။

ခရစ် မပေါ်မီ ၅၈–၅၁ အတွင်းမှာ ဆီဇာဟာ ဒီတပ်တွေကို သုံးပြီး ဂေါလ်လူမျိုး ရှိသမျှ ဒေသတွေလိုက်ပြီး တိုက်ခိုက် သိမ်းယူလိုက်တဲ့အခါ အကြမ်းဖျင်း ကနေ့ ပြင်သစ်၊ ဘယ်လဂျီယမ် အပြင် ဆွစ်ဇာလန်၊ ဂျာမန်၊ ဟော်လန်တို့ သူ့လက်အောက်ရောက်သွားရတယ်။ သူ့လူ သူ့တပ်တွေ ဆိုတော့ သူ့နိုင်တို့ လူဦးရေနဲ့စာရင် သေးငယ် ပါတယ်။ ဒါပေမယ့် ဒီဂေါလ် မျိုးတူစုတွေကို အကြွင်းမဲ့ နှိပ်ကွပ်ပြီးတဲ့အခါ သူ့ပိုင်နက်ဟာ ရောမ အုပ်စိုးတဲ့ ဂယ်လစ် ရောက်အောင် ရိုင်းမြစ် (Rhine River) ရဲ့ အထက်ပိုင်း အလွန် ဖြစ်သွားပါတယ်။ သူက ဗြိတိန်ကို နှစ်ကြိမ် ဝင်ရောက်တိုက်ခိုက်ပေမယ့် ကြာကြာလည်း ထိန်းမထားနိုင်ပါ။

ဆီဇာဟာ ဂေါလ်တွေကို နိုင်တဲ့အတွက် ရောမ ရှေ့ဆောင် နိုင်ငံရေးသမား ဖြစ်လာတယ်။ ရောမမှ လူတွေ နှစ်သက်တဲ့ သူ့ရဲကောင်း ဖြစ်လာတယ်။ သူနဲ့ အတိုက်အခံ နိုင်ငံရေးသမားတွေကတော့သိပ်လူ့ကြိုက်များ လွန်းတယ်။ သိပ်တန်ခိုးသြဇာ ရှိလွန်းတယ်လို့ ထင်လာကြ ပါတယ်။ သူ့စစ်မှုထမ်းသက် ကုန်တဲ့အခါ သာမန် တိုင်းသူပြည်သား အဖြစ်နဲ့ ရောမကိုပြန်ခဲ့ဖို့ ရောမ ဆီးနိတ်က အမိန့်ထုတ်ပါတယ်။ ဆိုလိုတာက သူ့တပ်ကို သူထားခဲ့ရတယ်။ ဒီလိုဆိုရင် သူ့ကို ရန်သူတွေက နှိပ်စက် နိုင်မယ်လို့ သူထင်ပါတယ်။ အဲဒါကို အထင်မှားလို့ ပြောရခက် ပါတယ်။ ဒီလိုဆိုရင် ၁၀–၁၁ ဇန်နဝါရီ ၄၉ ဘီစီ ညက ရောမဆီးနိတ်ကို ပြောင်ပြောင်တင်းတင်း အာခံပြီး ဆီဇာဟာ အီတလီမြောက်ပိုင်းရဲ့ ရူဗီကွန်မြစ်ကို သူ့တပ်တွေနဲ့ ဖြတ်ကျော်ပြီး ရောမကို ချီတက်လာပါတယ်။ ဒီလို ထင်ထင်ရှားရှား အမိန့်ကို လွန်ဆန်တဲ့အခါ ဆီဇာရဲ့ တပ်တွေနဲ့ ဆီးနိတ် (Senate) အပေါ်မှာ သစ္စာရှိတဲ့တပ်တွေ ပြည်တွင်းစစ် တိုက်ကြပါတော့တယ်။ စစ်တိုက်တာ လေးနှစ်ကြာပါတယ်။ စပိန်၊ မွန်ဒါ (Mumda) မှာ ၇ မတ် ၄၅ ဘီစီမှာ တိုက်တဲ့ နောက်ဆုံးစစ်ပွဲမှာ ဆီဇာ လုံးဝ အနိုင်ရတယ်။ ဆီဇာက ရောမ လိုအပ်နေတာက အစွမ်းထက်ပြီး ပြည်သူကို တကယ်အကျိုးပြုမယ့် အာဏာရှင် ဖြစ်တယ်၊ အဲဒီပုဂ္ဂိုလ်ဟာ သူ့ပဲလို့ ဆုံးဖြတ်ပြီးသား ဖြစ်ပါတယ်။ သူ ရောမကို အောက်တိုဘာ ၄၅ ဘီစီမှာ ပြန်ရောက်တယ်။ မကြာခင် ရာသက်ပန် အာဏာရှင်အဖြစ် အရွေးခံရပါတယ်။ ဖေဖော်ဝါရီ ၄၄ ဘီစီမှာ သူ့ကို သရဖူအပ်ပြီး ဘုရင်မြှောက်တယ်။ သူက လက်မခံပါ။ မူလကပဲ စစ်ဗိုလ် အာဏာရှင်ဆိုတော့ သမ္မတနိုင်ငံကို ဆက်ပြီး

ထိန်းထားချင်တဲ့ အတိုက်အခံတွေက သူ့ကို စိတ်မချဘူး။ မတ်လ ပွဲတော်ဖြစ်တဲ့ ၁၅ မတ် ၄၄ ဘီစီမှာ ဆီးနိတ် အစည်းအဝေးမှာ တိတ်တဆိတ် အကြံအစည်ရှိသူတချို့က ဆီဇာကို လုပ်ကြံလိုက်ကြတယ်။

ဆီဇာရဲ့ဘဝနောက်ဆုံးရက်ပိုင်းမှာ ပြုပြင်ရေး တွေကို တက်တက်ကြွကြွ စီမံဆောင်ရွက်သွားတယ်။

စစ်ပြန် ရဲဘော်တွေကို ဘယ်လို ထောက်ပံ့ပြုစုရမယ် ဆိုတဲ့ စနစ်ကိုလည်း ဖော်ထုတ်တယ်။ အင်ပါယာကြီးမှာ ဖြန့်ပြီး ရောမမြို့တော်ကြီးနေ သူဆင်းရဲတွေကို နေရာ အလုပ် ပီသအောင် ချထားပေးတယ်။ အရင်က လက်တစ်ဆုပ်စာ လောက်ရှိတဲ့ အခွင့်ထူးခံ ရောမ မြို့တော်သား Roman citizenship စာရင်းကိုလည်းချဲ့ပြီး လူအတော်များများကို ရောမမြို့တော်သား အဖြစ် လက်ခံ တယ်။ အီတလီမြို့ကြီးတွေမှာ ကိုယ့်မြို့နဲ့ ကိုယ့်အဖွဲ့ အုပ်ချုပ်ပုံနဲ့ စီးပွားရေးမှာ ကြိုက်သလို စီမံခွင့်ပေးတဲ့ မြူနီစီပါယ် အဖွဲ့တွေဟာ စနစ်အရ ညီညွတ် သင့်တယ်ဆိုပြီး ပုံစံ ရေးဆွဲပေးတယ်။ အဆောက်အဦသစ်တွေ အများကြီး ဆောက်ဖို့လည်း လျာထားပြီး ဖြစ်တယ်။ ရောမ ဥပဒေ ကိုလည်း စာနဲ့ချရေးပြီး အကြောင်းအကျိုး ညီညွတ်အောင် စီစဉ် (Codification) ပေးတယ်။ အခြားပြုပြင်ရေး စီမံကိန်းတွေလည်း လုပ်ထားတယ်။ ဒါပေမယ့် ရောမ အစိုးရအတွက် အခြေခံ အုပ်ချုပ်ရေး စည်းမျဉ်းကို ကျေနပ်ဖွယ် ဖြစ်အောင် မလုပ်ဖြစ်ပါ။ အဲဒါပဲ သူပျက်စီးရတဲ့ အကြောင်းရင်း တစ်ခု ဖြစ်နိုင်စရာရှိပါတယ်။

မှန်ဒါမှာ ဆီဇာ အောင်ပွဲရချိန်နဲ့ ရောမမှာ လုပ်ကြံ ခံရချိန်ဟာ ကြား တစ်နှစ်သာ ရှိသေးတဲ့အတွက် သူ့စီမံကိန်းတွေဟာ ဘယ်လောက် ကျနကောင်းမွန်တယ်၊ ဘယ်လောက် အထိ အမြော်အမြင်ကြီးပြီး ကျေးဇူးပြုပုံ လေးနက်တယ်လို့ ပြောဖို့ခက်သလို သူသာမသေရင် ဘယ်အထိဖြစ်မြောက်အောင်မြင်မှာပဲလို့ အကဲဖြတ်ဖို့ ခက်ပါတယ်။ သူ့ပြုပြင်ရေးတွေထဲမှာ အကောင်းဆုံးနဲ့ ရေရှည်အရာ ရောက်ဆုံး ပြုပြင်ချက် ကတော့ ပြက္ခဒိန်သစ်ဖြစ်ပါတယ်။ အဲဒီပြက္ခဒိန်ကို နည်းနည်းလေးပဲ နောက်လူက ပြုပြင်ပြီး ကနေ့အထိ သုံးစွဲနေကြပါတယ်။

ဂျူးလီးယပ်စ်ဆီဇာဟာ သမိုင်းမှာ နောက်လိုက် အများဆုံး နိုင်ငံရေးသမား တစ်ယောက် ဖြစ်တယ်။

အင်မတန် ပညာဉာဏ်ကြီးတယ် (ပါရမီထူးတယ်)၊ နိုင်ငံရေးမှာလည်း ထူးချွန်တယ်။ စစ်ဗိုလ်ကြီး အဖြစ်နဲ့လည်း ပြောင်မြောက် အောင်မြင်တယ်။ တရားဟောလည်း သိပ်တော်တယ်။ စာရေးလည်းကောင်းတယ်။ သူရေးတဲ့ ဒဘဲလော ဂါလီကို (Debalo Gallico) ဟာ သူဂေါလ်လူမျိုးတွေကို ဘယ်လို တိုက်ခိုက် သိမ်းသွင်း ခဲ့တယ်ဆိုတာကိုလည်း ရေးခဲ့တာဖြစ်တယ်။ အဲဒီစာအုပ်ကို လက်တင်ဘာသာ စံပြရေးကျမ်း အဖြစ်နဲ့ သုံးကြရပါတယ်။ လက်တင်ဘာသာ ကျွမ်းကျင်သူပညာရှင်တွေက ဖတ်ကောင်း တယ်။ အရေးအဖွဲ့မှာ စိတ်ပါဝင်စားအောင် တော်တယ်လို့ အကဲဖြတ်ကြပါတယ်။ ဆီဇာဟာ သတ္တိကောင်းတယ်။ လုံ့လဝီရိယကြီးတယ်။ ရုပ်ချောတယ်။ မိန်းမကျူးတယ်

လို့တောင် အပြောခံရသေးတယ်။ ဟိုခေတ်က ဒါကိုခွင့်လွှတ်တယ် ဆိုတာတောင် သူက ပိုကဲသေးတယ်။ (သူနဲ့ပတ်သက်လို့ အဲဒီဘက်က ထင်ထင်ရှားရှား ပြောစရာက အီဂျစ်မိဖုရား ကလီယိုပက်ထရာ နဲ့ အချစ်ထူးကြပုံပဲ ဖြစ်ပါတယ်။)

ဆီဇာရဲ့ အကျင့်စာရိတ္တကို ဒါကြောင့် ဝေဖန် ကဲ့ရဲ့သူလည်း ရှိမှာပါ။ သူက အာဏာကို မက်မော တာလည်း မှန်ပါတယ်။ နိုင်ငံရေး အာဏာကိုသုံးပြီး ချမ်းသာ လာတာပါ။ ဒါပေမယ့် တခြားလောဘကြီးတဲ့ နိုင်ငံရေးသမား အများစုနဲ့ သူကွဲလွဲတာကတော့ သူက ဘယ်အခါကမှ လိမ်ညာ ကောက်ကျစ်တာကို မတွေ့ရပါ။ သူဂေါလ်တွေကို တိုက်ခိုက်စဥ်က မညှာမတာ ရက်စက်စွာ နှိပ်ကွပ်ပါတယ်။ တစ်ဖက်မှာတော့ ရောမသားတွေထဲက သူ့အတိုက်အခံ ပုဂ္ဂိုလ်တွေကို သူကနိုင်တဲ့အခါ ထူးထူးခြားခြား သက်ညှာ ခွင့်လွှတ်တာကို တွေ့နိုင်ပါတယ်။ သူ့ကို ဘယ်အထိ နှစ်သက်ကြသလဲဆိုရင် သူ့ကိုခေါ်တဲ့ ဘွဲ့ထူးဟာ ဂျာမန်တွေရဲ့ ဧကရာဇ် ကိုင်ဇာ (Kaiser) နဲ့ ရုရှတွေရဲ့ဧကရာဇ် ဇာ(Czar) ကို ပေါင်းပြီး ဆီဇာ (Caesar) လို့ ခေါ်ကြတဲ့အထိ ဖြစ်ပါတယ်လို့ ပြောစမှတ် ပြုတာကိုပဲကြည့်ပါ။ သူ့ရဲ့မြေး ဩဂတ်စတပ်စ် ဆီဇာက ရောမအင်ပါယာကို ထူထောင်သူ အစစ်ဖြစ်ပေမယ့် အဲဒီပုဂ္ဂိုလ်ထက် သူက အမြဲပိုပြီး လူသိများ ကျော်ကြား ပါတယ်။ ဒါပေမယ့် ဘယ်လောက်ပဲ သူက ကျော်ကြား ပေမယ့် ကျော်ကြားသလောက် သမိုင်းမှာ အရာ မရောက်ပါ။ ရောမ သမ္မတနိုင်ငံကို ပျက်အောင် ဖျက်တဲ့ အခါမှာ သူ့ဆောင်ရွက်ချက်ဟာ ထင်ရှား ကြီးကျယ် ပါတယ်။ ဒါပေမယ့် အဲဒါကိုသိပ်ပြီး ပုံကြီး မချဲ့သင့်ပါ။ ဘာပြုလို့လဲ ဆိုတော့ ယိုင်လဲမယ့် အဖွဲ့ကို တွန်းဖြို လိုက်တာပဲ ဖြစ်တယ်လို့ ပြောနိုင်လို့ပါပဲ။

ဆီဇာရဲ့ အရေးကြီးဆုံး ဆောင်ရွက်ချက်က ဂေါလ်တွေကို အောင်နိုင်ခြင်း ဖြစ်တယ်။ တိုက်ခိုက်ယူခဲ့တဲ့ နယ်တွေကို ရောမက ရှေ့အဖို့ အနှစ်ငါးရာ နီးနီး အုပ်ချုပ် ရပါတယ်။ အဲဒီကာလအတွင်း အဲဒီနယ်တွေမှာ ရောမ စရိုက် (Romanized) ဝင်သွားတယ်။ ရောမဥပဒေ (Roman Laws) ဓလေ့ (Custom) နဲ့ ဘာသာ စကားတွေ ကို အဲဒီလူတွေကလက်ခံတယ်။ အဲဒါအပြင် ရောမရဲ့ ခရစ်အယူဝါဒကိုလည်း ပြောင်းလဲ ယုံကြည် လာကြတယ်။ ကနေ့ ပြင်သစ်စကားဟာ လက်တင်နှုတ်ပြော (Colloquial Latin) စကားပဲဖြစ်တာက ဒီအချက်ကို ကောင်းကောင်း ထင်ရှား စေပါတယ်။

ဆီဇာဟာ ဂေါလ်ကိုနိုင်တဲ့ အတွက် ရောမက ဟိုဘက် တံ့ပြန်တဲ့ ကျေးဇူး မရတော့ဘူးလားလို့ မေးရင် အများကြီး ရတယ်။ ရာစုနှစ်ပေါင်းများစွာ အီတလီဟာ မြောက်ဘက်က ဝင်ရောက် တိုက်ခိုက်တဲ့ ဘေးအန္တရာယ်က လွတ်မြောက်ခဲ့ပါတယ်။ အမှန်တကယ်က ဂေါလ်ကို နှိမ်ထားလို့ ရောမ အင်ပါယာကြီး တစ်ခုလုံး ရေရှည်တည်တဲ့ နိုင်တာဖြစ်ပါတယ်။ ဂေါလ်ကို ဆီဇာလို လူမျိုး မပေါ်လာလည်း ရောမတွေက တက်သိမ်းမှာပဲ မဟုတ်လားလို့ မေးရင် ဒီလို သိမ်းနိုင် အောင် သူတို့မှာ လူအား၊ ဉာဏ်ပညာအား မရှိပါလို့ ဖြေရမယ်။ ဒါပေမယ့် တစ်ဖက်က စဥ်းစားစရာ အချက်ရှိပါတယ်။ ရောမဟာ အဲဒီအခါ နယ်ချဲ့နေတဲ့ အချိန် ဖြစ်တယ်။ သူတို့တပ်က ထက်မြက်တယ်။ ဂေါလ်နဲ့

ရောမ နယ်ချင်းလည်း ဆက်စပ် နေတယ်။ ဂေါလ် အချင်းချင်း လည်း မညီမညွတ် အကွဲကွဲ အပြားပြား ဖြစ်နေတယ်။ ဒါကြောင့် ဂေါလ်တွေဟာ ဘယ်နည်းနဲ့မှ ရောမ လက်အောက်ခံ ဘဝက လွတ်နိုင်စရာ မရှိပါ။ ဘာပဲပြောပြော ဆီဇာ (Caesar) ဆိုတဲ့ စစ်ဗိုလ်ချုပ်ကြီးဟာ ဆဲလ်တစ် (Celtic) တပ်ကြီးတွေကို နှိမ်နင်းနိုင်တယ်။ ဂေါလ်တွေကို အောင်နိုင်တယ်။ ဒါကြောင့် ဒီစာအုပ်မှာ သူ့ကို ဒီအဆင့် ပေးထားတာ ဖြစ်ပါတယ်။

25, July, 2001.

# (၆၈) အောင်နိုင်သူ ဝီလီယမ် (၁၀၂၇ ခန့် – ၁၀၈၇)

## WILLIAM THE CONQUEROR (C. 1027 – 1087)

နော်မန်ဒီ (Normandy) က မြို့စားကြီး ဝီလီယမ်ဟာ ထောင်ဂဏန်းလောက်ရှိတဲ့ နောက်လိုက် နည်းနည်းနဲ့ ၁၀၆၆ မှာ အင်္ဂလန်ကို စိုးမိုးအုပ်ချုပ်မင်းလုပ်ဖို့ အင်္ဂလိပ်ရေလက်ကြားကို ကူးခဲ့ပါတယ်။ ဒီလို စွန့်စားချက်ဟာ အောင်မြင်တယ်။ နိုင်ငံရပ်ခြားက အင်္ဂလန်ကို လာရောက်ကျူးကျော် အောင်မြင် သမျှတွေထဲမှာ ဒီဟာနောက်ဆုံးပါပဲ။ အဲဒီအခါ ဝီလီယမ်နဲ့ သူ့သားစဉ်မြေးဆက် အင်္ဂလန်မှာ မင်းဖြစ်လာတာထက် ပိုပြီး ထိရောက်တဲ့ အကျိုးတွေရှိပါတယ်။ နောက်ဖြစ်ပေါ် လာသမျှ သမိုင်း အဖြစ်အပျက်တွေဟာ ဒီပွဲက အကျိုးဆက်တွေ များတယ်လို့ပဲ ဆိုရလောက်အောင် အရေးပါတဲ့ပွဲ ဖြစ်ပါတယ်။ ဒီလိုခရီးရောက်မယ်လို့ ဝီလီယမ် ကိုယ်တိုင် မျှော်မှန်း သိရှိနိုင်စရာ မရှိပါ။

ပြင်သစ် နော်မန်ဒီ ဖလိုင်စေ (Falaise) မှာ ၁၀၂၇ လောက်က ဝီလီယမ်ကို မွေးဖွားခဲ့တယ်။ အဖေ နာမည် မပေါ်ဘဲ ရထားတဲ့သား ဖြစ်ပါတယ်။ ဒါပေမဲ့ နော်မန်ဒီ မြို့စားကြီး ပထမရောဘတ် (Robert) ရဲ့ တစ်ယောက်တည်းရထားတဲ့သား ဖြစ်ပါတယ်။ ရောဘတ် ဂျေရုဆလမ်က ခရစ်သာသနာရေး ဒေသတွေကို သွားရောက် လည်ပတ်ပြီး ပြန်အလာ ၁၀၃၅ မှာ သေဆုံးတယ်။ ဒီလို ခရီးမထွက်ခင်ကပဲ ဝီလီယမ်ကို သူ့အမွေဆက်ခံသူလို့ ရွေးထားပြီး ဖြစ်လို့ ဝီလီယမ်ဟာ အသက်ရှစ်နှစ်သားမှာ နော်မန်ဒီမြို့စားကြီး (Duke) ဖြစ်လာပါတော့တယ်။ စည်းစိမ်ဥစ္စာ တန်ခိုးအာဏာနဲ့ အနေကောင်း နေရတာ မဟုတ်ပါ။ ဝီလီယမ်ရဲ့ဘဝဟာ အမြဲစိုးရိမ် ကြောင့်ကြနေရတဲ့ဘဝ ဖြစ်ပါတယ်။ လူလား မမြောက်သေးတဲ့ ကလေးငယ်က သက်ကြီးရွယ်ကြီး မြို့စားတွေ အပေါ်မှာ အုပ်ချုပ်သူဖြစ်နေတဲ့အတွက် သူ့ကို မလေးစားဘဲ သူတို့လောဘအတိုင်း ထင်မြင်သလို ပြုမူ ဆောင်ရွက်နေကြတယ်။ မင်းမဲ့ တိုင်းပြည် သဘော သက်ရောက်ပြီး ဝီလီယမ်ရဲ့အုပ်ထိန်းသူ (Guardian) သုံးယောက် ဆက်တိုက် လုပ်ကြံ သတ်ဖြတ် တာကို ခံရတယ်။ သူ့ငယ်ဆရာလည်း အသတ်ခံ ရတယ်။ နာမည်ခံ ပြင်သစ်ဘုရင် ပထမဟင်နရီ (Henry I) ရဲ့ လက်အောက် အစောင့်အရှောက်ခံရတယ် ဆိုတာတောင် ဝီလီယမ်

ကိုယ်တိုင် ပွဲဦးထွက်မှာ အသက်အန္တရာယ် မကျရောက်ဘဲ ကပ်ကျော်ခဲ့ရတာကို ကံကောင်းတယ်လို့ပဲ ခေါ်ရမှာ ဖြစ်ပါတယ်။ အသက် ၁၅ နှစ်လောက် ဝီလီယမ် ရောက်လာတော့ ၁၀၄၂ မှာ သူ့ကို ရှင်ဘုရင်က သူကောင်း ချီးမြှောက်ပါတယ်။ အဲဒီကစပြီး သူကိုယ်တိုင် နိုင်ငံရေးမှာ ပါဝင်လာခဲ့ပါတယ်။ နော်မန်ဒီက မြို့စားတွေကို စစ်အကြာကြီး တိုက်ခိုက်နှိမ်နင်းပြီးမှ သူပိုင်လို့ ဆိုတဲ့ နော်မန်ဒီမှာ သူ့ဩဇာအာဏာ အထင်အရှား သုံးပြီး အုပ်စိုးပိုင်ခွင့်ရလာပါတယ်။ (သူ့ကို အဖေအမည် မဖော်နိုင်တဲ့ သားလို့ အပြောခံရတာဟာ နိုင်ငံရေးမှာ အင်မတန်မျက်နှာငယ်ရတဲ့ အချက် တစ်ခု ဖြစ်ပါတယ်။ ရန်သူတွေက သူ့ကို လင်ကောင် မပေါ်တဲ့ သားလို့ ခေါ်ကြတယ်။) အိမ်နီးချင်းဖြစ်တဲ့ မိန်းနယ်ကို ၁၀၆၃ မှာ တိုက်ခိုက်အောင်မြင်တယ်။ ၁၀၆၄ မှာ အိမ်နီးချင်း ဗြိတဲန်နီ (Brittany) နယ်က သူတို့ရဲ့ အကြီးအချုပ် ဖြစ်တယ်လို့ အသိအမှတ်ပြုလာပါတယ်။ အင်္ဂလန်မှာ ၁၀၄၂ က ၁၀၆၆ ထိ ရှင်ဘုရင်က ဝန်ခံသူ အက်ဒဝပ် (Edward the Confessor) ဖြစ်တယ်။ အက်ဒဝပ်မှာ သားသမီးမရှိပါ။ သူ့ကို ဆက်ခံပြီး ဘုရင် လုပ်ချင်သူများတယ်။ ဝီလီယမ်က သွေးသားအနေနဲ့ သိပ်မနီးစပ်ပါ။ ဝီလီယမ် အဘိုးရဲ့နှမက အပ်ဒဝပ်ရဲ့ အမေဖြစ်ပါတယ်။ ၁၀၅၀ မှာ အပ်ဒဝပ်က ဝီလီယမ်ကို အစွမ်းအစ ရှိတယ်ဆိုပြီး နှစ်သက်တာနဲ့ တူတယ်။ သူ့ကိုဆက်ခံဖို့ သဘောတူလိုက်တယ်။

အင်္ဂလိပ်မင်းတွေထဲမှာ အက်ဒဝပ် ယောက်ဖ လည်းဖြစ်၊ အခင်မင်ဆုံး ပုဂ္ဂိုလ်လည်းဖြစ်တဲ့ တန်ခိုး အကြီးဆုံး ဟာရိုဂေါ့ဒွင် (Harold Godwin) ကို ဝီလီယမ်က ဖမ်းမိတယ်။ ကောင်းကောင်း မွန်မွန်ထားပါတယ်။

ဒါပေမယ့် ဝီလီယမ်ကို အင်္ဂလိပ်ရှင်ဘုရင် အဖြစ် ဆက်ခံဖို့ သဘောတူကြောင်း သစ္စာရေသောက်တဲ့အခါ ပြန်လွှတ် လိုက်ပါတယ်။ ဒီလိုအကျပ်ကိုင်ပြီး သဘောတူ ချက်ယူတာကို အသိအမှတ် မပြုလိုကြပါ။ ဟာရိုကိုယ်တိုင်ကလည်း ဒီလိုပဲသဘောထားတယ်။ ၁၀၆၆ မှာ အက်ဒဝပ်ကွယ်လွန်တဲ့အခါ ဟာရိုဂေါ့ဒွင်က သူကိုယ်တိုင် ရှင်ဘုရင် ဖြစ်ဖို့ ပြင်ဆင်ပါတယ်။ ဝိတန် (Witan) အမည်နဲ့ မင်းသစ်ကိုရွေးတဲ့ အင်္ဂလန် မြို့စားကြီးအဖွဲ့ကလည်း ဟာရိုကိုပဲ ဘုရင်သစ်လို့ ရွေးတယ်။ ဟာရို သစ္စာဖောက်တာကို ဒေါသ ထွက်တဲ့အပြင် အလိုရမ္မက်ကြီးတဲ့လူတွေလုပ်မြဲ ကိုယ်လိုချင်တာကို ရအောင်တိုက်ယူမယ်လို့ ဆုံးဖြတ်လိုက်တယ်။

ဝီလီယမ်က ပြင်သစ် ကမ်းခြေမှာ ရေတပ်ဖွဲ့တယ်။ ကြည်းတပ်စုပြီး ၁၀၆၆ ဩဂုတ်လဆန်းမှာ အင်္ဂလန်ကို ကူးဖို့ အသင့်ဖြစ်ပါတယ်။ ဒါပေမယ့် မြောက်လေက ပြင်းထန်လွန်းလို့ သင်္ဘောတွေ အများကြီး ကုန်လွန်တဲ့အထိ ပင်လယ်ကို မဖြတ်ရဲပါ။ ဒီအတောအတွင်းမှာ အင်္ဂလန်ကို နော်ဝေးဘုရင် ဟာရိုဟာဒြအေ့ (Harold Hardrade) က နော့သ်ဆီး (North Sea) ကိုဖြတ်ပြီး ဝင်ရောက် တိုက်ခိုက်သွားပါတယ်။ ဟာရိုဂေါ့ဒွင်က အင်္ဂလန်တောင်ဘက်ကို တပ်တွေ အသင့်ချပြီး ဝီလီယမ်ရဲ့ကျူးကျော်စစ်ကို တွန်းလှန်ဖို့ စောင့်နေပါတယ်။ နော်ဝေး ကျူးကျော်စစ်ရောက်တဲ့အခါ မြောက်ဘက်ကို ပြန်ပြီး ချီတက်

စေရတယ်။ ၂၅ စက်တင်ဘာ ၁၀၆၆ မှာ စတမ်းဖို့တံတားစစ်ပွဲ (the Battle Of Stamford Bridge) တိုက်တယ်။ နော်ဝေးဘုရင် ကျဆုံးပြီး သူ့တပ်ဟာလည်း ပျက်စီးသွားတယ်။ နောက်နှစ်ရက်ကြာတဲ့အခါ အင်္ဂလိပ်ရေလက်ကြားမှာ လေကြောင်းပြောင်းတော့ ချက်ချင်း ဝီလီယမ်က အင်္ဂလန်ကို သူ့တပ်တွေ စပို့ပါတယ်။ ဟာရိုက ဝီလီယမ်ရဲ့တပ်တွေ သူ့ဆီကို ချီတက် တိုက်ခိုက်လာတော့မှ ပြန်လှန် တိုက်ခိုက်သင့်တယ်။ ဒီလိုမဟုတ်ရင်လည်း သူ့တပ်သားတွေ စစ်ပွဲ တစ်ပွဲပြီးစ ခေတ္တခဏနားချိန် ပေးသင့်တယ်။ အဲဒါတွေ တစ်ခုမှ မလုပ်ဘဲ သူ့တပ်သားတွေကို တောင်ဘက် ပြန်ခေါ်လာပြီး ဝီလီယမ်ကို ချက်ချင်း တိုက်ခိုက်စေတယ်။ စစ်တပ်နှစ်တပ် ၁၄ အောက်တိုဘာ ၁၀၆၆ မှာ တွေ့ပြီး ဟေ့စတင်းစစ်ပွဲ (Hasting Battle) ကို တိုက်ကြပါတယ်။ တစ်နေကုန် တိုက်တော့ ဝီလီယမ်ရဲ့မြင်းတပ်နဲ့ လေးတပ်က အင်္ဂလိုဆက်ဇွန်တပ် (Anglo-Saxon) တွေကိုနိုင်တယ်။ ညရောက်တော့ ဘုရင် ဟာရို တိုက်ပွဲမှာ ကျဆုံးတယ်။ အဲဒီတော့ အင်္ဂလိပ်ဘက်မှာ တပ်သစ်ဖွဲ့ပြီး ဝီလီယမ် ဒုန်းမတက်နိုင်အောင် ဆို့ပိတ်နိုင်သူ မကျန်တော့ပါ။ ဝီလီယမ်ကို ခရစ်စမတ်နေ့ လန်ဒန်မှာ ဘိသိက်သွန်းပြီး မင်းမြှောက်ကြပါတယ်။ နောက်ငါးနှစ်လောက် ဆက်ပြီး အနည်းအပါး သူပုန်ထတယ်။ ဝီလီယမ်က အားလုံးကို နှိပ်ကွပ်နိုင် လိုက်ပါတယ်။ ဒီသူပုန်လေးတွေကို အကြောင်းပြုပြီး ဝီလီယမ်ဟာ အင်္ဂလန်မှာရှိတဲ့ သူ့ရန်သူ အားလုံးရဲ့ ကိုယ်ပိုင်ပစ္စည်းတွေကို သိမ်းယူ လိုက်ပါတယ်။ ဒီလိုရတဲ့ ပစ္စည်းအများစုကို နော်မန်ဒီက ပါလာတဲ့ နောက်လိုက်ထဲက အရာရောက်သူတွေကို ဝေပေး ရပါတယ်။ သူတို့က လယ်ကို ကံကျွေးချစနစ်နဲ့ ချင်းနင်း ဝင်ရောက် စိုက်ပျိုးပြီး အထက်က ရှင်ဘုရင်ကို အခွန်အခ ပေးကြရပါတယ်။ အင်ဂလိုဆက်ဇွန် မင်းမျိုးတွေအားလုံး ဖျက်ဆီးခံရလို့ ဘာမျှ တန်ခိုးသြဇာ မရှိချိန်မှာ နော်မန်ဒီတွေက ဝင်နေရာ ယူပြီး တွင်ကျယ်လာကြပါတယ်။ (အပြောင်းအလဲဟာ သိပ်ပြီး ဇာတ်ဆန်လှပါတယ်။ အရင်က ပစ္စည်းနဲ့ တန်ခိုးရှိသူတွေကို ဖယ်ပြီး လူသစ်တွေလက်ထဲကို အာဏာလွှဲပြောင်း ပေးလိုက်တာပဲ ဖြစ်ပါတယ်။ ထောင်သောင်းချီပြီး များပြားတဲ့ သာမန် အရပ်သား တွေမှာတော့ အထက်က ပိုင်ရှင်ပြောင်းတာကလွဲလို့ ဘာမျှကြီးကြီးကျယ်ကျယ် ပြောင်းလဲခြင်းမရှိပါလို့ ပြောနိုင်ပါတယ်။)

ဝီလီယမ်က သူသာလျှင် အင်္ဂလန်ရဲ့ တရားဝင် ရှင်ဘုရင်ဖြစ်ထိုက်သူလို့ ယူဆတယ်။ အင်္ဂလိပ် အဖွဲ့အစည်းတွေ ကိုလည်း ဘယ်လိုမှ ထိခိုက်နစ်နာပြီး ပြောင်းလဲ သွားအောင် မလုပ်ဖြစ်ဖို့ သတိကြီးကြီး ထားပြီး အလုပ်လုပ်ပါတယ်။ ဝီလီယမ်က သူ့အသစ်ရထားတဲ့ ဥစ္စာစီးပွားကို စာရင်းအတိအကျ ရယူလို စိတ်ရှိလို့ အင်္ဂလန်မှာ လူဦးရေကောက်စေတယ်။ ဘယ်ပစ္စည်းက ဘယ်မြေကို ဘယ်ပိုင်ရှင်လက်အောက်မှာ ရှိတယ်လို့ စာရင်း အတိအကျ ယူစေတယ်။ အဲဒီလိုကောက်ယူခဲ့တဲ့ စာရင်းကျယ်ကို ဒွန်းမ်စဒေးကျမ်း (Domesday Book) လို့ ခေါ်ပါတယ်။ သမိုင်းမှာ တန်ဖိုးမဖြတ်နိုင်အောင် ကောင်းတဲ့ သမိုင်း မှတ်တမ်းကြီးတစ်ခု ဖြစ်လာပါတယ်။ (မူရင်းကျမ်းဟာ အခုအထိမပျက်မစီးဘဲ လန်ဒန်ပြည်သူ့ မှတ်တမ်းရုံးမှာ ရှိပါတယ်။)

ဝီလီယမ်မှာ အိမ်ထောင်ရှိတယ်။ သား လေးယောက်၊ သမီး ငါးယောက်ရှိပါတယ်။ ပြင်သစ် မြောက်ပိုင်းရှိအဲန် (Rouen) မြို့တော်မှာ ၁၀၈၇ ခုနှစ်၊ ဝီလီယမ် ကွယ်လွန်သွားပါတယ်။ အဲဒီအချိန်ကစပြီး အင်္ဂလန်မှာ နန်းစံသမျှဘုရင်တွေဟာ သူက ဆင်းသက် ပေါက်ဖွားလာသူတွေသာ ဖြစ်ပါတယ်။ ထူးဆန်းတယ်လို့ ပြောရမယ့် အချက်တစ်ချက်က အင်္ဂလန်ဘုရင်တွေထဲမှာ အောင်နိုင်သူ ဝီလီယမ်ဟာ အရေးပါ အရာရောက်ဆုံးဘုရင် ဖြစ်ပေမယ့် သူကိုယ်တိုင်က အင်္ဂလိပ် လူမျိုး မဟုတ် ပြင်သစ်လူမျိုး ဖြစ်နေပါတယ်။ ပြင်သစ်မှာ မွေး၊ ပြင်သစ်မှာသေပြီး တစ်သက်လုံး ပြင်သစ်မှာပဲ အနေ များတယ်။ ပြင်သစ်ဘာသာစကားတစ်မျိုးပဲ ပြောတတ်တယ်။ (စာမတတ်ပါ။)

ဝီလီယမ်ရဲ့ သမိုင်းမှာ အရေးပါပုံ ပမာဏကို တွက်ကြည့်မယ် ဆိုရင် အင်္ဂလန်ကို နော်မန်တို့ သိမ်းယူခြင်း ဆိုတဲ့ သိပ်အရေးကြီးတဲ့ အဖြစ်အပျက်ဟာ ဝီလီယမ် ကြောင့်သာ ဖြစ်ပေါ်ရတယ်။ သူမပေါ်လာရင် ဒီအရေးအခင်း ပေါ်ပေါက်လာနိုင်စရာ အကြောင်း မရှိပါ။ ဝီလီယမ်ဟာ အင်္ဂလိပ်နန်းရိုး မဟုတ်ပါ။ သူကိုယ်တိုင်က လောဘ ရှိလို့၊ အစွမ်းလည်း ရှိလို့ နော်မန်ကျူးကျော်စစ် (Nomen Invasion) ဆိုတာ ပေါ်ရတာဖြစ်တယ်။ အင်္ဂလန်ကို ပြင်သစ်ဘက်က ပင်လယ်ကူးပြီးလာရောက် တိုက်ခိုက်တာဟာ အရင်အနှစ်တစ်ထောင်က ရောမတွေ စခဲ့တာ ဖြစ်တယ်။ ရောမနောက် အခုပြင်သစ်က ကျူးကျော် တိုက်ခိုက်အောင်မြင်တယ်။ ပြင်သစ်က ဝီလီယမ် တို့နောက် အခုထိ ရာစုနှစ်ကိုးစုအတွင်း ဘယ်သူမှဒီလို ကျူးကျော်ဖို့ ကြိုးစားပေမယ့် မအောင်မြင်သေးပါ။

မေးစရာ မေးခွန်းတစ်ခု ပေါ်လာတာက ဒီနော်မန် အောင်နိုင်ရေးရဲ့ အကျိုးအပြစ်ဟာ ဘယ်လောက် ကြီးကျယ် ပါသလဲဆိုတဲ့ မေးခွန်းပါပဲ။ နော်မန် ကျူးကျော်တဲ့ ရန်သူအားဟာ မကြီးမားပါ။ လူနည်းပါတယ်။ ဒါပေမယ့် အင်္ဂလိပ် သမိုင်းမှာ အများကြီး ပြောင်းလဲမှုတွေ ပေါ်ပေါက် စေပါတယ်။ သူတို့မရောက်ခင် နှစ်ငါးရာ ခြောက်ရာ လောက်က အင်ဂလိုဆက်ဇွန်နဲ့ စကဲန်ဒီနေးဗီးယားတွေ ကြိမ်ဖန်များစွာ လာရောက် တိုက်ခိုက်ပြီး မြေပေါ်မှာပဲ အခြေစိုက်နေထိုင်တယ်။ သူတို့ရဲ့အခြေခံဓလေ့က ကျူတန် (teuton) ဓလေ့ ဖြစ်ပါတယ်။ နော်မန်က ဗိုက်ကင်း (Viking) က ဆင်းသက် တာဖြစ်လို့ သူတို့ရဲ့ဘာသာစကားနဲ့ဓလေ့က ပြင်သစ် ဖြစ်ပါတယ်။ နော်မန် အောင်နိုင်ခြင်း ပေါ်လာလို့ အင်္ဂလိပ် ဓလေ့ကို ပြင်သစ်ဆန်အောင် ပေါင်းစပ် ပေးနိုင်တယ်လို့ ဆိုရပါမယ်။ (ကနေ့ကြည့်ရင် ဒါဘာ ဆန်းသလဲ ပြောမယ်။) ဒါပေမယ့် အောင်နိုင်သူ ဝီလီယမ် မပေါ်ခင် နှစ်ပေါင်းများစွာက အင်္ဂလန်က မြောက်ဥရောပနဲ့ အဆက်အသွယ် ပိုများခဲ့လို့ ဝီလီယမ်ဝင်လာလို့သာ အခုတွေ့ရတယ်။ ပြင်သစ် အင်ဂလိုဆက်ဇွန်ဓလေ့ပေါင်း ပေါ်ပေါက်လာတာဖြစ်တယ်။ သူမပါရင် ဒီဓလေ့ပေါင်း ဖြစ်ဖို့ ခက်ပါတယ်။ ဝီလီယမ်က အင်္ဂလန်မှာ အဆင့်မြင့်တဲ့ ကံကျွေးချ စနစ်ကို တီထွင်ခဲ့တာဖြစ်ပါတယ်။ နော်မန်မင်းတွေမှာ အင်ဂလိုဆက်ဇွန် နဲ့မတူတဲ့ အဖွဲ့အစည်းက လက်နက်ကိုင်စွဲထားတဲ့ သူရဲကောင်း အဖွဲ့ (Knights) ဖြစ်တယ်။ လူအရေအတွက်လည်း ရာထောင်ချီပြီး ရှိတယ်။ ခေတ်လယ် အဆင့်နဲ့တွက်ရင်

အင်မတန်အားကောင်းတဲ့ အဖွဲ့အစည်းဖြစ်ပါတယ်။ နော်မန်တွေဟာ အုပ်ချုပ်ရေး စနစ်မှာလည်း ကောင်းတယ်။ ဒါကြောင့် အင်္ဂလန်အစိုးရဟာ ဥရောပမှာ အားအကြီးဆုံးနဲ့ စည်းစနစ် အကျဆုံး အစိုးရတွေထဲမှာ တစ်ခု အပါအဝင် ဖြစ်လာပါတယ်။

နော်မန်ရောက်လာလို့ အင်္ဂလိပ်ဘာသာစကားဆိုပြီး ဘာသာ စကားသစ်တစ်ခုအဖြစ် ပေါ်လာရတာ ဖြစ်ပါတယ်။ နော်မန်တွေနဲ့ ဖက်စပ် အုပ်ချုပ်ကြရတဲ့အခါ ဝေါဟာရ အသစ်တွေ အမြောက်အမြား လက်ခံ ပြောဆိုလာကြတယ်။ သက်သေပြရရင် အခုသုံးနေတဲ့ အင်္ဂလိပ် အဘိဓာန်တွေကို ကြည့်ပါ။ စကားလုံး တစ်ခုရဲ့ အရင်းအမြစ်ဟာ ပြင်သစ် လက်တင်လား အင်္ဂလိုဆက်ဇွန်လားလို့ စစ်ဆေးရင် ပြင်သစ် လက်တင်က များတယ်ဆိုတာ တွေ့မယ်။ နော်မန် (Normen) ရောက်ပြီး သုံးရာစုနှစ်၊ လေးရာစု နှစ် ကြာတဲ့အခါ အင်္ဂလိပ်သဒ္ဒါ (English Grammar) ဟာ သိသိသာသာ ပြောင်းလဲလာတယ်။ နားလည်ဖို့၊ သုံးစွဲဖို့ ပိုပြီး လွယ်ကူလာတယ်။ နော်မန်သာ ရောက်မလာရင် ကနေ့ အင်္ဂလိပ်စကားဟာ မြေနိမ့်ဂျာမန် (Low German) နဲ့ ဒတ်ချ် (Dutch) နဲ့ ကွာတယ်ဆိုရုံလောက်ပဲ ကွာမယ်။ တူတာ များမယ်။

လူတစ်ဦးရဲ့ ဘဝလမ်းကြောင်းကိုမှီပြီး ဘာသာ စကားတစ်ခု ထွန်းတာကို လွယ်လွယ် ထောက်ပြနိုင်တာ ဒီတစ်ခုပဲ ရှိတယ်။ (ဒီလိုလူတစ်မျိုးဟာ တခြားအမျိုးနဲ့ ဆက်ဆံတဲ့အခါ အပြင်က ဓလေ့ရောက်လာတာကို အကြောင်းပြုပြီး ဥပမာမြန်မာတွေ ဗုဒ္ဓဘာသာဝင်ဖြစ်လို့ ပါဠိသက္ကတ စကားတွေ၊ ဗုဒ္ဓဝါဒ အတွေးအခေါ်တွေ အပြုံလိုက် ဝင်လာတာမျိုး၊ အင်္ဂလိပ်နဲ့ တွေ့တဲ့အခါ သိပ္ပံပညာ၊ စက်မှုပညာတွေ အပြုံလိုက်ဝင်လာပြီး ဝေါဟာရ အသစ်တွေ တိုးတာမျိုးရှိတယ်။ ဒါပေမယ့် လူပုဂ္ဂိုလ် တစ်ဦးတည်း ကြောင့်လို့ မပြောနိုင်ပါ။) ပြီးတော့ အင်္ဂလိပ်စကားက အခုကမ္ဘာမှာ လွှမ်းမိုး နေတာကိုလည်း ထည့်တွက်ပါ။

နော်မန်တွေ အင်္ဂလန်ကို အောင်နိုင်ရလို့ ပြင်သစ်မှာ ဘယ်လို အကျိုးအပြစ် သက်ရောက်လာသလဲ ဆိုတာလည်း ကြည့်ပါ။ ဒီအောင်နိုင်ပွဲ နောက်အနှစ် လေးရာနီးပါးမှာ အင်္ဂလိပ်ဘုရင်တွေက အစဉ်အဆက်အမွေ အဖြစ်နဲ့ ပြင်သစ်မှာ နယ်ကြီးတွေကို ပိုင်တယ်။ ဒါကို ပြင်သစ်မင်း တွေက သိမ်းချင်တယ်။ အဲဒါနဲ့ ပြင်သစ်၊ အင်္ဂလိပ်စစ်ပွဲတွေ မကြာခဏ တိုက်ခိုက်ကြရတယ်။ လွယ်လွယ်ပြောတော့ ၁၀၆၆ မတိုင်မီက ပြင်သစ်နဲ့ အင်္ဂလိပ်စစ်ရယ်လို့ မဖြစ်ဘူးပါ။ အင်္ဂလန်ဟာ ဥရောပတိုက်ပေါ်က တခြားနိုင်ငံတွေနဲ့ သိသိသာသာ ကွဲလွဲချက်တွေ အများကြီး ရှိပါတယ်။ အင်္ဂလိပ်က လက်နက်နိုင်ငံ အကြီးကြီး ဖြစ်လာတယ်။ နောက် အင်္ဂလိပ်ဒီမိုကရေစီ အဖွဲ့အစည်းတွေ ဖြစ်ထွန်းလာပြီး ကမ္ဘာအရပ်ရပ်မှာ စံအဖြစ် လေ့လာ အတုယူ စရာအဖြစ်နဲ့ ကြီးကြီးကျယ်ကျယ် အရာရောက်လာပါတယ်။ မူလနိုင်ငံက အရွယ်ပမာဏ မဖြစ်စလောက်ဆိုပေမယ့် ကမ္ဘာကို လွှမ်းတဲ့ သဘောထိ ကျယ်ပြန့်တယ်။ အဲဒါတွေ ဝီလီယမ်က ဘယ်လောက်အထိ ဆက်နွယ်ဆင်းသက်သလဲ ဆိုတာကို စစ်ဆေးပါ။

အခုခေတ် ဒီမိုကရေစီဟာ ဘာကြောင့် ဂျာမနီ လိုနေရာမျိုးမှာ အရင်းမခံဘဲ အင်္ဂလန်မှာ အရင်းခံ ရသလဲဆိုတာကို သမိုင်းဆရာတွေ အပြတ်မပြောနိုင်ဘဲ ဖြစ်နေပါတယ်။ တစ်ဖက်ကကြည့်ရင် အင်္ဂလိပ် ဓလေ့ဟာ အင်္ဂလိုဆက်ဇွန်နဲ့ နော်မန် ပေါင်းစပ်ရောနှောချက်ဆိုရင် ဟုတ်တယ်။ ဒီလိုပေါင်းစုဖြစ်သွားတာက ဝီလီယမ်ကြောင့် ဖြစ်တယ်။ ဒီလိုဆိုရပေမယ့် သက်ဦးဆံပိုင်ဘုရင် ဝီလီယမ်ဆီက နောက်ပိုင်း ဖြစ်ထွန်းတဲ့ အင်္ဂလိပ်ဒီမိုကရေစီ ဆင်းသက်တယ်လို့ ပြောဖို့ ခက်နေပြန်တယ်။ ရှင်းရှင်း ပြောတော့ နော်မန်အောင်နိုင်ချိန်က အင်္ဂလန်မှာ ဒီမိုကရေစီ ဆိုတာ ဘယ်နေမှန်းတောင် မသိဘူးလို့ ပြောရင်ရတယ်။

ဗြိတိသျှအင်ပါယာ ပေါ်လာပုံကို ဝီလီယမ်နဲ့ ဆက်နွယ် တယ်လို့ ဆိုတာကို ထင်ရှားအောင် သာဓကပြဖို့ ပိုပြီးလွယ်ပါတယ်။ ၁ဝ၆၆ မတိုင်မီ အင်္ဂလန်ကို သူတစ်ပါးက သာလာပြီး လုယက်ဖျက်ဆီးတာကို ခံရတယ်။ ၁ဝ၆၆ ကျော်တော့ အင်္ဂလန်ကသာ သူတစ်ပါးနိုင်ငံကို ဝင်ရောက် နိုင်တာတွေ့ရလို့ စောစောကအဖြစ်အပျက်တွေရဲ့ ပြောင်းပြန်လို့ ပြောရပါမယ်။ အဲဒါ ဗဟိုအုပ်ချုပ်ရေးခိုင်လို့ ဖြစ်တယ်။ အုပ်ချုပ်ရေး ခိုင်အောင် ဝီလီယမ် အများကြီး စီမံခဲ့လို့ ဖြစ်ပါတယ်။ အင်္ဂလန်က နောက်ထပ်ဘယ်သူမှ မကျူးကျော် မဖျက်ဆီးနိုင်တဲ့ အချက်လည်းပါပါတယ်။ ဒီနေရာမှာ ပြောင်းပြန်ပြောရတော့မယ်။ အင်္ဂလန်ကသာ ရေကြောင်း အင်အားနဲ့ ပင်လယ်ရပ်ခြားဒေသ အမြောက်အမြားကို စစ်ဖြန့်ပြီး တိုက်ခိုက် နိုင်တယ်။ ဥရောပနိုင်ငံတွေ နယ်ချဲ့ကြတဲ့အခါ တခြား ဥရောပ နိုင်ငံတွေက အင်္ဂလန်ကို မီအောင် မလုပ်နိုင်ကြပါ။ အောင်နိုင်သူ ဝီလီယမ် (William the Conqueror) ကို အင်္ဂလိပ် သမိုင်းထကဲ ဖြစ်ပေါ်သမျှ တိုးတက်မှုတွေ အားလုံးကို အမွေပေးသူဖြစ်တယ်လို့ ပြောဖို့မဖြစ်နိုင်ပေမယ့် သွယ်ဝိုက်တဲ့နည်းနဲ့ သူ့ကျေးဇူးရှိပေတယ်လို့ ပြောနိုင်ပါတယ်။ ရေရှည်အကျိုး ခံစားရမယ့်အလုပ်ကို သူကစပြီး မြေတောင်မြှောက်ခဲ့ခြင်း ဖြစ်ပါတယ်။

1, August, 2001.

## (၆၉) ဆစ်ဂမန် ဖရိုဒ် (၁၈၅၆ – ၁၉၃၉)

## SIGMUND FREUD (1856 – 1939)

စိတ်စိစစ်မှုပညာကို စတင်ဖော်ထုတ်လေ့လာသူ ဆစ်ဂမန်ဖရိုဒ်ကို ယခင် သြစတြီးယားအင်ပါယာ အခု ချက်ကိုစလိုဗက်ကီးယားပြည် ဖရိုင်ဗာ့ဘ် (Freiberg) မှာ ၁၈၅၆ က မွေးဖွားခဲ့ပါတယ်။ လေးနှစ်သား အရွယ်မှာ မိသားစုတစ်ခုလုံး ဗီယဲန်နာကို ပြောင်းတာနဲ့ သူလည်း အဲဒီမြို့ကြီးမှာ ရှာသက်ပန်နေ ဖြစ်သွားပါတယ်။ ကျောင်းမှာ စာထူးချွန်သူဖြစ်ပြီး ဗီယဲန်နာတက္ကသိုလ်က ဆေးပညာ ဘွဲ့ကို ၁၈၈၁ မှာ ရယူခဲ့ပါတယ်။ အဲဒီနောက် ဆယ်နှစ် အတွင်း ဇီဝကမ္မဗေဒမှာ သုတေသနလုပ်ရင်း စိတ္တဇရောဂါ ကုဆေးခန်းမှာ အလုပ်ဝင်လုပ်တယ်။ နဗ်ကြောပညာ (neurology) နဲ့ လူနာလက်ခံပြီး ဆေးကုတယ်။ ပြင်သစ်က နဗ်ကြောပညာမှာ ကျော်ကြားသူ ဇန်ချာကို (Jean Charcot) နဲ့ ပါရီမှာတွဲဖက်ပြီး ဆေးကုသဖူးသလို ဗီယဲန်နာက သမားတော် ဂျိုးဆက် ဗရောဝါး (Josef Breuer) နဲ့လည်း တွဲဖက် ကုသဖူးပါတယ်။ ဒီလိုနဲ့ ဖရိုဒ်ရဲ့စိတ်ပညာဆိုင်ရာ အတွေးတွေဟာ တဖြည်းဖြည်း ရင့်သန်လာပါတယ်။ ဒါပေမဲ့ ၁၈၉၅ အရောက်မှာ အာရုံကြော ဖောက်ပြန်တတ်ခြင်း လေ့လာရေး (Studies in Hysteria) ဆိုတဲ့ သူ့ပထမကျမ်းကို သူနဲ့ ဗရောဝါး နှစ်ယောက်ပေါင်းစပ် ရေးသား ထုတ်ဝေ လိုက်ပါတယ်။ သူ့ဒုတိယစာအုပ် အိပ်မက် (Interpretation of Dreams) က ၁၉၀၀ ပြည့်မှာ ပေါ်ထွက်လာပါတယ်။ ဒီကျမ်းဟာ ဘယ်သူနဲ့မှမပေါင်းစပ်ဘဲ သူတစ်ဦးတည်း ပြုစုတဲ့ကျမ်းဖြစ်တဲ့အပြင် အင်မတန် အရေးပါ အရာရောက်တဲ့ ကျမ်း ဖြစ်ပါတယ်။ ပထမတော့ ဒီကျမ်း အရောင်းထိုင်းတယ်။ ဒါပေမယ့် သူ့ဂုဏ်သတင်းကို အများကြီး မြှင့်တင်ပေးတဲ့ကျမ်း ဖြစ်ပါတယ်။ နောက် အလားတူ အရေးပါတဲ့ကျမ်းတွေ ဆက်ခါဆက်ခါ ရေးလာပါတယ်။ ၁၉၀၈ မှာ အမေရိကန်ပြည်ထောင်စု မှာသွားပြီး ဟောပြောပွဲစဥ်ကို ပို့ချတဲ့အတွက် ဖရိုဒ်ဟာ ထင်ရှားကျော်ကြားလာပါတယ်။ ၁၉၀၂ မှာ စိတ်ပညာဆွေးနွေးပွဲကို ဗီယဲန်နာမှာ လုပ်တဲ့အခါ ရှေ့ပိုင်းက အယ်လဖရက်အက်ဒလာ (Alfred Adler) နဲ့ နောင်အခါ ကားလ်ဂျုံး (Carl Jung) တို့ ပါဝင် ဆွေးနွေး လေ့ရှိတယ်။ ဒီပုဂ္ဂိုလ်နှစ်ဦးစလုံးဟာ သီးခြားစိတ်ပညာ ဆရာကျော်တွေ ဖြစ်လာပါတယ်။ ဖရိုဒ် အိမ်ထောင်ပြုတယ်။ ကလေးခြောက်ယောက်ရတယ်။ နောက်ပိုင်းမှာ မေးရိုးကင်ဆာ ဖြစ်လို့ ၁၉၂၃ ကစပြီး အကြိမ် သုံးဆယ်ကျော် ခွဲစိပ်ကုသရတယ်။ ဒီရောဂါကြီးကြီး ရှိပေမယ့် အလုပ်ဆက်လုပ်တယ်။ အရေးပါတဲ့ ကျမ်းတချို့ကို

ဒီအခါမှာ ရေးခဲ့တယ်။ ၁၉၃၈ နာဇီတွေ ဩစတြီးယားကို ဝင်လာတော့ ဖရိုဒ်ဟာ ၈၂ နှစ် ရှိနေပါပြီ။ သူက ဂျူးလူမျိုးက ဆင်းသက်လာသူဖြစ်လို့ လန်ဒန်မှာ လာပြီး ခိုလှုံနေရပါတယ်။ နောက်တစ်နှစ်အရောက် လန်ဒန်မှာပဲ ကွယ်လွန်သွားပါတယ်။

ဖရိုဒ်ရဲ့ စိတ်ပညာဆိုင်ရာ ရေးသားချက်တွေဟာ ကျယ်ပြန့် လွန်းတဲ့အတွက် အကျဉ်းချုပ်ပြီး ပြောပြဖို့ မဖြစ်နိုင်ပါ။ လူတွေရဲ့အပြုအမူဟာ သူတို့စိတ်မှာ ထင်ထင်ရှားရှား မပေါ်လာပေမယ့် အစဉ်တစိုက် ရှိနေတဲ့အာရုံက အများကြီး လွှမ်းမိုးနေတယ်လို့ သူက အလေးအနက် ပြောလေ့ရှိပါတယ်။ အဲဒီစိတ်အစဉ်ဟာ အိပ်မက်ကို ဘယ်လိုဖြစ်စေတယ် ဆိုတာကိုလည်း ရှင်းပြတယ်။ အမှတ်မထင် ဖြစ်လေ့ဖြစ်ထရှိတဲ့ လွှတ်ခနဲ ပါးစပ်က မရည်ရွယ်ဘဲ ပြောမိတဲ့စကား၊ နာမည်မေ့တာ၊ ကိုယ့်ဘာသာ ဒဏ်ရာရအောင်လုပ်မိတာ၊ ရောဂါရအောင် လုပ်မိတာတွေကိုလည်း ထည့်သွင်း ပြောပြလေ့ရှိတယ်။

ဖရိုဒ်က စိတ်စိစစ်မှုပညာနည်း (Psycho Analysis) ကို စတင် ဖော်ထုတ်ပြီးတော့ ဒီနည်းနဲ့ စိတ်ရောဂါကို ကုသ ပေးတယ်။ လူတစ်ဦးစီရဲ့ ကိုယ်ရည်ကိုယ်သွေး ဖြစ်ထွန်းလာပုံကို ကိန်းသေနည်းနဲ့ တွက်ယူလို့ ရအောင် စီစဉ်ပေးတယ်။ နည်းနည်း ထပ်ဖြည့်ပြောရရင် သူက စိုးရိမ်စိတ်၊ ကာကွယ်ဖို့ ကိုယ်ခံနည်း ပေါ်ပေါက်ပုံ၊ သင်းကွပ် စိတ်ထားဖွဲ့စည်းမှု (Castration Complex)၊ တိမ်မြုပ်မှု၊ မွန်မြတ်စေခြင်း (Sublimation) ဆိုတဲ့ စိတ်ပညာ သီအိုရီတွေကို ထင်ရှားအောင်ဖော်ထုတ်တယ်။ လူတကာ နားလည်အောင် လုပ်ပေးတယ်။ သူ့စိတ်ကူးတွေဟာ အင်မတန် အပြန်အလှန် ငြင်းလို့ကောင်းတယ်။ သူကစပြီး ဖော်ထုတ် လိုက်ရင် ဝိုင်းငြင်းကြခုံကြ ရပ်မရအောင် ဖြစ်တတ်ပါတယ်။

ဖရိုဒ်က တိမ်မြုပ်တဲ့ ကာမဂုဏ်ဆန္ဒကို နျူရိုစစ် စတဲ့ စိတ်ရောဂ ါဖြစ်စေတဲ့ အကြောင်းရင်းထဲမှာ ပါတယ်လို့ ပြောပါတယ်။ (တကယ်တော့ ဖရိုဒ်က ဒီစိတ်ကူးကို စတင်သူ မဟုတ်ပါ။ သူက ဒီအကြောင်းကို ရေးတဲ့အခါမှ သိပ္ပံနည်းကျ ဆွေးနွေးပြောဆိုခြင်း စတယ်လို့ ဆိုရပါတယ်။) သူက လိင်စိတ်ဟာ အရွယ်ရောက်မှ ပေါ်လာတယ် ဆိုတာ မဟုတ်ဘူး။ ကလေးဘဝ ငယ်ငယ်ကပဲ ပေါ်ပေါက်ပါတယ်လို့ ထောက်ပြ လေ့ရှိပါတယ်။

ဖရိုဒ်ရဲ့အတွေးတွေဟာ ခုထိငြင်းကြတုန်းပဲဖြစ်လို့ သူ့ကို သမိုင်းမှာ ဘယ်အဆင့်မှာထားပြီး ချီးကျူး ဂုဏ်ပြုရမယ် လို့ လွယ်လွယ်နဲ့ ဝေခွဲမရနိုင်ပါ။ သူက လမ်းစဖော်သူ၊ မီးထိန်ထိန်ညီးညီး လင်းသွား အောင် ထွန်းညှိသူ၊ အတွေးသစ်ကို စတဲ့နေရာမှာ တကယ် ပါရမီထူးသူ ဖြစ်ပါတယ်။ ဒါပေမယ့် ဖရိုဒ်ရဲ့ သီအိုရီတွေက (ဒါဝင်တို့ ပါစတာတို့လို) သိပ္ပံအုပ်စုက တခဲနက် ထောက်ခံအားပေးတာကို တစ်ခါမှ မခံရဘူးပါ။ သူ့စိတ်ကူးထဲက ဘယ်အစိတ်အပိုင်းဟာ နောင်အခါ မှန်လိုက်တာလို့ အပြောခံရမယ်လို့လည်း ခန့်မှန်း မရပါ။ သူ့စိတ်ကူးကို ဆက်ပြီး ငြင်းခုံကြ ဆဲဆိုပေမယ့် လူ့တွေးခေါ်ရေးမှာ ဖရိုဒ်ဟာ မားမားမတ်မတ် ရပ်တည်နေသူ ဖြစ်တယ်ဆိုတာတော့ ငြင်းလို့မရပါ။ စိတ်ပညာမှာ သူ့အတွေးတွေက

လူ့စိတ်နဲ့ပတ်သက်တဲ့ အယူအဆတွေကို ကပြောင်းကပြန် လုပ်ပစ်တယ်လို့ ဆိုလောက်တယ်။ သူ့စိတ်ကူးနဲ့ သူထွင်တဲ့ ဝေါဟာရ တွေဟာ ဥပမာ အစ် (id)၊ အတ္တ (ego)၊ အတ္တလွန် (superego)၊ အက်ဒီပတ် စိတ်ထားဖွဲ့စည်းမှုနဲ့ အသေဖြောင့် (death wish) တွေဟာ လူသုံးများပြီး ထင်ရှားလာပါတယ်။

စိတ်စိစစ်ခြင်းဆိုတဲ့နည်းနဲ့ ဆေးကုတာဟာ သိပ်ပိုက်ဆံ ကုန်တယ်။ ပြီးတော့ မအောင်မြင်တာလည်း များတယ်။ တစ်ဖက်ကလည်း အံ့သြလောက်အောင် ဖြစ်ထွန်းတဲ့ ကုထုံးလို့လည်း နာမည်ရတယ်။ ဆက်လက်ပြီး စိတ်ကို စိစစ်နိုင်ကြရင် တိမ်မြှုပ်တဲ့ တဏှာရာဂစိတ်ဟာ လူ့အပြုအမူမှာ သိပ်အရေးပါတယ်လို့ ဖရိုဒ်နဲ့ သူ့တပည့်တွေ ထင်သလို မဟုတ်ဘူးဆိုတာ ထင်ရှားလာမှာဖြစ်ပါတယ်။ ဒါပေမဲ့ ဖရိုဒ် မပေါ်မီက စိတ်ပညာဆရာတွေ ယူဆတာ ထက်တော့ ပိုပြီးအရေးပါတဲ့ အချက်တစ်ခု ဖြစ်ပါတယ်။ အခု စိတ်ပညာရှင်တွေက မသိစိတ်က လူ့အမူအရာကို အများကြီး လွှမ်းမိုးချုပ်ကိုင်နိုင်တယ်ဆိုတာကတော့ သေချာပါတယ်။

ဖရိုဒ်ဟာ ပထမဆုံးပေးတဲ့ စိတ်ပညာရှင် မဟုတ်သလို ရေရှည်မှာလည်း သူ့အတွေးတွေဟာ နီးနီးစပ်စပ် မှန်ကန်ဖို့ များတယ်လို့ ယူဆဖို့ခက်ပါမယ်။ ဒါပေမဲ့ ခေတ်စိတ်ပညာသီအိုရီဆိုရင် သူဟာ အထင်ရှားဆုံး ဖြစ်လို့ ခေတ်သစ်မှာ စိတ်ပညာဆိုင်ရာသီအိုရီကို ရှေ့ဆောင်သူ ဖြစ်တယ်။ သူ့ကို ဒါကြောင့် ဒီကျမ်းမှာ တစ်နေရာပေးရတာ ဖြစ်ပါတယ်။

6, August, 2001.

# (၇၀) အက်ဒဝဒ် ဂျဲန်နာ (၁၇၄၉ – ၁၈၂၃)

# EDWARD JENNER (1749 – 1823)

လူတိုင်း အင်မတန်ကြောက်တဲ့ ကျောက်ကြီး ရောဂါကို ဆေးထိုးပြီး ကာကွယ်လို့ရအောင် ကြံဆောင်တဲ့ အပြင် ဒီနည်းကို လူတိုင်းနားလည်အောင် ပြသ သင်ကြားပေးတဲ့ပုဂ္ဂိုလ်က အင်္ဂလိပ်လူမျိုး သမားတော်ကြီး အက်ဒဝဒ်ဂျဲန်နာ ဖြစ်ပါတယ်။ အခုအခါ ဂျဲန်နာရဲ့ကျေးဇူးကြောင့် ကမ္ဘာမှာ ကျောက်ရောဂါ ကွယ်ပျောက် သွားပြီးဖြစ်လို့ အရင်ရာစုနှစ်တွေတုန်းက ဒီရောဂါကို ဘယ်လောက် ကြောက်ရွံ့ခဲ့ရသလဲဆိုတာကို မေ့ကုန်ကြပါပြီ။ ကျောက်ရောဂါက သိပ်ကူးစက်လွယ်တဲ့ ရောဂါဖြစ်လို့ ဥရောပတိုက်သား အတော်များများဟာ သူတို့တစ်သက်မှာ တစ်ချိန်ချိန်က ဒီရောဂါ ဝင်လာတာကို တွေ့ခဲ့ရပြီး ဖြစ်ပါတယ်။ ရောဂါကလည်း ပြင်းထန်တယ် ဆိုတော့ ကျောက်ရောဂါသည် အနည်းဆုံး ၁၀ က ၂၀ ရာနှုန်းထိ သေဆုံးကြရပါတယ်။ မသေလို့ ရှင်ကျန်တယ် ဆိုရင်လည်း ၁၀ က ၁၅ ရာနှုန်းထိ ကျောက်ပေါက်မာတွေနဲ့ အမြဲရုပ်ပျက်ဆင်းပျက် ဖြစ်ရပါတယ်။ ကျောက်ရောဂါဟာ ဥရောပတိုက်မှာသာ ခံစားကြရတာမဟုတ်၊ မြောက်အမေရိက၊ အိန္ဒိယ၊ တရုတ်ဆိုသလို ကမ္ဘာနှံ့အောင် ပြန့်ပွားခဲ့ပါတယ်။ နေရာတကာမှာ ကလေးတွေဆို ပိုပြီး ဒီရောဂါကူးစက်လွယ်တယ်။ ကျောက်ရောဂါကို တကယ် နှိမ်နင်းနိုင်တဲ့ဆေးကို နှစ်ပေါင်းများစွာ ကြိုးစား ရှာဖွေ ကြပါတယ်။

လူတစ်ယောက်ဟာ ကျောက်ရောဂါ ရပြီး မသေရင် သူ့ကို ဒီရောဂါ နောက်တစ်ကြိမ်ထပ်ပြီး မနှိပ်စက် တော့ဘူးလို့ သိတာတော့ ကြာပါပြီ။ အရှေ့တိုင်းမှာ ဒါကိုသိလို့ ကျောက်ရောဂါ ရပေမယ့် ဝေဒနာကို ပေါ့ပေါ့ပဲ ခံရတဲ့လူဆီက ဒီရောဂါကိုယူပြီး လူကောင်းမှာ ကူးစက်အောင် လုပ်ပေးလိုက်ပါတယ်။ ရောဂါ အကျခံရတဲ့သူမှာ ကျောက်နာ အသင့်အတင့်ပဲ ခံရပြီး ပျောက်ကွယ်မယ်။ ပြီးတော့ သူ့မှာ ဒီရောဂါကို ဒီတစ်သက်မှာ ထပ်မရနိုင်တော့ဘူးလို့ မျှော်လင့်တယ်။ အခုပြောတဲ့နည်းကို တစ်ဆယ့်ရှစ်ရာစုနှစ်ဦးက အင်္ဂလန်ကို အမျိုးသမီးလေဒီ မေရီဝေါ့လီမွန်တေဂူ (Lady Mary Wortley Montagu) က ယူလာပြီးဖြစ်လို့ ဂျဲန်နာ မမွေးခင်ကပဲ အပြန်အလှန် သိရှိပြီးဖြစ်နေပါတယ်။

ဂျဲန်နာကိုပဲ အသက်ရှစ်နှစ်အရွယ်မှာ ကျောက် ဆေးထိုးပေးခဲ့ပါတယ်။

အင်မတန်ကောင်းလှပြီလို့ ချီးမွမ်းနေကြတဲ့ ကျောက်ဆေး ကူးစက်ပေးနည်းမှာ ချွတ်ယွင်းချက် တစ်ခုက လူအတော်များများမှာ ရောဂါ ပေါ့ပေါ့တန်တန် မဖြစ်ဘဲ အသည်းအသန်ဖြစ်လို့ ကျောက်ပေါက်မာကြီးတွေနဲ့ ရုပ်ပျက်ဆင်းပျက် ဖြစ်ရပါတယ်။ အမှန်ကိုပြောရရင် နှစ်ရာနှုန်းလောက် အသေအပျောက် ရှိတယ်။ ပိုပြီးစိတ်ချရတဲ့နည်းကို မရရအောင် ရှာသင့်ပါပြီ။

အင်္ဂလန်၊ ဂလောက်စတာရှိုင်းယား၊ ဘာကလေ (Berlcaley) မြို့ကလေးမှာ ဂျဲန်နာကို ၁၇၄၉ က မွေးဖွား ပါတယ်။ အသက်တစ်ဆယ့်နှစ်နှစ်သားကစပြီး ခွဲစိတ်ကု ဆရာဝန်ဆီမှာ အစေအပါး ခံခဲ့ပါတယ်။ နောက် ခန္ဓာဗေဒပညာကို သင်ယူရင်း ဆေးရုံတစ်ရုံမှာ အမှုထမ်းခဲ့တယ်။ စိန့်အင်ဒရူးတက္ကသိုလ်က ဆေးဘွဲ့ကို ၁၇၉၂ မှာ ရတယ်။ အသက် ၄၅ လောက်ရောက်တဲ့အခါ ဂလောက်စတာရှိုင်းယားမှာ နာမည်ရ ခွဲစိတ်ဆရာဝန်နဲ့ သမားတော်ဖြစ်လာပါတယ်။ နို့ညှစ်မယ်နဲ့ တောင်သူတွေ အားလုံးသိတဲ့အချက်က နွားကျောက်က လူကို ကူးနိုင်တယ်။ အဲဒီလိုရောဂါ ရဖူးသူကို ကျောက်ကြီးရောဂါ မဝင်နိုင်တဲ့အချက် ဖြစ်ပါတယ်။ ဒါကို ဂျဲန်နာလည်း သိတယ်။ (နွားကျောက်က ရောဂါဆိုး မဟုတ်ပါ။ လူကိုကူးရင် ကျောက်ကြီးရောဂါဆင်ဆင် ဝေဒနာ ခံစားရပေမယ့် အင်မတန် ပျော့ပါတယ်။) ဂျဲန်နာက လူကို နွားကျောက်သွင်း ပေးနိုင်ရင် ကျောက်ရောဂါ ကာကွယ်တဲ့ နည်းကောင်း ဖြစ်မယ်လို့ စဥ်းစားမိတယ်။ ဒီကိစ္စကို အသေအချာ နားလည်အောင် လေ့လာတယ်။ ၁၇၉၆ ရောက်တဲ့အခါ တောင်သူတွေ စကားမှန်တယ်။ အဲဒါကို တိုက်ရိုက် စမ်းသပ်ကြည့်မယ်လို့ ဆုံးဖြတ်ပါတယ်။ ဂျဲန်နာဟာ မေ ၁၇၉၆ မှာ နွားကျောက်ပေါက်တဲ့ နို့ညှစ်မယ် တစ်ဦးရဲ့ လက်မောင်းက နွားကျောက် ပြည်ဖုကို ယူပြီး အသက်ရှစ်နှစ် အရွယ်သူငယ် ဂျိမ်းစ်ဖစ် (James Phipps) ကို ထိုးပေးလိုက်ပါတယ်။ ထင်တဲ့အတိုင်း ဖစ်မှာ အကောင်းကလေးမှာ နွားကျောက်ပေါက်တယ်။ ခဏကလေးနဲ့ ရောဂါသက်သာပြီး လူကောင်းပြန် ဖြစ်တယ်။ သီတင်းပတ် တော်တော်ကြာတော့ ဖစ်ကို ကျောက်ကြီး ရောဂါသွင်းတယ်။ ထင်တဲ့အတိုင်း ဘာမှမဖြစ်ပါ။ ဆက်လက် စမ်းသပ်ရှာဖွေပြီးမှ ကျောက်ကြီးရောဂါ ကာကွယ်ဆေး ပေါ်ပေါက်လာပုံနဲ့ အကျိုးကျေးဇူး လေ့လာချက် (An Inquiry into the Causes and Effects Of the Variolae Vaccinal) စာအုပ်ငယ်ကို သူကိုယ်တိုင် စရိတ်အကုန်အကျခံပြီး ၁၇၉၈ မှာ ပုံနှိပ်ဖြန့်ဝေခဲ့တယ်။ ကျောက်ရောဂါ ကာကွယ်ဆေး ထိုးတဲ့ဓလေ့ အလျင်အမြန် ပျံ့နှံ့သွားတာဟာ ဒီစာအုပ်ကြောင့်ဖြစ်ပါတယ်။ ဂျဲန်နာက နောက်ထပ် ကျောက်ရောဂါကို ကာကွယ်ဆေးထိုးခြင်း ဆိုင်ရာ စာတမ်းငါးစောင် ရေးတယ်။ နောက်နှစ်ပေါင်း အများကြီး သူ ကျောက်ရောဂါ ကာကွယ်နည်းကို ကောင်းသည်ထက် ကောင်းအောင် လုပ်တယ်။ လူအများလိုက်နာသုံးစွဲအောင်လည်း ကြိုးစား ဆောင်ရွက် တယ်။ အင်္ဂလန်မှာ ကျောက်ကြီးရောဂါ ကာကွယ်ဆေးကို ထိုးပေးတဲ့ ဓလေ့ဟာ လျင်လျင်မြန်မြန် ပျံ့နှံ့သွားပါတယ်။ မကြာခင်မှာ ဗြိတိသျှကြည်းတပ်၊ ရေတပ်မှာ တပ်သားတိုင်း၊ သင်္ဘောသားတိုင်း ကျောက်ဆေး မထိုးမနေရ ထိုးရမယ် လို့ သတ်မှတ်လိုက်ပါတယ်။ အဲဒီကစပြီး တစ်ကမ္ဘာလုံး

ဒီခလေ့ပျံ့နှံ့သွားပါတယ်။ ဂျဲန်နာက သူ့နည်းကို အလကား ပေးတယ်။ ဒီအပေါ်က ငွေကြေး အမြတ်အစွန်း မယူပါ။ ဒါပေမယ့် ၁၈၀၂ မှာ ဗြိတိသျှ ပါလီမန်က ကျေးဇူးဆပ်တဲ့အနေနဲ့ ပေါင်တစ်သောင်း ဆုပေးပါတယ်။ နောက်နှစ် နည်းနည်းကြာတော့ ပါလီမန်က ပေါင်နှစ်သောင်း ဆုထပ်ပြီး ပေးပြန်တယ်။ သူလည်း ကမ္ဘာကျော်ပုဂ္ဂိုလ် ဖြစ်လာပါတယ်။ ဂုဏ်ပြုလွှာ၊ တံဆိပ်တွေ ဝိုင်းပေးကြတယ်။ ဂျဲန်နာမှာ အိမ်ထောင် ရှိတယ်။ သားသမီးသုံးယောက် ထွန်းကားတယ်။ အသက် ခုနစ်ဆယ့်သုံးနှစ် နေသွားတယ်။ ၁၈၂၃ နှစ်ဦး ဘာကလေးနေအိမ်မှာပဲ ကွယ်လွန် သွားပါတယ်။

အထက်ကပြောခဲ့တဲ့အတိုင်း နွားကျောက် ပေါက်ပြီးတဲ့လူမှာ ကျောက်ကြီး မပေါက်နိုင်ဆိုတဲ့အသိကို စပြီးသိတာ မဟုတ်ပါ။ သူများတွေဆီက တစ်ဆင့် သူသိရတာ ဖြစ်ပါတယ်။ ဂျဲန်နာ မမွေးခင်ကပဲ ကျောက်ဆေးကို စမ်းပြီး ထိုးပေးနေတဲ့ လူတွေရှိခဲ့ပါတယ်။ ဂျဲန်နာဟာ အရင်းခံ သိပ္ပံပညာရှင်မဟုတ်ပေမယ့် သူ့လောက် လူသားကို ကျေးဇူးပြုနိုင်သူ နည်းနည်း ပဲရှိမယ်။ သူ့စူးစမ်းချက်၊ သူ့စမ်းသပ်ချက်၊ သူ့စာတွေက လူပြိန်းသိ အကြောင်းအရာကို ဆေးပညာနဲ့ အသက်မွေးသူတွေက ပေါ့ပေါ့တန်တန် သဘောထားခဲ့ကြတာကို သူက အလေးအနက် ထားပြီး စဉ်းစားလေ့လာခဲ့တဲ့အတွက် သန်းပေါင်း မရေမတွက်နိုင်အောင် များပြားတဲ့ လူတွေရဲ့ အသက်ကို ကယ်တင်နိုင်ခဲ့တယ်။ ဂျဲန်နာရဲ့ နည်းပညာဟာ ရောဂါတစ်ခုမျှသာ ကာကွယ် နိုင်တယ်လို့ ပြောပေမယ့် အဲဒီရောဂါဟာ သိပ်ကြောက်စရာ ကောင်းအောင် ကြီးကျယ်တဲ့ရောဂါဖြစ်တဲ့ အတွက် သူ့ကို အများကြီး ဂုဏ်ပြုထိုက်တယ်။ သူနဲ့ရွယ်တူတွေနဲ့ သူ့နောက် လူတွေကပါ သူ့ကို ဂုဏ်ပြုကြပါတယ်။

8, August, 2001.

# (၇၁) ဝေလ်ဟဲမ် ကွန်ရတ် ရောင့်တ်ဂျဲန် (၁၈၄၅ – ၁၉၂၃)

# WILHELM CONRAD RONTGEN (1845 – 1923)

ဓာတ်မှန်အသုံးကို စတင်တွေ့ရှိတဲ့ ဝေလ်ဟမ် ကွန်ရတ် ရောင့်တ်ဂျဲန်ကို ၁၈၄၅ က ဂျာမနီ လဲန်နက်ပ် (Lennep) မြို့မှာ မွေးပါတယ်။ ဇူးရစ်တက္ကသိုလ်က ပါရဂူဘွဲ့ကို ၁၈၆၉ က ရခဲ့ပါတယ်။ အဲဒီနောက် တစ်ဆယ့် ကိုးနှစ်အတွင်း ရောင့်တ်ဂျဲန်ဟာ တက္ကသိုလ် အမျိုးမျိုးမှာ အလုပ်လုပ်ရင်း အင်မတန်ထူးချွန်တဲ့ သိပ္ပံပညာရှင်ရယ်လို့ နာမည်ထွက်ခဲ့ပါတယ်။ ၁၈၈၈ မှာ ရူပဗေဒ ပါမောက္ခအဖြစ် ခန့်အပ်ခြင်းခံရပြီး ဝါဇ်ဗာ့ဘ် တက္ကသိုလ်ရဲ့ ရူပဗေဒဌာနကြီးမှာ ညွှန်မှူး ဖြစ်လာတယ်။ အဲဒီမှာအလုပ်လုပ်ရင်း ၁၈၉၅ က ရှာဖွေတွေ့ရှိချက် ကို အကြောင်းပြုပြီး နာမည် ကျော်ကြားသွားပါတယ်။

ရောင့်တ်ဂျဲန်က ၈ နိုင်ဝင်ဘာ ၁၈၉၅ မှာ ကတ်သုတ်ရောင်ခြည် (Cathode rays) ဆိုင်ရာ စမ်းသပ်မှု တစ်ခုလုပ်တယ်။ ကတ်သုတ်ရောင်ခြည်မှာ အီလက်ထရွန် (electron) ဓာတ်စီးကြောင်းရှိတယ်။ လေလုံပိတ်ထားတဲ့ ဖန်ပြွန်ထဲမှာရှိတဲ့ အီလက်ထရုတ် (electrode) အစ တစ်ဖက်တစ်ချက်ကို ဓာတ်အား (Voltage) ပြင်းပြင်းပေးလိုက်ရင် အီလက်ထရွန် မီးချောင်းဖြစ်လာပါတယ်။ ကတ်သုတ်ရောင်ခြည်တွေက သူတို့ဘာသာ ထွင်းဖောက်နိုင်စွမ်း မရှိပါ။ လေထု စင်တီမီတာ နည်းနည်း ရှိနေရင်တောင် ရှေ့မတိုးဘဲ ရပ်နေပါတယ်။ ဒီတစ်ခါတော့ ရောင့်တ်ဂျဲန်က သူသုံးတဲ့ ကတ်သုတ်ရောင်ခြည်ဖန်ပြွန်ကို အဝတ်နဲ့ လုံလောက်အောင် ထုပ်ထားပါတယ်။ ဒါကြောင့် လျှပ်စစ်ဓာတ်အားကို ဖွင့်လိုက်ပေမယ့် ဖန်ပြွန်ထဲက အလင်းရောင်ဟာ အပြင်ကို နည်းနည်းမှာ ထွက်မလာဘူး။ ဒါပေမဲ့ ရောင့်တ်ဂျဲန်က ကတ်သုတ် ရောင်ခြည်ဖန်ပြွန်ကို ဓာတ်အားလွှတ်လိုက်တဲ့အခါ အနားက ခုံတန်းလျားပေါ်မှာရှိတဲ့ ရောင်ပြောင်းတောက် ကားချပ် (Fluoresent Screen) ဟာ အရောင် တစ်ခု လှုပ်ရှားဝင်ရောက်လာတဲ့အတိုင်း လင်းလာလို့ အံ့ဩသွားတယ်။ ဖန်ပြွန်ခလုတ် ပိတ်လိုက်တော့ ရောင်ပြောင်း တောက်စေတဲ့ ဗရီယမ် ပလတီနို ဆိုင်ယာနိုက် (barium platino cyanide) သုတ်လိမ်း ထားတဲ့ ကန့်လန့်ကာမှာ အရောင် ပျောက်သွားတယ်။ ဒီတော့ ရောင့်တ်ဂျဲန်က မမြင်နိုင်တဲ့ ဖြာထွက်

ရောင်ခြည်တစ်မျိုးဟာ လျှပ်စစ်ခေတ်အား ဝင်တဲ့ဖန်ပြွန်က ထွက်လာတာဖြစ်မယ်လို့ ချက်ချင်း သိလိုက်တယ်။

ဒီလိုထူးဆန်းအံ့ဩစရာ အစွမ်းရှိတဲ့ သဘောကြောင့် ဒီ မမြင်နိုင်တဲ့ ဖြာထွက်ရောင်ခြည်ကို အိပ်စ်ရေးလို့ နာမည်ပေးတယ်။ သင်္ချာမှာ ဘာမှန်းမသိတဲ့ကိန်းကို X သင်္ကေတ သုံးတဲ့ အလေ့ရှိပါတယ်။ ဒီလို မတော်တဆ တွေ့ရတဲ့ အသိသစ်ကြောင့် အားတက်ပြီး ရောင့်တ်ဂျဲန်က တခြား သုတေသနတွေ အားလုံး ရပ်ထားပြီး အိပ်စ်ရေးကိုပဲ သူ့ဂုဏ်သတ္တိရှိသမျှ သိနိုင်အောင် စူးစူးစိုက်စိုက် လေ့လာပါတော့တယ်။

ဒီလို ဖိဖိစီးစီး အလုပ်လုပ်လို့ သီတင်းပတ် နည်းနည်းရတဲ့အခါ ဒါတွေကိုသိလာပါတယ်။

(၁) အိပ်စ်ရေးဟာ ဗရိယမ် ပလိတိနို ဆိုင်ယာနိုက် အပြင် တခြားဓာတ်တွေကိုလည်း ရောင်ပြောင်း တောက်စေနိုင် တယ်။
(၂) အိပ်စ်ရေးဟာ ရိုးရိုးအလင်းရောင်မထိုးနိုင်တဲ့ အလင်းပိတ် (opaque) ပစ္စည်းကိုလည်း ဖြတ်ဝင်နိုင်တယ်။ အတိအကျပြောရရင် ရောင့်တ်ဂျဲန်ဟာ အိပ်စ်ရေးက သူ့အသားကို တိုးဖြတ်ပြီး ဝင်နိုင်တယ်။ အရိုးကိုသာ မဖြတ်နိုင်တာ ဖြစ်တယ်လို့ သိတယ်။ ကတ်သုတ် ရောင်ခြည် ဖန်ပြွန်နဲ့ ရောင်ပြောင်းတောက် ကားချပ်ကြားမှာ သူ့လက်ကို ထားလိုက်တဲ့အခါ ကားချပ်ပေါ်မှာ အရိုးတွေရဲ့အရိပ်ကို မြင်ရပါတယ်။
(၃) အိပ်စ်ရေးဟာ လျှပ်စစ်ခေတ် ဝင်တဲ့ အရာဝတ္ထုတွေမှ မတူဘဲ မျဉ်းဖြောင့် တည့်တည့်ဖြတ်သွားတယ်။ သံလိုက်နယ်ခံလို့လည်း ကွေးကောက် မသွားဘူး။

ရောင့်တ်ဂျဲန်က အိပ်စ်ရေး ပထမ စာတမ်းကို ဒီဇင်ဘာ ၁၈၉၅ မှာ ရေးတယ်။ လူတွေဟာ သူ့စာကြောင့် လှုပ်ရှားလာပြီး အများကြီး စိတ်ဝင်စား လာတယ်။ လအနည်းငယ်အတွင်း သိပ္ပံပညာရှင် ရာပေါင်းများစွာက အိပ်စ်ရေးကို လေ့လာတယ်။ တစ်နှစ်အတွင်း ဒီအကြောင်းအရာနဲ့ ပတ်သက်တဲ့ စာတမ်း တစ်ထောင်နီးပါး ရေးသားကြတယ်။ ရောင့်တ်ဂျဲန်ရဲ့ တွေ့ရှိချက်ကြောင့် အများကြီး ဆက်လက် အလုပ်လုပ်ချင်တဲ့ ပုဂ္ဂိုလ်က အဲန်တွိုင် ဟင်နရီ ဘက်ကွာရယ် (Antoine Henri Becquarel) ဖြစ်ပါတယ်။ ကွာရယ်က အိပ်စ်ရေးရှာရင်း အိပ်စ်ရေး ထက်ပိုပြီးအရေးပါတဲ့ ရေဒီယို သတ္တိကြွခြင်း အကြောင်းကို အမှတ်မထင် တွေ့ရှိပါတော့တယ်။ ယေဘူယျပြောရရင် အိပ်စ်ရေးဟာ အားပြင်းတဲ့ အီလက်ထရွန်က ဝတ္ထုပစ္စည်းတစ်ခုကို လာပြီး ရိုက်ခတ်တဲ့ အခါ ထကြွလာတာဖြစ်တယ်။ အိပ်စ်ရေးမှာတော့ အီလက်ထရွန် မပါ၊ အီလက်ထရီ သံလိုက်လှိုင်း တွေပဲရှိတယ်။ ဒါကြောင့် မြင်နိုင်တဲ့လှိုင်းပျော့ (Light wave) နဲ့ အခြေခံ ဖြစ်ပုံတူလို့ အိပ်စ်ရေးလှိုင်းဟာ သိပ်တိုတယ်။

အိပ်စ်ရေးကို အများသိ သုံးစွဲကြပုံက ဆေးပညာနဲ့ သွားရောဂါ စစ်ဆေးတဲ့အခါ သုံးပါတယ်။ ပြီးတော့ နောက်တစ်မျိုး အသုံးဝင်ပုံက ဓာတ်ရောင်ခြည်ကုထုံးအရ

မြင်းဆိုး(malignant tumor) ကို ဖျက်ဆီးနိုင်တယ်။ ဆက်မကြီးအောင် တားနိုင်တယ်။ အိပ်စ်ရေးကို စက်မှုမှာ သုံးနိုင်တဲ့အချက် အတော်များများရှိပါတယ်။ ဥပမာ ပစ္စည်းတစ်ခုရဲ့ အထူကို ပြသနိုင်တယ်။ မျက်စိရိုးရိုးနဲ့ မမြင်နိုင်တဲ့ အပြစ်အနာကို ပြနိုင်တယ်။ ဇီဝဗေဒက အစ နက္ခတ္တဗေဒထိ သိပ္ပံသုတေသန နယ်အမျိုးမျိုးမှာ အသုံးပြုရပါတယ်။ သိပ္ပံပညာရှင်တွေက အိပ်စ်ရေးကြောင့် အဏုမြူနဲ့ မော်လီကျူး တည်ဆောက်ပုံ အကြောင်းတွေကို အများကြီး သိနိုင်ပါတယ်။ ရောင့်တ်ဂျဲန် တစ်ဦးတည်းကို အိပ်စ်ရေး ဖော်ထုတ်သူ အဖြစ်နဲ့ အပြည့်အဝ ဂုဏ်ပြုနိုင်ပါတယ်။ သူ တစ်ယောက်တည်း အလုပ်လုပ်တယ်။ သူဒါကို လုပ်နေပြီလို့ ဘယ်သူကမှ သူမပြောဘဲ ကြိုပြီး သိနှင့်ထားခြင်း မရှိပါ။ သူဒီထုံးနည်းကို မရရအောင် ဖော်ထုတ်ပေးပုံကလည်း အံ့သြ ချီးမွမ်းလောက်ပါတယ်။ သူဒီဘက်က အသိတစ်ခု ရှာပေးလို့ ဗက်ကွာရယ်နဲ့ တခြားသုတေသီတွေက တခြား အရေးပါတဲ့အသိသစ်တွေကို ဖော်ထုတ် ပေးနိုင်ကြတာ ဖြစ်ပါတယ်။

ဒီလိုပြောသာပြောရတယ်။ ရောင့်တ်ဂျဲန်ရဲ့ ဂုဏ်ကျေးဇူးကို သိပ်ပြီးမြှင့်လို့လည်း မရပါ။ အိပ်စ်ရေးကို သုံးရလို့ တကယ်ကတော့ သိပ်ပြီး အကျိုးကျေးဇူးရှိပါတယ်။ ဒါပေမဲ့ ဖာရာဒေးရဲ့ လျှပ်စစ်သံလိုက်ညှို့ခြင်းလောက် အသုံး မတဲ့ပါဘူး။ အိပ်စ်ရေးပေါ်လာလို့ အခြေခံ သိပ္ပံသီအိုရီတွေမှာ အရာရောက်လှတယ်လို့ မတွေ့ပါ။ (မျက်စိနဲ့မြင်ရတဲ့ လင်းရောင်ခြည်လှိုင်းဟာ) ခရမ်းလွန် ရောင်ခြည်ကို အရင်အနှစ်တစ်ရာကျော်နီးပါက သိရှိခဲ့လို့ အခု နောက်ထပ်ပေါ်လာတဲ့ အိပ်စ်ရေးဟာ ရူပဗေဒ အခြေခံထဲကို ဘာဂယက်မှမထဘဲ မသိမသာ ဝင်ရောက် သွားတယ်လို့ ဆိုရပါတယ်။ အားလုံးခြုံငုံကြည့်ရင် ရောင့်တ်ဂျဲန်ကို ပိုပြီး တွေ့ရှိပုံထူးတဲ့ ရုသာဖို့ဒ် နောက်က နေရာမှာ ထည့်ရတော့မှာဖြစ်ပါတယ်။

ရောင့်တ်ဂျဲန် (Rontgen) မှာ သားသမီး မထွန်းကား ပါ။ သူတို့လင်မယားက သမီးလေး တစ်ယောက် မွေးစား ဖူးပါတယ်။ ရူပဗေဒ အတွက် ရောင့်တ်ဂျဲန်ကို ၁၉ဝ၁ က နိုဘယ်လ်ဆု ပေးတယ်။ ရူပဗေဒအတွက် ဒီဆုကို စတင် ရရှိသူဖြစ်တယ်။ ဂျာမနီ၊ မြူးနစ်မှာ ၁၉၂၃ က ကွယ်လွန် သွားပါတယ်။

16, August, 2001.

# (၇၂) ဂျိုဟန် ဆေဗစတီယန် ဘာ့ချ် (၁၆၈၅ – ၁၇၅၀)

## JOHANN SEBASTIAN BACH (1685 – 1750)

အနောက်ဥရောပနိုင်ငံအသီးသီးမှာ သီဆို တီးမှုတ်ခြင်း မျိုးစုံနဲ့ မညီမညွတ်ရှိတာကို ပထမဦးဆုံး နိုင်နိုင်နင်းနင်း ပေါင်းစပ်ပေးနိုင်သူက သီချင်းရေးဆရာကြီး ဂျိုဟန် ဆေဗစတီယန် ဘာ့ချ် ဖြစ်ပါတယ်။

အီတလီ၊ ပြင်သစ်နဲ့ ဂျာမနီ အစဉ်အလာ တေးဂီတ တွေကို သူက ပေါင်းပေးလိုက်တဲ့အခါ တကွဲတပြား ဖြစ်နေတဲ့ ပညာစွမ်းတွေဟာ အခုမှ ပိုပြီး တောက်ပြောင် လာတာကို တွေ့ရပါတယ်။ သူအသက်ရှိစဉ်က သိပ်ပြီး မကျော်ကြားလှပါ။ သူကွယ်လွန်ပြီး နှစ်ငါးဆယ်လောက် အတွင်းမှာ သူ့နာမည်ကိုတောင် လူတွေ မေ့မတတ် ရှိနေပါတယ်။ ဒါပေမဲ့ သူ့ဂုဏ်သတင်းဟာ အရင်နှစ် ၁၅၀ တွင်းမှာ တရှိန်ရှိန် တိုးတက်လာပါတယ်။ အခုဆိုရင် ခေတ်အဆက်ဆက် အထူးခြားဆုံး၊ အတော်ဆုံး သီချင်းရေးဆရာ နှစ်ဦးသုံးဦး ထဲမှာ သူလည်း ပါနေပါတယ်။ တချို့က သူ့ကို အကြီးမြင့်ဆုံး ဂုဏ်ထူးကိုတောင် ပေးနေကြပါပြီ။

ဘာ့ချ်ကို ၁၆၈၅ က ဂျာမနီ၊ အိုင်ဆဲန်နဲ့ချ် (Eisenach) မှာ မွေးတယ်။ တေးဂီတသမားကို သိပ်လိုလားတဲ့ ပတ်ဝန်းကျင်မှာ သူ့ကိုမွေးတာက သူ့အတွက်က သိပ်ကောင်းတယ်လို့ ဆိုရပါမယ်။ သူမမွေးမီ သူတို့ ဘာ့ချ် မိသားစု တို့ရိယာ တေးဂီတနယ်မှာ အစွမ်း ထူးခြားတယ်လို့ နာမည်ရှိပြီးသား ဖြစ်နေပါတယ်။ သူ့အဖေက လက်ကောင်း တယောဆရာ၊ အဘိုးတွေက သီချင်းရေးဆရာ အကျော်အမော်တွေ ဖြစ်ပါတယ်။ သားချင်းတွေထဲက လူအတော်များများက လေးစား လောက်တဲ့ တေးဂီတသမားတွေ ဖြစ်ပါတယ်။

ဘာ့ချ်အမေက သူကိုးနှစ်သား အရွယ်က ကွယ်လွန် သွားပါတယ်။ ဆယ်နှစ်သားမှာ မိဘမဲ့ကလေးဖြစ်တယ်။

ဆယ်ကျော်သက် အရွယ်မှာ အသံကောင်းလို့လည်း တစ်ကြောင်း၊ အထောက်အပံ့ လိုနေလို့လည်း တစ်ကြောင်း သူ့ကို လူနေဘာ့ဂ် (Luneburg) ရှိ စိန့်မိုက်ကယ်ကျောင်း (St. Michael’s School) ကို ပညာတော်သင် အဖြစ်

ရွေးပြီးစေလွှတ်ခဲ့ပါတယ်။ အဲဒီကျောင်းက ၁၇၀၂ မှာ သင်တန်းပြီးတယ်။ အဲဒီနှစ်မှာပဲ သူ့ကို တယောဆရာ အဖြစ်နဲ့ နန်းတွင်း တူရိယာဝိုင်းမှာ ခန့်လိုက်တယ်။ အဲဒီကစပြီး အနှစ်နှစ်ဆယ် အတွင်းမှာ တူရိယာနဲ့ပတ်သက်တဲ့ အလုပ်စုံ နေရာစုံမှာ လုပ်ခဲ့ရတယ်။ သူ့တစ်သက်မှာ သူ့ကို အထူးတော်တဲ့ အော်ဂင်သမားလို့ သတ်မှတ်ပြီး ကျော်ကြားတယ်။ ဒါပေမယ့် သူက သီချင်းရေးဆရာ၊ တူရိယာဆရာ၊ တီးဝိုင်းခေါင်းဆောင် ဆိုတာတွေ ဘက်မှာလည်း ကျွမ်းကျင်လှပါတယ်။ ဘာ့ချ်ဟာ အသက် သုံးဆယ့်ရှစ်နှစ်မှာ လိုက်ပဇစ် (Leipzig) စိန့်သောမတ်စ် ကျောင်းတော် အဆိုခေါင်းဆောင် ခန့်ထားတာကို ခံရပြီးနောက် ၂၇ နှစ်ကြာ ကွယ်လွန်တဲ့အခါ ဒီရာထူးမှာ ဆက်လက် အမှုထမ်းခဲ့ပြီး ၁၇၅၀ ပြည့်မှာ ကွယ်လွန် သွားပါတယ်။

ဘာ့ချ်ဟာ တစ်ကြိမ်တစ်ခါမှ ရာထူးကောင်းကောင်း မရဘူးပေမယ့် အိမ်ထောင် တစ်ခုကို ကောင်းကောင်း ထောက်ပံ့ ကျွေးမွေးနိုင်သူ ဖြစ်ပါတယ်။ သူ အသက်ရှိစဉ်က မိုးဇတ်၊ ဘီသိုဗင် တို့လို မကျော်ကြားပါ။ (ဒီနေရာမှာ ဖရန့်ဇ်လစ်ဇ်နဲ့ ဖရက်ဒရစ်ရှိုပင်တို့ကိုတောင် မမီပါ။) ဘာ့ချ်ကို ငှားရမ်း အသုံးပြုတဲ့ လူအများက သူ အင်မတန် တော်တာကို သတိပြုမိကြဟန် မတူပါ။ လိုက်ပဇစ် ကောင်စီက ဂီတစာဆို အထူးချွန်ဆုံးပုဂ္ဂိုလ်ကို အလိုရှိတယ် ဆိုပြီး လူရွေးတယ်။ သူတို့စိတ်ကြိုက် နှစ်ယောက်ကို မရတဲ့ အဆုံးမှ သူ့ကို မလွှဲမရှောင်သာလို့ ဆိုတဲ့သဘောနဲ့ အလုပ်ခန့် အပ်ပါတယ်။

(အဲဒါထက် အရင်က ဘာ့ချ်ဟာ အလုပ်ပြောင်းချင်လို့ ဝေမာ Weimar မှာရှိတဲ့ မြို့စားကြီးရုံးတော်မှာ အော်ဂင်ဆရာ ပွဲသဘင် အခမ်းအနားမှူးရာထူးက ထွက်မယ် လုပ်တဲ့အခါ မြို့စားက တားရမယ် မထင်လို့ အကျဉ်းထောင် ထဲမှာ သီတင်း သုံးပတ် ထည့်ထားပြီးမှ မြို့စားကြီးက လက်လျှော့ပြီး သူ့ကို သွားလိုရာ ခွင့်ပြုလိုက်ပါတယ်။)

ဘာ့ချ်ဟာ နှမဝမ်းကွဲတစ်ယောက်နဲ့ အသက် နှစ်ဆယ့်နှစ်နှစ်မှာ အကြောင်းပါတယ်။ သားသမီး ခုနစ်ယောက် ရပြီး ဇနီး သေဆုံးတော့ သူက အသက် သုံးဆယ့်ငါးနှစ် ရှိပါပြီ။ နောက်တစ်နှစ်မှာ နောက် အိမ်ထောင်ပြု တယ်။ ဒီဇနီးရဲ့မူလ အိမ်ထောင်က ကျန်ရစ်တဲ့ ကလေး ခုနစ်ယောက်ကိုလည်း ကျွေးမွေး စောင့်ရှောက်တဲ့ အပြင် သူက ကလေးနောက်ထပ် ၁၃ ယောက်မွေး ပါတယ်။ ဒီကလေးတွေထဲက ကိုးယောက် အဖတ်တင်တယ်။ အဲဒီကိုးယောက်ထဲက လေးယောက်က သူ့နည်းသူ့ဟန်နဲ့ ထင်ရှားတဲ့ ဂီတသမားတွေ ဖြစ်လာပါတယ်။ အများကြီး အားကျ ချီးမွမ်းစရာကောင်းတဲ့ မိသားစုဖြစ်လာပါတယ်။ ဘာ့ချ်ဟာ ဘက်စုံရတဲ့ သီချင်းရေးဆရာဖြစ်ပါတယ်။ သူ့လက်ရာထဲမှာ... လုံးချင်းသံပြိုင်– Cantatas (၃၀၀)ပုဒ် ကျော်၊ တူရိယစုံဆိုတီးနဲ့ ခြေဆင်း –Fugues/Prelude (၄၈)ပုဒ် ၊ (ကောင်းကောင်းကြိုးညှိပြီး the well–Tempered clavier မှာ ထည့်သွင်းရေးသားပြီး)၊ တခြားခြေဆင်း – Preludes (၁၄၀)ပုဒ် ၊ ခြေဆင်း (၁၀၀)ပုဒ် ၊ (စက်တပ်ကြိုးတူရိယာ – harpsichord အတွက်) ဆိုင်းဝိုင်းကြီးစာ – Concerto (၂၃)ပုဒ်၊ ဆိုင်းဝိုင်းကြီးအစ – Overture (၄)ပုဒ် ၊ သုံးဆစ်/

လေးဆစ်သီချင်းကြီး – Sonatas (၃၃)ပုဒ်၊ လူစုံတေး Masses (၅)ပုဒ်၊ နိပါတ်ခင်း – Oratorio (၃)ပုဒ်၊ တစ်သက်လုံး ရေးစပ်သွားတဲ့ အကောင်းစားသီချင်းနဲ့ တီးကွက် (၈၀၀)ကျော်ရှိပါတယ်။

ဘာ့ချ်ဟာ လူသာဂိုဏ်းဝင် ခရစ်ယာန် တစ်ယောက် ဖြစ်ပြီး အလွန်ယုံကြည်မှုကို လေးစားသူဖြစ်ပါတယ်။

ဒါကြောင့် ခရစ်ကျောင်းတော်နဲ့ ပတ်သက်တဲ့ စာတွေကိုပဲ ရေးသား စပ်ဆိုတာ ဖြစ်တယ်။ သူက ပုံစံသစ် ထွင်တာ မရှိ၊ ပုံစံဟောင်းကိုသာ အမြင့်ဆုံး အဆင့်ရောက်အောင် မြှင့်တင်တာ ဖြစ်တယ်။ သူကွယ်လွန်ပြီး အနှစ်ငါးဆယ် လောက် သူ့လက်ရာတွေကို လူတွေက ဥပေက္ခာ ပြုထားကြတယ်။ (ဒါပေမဲ့ သူနဲ့ ခေတ်ပြိုင်ဖြစ်တဲ့ သိပ်ကျော်ကြားတဲ့ တေးဂီတဆရာကြီးတွေ ဟေဒင် Haydin၊ မိုးဇတ် Mozart နဲ့ ဘီသိုဗင် Beethoven တို့က ဘာ့ချ်ရဲ့ ပါရမီကြီးပုံကို ကောင်းကောင်း အသိအမှတ် ပြုတယ်)

တေးဂီတသစ်က တိုးထွက်လာတော့ ဘာ့ချ်ရဲ့ ခေတ်ဟောင်း တေးတွေဟာ လငပုပ် ဖမ်းခံရသလို မှေးမှိန် ပျောက်ကွယ်ရပါတယ်။ ဒါပေမယ့် ၁၈၀၀ ကျော်တဲ့အခါ ဘာ့ချ်လက်ရာတွေ ခေတ်ထလာပြန်တယ်။ အဲဒီကစပြီး သူ့နာမည်၊ သူ့လက်ရာ၊ သူ့အစွမ်းတွေကို လူတွေဟာ ပိုပြီးပြောကြနားထောင်ကြ လေ့ကျင့်ကြလို့ သူ့ကို လူသိများလာတယ်။ ဒါလုပ်လို့ ဘာအကျိုးထူး မှာလဲဆိုပြီး သိပ်လောက် ဆန်တဲ့ခေတ်မှာ သူ့အသက်ရှိစဥ်တုန်းကထက် သူ့လက်ရာတွေကို လူသိများ လာပါတယ်။ လူကြိုက်များ လာတယ်။ အရင်အနှစ် ၂၀၀ ကပဲ ရေးဆန် လိုက်တာလို့ အပြောခံရတဲ့လူကို အခုမှလာပြီး တအံ့တဩ လေ့လာ နှစ်သက်နေကြတာဟာ အင်မတန် ဆန်းလှပါတယ်။ ဘာကြောင့် ဒီလိုဖြစ်ပါသလဲလို့ စူးစမ်း ဆင်ခြင် သင့်ပါတယ်။

ပထမအချက်က ဘာ့ချ်ဟာ ခေတ်ပြိုင်ရော နှောင်းခေတ်မှာပါ နာမည်ကြီးတဲ့ တေးဂီတဆရာတွေထဲမှာ နည်းပညာအရ သူက အတော်ဆုံးဖြစ်တယ်။ သူ့ခေတ်က တူရိယာ ဖြေဖျော်မှုဆိုင်ရာမှာ သူမသိတာရယ်လို့ မရှိပါ။ သိသမျှ ကိုလည်း ရေရေလည်လည် အပြစ်အနာအဆာ မရှိ သီဆို တီးမှုတ်ပြသနိုင်တယ်။ ဥပမာ မတူတဲ့သံစဥ် နှစ်ခုကို ပြိုင်တူတီးပုံမျိုးမှာ ဘာ့ချ်ကို ကနေ့ထိ ဘယ်သူမှမမီပါ။ ဒါ့အပြင် သူ့လက်ရာက သဘောသွားတည်ငြိမ်ပေမယ့် အသံသွင်းပုံက အမျိုးမျိုးအဖုံဖုံ ဖြစ်တဲ့အတွက် အကြောင်းအရာ တစ်မျိုးတည်းကို ပေါ်အောင်ဖော်နိုင်တယ်။ ငြိမ့်ညောင်း ပြေပြစ်တဲ့ သံစဉ်ကို ထင်ရှားစေတယ်။

တေးသီချင်း တူရိယာဘက်မှာ နှိုက်နှိုက်ချွတ်ချွတ် သိချင်တဲ့ ပညာသည်တစ်ဦးဟာ ဘာ့ချ် ရေးစပ် သီဆို တီးမှုတ်တဲ့ လက်ရာ တစ်ခုဟာ အယူအဆ နက်ရှိုင်းတယ်၊ တည်ဆောက်ပုံ ထွေထွေထူးထူး ပြည့်စုံတယ်၊ ဒါပေမယ့် နားလည်ဖို့ မခက်ဘူး။ ဒါကြောင့် လေ့လာသူတိုင်းက သူ့လက်ရာတိုင်းကို အံ့ဩမဆုံး ချီးမွမ်းမဆုံး ဖြစ်ရပါတယ်။ တေးသီချင်း

တူရိယာကို သာမည လောက်ပဲ သဘောထား တဲ့လူတွေအဖို့ ဘာ့ချ်ကို သိပ်ကောင်းတယ်လို့ မထင်ဘဲ ရှိတတ်တယ်။ ဒီလိုဆိုရင် သူ့ကို ကျေနပ်သူတွေဟာ ဒီပညာ ထူးချွန်သူ လက်တစ်ဆုပ် စာလောက်ဘဲ ရှိမှာပါလားလို့ မေးရင် ဒီလိုလည်း မဟုတ်ပါလို့ ဖြေရမယ်။ ဘာပြုလို့လဲ ဆိုတော့ သူ့ခေတ်ပြား(တိတ်ခွေ)တွေဟာ ဘီသိုဗင်ပြီးရင် ရောင်းလို့ အစွံဆုံး ဖြစ်ပါတယ်။ (ရေရှည် ပြောကြစို့ ဆိုရင် အခုတလော ပူပူနွေးနွေး အစွံဆုံး ဆိုတဲ့သူဟာ သူ့လောက်တာရှည် ခေတ်မစားနိုင်ပါ။)

အခုစာအုပ်မှာ သူ့ကို ဘယ်နေရာမှာ ထားသင့်သလဲ ဆိုတဲ့ ပြဿနာဖြစ်လာပါတယ်။ ဘီသိုဗင်ပြီးရင် သူပဲပေါ့။ ရှင်းပါတယ်။ ဘာပြုလို့ ဘီသိုဗင်က ရှေ့နေရတာလဲ ဆိုရင် ဘာ့ချ်ထက် တီထွင်ဉာဏ်ရှိတယ်။ တေးဂီတ တူရိယာ သမိုင်းဆိုင်ရာမှာ သူ့ဩဇာဟာ အကြီးဆုံး ဖြစ်တယ်။ အမြင်ရုပ်ထု အနုပညာရှင်ကြီး မိုက်ကယ်အိန်ဂျလို ရဲ့ အောက်မှာ ထားတယ်။ စာပေပါရမီ အရင့်ဆုံး ရှိတ်စပီးယား ထက်တော့အများကြီး နိမ့်တဲ့ အဆင့်မှာ ထားရမှာပါ။ ဒီပုဂ္ဂိုလ်တွေကို ချန်ပြီး တခြား အနုပညာရှင်တွေ ထက်တော့ မြင့်တဲ့နေရာမှာ ထားသင့်ပါတယ်။

17, August, 2001.

# (၇၃) လောင်ဇု (ဘီစီ ၄ ရာစု)

# LAO TZU (fl. 4th c.B.C)

တရုတ်ကျမ်းတွေ ထောင်ပေါင်းများစွာ ထဲက နိုင်ငံခြားက လူတွေယူပြီး လေ့လာဖို့ ဘာသာပြန်တဲ့ ကျမ်းစာရင်းမှာ အရင်နှစ်နှစ်ထောင်ကျော်က လောင်ဇု ရေးသား ပြုစုခဲ့တဲ့ ကျမ်းငယ် တစ်အုပ်လည်းပါတယ်။ ဒီကျမ်းကို 'တောက်တေချင်ဂ်' (Tao Te Ching) လူ့ကျင့်ဝတ်နဲ့ တန်ခိုးကြီး စေတဲ့ အစုအစဥ်နည်း (Classic Of the Way and Its Power) လို့လည်း ခေါ်ပါတယ်။ ဒီကျမ်းဟာ 'တောက်ဝါဒီ' (Taoism) ရဲ့ ဒဿနိက ကျမ်းရင်းဖြစ်ပါတယ်။ ဒီကျမ်းကလေးဟာ မကျယ်ပေမယ့် လျှို့ဝှက်နက်နဲပြီး အဓိပ္ပာယ် အမျိုးမျိုး ယူစရာတွေ များတယ်။ 'တောက်' ဆိုရင် 'လမ်း' (The Road)၊ 'နည်း' (The Way) လို့ အနက်ပေးတယ်။ စကားက 'လမ်း' တောက် (Tao) ဆိုတိုင်း အမြဲမသွားနဲ့၊ နာမည်ဆိုတိုင်း အမြဲ မခေါ်နဲ့တဲ့ ဘာပဲပြောပြော တောက် (Tao) က ယေဘူယျပြောရရင် 'သဘာဝ' ဖြစ်မြဲပျက်မြဲကို ရည်ညွှန်း ပါတယ်။

'တောက်' ဝါဒမှာ လူပုဂ္ဂိုလ် တစ်ဦးဟာ တောက်ကို မလွန်နဲ့၊ အလိုက်သင့် သွားပေါင်းစားပါတဲ့။ အကျိုးအမြတ်ပဲ အမြဲတွက်နေတယ်၊ အကျိုးအမြတ်ကို မရမနေ ရှာတယ်။ တန်ခိုးသြဇာကို သုံးပြီး ကိုယ်ကျိုးစီးပွား လုပ်တယ်ဆိုတာမှာ စာရိတ္တညံ့တယ်လို့ ပြောလို့ မဖြစ်သလို မိုက်မဲတယ်၊ အချည်းနှီး ဖြစ်တယ်လို့လည်း မဆိုသင့်ပါ။ တောက် (Tao) ကို နှိမ်နင်း မနေနဲ့၊ သူနဲ့ သင့်တင့် လျောက်ပတ်အောင် ကြိုးစားပြီးနေပါတဲ့။

(တောက်ဝါဒီက ရေကို စံပြုတယ်၊ ရေဟာ ပြောမကုန် အောင်ပျော့တယ်၊ နိမ့်တယ်ဆိုတဲ့ နေရာ မှန်သမျှကို မရှောင်မတိမ်း စီးဝင်နေတာပဲ။ အနည်းဆုံး အပျော့ဆုံး ဖိအားကိုတောင် မတွန်းမလှန် ခုခံတယ်လို့ မရှိ။ ဒါပေမယ့် ရေကို ဖျက်ဆီး မရနိုင်ဘူး။ ရေကသာ အကြာအရှည် တိုက်စားလို့ ကျောက်တုံး၊ ကျောက်ခဲတွေ ပွန်းပဲ့ကြေမွပျက်စီး ကြရတယ်။)

လူသာမန်တစ်ယောက်ဟာ ရိုးနိုင်သမျှ ရိုးရိုးနေပါ။ သဘာဝကို သဘာဝ အတိုင်းထားပြီး (ကိုယ်ကိုယ်တိုင် ကလည်း ရိုးရိုးအေးအေး အပိုတွေ မပါဘဲ) အလိုက်သင့် နေဖြစ်အောင် နေသင့်တယ်လို့ပဲ အကြံပေးလိုပါတယ်။ ငွေမက်၊ တန်ခိုးအာဏာမက်တဲ့လူတွေ နဲ့တကွ ကိုယ်ပါ အကြမ်းမဖက်ဖို့ သတိထားရမယ်။ ငါက ကမ္ဘာကြီးကို ပြုပြင်လိုက်မယ် ဆိုတာမျိုး

မလုပ်လိုက်ပါနဲ့။ ရှိပြီးသား အခြေအနေကို လေးစားပါ။ အစိုးရတွေအဖို့ ထက်ထက် သန်သန် မလုပ်တဲ့ ပေါ်လစီပါ။ အလိမ္မာဆုံး လမ်းစဥ်ဖြစ်တယ်။ အခုထိ ဥပဒေတွေ အများကြီး ရှိပြီး ဖြစ်နေပြီ။ ဥပဒေ ထပ်တိုးမယ်၊ ရှိပြီး ဥပဒေကို တင်းတင်းကျပ်ကျပ် ကိုင်မယ်ဆိုရင် ပိုဆိုးမယ်။ အကောက် တိုးကောက်၊ စီမံကိန်းကြီးကြီး ချမှတ်၊ စစ်ကြေညာ ဆိုတာတွေက တောက် ဒဿနိကရဲ့ သဘောထားနဲ့မညီပါ။

တရုတ်အစဥ်အလာမှာ တောက်တေချင်ဂ် လူ့ကျင့်ဝတ်နဲ့ တန်ခိုးကြီးစေတဲ့ အစုအစဥ်နည်း အမည်ရှိတဲ့ ကျမ်းကို ရေးသူက ကွန်ဖြူးရှပ်နဲ့ ခေတ်ပြိုင် လောင်ဇု ဖြစ်တယ်။ ဒါပေမယ့် ကွန်ဖြူးရှပ်ဟာ ခရစ် မပေါ်မီ နှစ် ၆၀၀ က ပုဂ္ဂိုလ်ဆိုတော့ ခေတ်သစ် ပညာရှင် အချို့က ဒီကျမ်းကိုလည်း အဲဒါလောက် စောတဲ့ ခေတ်ကာလကပဲ ရေးတာ ဖြစ်ရမယ်လို့ ယုံတယ်။ ဒီကျမ်းကို ဘယ်ကာလက ရေးခဲ့တယ်ဆိုတာကို ငြင်းကြ တုန်းပါပဲ။ (ဒီကျမ်းထဲမှာ ဘယ်ပုဂ္ဂိုလ်၊ ဘယ်ဒေသ၊ ဘယ်ရက်၊ ဘယ်သမိုင်းဝင် အဖြစ်အပျက်ကိုမှ ကိုးကား ဖော်ပြ ရေးသားထားတာ မတွေ့ရတော့ ကျမ်းပြီးနှစ်ကို မပြောတတ်ပါ။) ခရစ်မပေါ်မီ အနှစ် ၃၂၀ က ရေးခဲ့တယ် ဆိုရင် နီးစပ်နိုင်တယ်။ အမှန်တကယ် ရက်စွဲနဲ့ အနှစ်နှစ် ဆယ်တွင်း ဖြစ်နိုင်မယ်။ တော်တော်ကြီး နီးစပ်ပြီလို့ ထင်တယ်။ ရက်စွဲ ပြဿနာမှာ ကျမ်းသာ မဟုတ် ကျမ်းဆရာ လောင်ဇုကိုပါ တကယ်ရှိ မရှိ ငြင်းကြ ပြန်တယ်။ အစဥ်အလာ ပြောလေ့ရှိတဲ့ ခရစ် မပေါ်မီ ၆ ရာစုနှစ်ကို ကြိုက်သူ တွေရှိတယ်။ ဒီလိုဆိုရင် ဒီကျမ်းကို သူမရေးဘူး လို့ အဖြေထွက်တယ်။ တချို့ကတော့ သူက ပုံပြင်ထဲက သူလို့ပဲ သဘောထားတယ်။

ကျွန်တော့် အယူအဆမှာ ဒီအချက်တွေပါတယ်။

(၁) လောင်ဇုဟာ အမှန်တကယ်ရှိခဲ့ဖူးတဲ့ လူတစ်ယောက် ပါ။ ဒီကျမ်းကိုလည်း သူပဲပြုစုတာဖြစ်တယ်။
(၂) သူပေါ်ခဲ့တဲ့အချိန်က ခရစ်မပေါ်မီ ၄ ရာစုနှစ် ဖြစ်တယ်။ ပြီးတော့
(၃) လောင်ဇုနဲ့ ကွန်ဖြူးရှပ်တို့ တစ်ခေတ်တည်း မွေးဖွား ခဲ့ကြတယ်လို့ နှောင်ပေးတဲ့ တောက် ဒဿနိက တပည့် တွေက သူတို့ဆရာနဲ့ သူတို့ဆရာကျမ်းဟာ သိပ်နာမည်ကြီးတဲ့ ဒဿနိက ဆရာကွန်ဖြူးရှပ်နဲ့ တစ်ခေတ်တည်း ဆိုရင် ဂုဏ်ရှိတယ်ထင်လို့ တမင် ထွင်ပြောတာဖြစ်တယ်။

သတိပြုစရာအချက်တစ်ချက်က ကွန်ဖြူးရှပ် (ခရစ်မပေါ်မီ ၅၅၁ – ၄၇၉)၊ မိုးတိ(ခရစ်မပေါ်မီ ၅ရာစုနှစ်) နဲ့ မင်းရှပ် (ခရစ်မပေါ်မီ ၃၇၁ – ၂၈၉) ဆိုတဲ့ တရုတ် ကျမ်းပြုဆရာကြီးတွေက လောင်ဇုနဲ့ သူ့ကျမ်း တောက်တေချင်ဂ် အကြောင်းကို တစ်လုံး တစ်ပါဒမှ ထည့်မပြောဘူး။ ချူအန်ဇု (Chu Ang Tsu) ဆိုတဲ့ ခရစ်မပေါ်မီ အနှစ် ၃၀၀ က ထင်ရှားတဲ့ တောက်ဒဿန ပညာရှင် လောင်ဇု အကြောင်းကို ထပ်ပြန်တလဲလဲ ပြောပါတယ်။

လောင်ဇုကို လူပုဂ္ဂိုလ်အဖြစ် အစစ်အမှန်ရှိ မရှိကို ငြင်းနေကြတဲ့အခါမှာ

သူ့အတ္ထုပ္ပတ္တိဆိုင်ရာ အချက်အလက်တွေကို ခဏဖယ်ထားရဦးမှာ ဖြစ်တယ်။ လေးစားလောက်တဲ့ အဆိုအမိန့် တချို့ရှိပါတယ်။ လောင်ဇုဟာ တရုတ်မြောက်ပိုင်းသား၊ သမိုင်းဆရာ၊ ကျိုမင်းဆက် (Chou dynesty) မြို့တော် လောယန်ဂ်မှာ ရှိခဲ့ဖူးတယ် ထင်ရတဲ့ မင်းစဥ် မော်ကွန်း တိုက်စိုး ဖြစ်နိုင်စရာရှိတယ်။ လောင်ဇုဟာ နာမည်ရင်း မဟုတ်၊ ရိုသေလေးစားလို့ လူတကာက 'ဆရာတော်ကြီး' ခေါ်ကြလွန်းလို့ အမည်ပျောက် နေတာဖြစ်တယ်။ အိမ်ထောင်ပြုလို့ ထွန်းကားတဲ့ သားတစ်ယောက် နာမည်က တဆုန်ဂ် (Tsung) ဖြစ်တယ်။ ဝေ (Wei) နိုင်ငံမှာ ဗိုလ်ချုပ်အဖြစ်နဲ့ အမှုထမ်း သွားတယ်။

'တောက်' ဝါဒကို လူသာမန်တို့အတွက် ဒဿနိက လို့ ယူဆပေမယ့် ကိုးကွယ်ယုံကြည်မှုဆိုင်ရာ အရေးအခင်း တစ်ခုဟာ ဒီဝါဒကြောင့် ဖြစ်ခဲ့ရဖူးပါတယ်။ တောက်ဝါဒ ကတော့ တောက်တေချင်ဂ်ကျမ်းထဲမှာ ပါတဲ့အတိုင်း စတင်ခဲ့ပေမယ့် တောက်ယုံကြည်မှုရယ်လို့ ဖြစ်လာတဲ့ အခါ အယူသီးတဲ့ ယုံကြည်ချက်နဲ့ အလေ့အကျင့်တွေ အများကြီး စုပုံရောက်လာပြီး လောင်ဇုရဲ့မူလသြဝါဒ ဘယ်ပျောက်သွားမှန်းမသိအောင် ဖြစ်ရပါတော့တယ်။

လောင်ဇုဟာ တကယ်ပဲ တောက်တေချင်ဂ်ကို ရေးခဲ့တဲ့ ကျမ်းဆရာ မှန်ပါရင် သူ့ဩဇာဟာ အမှန်တကယ်ပဲ ကြီးပါတယ်။ (တရုတ်စာလုံး ၆၀၀၀ ထက်နည်းလို့ နေ့စဥ်သတင်းစာ တစ်မျက်နှာနဲ့ ကျမ်းအကုန်ပါအောင် ထည့်ပေးနိုင်တဲ့အတွက်) အလွန်သေးငယ်တဲ့ ကျမ်းတစ်ကျမ်း ဖြစ်ပါတယ်။ ဒါပေမဲ့ ဆက်လက်တွေးခေါ် စဥ်းစားစရာ အချက်တွေ အများကြီးပါတယ်။ တောက်ဝါဒီ ဒဿနိကဆရာတွေဟာ ဒီကျမ်းကို အခြေခံပြီးမှ မိမိလိုရာ ဖြည့်စွက် ရှင်းလင်း ပြောဆိုကြမြဲဖြစ်ပါတယ်။ အနောက်နိုင်ငံတွေမှာ တောက်တေချင်ဂ် ကျမ်းဟာ ကွန်ဖြူးရှပ် (Confucius) ရဲ့ဆုံးမချက်၊ ကွန်ဖြူးရှပ် ဒဿနိက ဆရာတွေ ရေးသား ပြောဟောချက်တွေထက် ပိုပြီး လူကြိုက်တယ်။ လက်တွေ့ ပြောရရင် ဒီကျမ်းငယ်ကို အင်္ဂလိပ်ပြန်စာအုပ် လေးဆယ်ထက် မနည်း ရှိတယ်။ သမ္မာကျမ်း (Bible) ကလွဲရင် ဒီကျမ်းလောက် ဘယ်ကျမ်းမှ အခုလောက် ဘာသာစာအုပ် အရေအတွက် မရှိဖူးသေးပါ။ တရုတ်နိုင်ငံမှာ ကွန်ဖြူးရှပ်ဝါဒဟာ အများဆုံး လက်ခံကျင့် သုံးတဲ့ ဒဿနိက ဖြစ်တယ်။ ကွန်ဖြူးရှပ်နဲ့ လောင်ဇု မညီရင် ကွန်ဖြူးရှပ်ဘက်ကို လိုက်သူများတယ်။ နောက်တစ်မျိုး ပြောရရင် တောက်ဝါဒတွေကို ကွန်ဖြူးရှပ် ဒဿနထဲကို ပေါင်းစပ် ရောနှောပြီးသား ဖြစ်နေတာ တွေ့နိုင်ပါတယ်။ ဒီလိုနဲ့ တောက်ဝါဒဟာ လွှမ်းမိုးနေပါတယ်။ ဒီလိုပဲ တရုတ် ဗုဒ္ဓဒဿနိက တိုးပွား ဖြစ်ထွန်းလာတဲ့ အထဲမှာလည်း တောက်ဝါဒက ထင်ထင်ရှားရှား ရောက်နေတယ်။ အဲဒါကို ဇင် (Zen) ဗုဒ္ဓဝါဒမှာ သိသာထင်ရှားပါတယ်။ ဒါ တောက်ဝါဒီ လို့ ဖွင့်ဝန်မခံပေမယ့် ကွန်ဖြူးရှပ်ဝါဒကလွဲရင် လောင်ဇု လောက် လူ့အတွေးအခေါ်ကို လွှမ်းမိုးနိုင်တာ မရှိပါ။

17, August, 2001.

# (၇၄) ဗောလ်တဲ(၁၆၉၄ – ၁၇၇၈)

# VOLTAIRE (1694 –1778)

ဖရန်ရှိုင်မာရီအရိုဝက် (Francois Marie Arouet) ဆိုတဲ့ ပြင်သစ်ဥာဏ်အလင်းရရှိရေး အရေးတော်ပုံမှာ ရှေ့ဆောင် ရှေ့ရွက်ဖြစ်သူကို သူ့နာမည်ဝှက် ဗောလ်တဲနဲ့ လူသိများပါတယ်။ သူက ကဗျာဆရာ၊ ပြဇာတ်ရေးဆရာ၊ စာတမ်းရေးဆရာ၊ ဝတ္ထုရေးဆရာ၊ ဝတ္ထုတိုရေးဆရာ၊ သမိုင်းဆရာ၊ ဒဿနိကဆရာ၊ လွတ်လပ်စွာ တွေးခေါ်ရေး လစ်ဘရယ်ဝါဒရေးရာ ဆရာကြီး။

ပါရီမြို့တော်မှာ ဗောလ်တဲကို ၁၆၉၄ က မွေးတယ်။ မျိုးရိုးဗီဇက လူလတ်တန်းစား အဖရှေ့နေ၊ ယယ်စဥ္စက်ပါရီမှာရှိတဲ့ ဂျက်စူးဝတ် ကောလိပ် (Jesuit College ခရစ်ကျမ်း စာသင်ကျောင်းတော်) ဖြစ်တဲ့ လူဝီ–လ–ဂရန် (Louis–Le–Grand) မှာ ဗောလ်တဲနေဖူးတယ်။ နောက် ဥပဒေကို နည်းနည်းလေ့လာပြီးမှ ဆက်မသင်ဘဲ ရပ်လိုက် တယ်။ ပါရီမှာ လူငယ်တစ်ယောက်အနေနဲ့ လူရွှင် လူနောက်၊ ထက်မြက်စူးရှတဲ့ ပြက်လုံးနဲ့ သရော်စာကို ကဗျာဖွဲ့တဲ့လူ အနေနဲ့ ထင်ရှားလာတယ်။ ပြင်သစ် ခေတ်ဟောင်း လက်ထက်တော်ကြီးမှာ ဒီလို နောက်တတ် ပြောင်တတ် သရော်တတ်ရင် အသက်အန္တရာယ်တောင် စိုးရိမ်ရတယ်။ တစ်ခါတော့ သူရေးတဲ့ နိုင်ငံရေး ကဗျာတွေကြောင့် ဗောလ်တဲကို ဖမ်းပြီး ဘတ်စတီး ထောင်ထဲ ထည့်လိုက်တယ်။ ထောင်မှာ တစ်နှစ်လောက် နေရစဥ္စမှာ ဟင်နရီအိတ် (Henriade) သမိုင်းလင်္ကာကြီး (epic poem) တစ်စောင်ကို ရေးဖြစ်တယ်။ နောက်တော့ ဒီလင်္ကာကြီးရဲ့ ကောင်းသတင်း ထွက်လာတယ်။ ဗောလ်တဲ ထောင်က ထွက်ပြီးစ ၁၇၁၈ မှာ သူရေးတဲ့ ဩဒေစ်ပဲ (Oedipe) ကို ပါရီမှာ ရုံတင်တယ်။

သိပ်ပြီး ပွဲကြည့် ပရိတ်သတ်များလို့ နာမည်ကြီး ရပြန်တယ်။ အသက် ၂၄ ဆိုရင် ဗောလ်တဲဟာ အကျော်အမော် ဖြစ်ပြီးနောက် အနှစ်ခြောက်ဆယ် အတွင်းမှာ သူ့ကိုပဲ ပြင်သစ် စာပေခေါင်းဆောင်လို့ အသိအမှတ် ပြုကြပါတယ်။

ဗောလ်တဲဟာ စကားလုံး ကြွယ်ဝသလို ငွေကြေးလည်း ကြွယ်ဝလာပါတယ်။ ၁၇၂၆ ရောက်တော့ ကာလဝိပတ္တိ ကြုံရပါတယ်။ ဗောလ်တဲဟာ သူ့ခေတ်က (စပြီး ကနေ့ထိ) အပြောကောင်း၊ အဟောကောင်း ပြက်လုံး အရွေးကောင်းတဲ့နေရာမှာ ပြိုင်စံ ရှားတယ်လို့ ထင်ရှား ကျော်ကြားပြီး ဖြစ်ပါတယ်။ ဒါပေမယ့် အဲဒီခေတ်က တန်ရာတန်ရာ ပြောကြဆိုကြရတယ်။

မင်းမျိုးစိုးမျိုး သူကောင်းမျိုးနဲ့ တွေ့ရင် 'မော်ဖူးစေ' ဆိုမှ ကြည့်ရဲတာ၊ မမေးဘဲနဲ့ ကိုယ်ပြောချင်တာပြောလို့ရှိရင် ချက်ချင်း ရိုက်ပုတ် နှိပ်စက် ခံရတတ်တယ်။

လူအများရှေ့မှာ ဗော်လ်တဲနဲ့ သူကောင်း ရှဗလျာ ဒေရိုဟန် (the Chevalier de Roham) တို့ လူပရိသတ် ရှေ့မှာ စကား အချေအတင် ပြောမိတယ်။ စကားအရာမှာတော့ သူက နိုင်တာပေါ့။ မကြာခင် ရှဗလျာက လွှတ်တဲ့ လူကြမ်းတွေက ဗော်လ်တဲကို ရိုက်ပုတ် ထုနှက်ကြတယ်။ မနက် ဘက်စတီး (Bestille) ထောင်ထဲမှာ သွင်းပစ်ခဲ့တယ်။ ထောင်ထဲမှာ သိပ်မကြာ ပေမယ့် လွှတ်ရင် ပြင်သစ် (France) မှာ မနေပါဘူး လို့ အာမခံ ရတယ်။ ဒါနဲ့ သူ အင်္ဂလန် (England) ကိုသွားပြီး နှစ်နှစ်ခွဲလောက် နေခဲ့ရပါတယ်။

အင်္ဂလန်မှာ ဗော်လ်တဲ နေခဲ့ရတာ သူ့ဘဝမှာ အရေးကြီးတဲ့ အဆင့် တစ်ဆင့်ကို ရောက်ခဲ့ပါတယ်။

အင်္ဂလိပ် စကားပြောနိုင် ဖတ်နိုင်အောင် သင်ကြားခွင့် ရတယ်။ ကျော်ကြားတဲ့ ဂျွန်လော့ (John Locke)၊ ဖရန့်စစ်ဘေကွန် (Francis Bacom)၊ အိုက်ဆက် နယူတန် (Isaac Newton)၊ ဝီလီယမ် ရှိတ်စပီးယား (William Shakespeare) တို့လို အင်္ဂလိပ်ကြီးတွေရဲ့ စာပေတွေကို လေ့လာခွင့် ရပါတယ်။ အင်္ဂလန်ရဲ့ ရှေ့ဆောင် အတွေးပညာရှင်တွေနဲ့ ကိုယ်တိုင်တွေ့ခွင့် ဆွေးနွေးခွင့် ရပါသေးတယ်။ ရှိတ်စပီးယားကို သိပ်အံ့သြတယ်။ အင်္ဂလိပ်တွေရဲ့ သိပ္ပံပညာမှာ ကျွမ်းကျင်ပုံကိုလည်း သိခွင့်ရတယ်။ အင်္ဂလိပ်တွေ ဘာမဆို လက်တွေ့ စမ်းသပ်ကြည့်ပုံ (empiricism) ကိုလည်း သိပ်အားကျ တယ်။ သူ့စိတ်ထဲမှာ အလေးစားဆုံးကတော့ အင်္ဂလိပ်နိုင်ငံရေး စနစ် ဖြစ်ပါတယ်။ အင်္ဂလိပ် ဒီမိုကရေစီနဲ့ လူတစ်ဦးချင်းရဲ့ ရပိုင်ခွင့်ပါ။ သူတို့ ပြင်သစ် အနေနဲ့ မကြားဖူး၊ မကြုံဖူးတဲ့ကိစ္စ ဖြစ်နေတယ်။ ဘယ်အင်္ဂလိပ် မြို့စား အရှင်သခင်မှ ဗော်လ်တဲ ခံခဲ့ရသလို မျိုးရိုးတံဆိပ် ခပ်နှိပ်တာနဲ့ စာရွက်မှာ ဒီကောင်ကို ဖမ်းပြီး ထောင်ချလိုက် ဆိုတာမျိုး မလုပ်နိုင်တာကို သိရတဲ့အပြင် သူ့ကို ဘာအပြစ်နဲ့ အရေးယူထားတယ်လို့ မသိရပဲနဲ့ အခုလို အချုပ်ခံ နေရရင် လူကောင်ကို ရှေ့တော်သွင်းစေ အမိန့် (Writ Of haleas corpus) နဲ့ လွှတ်ပေး လိမ့်မယ် ဆိုတာမျိုးကိုလည်း တွေ့ရပါသေးတယ်။

ဗော်လ်တဲ ပြင်သစ်ကို ပြန်ရောက်တဲ့အခါ သူ့ရဲ့ အကြီးကျယ်ဆုံး ဒဿနိကစာတမ်းများ (the Letters philosophiques) ကို ၁၇၃၄ မှာ ရေးသား ပုံနှိပ်ဖြန့်ဝေ ပါတယ်။ ဒီကျမ်းကို အင်္ဂလိပ်တို့ အကြောင်း (the Letters On the English) လို့လည်း အလွယ် ခေါ်ကြပါတယ်။ အဲဒီကျမ်းမှာ ပြင်သစ်ဉာဏ်အလင်းဖွင့်ပွဲရဲ့အစလို့ ပြောကြပါတယ်။ အင်္ဂလိပ်အကြောင်းထဲမှာ အင်္ဂလိပ်နိုင်ငံရေး စနစ်ကို တော်တော်များများ ကျေနပ်နှစ်သက် ချီးမွမ်းစိတ်နဲ့ ရေးသား ဖော်ပြတယ်။ ဂျွန်လော့ခ်နဲ့ တခြားအင်္ဂလိပ်ဒဿနိက ဆရာတို့ တွေးခေါ်ပုံတွေကိုလည်း ထည့်သွင်း ရေးသား ဖတ်ပြတယ်။ ဒီစာအုပ်ကို ပုံနှိပ်ဖြန့်ဝေ တော့ ပြင်သစ်အာဏာပိုင်တွေ (French Authorities) က သိပ်ပြီး စိတ်ဆိုးကြလို့ ဗော်လ်တဲ ပါရီက နောက်တစ်ကြိမ် ထွက်ခွာသွားရပြန်တယ်။

ဗော်လ်တဲဟာ ပြင်သစ်အရှေ့ပိုင်း(Eastern France) က စီရဲ (Cirey) မှာ တစ်ဆယ့်ငါးနှစ်ကြာအောင် နေခဲ့ပါတယ်။ အဲဒီဒေသမှာ မြို့စားကြီးရဲ့ ပညာတတ် ဉာဏ်ထက်မြက်တဲ့ ဇနီး မဒမ် ဒု ရှတလေ (Madame du Chateley) နဲ့ ချစ်သူဖြစ်ခဲ့တယ်။ ၁၇၅၀ ပြည့် ချစ်သူ သေဆုံးပြီး တစ်နှစ်ကြာတဲ့အခါ ဗော်လ်တဲ ပရပ်ရှား (Prussia) က မဟာဖရက်ဒရစ် (Frederick the Great) ကိုယ်တိုင်က ဖိတ်ခေါ်လို့ ဂျာမနီကို သွားတယ်။ ဖရက်ဒရစ်ရဲ့ နန်းမြို့ ပေါ့စ်ဒမ် (Potsdam) မှာ သုံးနှစ် ကြာနေပါတယ်။ အစ ပထမမှာ ဉာဏ်ထက်မြက်ပြီး စာပေကျွမ်းကျင်တဲ့ ဖရက်ဒရစ်နဲ့ ပြေလည်တယ်။ နောက် ရန်ဖြစ်ပြီး ၁၇၅၃ မှာ ဗော်လ်တဲ ဂျာမနီက ထွက်ခဲ့ပါ တယ်။ ဂျာမနီက ထွက်ပြီး ပြင်သစ်မင်း၊ ပရပ်ရှားမင်းတွေရဲ့ ဘေးက လွတ်ကင်းအောင် ဂျီနီဗာ (Geneva) အဦးက ခြံကြီးတစ်ခုမှာ အခြေချနေထိုင်ပါတယ်။ ဒါပေမယ့် သူ့အယူအဆတွေဟာ ရှေ့ရောက်ပြီး ခေတ်ဆန်လွန်းလို့ ဆွစ်ဇာလန် (Switzerland) လို ဒေသမှာတောင် ဒုက္ခရောက် နိုင်တယ်လို့ သိရတာနဲ့ ပြင်သစ်–ဆွစ်ဇာလန် ဖာနေ (Ferney) က ခြံသစ်ကို ဘယ်သူက ရန်လုပ်လုပ် ဘေးလွတ်မယ့်ဘက်ကို ပြေးသာတယ် ဆိုတဲ့ စိတ်ကူးနဲ့ နိုင်ငံနှစ်ခုခြား နယ်စပ်မှာ နေထိုင်ပါတယ်။ အဲဒီမှာ အနှစ်နှစ်ဆယ်ကြာတယ်။ စာပေနဲ့ ဒဿနိက ကျမ်းတွေ အဆက်မပြတ် ရေးတယ်။ ဥရောပတစ်ခွင်ရှိ ဉာဏ်ကြီးရှင်တွေကို စာပေးစာယူ လုပ်တယ်။ မိတ်ဆွေသင်္ဂဟကို ဧည့်ခံ ကျွေးမွေးပြုစုတယ်။ ဒီနှစ်တွေအတွင်းမှာ ဗော်လ်တဲက စာရေးမပျက် ကြိုးစားမှု လျော့နည်းမသွား၊ သူက အံ့ဩစရာ ကောင်းလောက်အောင် ဘက်စုံရတဲ့ စာရေးဆရာ ဖြစ်တယ်။ အခု ဒီစာအုပ်မှာပါတဲ့ စာရေးဆရာတွေထဲမှာ သူက စာအရေးနိုင်ဆုံးဖြစ်ပါတယ်။ အားလုံးချုံကြည့်ရင် သူ့စာကို စာမျက်နှာဂဏန်း ထိုးလိုက်ရင် အစုစုစာမျက်နှာ သုံးသောင်းကျော်ရှိတယ်။ အဲဒီစာတွေထဲမှာ သမိုင်းဝင် အဖြစ်အပျက်ကို ချီးမွမ်းပြီးရေးတဲ့ မဟာကဗျာတွေ၊ စောင်းနဲ့ဆိုတီးရတဲ့ ကဗျာ၊ မိတ်ဆွေချင်း အပြန်အလှန်ရေးတဲ့စာ၊ ဝါဒဖြန့် စာအုပ်ငယ်၊ ဝတ္ထု၊ ဝတ္ထုတို၊ ပြဇာတ်၊ သမိုင်း၊ ဒဿနိကစတဲ့ နက်နဲတဲ့ကျမ်းတွေ ပါဝင်ပါတယ်။

ဗော်လ်တဲရဲ့ စွဲမြဲယုံကြည်ထားတဲ့ အချက်တစ်ခုက သူလည်း သူ့အကြိုက်၊ ငါလည်း ငါ့အကြိုက် ကိုးကွယ် ယုံကြည်မှု ပြုပါစေဆိုတဲ့ ဘာသာရေး သည်းခံချက် ရှိရမယ်ဆိုတဲ့ အချက်ဖြစ်ပါတယ်။ ဒါပေမယ့် အသက်ခြောက်ဆယ်ကျော် ခုနစ်ဆယ်ဘက် နီးတဲ့အခါ ပြင်သစ်မှာ ကြောက်ခမန်းလိလိ ပရိုတက်စတင့် ဂိုဏ်းသားတွေကို အပြစ်ဒဏ်ခတ်တယ်လို့ သူသိရတယ်။ ဒေါသထွက်ပြီး ဉာဏ်ပညာနဲ့ ဘာသာရေး အယူသည်းမှုကို ငါဖယ်ရှား တိုက်ဖျက်မယ်လို့ ဆုံးဖြတ်လိုက်တယ်။ ဘာသာရေး ချုပ်ချယ်မှုကို ဆန့်ကျင်တဲ့ နိုင်ငံရေး လက်ကမ်းစာတွေ အများအပြား ရေးတယ်။ သူ့ကိုယ်ပိုင်စာကို အဆုံးသတ်တဲ့ အခါတိုင်း အပုပ်သတင်း ထွက်လှတဲ့ အခြင်းအရာကို သုတ်သင်ကြလို့ ရေးလိုက် တယ်။ ဗော်လ်တဲအဖို့ အပုပ်နံ့ထွက်တဲ့ကိစ္စက သာသနာ ယုံကြည်မှုနဲ့ ပတ်သက်လာရင် သင့်မသင့် မချင့်ချိန်ပဲ အယူသည်း တာကို ဆိုလိုတယ်။

အသက် ၈၃ နှစ်ရောက်တဲ့ ၁၇၇၈ နှစ်မှာ ဗောလ်တဲ ပါရီကို ပြန်သွားတယ်။ သူရေးတဲ့ အိရန်ပြဇာတ် ရုံသွင်းတဲ့ ပထမပွဲကို သူကိုယ်တိုင် လာကြည့်တယ်။ သူ့ကို ပြင်သစ် ဖျော်ဖြေရေးရဲ့ ဘဘကြီးလို့ ခေါ်ပြီး လူထုကြီးက လက်ခုပ်သြဘာတစ်ခဲနက် တီးတယ်။ ဘင်ဂျမင် ဖရန်ကလင်အပါအဝင် သူ့ကို ကြည်ညို လေးစားသူတွေ သူ့ကိုလာတွေ့ကြတယ်။ အဲဒီအခါ ဗောလ်တဲရဲ့ဘဝနိဂုံးပိုင်းကို ရောက်ပါပြီ။ ပါရီမှာ ၃၀ မေ ၁၇၇၈ နေ့က ကွယ်လွန်သွားပါတယ်။ သူက ပွင့်ပွင့်လင်းလင်း ယုံကြည်မှုကို အသုံးပြုပြီး အယူသည်းတဲ့ အလုပ်တွေကို အတင်းတိုက်ဖျက်တဲ့ လူဖြစ်တယ် ဆိုပြီး ပါရီသင်္ချိုင်းမှာ ခရစ်သာသနာဝင်တွေ ပြုမြဲဝတ်ကိုပြုပြီး မြှုပ်နှံခွင့် မပေးပါ။ တစ်ဆယ့်သုံးနှစ် ကြာတဲ့အခါမှာ သူ့ရုပ်ကြွင်းကို ပြန်ဖော်ပြီး ဂုဏ်ပြုထိုက်သူတွေရဲ့ သင်္ချိုင်း ဖြစ်တဲ့ ပါရီပန်သယံယွန် (Paris Pantheon) မှာ တခမ်းတနား မြှုပ်နှံကြပါတယ်။

ဗောလ်တဲရေးတဲ့ စာတွေများလွန်းလို့ အသေးအဖွဲကို ဖယ်ပြီး အရေးပါတဲ့စာတွေကိုသာ ရေးမယ် ဆိုရင်တောင် ဒီစာတမ်းငယ်မှာ ဖော်ပြရေးသား နိုင်မှာ မဟုတ်ပါ။ သူ့စာကို အကဲဖြတ်ဖို့ စာတမ်း ခေါင်းစဉ်က အရေးမပါပါ။ သူ့စာမှာပါတဲ့ အခြေခံ စိတ်ကူး အယူအဆက သာတယ်။ လက်တွေ့အောင်မြင်အောင် လုပ်ဆောင်နိုင်ကြတယ်။ ဒီမိုကရေစီရဲ့ သဘောထား၊ ယုံကြည်မှု အချုပ်အချယ် ကင်းရှင်းရေး ပညာရှင်တွေ လွတ်လွတ်လပ်လပ် တွေးခေါ်ကြံဆခွင့်တွေ ပြင်သစ်မှာ လူအများ သိရှိအောင် သူတို့အသိမှာ စိမ့်ဝင်သွားအောင် အဲဒီကတဆင့် ဥရောပတစ်တိုက်လုံး ပြန့်သွားအောင် သူက ဆောင်ရွက်ပေးတာ ဖြစ်ပါတယ်။ ဒီဒေရော့၊ ဒလမ်ဘတ်၊ ရူးဆိုး၊ မွန်တေဂူ ဆိုသလို တခြားအရေးပါတဲ့ ကျမ်းပြုဆရာတွေ ရှိပေမယ့် ပြင်သစ်မှာ ဉာဏ်ပွင့်သွားအောင် ဆောင်ရွက်ပေးသူက ထင်ထင်ရှားရှား ဗောလ်တဲဖြစ်ပါတယ်။

ပထမပြောစရာက သူရေးတဲ့ သိပ်ထိမိတဲ့ စာပေ ရေးနည်း၊ သူက အသက်ရှည်ရှည် နေပြီး မပြတ်ကြိုးစား ရေးသား ဖြန့်ဝေ နေတဲ့အချက်နဲ့ သူ့လက်ရာဟာ သိပ်များပြားတော့ လူပရိသတ်အများ သိရှိအောင် လုပ်သူဟာ သူပဲဖြစ်လာပါတယ်။ ဒုတိယ ပြောစရာ အချက်ကတော့ ဉာဏ်ပွင့်လင်းမှုမှာ သူ့စိတ်ကူးကို မှီပြီး ဖြစ်ပေါ် လာတာတွေက များတယ်။ တတိယ အချက်ကတော့ ဗောလ်တဲဟာ တခြား ခေါင်းဆောင်တွေ ထက် သူပေါ်ပေါက် ရောက်ရှိလာတာ အများကြီးစောတယ်။

မွန်တေဂူရဲ့ကျမ်းကြီး 'ဥပဒေရဲ့ဂုဏ်သတ္တိ' ဟာ ၁၇၄၈ မှ ပေါ်တယ်။ စွယ်စုံကျမ်း ပထမတွဲက ၁၇၅၁ မှ ပေါ်တယ်။ ရူးဆိုးရဲ့ ပထမအစမ်းစာက ၁၇၅၀ ရောက်မှ ရေးဖြစ်တယ်။ ဒါတွေနဲ့ယှဉ်ကြစို့ဆိုရင် ဗောလ်တဲရဲ့ အင်္ဂလိပ် အကြောင်းစာအုပ်က ၁၇၃၄ မှာပေါ်လာပြီး အဲဒီအခါကပဲ သူထင်ရှား ကျော်ကြားနေတာ တစ်ဆယ့်ခြောက်နှစ် ရှိနေပါပြီ။ ဗောလ်တဲစာတွေထဲက ဝတ္ထုကို 'ပြောင်ပြောမယ်' ကလွဲရင် အခု ပြန်ဖတ်တဲ့လူ မရှိပါ။ ဒါပေမယ့်

တစ်ဆယ့် ရှစ်ရာစုနှစ်က အနှံ့အပြား ဖတ်ကြတယ်။ ဒါကြောင့် ဗောလ်တဲဟာ ပြင်သစ်တော်လှန်ရေးလို့ ကြီးကျယ်တဲ့ အတွေးအခေါ်ရာသီဥတုကို ပြောင်းပေးနိုင်တဲ့ ကိစ္စမှာ သိပ်အရေးပါတဲ့နေရာက ပါဝင် ကပြနိုင်သူ ဖြစ်ပါတယ်။ သူ့ဩဇာဟာ ပြင်သစ်မှာသာ သက်ရောက်တာ မဟုတ်ပါ။ အမေရိကရှိ သောမတ်စ် ဂျက်ဖာဆင်၊ ဂျိမ်းစ် မက်ဒီဆင်နဲ့ ဘင်ဂျမင် ဖရန်ကလင်တို့ဟာ သူ့စာတွေကို ဖတ်တယ်။ ဗောလ်တဲရဲ့စိတ်ကူးဟာ အမေရိကနိုင်ငံရေး အစဉ်အလာရဲ့ တစ်စိတ်တစ်ပိုင်း ဖြစ်လာပါတယ်။

18, August, 2001.

# (၇၅) ဂျိုဟဲန်နက်စ် ကက်ပလာ (၁၅၇၁ – ၁၆၃၀)

## JOHANNES KEPLER (1571 – 1630)

ကောင်းကင်က ဂြိုဟ်သွားဂြိုဟ်လာ လမ်းကြောင်း တွေကို တွက်ချက်မှတ်သားနည်း ဖော်ထုတ်နိုင်သူ ဂျိုဟဲန်နက်စ် ကက်ပလာကို ဂျာမနီ ဝဲလ်ဒါစတတ် (Welder Stadt) မြို့မှာ ၁၅၇၁ က မွေးဖွားပါတယ်။ အဲဒီနှစ်ဟာ ကော်ပါးနီကပ်စ်က ကောင်းကင်က ဂြိုဟ်တွေဟာ မြေကမ္ဘာကိုပတ်ပြီး လှည့်လည် သွားလာနေတာ မဟုတ်၊ နေကိုသာ လှည့်ပတ်နေတာ ဆိုတဲ့ သီအိုရီကို တင်ပြတဲ့ ဂြိုဟ်တို့လှည့်ပတ်လမ်း (De revolutionibus Orbium coelestium) စာအုပ်ကို ပုံနှိပ်ထုတ်ဝေ ဖြန့်ချိတဲ့နောက် နှစ်ဆယ့်ရှစ်နှစ်ကြာ ဖြစ်ပါတယ်။

ကက်ပလာဟာ တုဗင်ဂျဲန် (Tubingen) တက္ကသိုလ်က ဝိဇ္ဇာဘွဲ့ကို ၁၅၈၈ မှာ ရတယ်။ နောက်သုံးနှစ် အကြာမှာ မဟာဝိဇ္ဇာဘွဲ့ကိုရတယ်။ အဲဒီအခါက သိပ္ပံပညာရှင် အများစုက ကော်ပါးနီကပ်စ်ရဲ့ နေဟာ ဗဟိုချက် ဆိုတဲ့ သီအိုရီကို လက်မခံပါ။ ဒါပေမယ့် ကက်ပလာက တုဗင်ဂျဲန်မှာ ကျောင်းတက်တုန်းက နေသာ ဗဟိုဆိုတဲ့ အဆိုမူကြမ်း ယုတ္တိရှိရှိ ရှင်းလင်းချက်ကို ကြားရဖူးလို့ ဒီအဆိုကို လက်ခံ ယုံကြည်ခဲ့ပါတယ်။ တုဗင်ဂျဲန်က ထွက်လာပြီး ကက်ပလာဟာ ပါမောက္ခ ရာထူးနဲ့ ဂရာ့ဇ် (Graz) အကယ်ဒမီမှာ နှစ်တွေ အကြာကြီး အမှုထမ်းခဲ့ပါတယ်။ အဲဒီမှာနေစဉ်က (၁၅၉၆ မှာ) နက္ခတ်ဗေဒ ပထမကျမ်းတစ်အုပ်ကို ရေးသား ခဲ့တယ်။ အဲဒီတုန်းက ကက်ပလာ ဖော်ထုတ်တဲ့ သီအိုရီဟာ လုံးဝမှားတယ်။ ဒါပေမယ့် ဒီကျမ်းမှာပဲ ကက်ပလာဟာ သင်္ချာဉာဏ်ကြီးတယ်။ ပင်ကိုဉာဏ်နဲ့ တွေးတောကြံဆနိုင်တယ်ဆိုတဲ့ အရည်အချင်းတွေကို တွေ့ရှိရပါတယ်။ ကျော်ကြားတဲ့ နက္ခတ်ဗေဒဆရာ တိချိုဗြဟဲ (Tycho Brahe) က ပရပ်မြို့ကြီးမှာရှိတဲ့ သူ့နက္ခတ်မျှော်စင်မှာလာပြီး သူ့လက်ထောက် အဖြစ်နဲ့ အလုပ်လုပ်ဖို့ ခေါ်ပါတယ်။ ကက်ပလာက ဖိတ်ကြားချက်ကို လက်ခံပြီး ဇန်နဝါရီ ၁၆၀၀ မှာ တိချိုဆီ သွားရောက် အလုပ်ဝင်ပါတယ်။ တိချို နောက်တစ်နှစ်မှာ ကွယ်လွန်တယ်။ ကက်ပလာ ရောက်လာပြီး သူ့အစွမ်းအစကို မြင်တွေ့ကြရလို့ ကျေနပ်လို့ မွန်မြတ်တဲ့ ရောမ လက်နက်နိုင်ငံတော်ရဲ့ ဧကရာဇ် အရှင် ဒုတိယ ရူဒေါ့ဖ်က ချက်ချင်း တိချိုရဲ့ နေရာကို ဆက်ခံပါဆိုပြီး လက်နက် နိုင်ငံတော်ကြီးရဲ့ သင်္ချာပညာရှင် အဖြစ်

ခန့်ထားတယ်။ ဒီရာထူးနဲ့ ကက်ပလာ ကွယ်လွန်တဲ့အထိ အမှုတော်ကို ထမ်းရွက်သွားပါတယ်။

တိချိုဗြဟဲကို ဆက်ခံသူဖြစ်လို့ ကက်ပလာက တိချို နှစ်ပေါင်း များစွာ စောင့်ကြည့်မှတ်သားခဲ့တဲ့ ဂြိုဟ်နေ ဂြိုဟ်သွား ဂြိုဟ်ပြောင်း မှတ်တမ်းကို ကြည့်ရှု လေ့လာ သုံးစွဲခွင့်ရပါတယ်။ တိချိုဟာ ကောင်းကင်ကြည့်မှန်ပြောင်း မပေါ်မီက အတော်ဆုံး နက္ခတ္တဗေဒ ပညာရှင်ဖြစ်တယ်။ နက္ခတ်တွေ သွားလာပုံကို မှတ်တဲ့နေရာမှာလည်း သူ့လို သေချာတဲ့လူ၊ တော်တဲ့လူ အရင်က မရှိဖူးပါ။ သူ့မှတ်တမ်းတွေက တန်ဖိုး မဖြတ်နိုင်အောင် ကောင်းပါတယ်။ တိချိုရဲ့ မှတ်တမ်းတွေကို သင်္ချာနည်းနဲ့ စနစ်တကျ စစ်ဆေးလိုက်ရင် ဂြိုဟ်သွား ဂြိုဟ်လာနဲ့ ပတ်သက်လို့ ကောပါးနိကပ်စ် ပြောသလို နေက ဗဟိုချက်လား၊ တော်လမီ ပြောသလို ကမ္ဘာမြေက ဗဟိုချက်လား၊ တိချိုရဲ့ ကိုယ်ပိုင် ယူဆချက်လား၊ ဒီသုံးမျိုးမှာ ဘယ်ဟာ အမှန်လဲဆိုတာ သူက အဖြေပေး နိုင်လိမ့်မယ်လို့ မျှော်လင့်တယ်။ အဲဒီလို နှစ်ပေါင်း များစွာ အပင်ပန်းအဆင်းရဲခံပြီး သင်္ချာတွက်တဲ့အလုပ်ကို လုပ်ပါတယ်။ ကက်ပလာ စိတ်ပျက်မိတာက တိချို လေ့လာထားတဲ့ မှတ်တမ်းတွေက အပေါ်ကပြောတဲ့ မူသုံးခုထဲက ဘယ်သူနဲ့မှ မတိုက်ဆိုင်ပါ။

အဲဒီလို ကြိုးစားပြီး အလုပ် ဆက်လုပ်တော့မှ ပြဿနာရဲ့ သဘောကို ရိပ်စားမိလာတယ်။ သူ့အပါအဝင် တိချိုဗြဟဲ၊ ကောပါးနိကပ်စ်တို့နဲ့ ရှေ့အထက်က နက္ခတ္တဗေဒ ဆရာ အားလုံးဟာ ဂြိုဟ်တွေ လှည့်ပတ် သွားလာနေတာကို စက်ဝန်းနဲ့ စက်ဝန်းဆက်တိုက် လှည့်တယ်၊ ပြီးရွေ့လျားတယ်လို့ ထင်တယ်။ အခု သူတွေ့တာက ဒင်္ဂါးကွင်းပုံ မဟုတ်၊ ဘဲဥကွင်း ပုံရွေ့လျားတာ ဖြစ်နေတယ်။

အခုပြောသလို အခြေခံသဘောကို သိလို့ ကက်ပလာက လပေါင်းများစွာ ရှုပ်ထွေးပြီး ငြီးငွေ့စရာ ကောင်းတဲ့ တွက်ပြင်တွေကို ဆက်တွက်တဲ့အခါ သူ့ထင်မြင်ချက်ကို တိချိုရဲ့ မှတ်တမ်းတွေနဲ့ တိုက်ဆိုင်ပြီး မှန်တယ်လို့ သက်သေပြလာနိုင်ပါတယ်။ သူရေးတဲ့ အဖိုး အထိုက်တန်ဆုံး နက္ခတ်ဗေဒသစ် ကျမ်းကို ၁၆၀၉ ခုနှစ်က ပုံနှိပ် ဖြန့်ဝေပါတယ်။ အဲဒီကျမ်းမှာ ဦးစွာပထမ ဂြိုဟ်သွားလမ်း ဆိုင်ရာ ဥပဒေ နှစ်ချက်ကို တင်ပြပါတယ်။

ပထမဥပဒေက ဂြိုဟ်တစ်ခုဟာ နေကို အလယ်မှာ ထားပြီး လှည့်ပတ်တဲ့အခါ လှည့်တဲ့ လမ်းကြောင်းဟာ ဘဲဥပုံ ဖြစ်တယ်။ ဒုတိယ ဥပဒေက ဂြိုဟ်ဟာ နေနဲ့ နီးတဲ့အခါ လှုပ်ရှားတဲ့နှုန်းက ပိုမြန်တယ်။ ဂြိုဟ်နဲ့နေ ကွာတဲ့ အလိုက် အချိန်ရဲ့ အနှေးအမြန်လည်း ကွာတယ်။ နောက် ဆယ်နှစ်ကြာတော့ ကက်ပလာက တတိယ ဥပဒေကို ဖော်ထုတ်ပြန်တယ်။ ဂြိုဟ်နဲ့နေ ကွာသလောက် လှည့်ပတ်နှုန်းဟာ နှေးသွားတယ်။ လှည့်ပတ်ချိန်ရဲ့ စတုရန်းဟာ နေနဲ့အကွာအဝေးရဲ့ ကုဗ (Cube) နဲ့ ဆတူဖြစ်တယ်။ ကက်ပလာရဲ့ဥပဒေတွေက နေကို ဂြိုဟ်တွေက ပတ်ပုံ အတိအကျ မှန်ကန် ပြည့်စုံအောင် ရှင်းပြနိုင်ပါတယ်။ နက္ခတ်ဗေဒရဲ့ အရေးအကြီးဆုံး ပြဿနာကို ရှင်းပေးတာဖြစ်တယ်။ အထက်က

ကော်ပါးနိကပ်စ်နဲ့ ဂယ်လီလီယိုတို့လို အင်မတန် ပညာပါရမီထူးတဲ့ ပုဂ္ဂိုလ်တွေတောင် မရှင်းနိုင်ပါ။ ကက်ပလာက ဘာကြောင့် ဂြိုဟ်တွေကနေကို ဘဲဥပုံ လမ်းကြောင်းယူပြီး ပတ်နေပါသလဲဆိုတာကိုတော့ ရှင်းမပြပါ။ နောက် ၁၇ ရာစုနှစ်ထဲမှာပဲ အိုက်ဆက် နယူတန်က ရှင်းပြနိုင်ပါတယ်။ ဒါပေမဲ့ နောက်လူက ရှင်းနိုင်ဖို့ ကက်ပလာရဲ့ ဥပဒေတွေက နယူတန်ရဲ့ စုပေါင်း စပ်ဟပ်ပြီးပေးတဲ့ အဖိုးတန် အဖြေအတွက် အရေးကြီးတဲ့ လမ်းစ ဖြစ်ပါတယ်။ (လူတကာထက် ငါက ပိုမြင်တယ်ဆိုတာ ငါက ရောမလူကြီးတွေရဲ့ပခုံးပေါ် တက်ထိုင်မိလို့ဖြစ်တယ်လို့ ပြောဖူးတယ်။ သူပြောတဲ့ ရောမလူကြီးတွေထဲမှာ ကက်ပလာလည်း ပါတာပေါ့။) ကက်ပလာက နက္ခတ်ဗေဒကို အသိပညာဖြည့်စွက်ပေးပုံကို ခိုင်းနှိုင်းရရင် ကောပါးနိကပ်စ် ဖြည့်စွက်ပေးပုံနဲ့ နီးစပ် ပါတယ်။ အမှန်ကတော့ ကက်ပလာကတောင် ပိုသေးတယ် ထင်ရပါတယ်။ သူက (ဘယ်သူ့ လက်ရင်းလက်ငုတ်ကို ဆက်လုပ်တာ မဟုတ်) သူပိုင် တွေးခေါ်ကြံဆတယ်၊ သင်္ချာနဲ့ဆိုင်တဲ့ အခက်အခဲကြီး တွေကိုလည်း သူတစ်ယောက်တည်း ရှင်းတယ်။ အဲဒီခေတ်အခါက သင်္ချာ နည်းတွေကလည်း ခုလောက် ပြည့်စုံကောင်းမွန်သေးတာ မဟုတ်ပါ။ ဂဏန်းပေါင်းစက် တွေရှိရင် ကက်ပလာအဖို့ ပိုပြီး အဆင်ပြေနိုင်ပါတယ်။

ကက်ပလာ ခုလောက်ကြိုးစားပေမယ့် သူ့အစွမ်းကို လူတွေက အစ ပထမမှာ မသိသလို ဂရုမစိုက် သလို ဖြစ်ခဲ့တယ်။ ဂယ်လီလီယိုလို သိပ္ပံပညာရှင်ကြီး ကတောင် မသိကျိုးကျွန်ပြုနေတယ်။ (မသိသ လိုသာနေတယ်၊ သူနဲ့ကက်ပလာတို့ စာပေးစာယူ အဆက်အသွယ်ရှိတယ်။

ကက်ပလာ လုပ်ထားတာကို သူယူသုံးရင် တော်လောမီ သီအိုရီကို သူလည်း ပြင်ပေးနိုင်မှာ ဖြစ်တယ်။) ဒီလို တခြားလူတွေ မထီမဲ့မြင် နေကြပေမယ့် ကက်ပလာ ကိုယ်တိုင်က သူ့အသစ်တွေ့ရှိချက်ဟာ သိပ်တန်ဖိုး ရှိတယ်ဆိုတာ သိပါတယ်။ ဝမ်းသာလွန်းလို့ စာတစ်စောင်ကို ဒီလို သူကိုယ်တိုင် ရေးပါတယ်။

> ‘ကျွန်တော်လည်း ကိုယ့်ဘာသာ အထူးပျော်မိတယ်။ စာအုပ်လည်း ရေးပြီးပြီ။ ရှယ်တူတွေ ဖတ်သလို နောက်လူတွေလည်း ဖတ်ကြမှာပါ။ ဖတ်ဖတ်၊ မဖတ်ဖတ် ဂရုစိုက်စရာ မလိုပါ။ နှစ်တစ်ရာကြာမှ ဖတ်မယ့်လူ တစ်ယောက်ပေါ်ပါစေ၊ ဘုရားသခင်က ဖန်ဆင်းခဲ့တာတွေကို လူတစ်ယောက်ယောက်က နားလည်ဖို့ နှစ်ခြောက်ထောင် စောင့်ရတယ် မဟုတ်ဘူးလား’

တဖြည်းဖြည်း အနှစ်လေးငါးဆယ် ဆိုသလို ကြာလာတော့မှ သိပ္ပံကမ္ဘာက ကက်ပလာ ဖော်ထုတ်တဲ့ ဥပဒေတွေရဲ့ တန်ဖိုးကို သိလာပါတယ်။ တစ်ဆယ့်ခုနစ် ရာစုနှစ်နောက်ပိုင်းမှာ နယူတန် ပြောနေတဲ့ သဘောတရားတွေကို ကက်ပလာရဲ့ ဥပဒေတွေက ထုတ်ယူလို့ ရနိုင်တယ်လို့ ပြောလာကြတယ်။ တစ်မျိုး ပြောရရင် နယူတန်ရဲ့ လှုပ်ရှားမှု သဘောတရား ဆိုတဲ့ ဆွဲငင်အား ဥပဒေဟာ ကက်ပလာရဲ့

ဥပဒေ တွေထဲမှာ ပါပြီး ဖြစ်ပါတယ်။ နယူတန် ခုလို ဖော်ထုတ် နိုင်တာ သင်္ချာနည်းတွေ တိုးမြင့် လာလို့ဖြစ်တယ်။ ကက်ပလာခေတ်က အခုလောက် မတိုးတက်သေးလို့ ကက်ပလာမှာ သူကိုယ်တိုင် ထိုးထွင်းဉာဏ်နဲ့ ဂြိုဟ်တွေကို နေက ထုတ်လွှတ်တဲ့ အားတွေ ချုပ်ကိုင်ထားတယ်။ နေခိုင်းသလို ဂြိုဟ်တွေက သွားရတယ်လို့ ပြောခဲ့တာ ဖြစ်ပါတယ်။ ဂြိုဟ်သွားဂြိုဟ်လာကို ဥပဒေ လုပ်ပေးသလို ကက်ပလာက နက္ခတ်ဗေဒဆိုင်ရာ တခြား အသိပညာ လေးတွေကိုလည်း ဖော်ထုတ်ပေးပါသေးတယ်။ အမြင်အာရုံနဲ့ ပတ်သက်တဲ့ အရေးပါတဲ့ သဘောတရား တချို့ကို ပြောပါတယ်။ သူအသက်ကြီးလာတော့ နည်းနည်း လူမှုပြဿနာ များလာတယ်။ ဂျာမနီက နှစ်သုံးဆယ်ထဲမှာ ဒုက္ခရောက်နေတော့ လူတစ်ဦးချင်းလည်း ဒီဒုက္ခကို ရင်မဆိုင်ရတဲ့လူ မရှိနိုင်ပါ။

ပြဿနာတစ်ခုက သူ့ကိုပေးမယ့် လစာရိက္ခာကို ဘယ်မှာ သွားထုတ်ရပါ့မလဲဆိုတဲ့ ပြဿနာဖြစ်ပါတယ်။

ခေတ်ကောင်းချိန်တုန်းကလည်း မွန်မြတ်တဲ့ ရောမ အင်ပါယာ အရှင်ဧကရာဇ်က လစာရိက္ခာအပေး လက်နှေးတယ်။ စစ်ဒုက္ခကြုံတဲ့အခါ လစာမှန်မှန် မပေးတတ်ပါ။ ကက်ပလာမှာ အိမ်ထောင် နှစ်ကြိမ်ပြုပြီး ကလေး တစ်ဆယ့်နှစ်ယောက်ရှိတော့ ငွေကြေး အကျပ်အတည်းက ပိုပြီးဆိုးပါတယ်။ နောက်ပြဿနာက သူ့မိခင်နဲ့ ဆိုင်တယ်။ ၁၆၂၀ ပြည့်မှာ အမေအိုကို စုန်းမလို့ စွပ်စွဲပြီး ဖမ်းတဲ့ အနှိပ်စက်၊ အသတ်ဖြတ်လွတ်အောင် ကက်ပလာက အများကြီး ကြိုးစားရပါတယ်။

ကက်ပလာဟာ ဗာဘေးရီးယား ရေဂျဲန်စ်ဘာ့ဂ် (Regensburg) မှာ ၁၆၃၀ ပြည့်နှစ်က ကွယ်လွန် သွားပါတယ်။ နှစ်သုံးဆယ် စစ်ဒုက္ခတွင်းမို့ သူ့သင်္ချိုင်း ဖျက်ဆီး ခံရတယ်။ ဒါပေမယ့် သူ့ဂြိုဟ်သွားဂြိုဟ်နေ ဥပဒေတွေဟာ သူ့ကို အောက်မေ့ သတိရစရာ ကျောက်နဲ့လုပ်တဲ့မှတ်တိုင်ထက် ပိုပြီးခိုင်မာတဲ့ အထိမ်းအမှတ်တွေ ဖြစ်ပါတယ်။

18, August, 2001.

# (၇၆) အဲန်ရီကိုဖာမီ (၁၉၀၁ – ၁၉၅၄)

# ENRICO FERMI (1901 – 1954)

အဏုမြူခ‌ောတ်ပေါင်းအိုး (nuclear reactor) ပထမဆုံး ပုံစံထုတ်သူ အဲန်ရီကိုဖာမီ (Enrico Fermi) ကို အီတလီ (Italy) ရောမ (Rome) မှာ ၁၉၀၁ ခုက မွေးတယ်။ တော်တော့်ကို စာတော်တဲ့ကျောင်းသားဖြစ်လို့ ရူပဗေဒပါရဂူ (Ph.D) ဘွဲ့ကို အသက် ၂၁ နှစ်မပြည့်မီက ပီစ (Pisa) တက္ကသိုလ်က ရခဲ့ပါတယ်။ အသက် ၂၆ နှစ်မှာ ရောမ တက္ကသိုလ် အချိန်ပြည့်ပါမောက္ခ ဖြစ်တယ်။ အဲဒီအခါမှာ သူက အရေးပါအရာရောက်တဲ့ စာတမ်း တစ်ခုကို ရေးသား ဖြန့်ဝေပြီး ဖြစ်တယ်။ စာတမ်းက ရူပဗေဒဘာသာရဲ့ လက်စွဲဘာသာရပ် တစ်ခုဖြစ်တဲ့ ကွမ်တမ်စာရင်းအင်းပညာ (quantum statistics) ဖြစ်တယ်။ အဲဒီစာတမ်းမှာ ဖာမီ (Fermi) ကနေ ဖာမီရွန် (Fermion) ခေါ်တဲ့ အမှုန်ရဲ့ သဘော သဘာဝကို စာရင်းလုပ်ကြည့်တဲ့ အကြောင်း ပါတယ်။ အီလက်ထရွန် (electron)၊ ပရိုတွန် (proton) နဲ့ နယူထရွန် (neutron) ဆိုတဲ့ ‘အုတ်သုံးချပ်’ ဟာ ဖာမီရွန် (fermion) ဖြစ်တယ်။ ဖာမီ (Fermi) ရဲ့ ညီမျှခြင်းကြောင့် ကျွန်တော်တို့ အဏုမြူ (Atom) ရဲ့နျူကလိယပ်စ် (nucleus) ဖွဲ့စည်းပုံကို သိခွင့်ရပါတယ်။ ယိုယွင်းလိုက်တဲ့ ဝတ္ထုပစ္စည်းရဲ့ ဖြစ်တတ်ပုံကိုလည်း သိရတယ်။ သတ္တုတွေရဲ့ ဖွဲ့စည်းပုံနဲ့ ပြောင်းလဲပုံကိုလည်း မြင်သာတယ်။ ဒါတွေ အားလုံးဟာ လက်တွေ့မှာ အသုံးဝင်တဲ့ အကြောင်းအရာ တွေပဲ ဖြစ်ပါတယ်။

၁၉၃၂ မှာ ဗြိတိသျှ (British) ရူပဗေဒဆရာ ဂျိမ်းစ်ချတ်ဝစ် (James Chadwict) က နယူထရွန် (neutron) ဆိုတဲ့ အဏုမြူစိပ် (subatron) အသစ်တစ်ခုကို တွေ့တယ်။ ၁၉၃၄ ကစပြီး ဖာမီက နယူထရွန်နဲ့ သိဖူးသမျှ ဓာတုဒြပ်စင်တွေကို အပြင်းအထန် ဝေဖန်ပါတယ်။ သူက စမ်းသပ်ချက်တွေ လုပ်ပြီး အဏုမြူတွေမှာ နယူထရွန်ကို ငုံပြီးသားဖြစ်တယ်။ နျူကလိယပ်စ် ပုံပြောင်းရင် ရေဒီယိုသတ္တိကြွ (radioactive) တယ်။ နယူထရွန်က အဏုမြူနျူကလိယပ်စ်ကို ထိုးဖောက်ရာမှာ နယူထရွန်က အလျင်အမြန် လှုပ်ရှားနေရင် လွယ်တယ်လို့ ထင်ကြတယ်။ ဖာမီက မလွယ်ဘူးလို့ ပြောပါတယ်။ လွယ်စေချင်ရင် အလျင်အမြန် လှုပ်ရှားနေတဲ့ နယူထရွန်ကို ဖယောင်း/ရေ ကို ဖြတ်သွားစေမှ အရှိန်နှေးမယ်။ ဒီတော့မှ အဏုမြူထဲကို သွတ်သွင်းလို့ လွယ်တယ်လို့ ဆိုပါတယ်။ ဖာမီရဲ့ တွေ့ရှိချက်ဟာ နျူကလိယပ်စ် ဓာတ်ပေါင်းအိုး တည်ဆောက်ရာမှာ ထည့်သွင်းသုံးစွဲရတဲ့အတွက် အများကြီး အရာရောက်တဲ့ တွေ့ရှိချက် ဖြစ်ပါတယ်။ ဓာတ်ပေါင်းအိုးမှာ နယူထရွန်ကို နှေးအောင် လုပ်တာကို အနှေးပြုပစ္စည်း (moderator) လို့

ခေါ်ပါတယ်။

၁၉၃၈ မှာ ဖာမိက နယူထရွန်ကို အလွတ် သွတ်သွင်း နိုင်အောင် သုတေသနပြုတဲ့ အတွက် ရူပဗေဒနိုဘယ်လ်ဆု (Novel Prize) ပေးတယ်။ ဒီအတောအတွင်းမှာ အီတလီမှာ ဘေးအန္တရာယ် အများကြီးကို ရင်ဆိုင်နေရချိန် ဖြစ်ပါတယ်။ ဖာမိရဲ့ဇနီးက ဂျူးအနွယ်ဝင် (Jewish) ဖြစ်တယ်။ အီတလီ အစိုးရက ပြင်းထန်တဲ့ ဆဲမိတစ် ဆန့်ကျင်ရေး ဥပဒေတွေ (Anti–Semitic Law) ထုတ်ပြန်နေတယ်။ အဲဒီအတွက် ဖာမိ အိမ်ထောင်ရေးကို ထိခိုက်နိုင်တယ်။ ဒုတိယ အခက်အခဲက ဖာမိက ဖက်ဆစ်ဆန့်ကျင်ရေးကို အပြင်းလုပ်တယ်။ အာဏာရှင် မူဆိုလီနီ (Mussolini) လက်ထက်မှာ ဒီလိုသဘောရှိရင် ဒုက္ခကြီးကြီးကျယ်ကျယ် တွေ့နိုင်တယ်။ ဒီဇင်ဘာ ၁၉၃၈ မှာ နိုဘယ်လ်ဆုယူဖို့ စတော့ဟုမ်း (Stockholm) ကို သွားရပြီးနောက် ဖာမိက အီတလီကို ပြန်မလာတော့ပါ။ နယူးရောက် (New York) ကိုသွားပြီး ကိုလမ်ဘီယာ တက္ကသိုလ် (Columbia University) ကလည်း ကမ္ဘာ့အတော်ဆုံး သိပ္ပံပညာရှင်ကို ရလို့ ဝမ်းသာအားရနဲ့ အလုပ်ပေးပါတယ်။ ဖာမိက ၁၉၄၄ မှာ အမေရိက ပြည်ထောင်စုသား (US citizen) အဖြစ် ခံယူခဲ့ပါတယ်။ လိုက်စ်မေ့တ်တနာ (Lise Meitner)၊ သြတိုဟန်း (Otto Hahn) နဲ့ ဖရစ်ဇ်စထရက်စ်မန် (Frits Strassmann) တို့က နယူထရွန်ကို ပေါင်းစပ်တဲ့အခါ တစ်ခါတစ်ရံ ယူရေနီယံအဏုမြူ (Uranium Atom) ကို မျိုးပွားစေတယ်လို့ ပြောလိုက်တဲ့အခါ ဖာမိက (တခြားရူပဗေဒဆရာတွေလို) ချက်ချင်း သိလိုက်တာက မျိုးပွားတဲ့ ယူရေနီယံအဏုမြူ (Uranium Atom) ဟာ ဆက်တိုက် တုံ့ပြန်မှုတွေ ဖြစ်နိုင်တဲ့ နယူထရွန်တွေကို ပေါ်ပေါက် လာစေနိုင်တယ်ဆိုတဲ့ အချက်ဖြစ်ပါတယ်။ အဲဒါအပြင် ဖာမိဟာ (တခြားဆရာတွေလိုပဲ) ဒီလို ဆက်တိုက်ပြန့်ပွားခြင်းကို စစ်ရေးစစ်ရာမှာ ယူနိုင်တယ်လို့ ကြိုတင် သိရှိလိုက်ပါတယ်။ မတ် ၁၉၃၉ မှာ ဖာမိနဲ့ အမေရိကပြည်ထောင်စု ရေတပ်တို့ ဆက်သွယ်ပြီး အဏုမြူ လက်နက်လုပ်ဖို့ ကြံစည်ကြပါတယ်။ အဲဒီနောက် လပေါင်းများစွာကုန်လွန်ပြီးမှ အယ်လဘတ် အိုင်စတိုင်း (AlbArt Einstein) က သမ္မတရုစဗဲ့ (Roosevelt) ကို စာရေးပြီး အကြောင်းကြားမှ အမေရိကပြည်ထောင်စု အစိုးရက အဏုမြူအား ကိစ္စမှာ စိတ်ပါဝင်စားလာပါတယ်။ အမေရိကန်အစိုးရပါလာတဲ့အခါရောက်မှ အလိုအလျောက် ဆက်တိုက် တုံ့ပြန်ချက်ဟာ တကယ်ဖြစ်နိုင်သလား ဆိုတာကို သိပ္ပံပညာရှင်တွေက ရှေ့ပြေးအဏုမြူစု ကြည့်ရပါတယ်။ အဲန်ရီကိုဖာမိက နယူထရွန်မှာ ကမ္ဘာ့ရှေ့ဆောင် အပိုင်နိုင်ဆုံး ပညာရှင်ဖြစ်လေတော့ သူ့ကိုပဲ စာသဘောအသိနဲ့ လက်တွေ့ဟုတ်မဟုတ် စမ်းသပ်ချက်တွေကို ဆောင်ရွက်ဖို့ ကမ္ဘာ့ပထမဆုံး နျူကလိယပ်စ် ဓာတ်ပေါင်းအိုးကို လုပ်ခိုင်းတယ်။ သူက ပထမ ကိုလမ်ဘီယာ တက္ကသိုလ်၊ နောက် ချီကာဂို (Chicago) တက္ကသိုလ်ကို ပြောင်းလာခဲ့တယ်။ ချီကာဂိုမှာ ၂ ဒီဇင်ဘာ ၁၉၄၂ မှာ ဖာမိ တီထွင်ဆောက်လုပ်တဲ့ ဓာတ်ပေါင်းဖိုဟာ အောင်မြင်စွာ စတင်အလုပ်လုပ်ပါတယ်။ အဲဒီရက်ဟာ လူသားတွေ နျူကလီးယား ဆက်တိုက် တုံ့ပြန်မှုကို ကောင်းကောင်း လုပ်တတ်လို့ အဏုမြူခေတ် (the atomic age)

စတဲ့ရက်ဖြစ်ပါတယ်။ စမ်းသပ်ချက် အောင်မြင်တဲ့အခါ (ချီကာဂို Chicago က) အရှေ့ဝါရှင်တန် (Washington) ကို လျှို့ဝှက်စကား နိမိတ်ဖတ်စကားမျိုးနဲ့ **“အီတလီသားရေတပ်ကလူဟာ ကမ္ဘာသစ်ကိုဝင်ခဲ့ပြီးပြီ”** (သမ္မတနေတဲ့ အမေရိက အရှေ့ဘက်ကမ်းကို အမေရိက အလယ်ပိုင်းကနေပြီး) သတင်းပို့လိုက်ပါတယ်။ ဒီလိုစမ်းသပ်အောင်မြင်ပြီ ဆိုတော့ ရှေ့ဆက်ပြီး အလျင်အမြန် ဆောင်ရွက်ပါလို့ မန်ဟတ္တန်စီမံကိန်း (Manhattan Project) ကို စတင်တယ်။ ဖာမိဟာ သိပ္ပံအကြံပေး ခေါင်းဆောင် အဖြစ်နဲ့ အရေးပါတဲ့နေရာက ဆက်လက် အမှုထမ်းရပါတယ်။

စစ်ပြီးတော့ ဖာမိကို ချီကာဂိုတက္ကသိုလ် (Chicago University) မှာ ပါမောက္ခရာထူးနဲ့ ဆက်လက် ထမ်းရွက် စေပါတယ်။ ၁၉၅၄ မှာ ကွယ်လွန်သွားပါတယ်။ အိမ်ထောင် ရှိတယ်။ သားသမီး ၂ ယောက်။ ဓာတုဒြပ်စင် အမှတ် ၁၀၀ ဖာမိယမ် (Fermium) ဆိုတာ သူ့ကိုဂုဏ်ပြုမှည့်တဲ့ နာမည် ဖြစ်ပါတယ်။ ဖာမိဟာ အရေးပါတဲ့ ပုဂ္ဂိုလ် ဖြစ်တယ်လို့ ဖော်ထုတ် ပြောဆိုနိုင်တဲ့ အကြောင်းအချက် အများကြီး ရှိပါတယ်။ ပထမဆုံး ပြောစရာက သူဟာ ၂၀ ရာစုနှစ်ရဲ့ အဆင့် အမြင့်ဆုံး ထိပ်တန်းရှေ့ဆောင် သိပ္ပံပညာရှင် ဖြစ်တာကို ဘယ်သူမှ မငြင်းနိုင်ပါ။ ဒီလိုပဲ သူဟာ အသိမှာရော လက်တွေ့မှာပါ ရှေ့ဆောင်ပုဂ္ဂိုလ်တစ်ဦး ဖြစ်တယ်။ သူ့အစွမ်း နည်းနည်းကလေးပဲ အခု ဒီစာအုပ်မှာ ဖော်ပြထားတာပဲ။ သူ့တစ်သက်မှာ သူ့စာတမ်း အားလုံး ၂၅၀ ကျော်ရှိတယ်။

ဒုတိယ ပြောစရာက ဖာမိဟာ အဏုမြူဗုံး ထုတ်လုပ်ရေးမှာ တခြားသူတွေ အရေးပါသလို သူလည်း သိပ်အရေးပါတဲ့ ပုဂ္ဂိုလ်တစ်ယောက် ဖြစ်တယ်။ ဖာမိရဲ့ အရေးပါပုံကို အချုပ်ပြောရရင် နျူကလီးယား ဓာတ်ပေါင်းဖို (nuclear reactor) ကို တီထွင်တာပဲ ဖြစ်တယ်။ အဲဒါလည်း ရှင်းပါတယ်။ သူက ပထမ အတွေးရှင်း ရတယ်။ နောက်အတွေးကို ဖော်ထုတ်ဖို့ ပုံဆွဲရတယ်။ အဲဒါကြောင့် ဖာမိကို ထိပ်ဆုံးနေရာမှာ ထားပြီး ဂုဏ်ပြု ထိုက်တယ်။ အဲဒါကို ဘယ်သူမှ မငြင်းနိုင်ပါ။ အခြေခံသဘောတရားကို သူက စတင် ဖော်ထုတ်တယ်။ ပထမ ဓာတ်ပေါင်းအိုးက သူက ပုံထုတ်၊ သူက တည်ဆောက်တဲ့ အခါ အုပ်ချုပ် ညွှန်ကြားလုပ်ခဲ့တယ်။ ၁၉၄၅ ကစပြီး အဏုမြူလက်နက်ကို ဘယ်သူမှ စစ်တိုက်ခိုက်ရေးမှာ မသုံးပါ။ ဒါပေမဲ့ အခုအခါ ငြိမ်းအေးတဲ့အမှု ကိစ္စတွေအတွက် အသုံးချဖို့ပစ္စည်း ထုတ်လုပ်ရာမှာ သုံးတဲ့ ဓာတ်ပေါင်းအိုးတွေ အများကြီး ရှိနေပါပြီ။ ရှေ့အဖို့ ဒီဓာတ်ပေါင်းအိုးက ထွက်တဲ့ပစ္စည်းတွေကိုသာ စွမ်းအင် အဖြစ် အားကိုးကြရမှာ ဖြစ်ပါတယ်။ တချို့ဓာတ်ပေါင်းအိုးမှာ ရေဒီယို အိုင်ဆိုတုပ် (radioisotope) နဲ့ (ရောဂါမျိုးစုံ ကုသရန်) ဆေး၊ သိပ္ပံပညာ သုတေသန စမ်းသပ်ချက် ဆိုတာတွေ လုပ်နေတယ်။ ဒီဓာတ်ပေါင်းအိုးမှာပဲ လန့်စရာကောင်း လိုက်ပုံက အဏုမြူ လက်နက် ထုတ်တဲ့အခါ မပါမဖြစ်တဲ့ ပလူတိုနီယမ် (Plutonium) ကို ထုတ်ပေးနိုင်တယ်။ ကြောက်မယ်ဆိုလည်း ကြောက်စရာ ဖြစ်ပါတယ်။

ချူကလီးယားဓာတ်ပေါင်းအိုးဟာ လူသား အားလုံးကို အကြီးအကျယ် ဒုက္ခပေးနိုင်တယ်။ ဒီလိုဆိုရင် ဒါကို တီထွင်ပေးတဲ့သူရဲ့ ဉာဏ်ပညာရဲ့အစွမ်းကို သာမည သဘောမထားထိုက်ပါ။ ကြိုက်ကြိုက်၊ မကြိုက်ကြိုက် ဖာမိရဲ့အလုပ်ဟာ ကမ္ဘာမှာ ရှေ့နှစ်ပေါင်းအကြာကြီးမှာ ဩဇာသက်ရောက်ချက် (အကျိုးအပြစ်အနေနဲ့) အများကြီး ပေါ်ပေါက်နိုင်ပါသေးတယ်။

19, August, 2001.

# (၇၇) လီယိုနဒ်ဒ် ယူလာ (၁၇၀၇ – ၁၇၈၃)

# LEONHARD EULER (1707 – 1783)

လီယိုနဒ်ယူလာဟာ တစ်ဆယ့်ရှစ်ရာစုနှစ်က ဉာဏ်အရင့်ဆုံး၊ အရေးအသား အများဆုံး သိပ္ပံပညာရှင် တစ်ဦး ဖြစ်ပါတယ်။ ခေတ်အဆက်ဆက် သင်္ချာလောက် မျိုးစုံအောင် စူးစမ်းရှာဖွေသူ မရှိပါ။ ရူပဗေဒနဲ့ အင်ဂျင်နီယာ နယ်အများမှာ သူ့ရှာဖွေတွေ့ရှိချက်တွေကို အများအစား ယူငင် သုံးစွဲရပါတယ်။

ယူလာ (Euler) ရဲ့ သင်္ချာနဲ့သိပ္ပံစူးစမ်းတင်ပြချက်တွေဟာ မယုံကြည်နိုင်လောက်အောင် များတယ်။ ကျမ်းကြီး ကျမ်းခိုင် သုံးဆယ့်နှစ်ကျမ်း ရှိတယ်။ တချို့ကျမ်းက ပထမတွဲ ထက်ပိုတယ်။ သင်္ချာနဲ့ သိပ္ပံစာတမ်းတွေက ရာပေါင်းများစွာ ရှိတယ်။ အားလုံးစုစည်းပြီး ကျမ်းဖွဲ့ မယ်ဆိုရင် ကျမ်းပေါင်း ခုနစ်ဆယ် ရမယ်။ ယူလာရဲ့ ပါရမီဉာဏ်စွမ်းကြောင့် သင်္ချာရိုးရိုးနဲ့ အသုံးချသင်္ချာမှာ အသုံးဝင်တဲ့ အသစ်တွေ့ရှိချက်တွေ၊ သင်္ချာစစ်နဲ့ အသုံးချသင်္ချာ ဆိုင်ရာ၊ ရူပဗေဒ ဆိုင်ရာတို့မှာ အသုံးဝင်တဲ့ အသစ် တွေ့ရှိချက်တွေဟာ အမျိုးစုံ ကျယ်ဝန်းလို့ အခုထိ သုံးမကုန်အောင် ရှိပါတယ်။

ယူလာဟာ စက်မှု အထွေထွေဥပဒေကို သရုပ်ပြ တဲ့နေရာမှာ သိပ်တော်တယ်။ အဲဒါတွေကို အရင်ရာစုနှစ် (၁၉ ရာစုနှစ်) က အိုက်ဆက်နယူတန်က ပုံသေနည်း ဖော်ထုတ်တင်ပြခဲ့ပြီး အချို့နည်းကို အခါအားလျော်စွာ ပေါ်လာတဲ့ကိစ္စတွေမှာ လက်တွေ့ယူငင် အသုံးချ ပြီးခဲ့ပါပြီ။ ဥပမာ ပေါလော ပစ္စည်းတွေရဲ့ ရွေ့လျားပုံကို (Laws of the motion of fluids) ကို နယူတန် ဥပဒေက ယူငင် သုံးတယ်။ ယူလာက ဟိုင်ဒရိုဒိုင်းနမစ် (Hydro dynamics) ညီမျှချက်တွေကို ရှင်းပြပြီးဖြစ်တယ်။ ဒါကိုပဲ တင်းမာတဲ့ အဖွဲ့အစည်းတွေမှာ ဖြစ်နိုင်တဲ့ ရွေ့လျားမှု ဖြစ်နိုင်သမျှကို အသေးစိတ် စစ်ဆေး တင်ပြ ခဲ့တယ်။ နယူတန်က သဘောစာချုပ်ဟာ ယူလာက တင်းမာပစ္စည်းတွေ ရွေ့လျားပုံ အပြည့်အစုံကို ညီမျှချက် ပေးပြီးဖြစ်တယ်။ လက်တွေ့မှာ ဘယ်ပစ္စည်းမှ အတိအကျ ခက်မာဝတ္ထု မဟုတ်ပါ။ ဒါပေမယ့် ယူလာက ဆွဲဆန့်သဘောထား (theory of elasticity) မှာ အစိုင်အခဲ စွဲနည်းတွေကို အပြင်အားဖြင့် ဘယ်လို ပုံပျက်ပန်းပျက် ဖြစ်တယ်လို့ ဖော်ပြခဲ့ပါတယ်။

ယူလာက သူ့ဉာဏ်ကို စေစားပြီး သင်္ချာနည်းနဲ့ နက္ခတ်ဗေဒ ပြဿနာတွေကို ရှင်းခဲ့ပါတယ်။ နေ မြေ လ သုံးကမ္ဘာပြိုင်ဆိုင်ပြီး အပြန်အလှန်ဆွဲအားနဲ့

လေဟာမှာ တည့်နေပုံကို ရှင်းတယ်။ အမှန်က ခုထိ ကောင်းကောင်း မသိသေးတဲ့အတွက် ၂၁ ရာစုနှစ်အတွက် ပြဿနာလို့ ဆိုလောက်ပါတယ်။ မတော်တဆ ကြုံကြိုက်ပုံ တစ်ခုက ယူလာကို တစ်ဆယ့်ရှစ်ရာစုနှစ်က ထင်ရှားတဲ့ သိပ္ပံပညာရှင် ဖြစ်ပေမယ့် အလင်းလှိုင်းသဘောတရား (The wave theory of Light) ကို ယူလာက ထောက်ခံ တင်ပြခဲ့တာကို တွေ့ရပါတယ်။

ယူလာက သိပ်ပြီး ဉာဏ်ထက်မြက်တဲ့အတွက် သင်္ချာ နဲ့ပတ်သက်ပြီး အရာရာမျိုးကို ဖြေရှင်းဖို့ လမ်းစ ဖော်ပေးခဲ့တဲ့ အတွက် သူထွင်တဲ့လမ်းကို ဆက်လျှောက်ပြီး ထင်ရှား ကျော်ကြားသွားသူတွေ အများကြီး ရှိပါတယ်။ ဥပမာ ဂျိုးဆက်လွစ္စလာဂရန်း (Joseph Louis Lagrange) ဆိုတဲ့ ပြင်သစ် သင်္ချာ ရူပဗေဒ ဆရာဆိုရင် စက်ပစ္စည်း ပြဿနာ အထွေထွေကို ရှင်းနိုင်တဲ့ ညီမျှခြင်းတွေလုပ်နိုင်လို့ သူ့နည်းကို လာဂရန်း ညီမျှခြင်း (Lagrange equation) လို့ ခေါ်ကြပေမယ့် ယူလာက စခဲ့တဲ့ကိစ္စဖြစ်လို့ အတိအကျ ခေါ်လိုပါရင် ယူလာ–လာဂရန်းညီမျှချက် (the Euler Lagrange equation) လို့ ခေါ်ရမယ်။ နောက် ပြင်သစ် သင်္ချာဆရာ ဇန်ဗက်တစ်ဖိုရာ (Jean Baptiste Fourier) က အရေးပါတဲ့ သင်္ချာနည်းတွေကို ပြုစုလို့ သူ့နည်းကို ဖိုရာစစ်ဆေးနည်း (Fourier Analysis) ဆိုပေမယ့် နာမည်မှန်က ယူလာ–ဖိုရာ ပုံသေနည်း (Euler–Fourier formulas) ဖြစ်ပါတယ်။ အဲဒီနည်းတွေဟာ ရူပဗေဒနယ်မှာ အကော့စတစ် (Acoustic) နဲ့ လျှပ်စစ်သံလိုက် (electromagnetic) သီအိုရီအထိ အသုံးဝင် လျက်ရှိနေပါတယ်။ သင်္ချာမှာ ယူလာက အထူးသဖြင့် ကဲကုလပ်စ် (Calculus)၊ အလိုက်ပြောင်း ညီမျှခြင်း (differential equation) နဲ့ အဆုံးမရှိ ကိန်းစဉ်တန်း (infinite series) တွေကို အထူးသဖြင့် စိတ်ဝင်စား တယ်။

ဒီအကြောင်းအရာတွေမှာ သူ ရှာဖွေတွေ့ရှိချက်ဟာ သိပ်အဖိုးတန်တယ်။ ပြောပြဖို့ ခက်တယ်။ ဒါကြောင့် အခုဒီမှာ မပြောနိုင်တော့ပါ။ ကဲကုလပ်စ် ပြောင်းလဲခြင်း (Calculus Of variations) နဲ့ ကိန်းထွေ (complex numbers) ဆိုင်ရာမှာ သူက စပေးလို့ နှောင်းလူတွေ ဆက်လုပ်နိုင်တာ ဖြစ်ပါတယ်။ ဒီတွက်နည်း နှစ်မျိုးစလုံးဟာ ရိုးရိုးသင်္ချာ (pure mathematics) မှာ အင်မတန် အသုံးဝင်သလို အသုံးချသင်္ချာ (applied mathematics) မှာလည်း အသုံးဝင်လျက်ရှိပါတယ်။

ယူလာရဲ့ ကိန်းသေနည်း $e^{i\theta} = \cos\theta + i \sin\theta$ ဟာ တြီဂိုနိုမေတြီမီးချက် (trigonometric function) နဲ့ ကိန်းယောင် (imaginary numbers) ဆက်သွယ်ပုံကို ပြတယ်။ ပြီးတော့ အနုတ်လက္ခဏာကိန်း (negative numbers) တွေရဲ့ လော်ဂရစ်သမ် (Logarithm) ကိုပြတယ်။ သင်္ချာမှာ ဒီကိန်းသေနည်းကို အသုံး သိပ်များတယ်။ ယူလာက သရုပ်ခွဲ ဂျီဩမေတြီ (Analytical geometry) ကျမ်းတစ်ခုကို ရေးတယ်။ အလိုက်ပြောင်း ဂျီဩမေတြီ (differential geometry) နဲ့ ရိုးရိုးဂျီဩမေတြီ (Ordinary geometry) မတူကြောင်း ရှင်းတဲ့နေရာမှာ သိပ်အဖိုးတန်တယ်။

ယူလာဟာ သင်္ချာပိုင်းဆိုင်ရာ အသစ် တွေ့ရှိချက်တွေမှာ ပိုင်နိုင်တဲ့အတွက်

အသုံးချသင်္ချာ မှာ တော်သလို ရိုးရိုးသင်္ချာမှာလည်း တော်တယ်။ ကိန်းနဲ့ဆိုင်တဲ့ သဘောအယူအဆတွေဟာ ခက်ခဲနက်နဲလို့ ဒီမှာ ထပ်မပြောနိုင်တော့ပါ။ ယူလာဟာ အနေအထား (topology) ခေါ်တဲ့ သင်္ချာတစ်မျိုးကို ရေးရေးကပဲ ဖော်ထုတ်ပေမယ့် အခု နှစ်ဆယ်ရာစုနှစ်မှာ သိပ်အရေးကြီးတဲ့ ပညာတစ်ခု ဖြစ်လာပါတယ်။ နောက်ဆုံးမှ ပြောပေမယ့် အရေးပါတဲ့ အချက်တစ်ခုက ယူလာက ကနေ့သုံးနေတဲ့ သင်္ချာလက္ခဏာတွေကို တီထွင်ပေးခဲ့ပါတယ်။ ဥပမာ စက်ဝန်းရဲ့ အရှည်ဟာ အချင်းရဲ့ π ဖြစ်တယ်ဆိုတဲ့ ဂရိ (Greek) အက္ခရာကို ယူပြီး သုံးခဲ့တယ်။ အလားတူ အလွယ်သုံးသင်္ကေတတွေ တီထွင်ပြီးထားခဲ့လို့ ကနေ့ထိ အများလက်ခံ အသုံးပြုနေကြပါတယ်။

ယူလာကို ဆွစ်ဇာလန် (Switzerland) ဗဆယ်လ် (Basel) မှာ ၁၇၀၇ ခုက မွေးခဲ့တယ်။ ၁၇၂၀ မှာ ဗဆယ်လ် တက္ကသိုလ်ကို ဝင်ခွင့်ရတယ်။ အဲဒီအခါ သူ့အသက်ဟာ တစ်ဆယ့်သုံးနှစ်သာရှိပါသေးတယ်။ ပထမ ကျမ်းဂန်နဲ့ဆိုင်တဲ့ ပညာကို သင်တယ်။ နောက်မှာ သင်္ချာကို ပြောင်းယူလိုက်ပါတယ်။ အသက် တစ်ဆယ့်ခုနစ်နှစ်မှာ ဗဆယ်လ်တက္ကသိုလ် (Basel University) က မဟာဝိဇ္ဇာဘွဲ့ပေးတယ်။ အသက် နှစ်ဆယ်မှာ ရုရှ (Russia) ပထမ ကက်သရင်း ဘုရင်မ (Catherine I) က ဖိတ်ခေါ်တဲ့ စိန့်ပီတာစဘတ် (St. Petersburg) အကယ်ဒမီ (Academy) ကို ရူပဗေဒ ပါမောက္ခ အဖြစ်နဲ့ ရောက်သွားတယ်။ အသက် နှစ်ဆယ့်ခြောက်နှစ်မှာ အင်မတန် နာမည်ကျော်တဲ့ သင်္ချာဆရာကြီး ဒဲနီယယ်လ် ဗာနိုလီ (Daniel Bernoulli) ရဲ့နေရာ သင်္ချာပါမောက္ခ ရာထူးကို ပေးအပ်တယ်။ နောက် ၂ နှစ်အကြာမှာ မျက်စိတစ်လုံး ကွယ်ပေမယ့် ရှေးအထက်ကလိုပဲ အင်တိုက်အားတိုက် အလုပ်မှာ စိတ်ပါဝင်စား လုပ်ကိုင်နိုင်လို့ ပြောင်မြောက်တဲ့ စာတမ်းတွေကို ရေးထုတ်နိုင်ခဲ့ပါတယ်။

ပရပ်ရှား (Prussia) က ဧကရာဇ် မဟာဖရက်ဒရစ် (Emperor Frederick the Great) က ယူလာကို ရုရှမှာ ဆက်မနေအောင် ဖြားယောင်းပြီး ဘာလင် (Berlin) ရဲ့ သိပ္ပံအကယ်ဒမီ (Academy of Science) ကို ခေါ်ခဲ့ပါတယ်။ အဲဒီကစပြီး ဘာလင်မှာ နှစ်ဆယ့်ငါးနှစ်နေပြီး ရုရှကို ပြန်သွားတယ်။ မကြာခင် နောက်ထပ် မျက်လုံး တစ်လုံး ကွယ်ပြန်တယ်။ ဒါပေမယ့် သုတေသနကို ဆက်လုပ် သေးတယ်။ ယူလာက ဉာဏ် သိပ်ကောင်းတဲ့ စိတ်တွက် (mental arithmetic) တော်တယ်။ စိန့်ပီတာစဘတ်မှာ အသက်ခုနစ်ဆယ့် ခြောက်နှစ် အဝင် ကွယ်လွန်တယ်။ သေဆုံးတဲ့အထိ ပထမတန်းစား သင်္ချာစာတမ်းတွေကို ရေးခဲ့ပါတယ်။ ယူလာက နှစ်ကြိမ် အိမ်ထောင်ပြုတယ်။ သားသမီး တစ်ဆယ့် သုံးယောက် ရတယ်။ ရှစ်ယောက်က ငယ်ကလွန်တွေပါ။ ယူလာရဲ့ တွေ့ရှိချက်တွေဟာ သူ့လို အလုပ်လည်း လုပ်မယ့်လူ ရှိမှာပါ။ သိပ္ပံပညာမှာ သူလုပ်ပေးသွားတဲ့ အသစ် တွေ့ရှိချက်တွေ လုံးဝ မရှိဘူးဆိုရင် ဘယ်အခြေအနေ မျိုးကို ရောက်မလဲ ဆိုတဲ့ မေးခွန်း မေးကြည့်ပါ။

လီယိုနဒ်ယူလာ (Leonhard Euler) နဲ့ ဆိုင်တဲ့ အဖြေဟာ ရှင်းပါတယ်။ ခေတ်သိပ္ပံနဲ့ နည်းပညာဟာ တိုးတက်ဖို့ သိပ်နှေးသွားမယ်။

ယူလာရဲ့ကိန်းသေနည်းတွေ၊ ညီမျှချက်တွေ၊ နည်းစနစ်တွေ မရှိရင် ဘယ်အခြေအနေမှာ ရှိမလဲလို့ မတွေးဝံ့အောင် ဖြစ်ပါတယ်။ သင်္ချာနဲ့ ရူပဗေဒ ကျောင်းသားကိုင် ဖတ်စာအုပ်ရဲ့နောက်က အက္ခရာစဉ် အညွှန်း (Index) ကိုကြည့်ပါ။ သိပ်အရေးကြီးတဲ့ အချက်တွေကိုပဲ ပြတယ်။

- Euler Angles (rigid body motion)
- Euler’s constant (infinite series)
- Euler equations (hydrodynamics)
- Euler’s equations of motion (dynamics Of right bodies)
- Euler formula(Ornplex varialtes)
- Euler numbers (infinite series)
- Euler’s polygonal curves (differential equation)
- Euler’s theorem in homogenous functions
- Euler’s transformation
- The Bernoulli Euler Law
- The Euler–Fourier formula
- The Euler–Lagrange equation
- The Euler–Maclaurin formula

ဒါတွေက ယူလာရဲ့ အရည်အသွေးကို ပြနေပါရက်နဲ့ ဒီစာအုပ်မှာ ယူလာကို ဘာလို့ထိပ်တန်းနေရာ မပေးသလဲလို့ မေးပါ။ သူက အများပြောပြတဲ့ကိစ္စတွေကို သူကစပြီး ခေါင်းဆောင်တွေ့ရှိတာ မဟုတ်ဘူး။ ဒီတော့ အသစ်ရှာတွေ့တဲ့ ဟာဗေး (Harvey)၊ ရောင်ဂျန် (Ronitgen)၊ ဂရေဂေါ် မဲန်ဒဲယ်လ် (Gregor Mandel) တို့လို ဥပဒေသ တစ်ခုကို တစ်ဦး တစ်ယောက်ချင်း လုပ်နိုင်စွမ်းတဲ့ ပုဂ္ဂိုလ်တွေက ရှေ့တက်သွားတာဖြစ်ပါတယ်။ ဒါပေမယ့် ယူလာ (Euler) လုပ်ပေးခဲ့တဲ့ကျေးဇူးကတော့ တကယ့်ကို မတန်တဆ များပါတယ်။

19, August, 2001.

# (၇၈) ဇန်ဂျက်ကွီရူးဆိုး (၁၇၁၂ – ၁၇၇၈)

# JEAN JACQUES ROUSSEAU (1712 – 1778)

ကျော်ကြားတဲ့ဒဿနိကဆရာ ဇန် ဂျက်ကွီ ရူးဆိုး (Jean Jacques Rousseau) ကို ဆွစ်ဇာလန် (Switzerland) နိုင်ငံ ဂျီနီဗာ (Geneva) မြို့မှာ ၁၇၁၂ က မွေးဖွား ပါတယ်။ သူမွေးပြီး သူ့မိခင် ကွယ်လွန် သွားတယ်။ သူ့အသက် ဆယ်နှစ်ရှိတော့ သူ့ဖခင်က ပြည်နှင်ဒဏ်ခံရလို့ သူ့ကိုပစ်ထားခဲ့ပြီး ဂျီနီဗာက ထွက်သွားတယ်။ ရူးဆိုးလည်း အသက် တစ်ဆယ့်ခြောက်နှစ်မှာ ဂျီနီဗာက ထွက်လာ ခဲ့ပါတယ်။ ရူးဆိုးဟာ အဲဒီအချိန်ကစပြီး အညတရ၊ ယောင်လည်လည် ဖြစ်ပြီး နေရာ အတိအကျမရှိ၊ အလုပ်အကိုင်လည်း သတ်သတ်မှတ်မှတ် မရှိ ဖြစ်နေတယ်။ ဒါပေမယ့် ချစ်သူဝိုင်းဝိုင်းလည်နေပါတယ်။ သဲရစ်လက်ဖစူ (The’rese Levasseur) နဲ့ တိတ်တိတ်ပုန်း ကလေး ငါးယောက်ရတယ်။ အဲဒီကလေးငါးယောက်စလုံးကို မိတဆိုးဖတဆိုး ကလေးစောင့်ရှောက်ရေးဌာနကို ပို့ထား လိုက်ပါတယ်။ (နောက် အသက် ငါးဆယ့်ခြောက်နှစ် ရောက်မှ သဲရစ် Therese ကို လက်ထပ်ပါတယ်။) အသက် သုံးဆယ့်ရှစ်နှစ်မှာ ၁၇၅၀ ပြည့်မှာ ရူးဆိုးဟာ တစ်ရှိန်ထိုး ချက်ချင်းလက်ငင်း ကျော်ကြားသူ တစ်ယောက် ဖြစ်လာပါတယ်။ ဒီဂျွန်အကယ်ဒမီ (Dijon Academy) က သူ့ကို သိပ္ပံနဲ့ ဝိဇ္ဇာပညာရပ်တွေဟာ လူသားတွေရဲ့ ဆက်ဆံရေး အကျင့်စာရိတ္တကို အကျိုးပြုမပြု ဝေဖန် ဆွေးနွေးတဲ့ စာတမ်းအတွက် ဆုပေးခဲ့ပါတယ်။ ရူးဆိုးက ဒီစာတမ်းမှာ ဝိဇ္ဇာသိပ္ပံပညာတွေ တိုးတက်တာကို စာရင်းချုပ် လိုက်ရင် လူသားကို ကျေးဇူးမပြုလို့ ရေးထားတယ်။ ပထမဆု ရတယ်။ ချက်ချင်း ကျော်ကြား သွားတယ်။ နောက်စာတမ်းတွေ ဆက်ရေး ပါတယ်။ ဘာကစပြီး မညီမမျှဖြစ်လာရတာလဲ (၁၇၅၅)၊ ဟီလွိုက် သတင်းစကား (Lanouvelle Heloise) (၁၇၆၁)၊ ဧမီလ် (Emil) (၁၇၆၂)၊ လူမှုသဘောတူညီချက် (Social Contract) (၁၇၆၂) နဲ့ ဖွင့်ဟဝန်ခံချက် (Confession) (၁၇၇၀) ဆိုတဲ့ သူ့စာတွေက သူ့ရဲ့ဂုဏ်သတင်းကို ကြီးသထက်ကြီးအောင် မြှင့်တင် ပေးကြပါတယ်။ အဲဒါအပြင် ရူးဆိုးက ဇာတ်သဘင်မှာ ဝါသနာပါတဲ့အတွက် မြသမားရဲ့ဟာသ (Les muses galantes) နဲ့ တို့ရွာကမှော်ဆရာ (Les devindu village) ဆိုတဲ့ ဇာတ်လက်ာတွေကလည်း သူ့ကို ဂုဏ်တက် စေပါသေးတယ်။

အစပထမမှာ ရူးဆိုးက ခေတ်အလိုက် အတွေး သွက်လက် ရှင်သန်တဲ့ ပြင်သစ်စာရေးဆရာတွေနဲ့ပေါင်းပြီး အမြင်သစ်ကို ဖော်ထုတ်ခဲ့တယ်။ ဒင်းနစ်ဒီဒါရော့ (Denis Diderot) နဲ့ ဂျန်ဒလမ်ဗာ့ (Jean d’alembert)တို့နဲ့

အတူတူ ရေးသားခဲ့ရာက သူတို့နဲ့ အယူအဆမှာ ရူးဆိုး ကွဲထွက်ခဲ့ပါတယ်။ ဗော်လ်တဲ (Voltaire) က ဂျီနီဗာမှာ ဇာတ်သဘင်နဲ့ သုံးဖို့အစီအစဉ်ကို ဆန့်ကျင်ပြီး ရူးဆိုးက ဇာတ်သဘင် ဆိုတာ လူတွေ အကျင့်စာရိတ္တ ပျက်ပြားအောင် စတင် ဖော်ထုတ်အားပေးတဲ့ အရပ် ဖြစ်တယ်လို့ ပြောလာတဲ့အတွက် ဗော်လ်တဲက သူ့ကို ဘယ်တော့မှ ခွင့်မလွှတ်နိုင်သူ ဆိုပြီး စိတ်နာကြည်း သွားတယ်။ အဲဒါအပြင် ရူးဆိုးက အတွေးကျယ်တယ်။ ဗော်လ်တဲက စွယ်စုံဘက်စုံ လေ့လာသူတွေက အကျိုးအကြောင်း ဆက်ပြီး ခေတ်ပေါ်ကို အလေးပြုပုံနဲ့ ဆိုရင် တကယ်ပဲ ဆန့်ကျင်ဘက်ဖြစ်လာပါတယ်။ ၁၇၆၂ ကစပြီး သူ့နိုင်ငံရေးနဲ့ပတ်သက်ပြီး ရေးသားချက်တွေကို အုပ်ချုပ်သူတွေက မနှစ်သက်လို့ သူ့ကို ရန်ရှာလာပါတယ်။ ရူးဆိုးဟာ အပေါင်းအသင်းတွေနဲ့ စိတ်ဝမ်းကွဲပြီး ထင်ထင်ရှားရှား စိတ်ဖောက်ပြန်လာတယ်။ သူ့ကို အပေါင်းအသင်း လုပ်သူ ရှိတန်သရွေ့ရှိပေမယ့် ရူးဆိုးက မသင်္ကာစိတ် မယုံကြည်စိတ်တွေနဲ့ အဲဒီလူတွေကို ရန်ရှာပါတယ်။ သူ့နောက်ပိုင်း အနှစ်နှစ်ဆယ်က စိတ်ပျက်လက်ပျက် မရှွင်မပျနေရတဲ့ရက်တွေသာ ဖြစ်လာ ပါတော့တယ်။ သူက ပြင်သစ် ဒါမိုနိုဗေး (Ermenonville) မှာ ၁၇၇၈ ခုမှာ ကွယ်လွန်ခဲ့ပါတယ်။ ရူးဆိုး ရေးသားလှုံ့ဆော်လို့ ဆိုရှယ်လစ်၊ မျိုးချစ်၊ စိတ်ကူးယဉ် အာဏာရှင်၊ အမုန်အကန်ရောက်အောင် တွေးခေါ်ခြင်း မရှိတာတွေ ပေါ်ထွက်လာပြီး ပြင်သစ် တော်လှန်ရေးကြီး ဖြစ်ပေါ်စေခဲ့တာမှန်တယ်။ ခေတ်သစ် ညီမျှရေး ဒီမိုကရေစီကို သူ့အစွမ်းနဲ့ ထိရောက်အောင် ဖော်ဆောင်ခဲ့တာလည်း မှန်တယ်။ ပညာရေးမှာလည်း သူ့စိတ်ကူးကြောင့် တိုးတက်ခြင်း ကြောင့်လည်း ဖြစ်ထွန်းခဲ့တယ်။ သူ့အယူအဆက လူကို ပတ်ဝန်းကျင် လွှမ်းမိုးတယ်။ သူဟာ ပတ်ဝန်းကျင်နဲ့ ဖြစ်အောင် နေတတ်တယ် ဆိုတဲ့အယူအဆကို တင်ပြ ခဲ့ပါတယ်။ သူက လူဟာ နည်းပညာတိုးလေ ယုတ်မာလေ၊ “အဆင့်မြင့်တဲ့လူရိုင်း” (noble savage) ဖြစ်ပါတယ်လို့ပြောတဲ့ လူတွေထဲမှာ သူလည်းပါတယ်။ ဒီအတိုင်းသာ သူက ပြောဆိုရေးသားတာ အမှန် ဆိုရင် ဒီစာအုပ်မှာ သူ့ကို အခုထက်မြင့်တဲ့ နေရာကိုပို့ရပါမယ်။ ပြောသလောက် မဟုတ်ပါ။

အပိုပြောတာ ချဲ့ထွင်ပြောတာတွေ များပါတယ်။

ဥပမာ “အဆင့်မြင့်လူရိုင်း” ဆိုတဲ့စကားကို သုံးတဲ့အတွက် ရူးဆိုးက တောင်ပင်လယ်ကျွန်းပေါ်က လူတွေကမှ ကောင်းသေးတယ်လို့ ဆိုလိုသလား၊ အမေရိက တိုက်ပေါ်ရှိတဲ့ အင်ဒီးယန်းတွေကို ပိုပြီး အထင်ကြီးတယ် ဆိုရမလား၊ ဘယ်လိုပဲပြောပြော သူမမွေးခင်ကပဲ ဒီစကားကို သုံးနေကြပါပြီ။

ရူးဆိုးမမွေးခင် အရင်အနှစ်တစ်ရာကျော်က အင်္ဂလိပ်ကဗျာဆရာ ဂျွန်ဒရိုင်ဒဲန် (John Dryden) က ဒီစကားလုံး အတိုင်း ပြောခဲ့တယ်။ ပြီးတော့ ရူးဆိုးက လူတိုင်း ယုတ်မာတယ်လို့ မယူဆပါ။ လူမှန်ရင် တစ်ဦး ချင်းထက် အဖွဲ့အစည်းနဲ့နေမှ ကောင်းစားမယ်ဆိုတဲ့ ယုံကြည်ချက်ကို တကယ်ခိုင်ခိုင်လုံလုံ စွဲမြဲယုံကြည်သူ ဖြစ်ပါတယ်။

ရူးဆိုးက လူမှုကတိက ဝတ်ပြုချက် (Social Contract) ကို စတယ် ဆိုရင်လည်း သိပ်မှားနေပါတယ်။ ရူးဆိုး မမွေးခင်ကပဲ ဂျွန်လော့ခ် (John Locke) ထက် ရှေးကျတဲ့ အင်္ဂလိပ်ဒဿနိကက ပညာရှင်ရယ်လို့ ထင်ရှားတဲ့ သောမတ်ဟော့ဗ်စ် (Thomas Hobbes) က လူပုဂ္ဂိုလ်ချင်း အပြန်အလှန် ကတိကဝတ် အမည်နဲ့ ကျမ်းကို တင်ပြပြီး ဖြစ်ပါတယ်။ နည်းပညာ အတတ်ပညာတွေကို ရူးဆိုးက တကယ်ပဲ ဆန့်ကျင် ပါသလားလို့ မေးပါ။ ရူးဆိုး ကွယ်လွန်ပြီး အနှစ် ၂၀၀ အတွင်းမှာ အရင် ဘယ်ခေတ်ကနဲ့မှ မတူအောင် နည်းပညာတွေ ဆန်းသစ်တိုးတက် ပေါ်ထွက် ခဲ့တယ်။ ရူးဆိုးက အဲဒီလိုတိုးတက်တာကို ဟန့်တားနိုင်လိမ့်မယ်လို့ တွေးတတ် ကြတယ်။ လုပ်သင့်သလောက် လုပ်ပေမယ့် မထိရောက်ပါ။ အခုတိုးတက်တာကိုကြည့်ပြီး ဘာတွေ ဖြစ်ကုန်မယ်လို့ ဆက်မတွေးဝံ့ဘူးဆိုတဲ့ လူတွေ တစ်ဖက်မှာ ရှိသလို နည်းပညာကို အလွဲသုံးစားလုပ်ပြီး မဖြစ်သင့်တာတွေကို အရင်ရာစုနှစ် ကပဲ တွေ့ခဲ့ရလို့ ဒီအတွေးအခေါ် ပေါ်လာတာဖြစ်ပါတယ်။

လူ့စိတ်ဓာတ်ကို ပတ်ဝန်းကျင်က ချုပ်ကိုင် ထားတယ်လို့ တွေးတတ်သူတွေ အများကြီးရှိတယ်။

ရူးဆိုး တစ်ယောက်တည်းက ပြောတယ်လို့ မပြောသင့်ပါ။ ဒီလိုပဲ အမျိုးသားရေးဟာ သူမမွေးခင်ကဘဲ လွှမ်းမိုး နေခဲ့ပြီးပြီ ဖြစ်ပါတယ်။ သူနဲ့ဆိုင်တယ်ဆိုတောင်နည်းနည်းပဲ ဆိုင်မှာဖြစ်ပါတယ်။

ပြင်သစ်တော်လှန်ရေးဟာ ရူးဆိုးကြောင့် ဖြစ်ပေါ် ခဲ့ရတယ်ဆိုတဲ့စကား မှန်ပါသလားလို့ မေးပါ။ ဟုတ်သင့် သလောက် ဟုတ်တယ်။ ဒီဒါရော့၊ ဒလမ်ဗတ်တို့ထက်ပဲ သူက ပိုမယ်ဆိုလည်း ဖြစ်ပါတယ်။ ဒါပေမယ့် ဗော်လ်တဲက သူ မပေါ်ခင်ကပဲ ဒီစကားတွေပြောပြီး ကျမ်းလည်း အများကြီး ရေးတယ်။ ပိုပြီး ချက်ကျလက်ကျဖြစ်အောင် ပြောနိုင်တယ် ဆိုတာကိုလည်း ထည့်သွင်း စဉ်းစား သင့်တယ်။ ဆင်ခြင်တုံတရားတွေ ဘေးချိတ်လို့ ရူးဆိုးက ပြောတတ်ပါတယ်။ ဒါပေမယ့် အဲဒါတွေက သူ့စကားသက်သက် မဟုတ်ပါ။ သူနဲ့ခေတ်ပြိုင် အခြား ကျော်ကြားတဲ့လူတွေလည်း သူလိုပဲ ရေးတတ် ပါတယ်။ အများတကာဟာ စိတ်လိုက်မာန်ပါ ပြောဟောပြီးခါမှ တရားနည်းလမ်းကျတယ်လို့ ဆွဲစပ်ပြီး စကားလှအောင် ပြောကြတာက များပါတယ်။ ရူးဆိုးကို ကြည်ညိုနှစ်သက်သူတွေက သူ့ကို အံ့ဩ ချီးမွမ်းသလို မကြီးမြင့်ဘူးဆိုတောင် အများကြီး ကြီးမြင့်တာတော့ မှန်ပါတယ်။ စာပေမှာ စိတ်ကူးယဉ်ကို အသားပေးတာလည်း အရေးပါတဲ့ အချက်တစ်ခုပါ။ ပြီးတော့ ပညာရေးမှာ အတွေးထက် လက်တွေ့က ပိုအသုံးတည့်တယ် ဆိုတဲ့အချက်တွေဟာ သူ့ကျေးဇူးလို့ ပြောချင်ပါတယ်။ ကလေးငယ်တွေအတွက် စာအုပ်ထဲက ဆိုဆုံးမချက်က သိပ်အရေးမပါဘူးလို့ သူပြောတာလည်း မှန်တယ်။ စာတွေ့ထက် လက်တွေ့နဲ့ ပညာပေးရမယ်လို့ ဆိုလိုတယ်။ (စကားစပ်မိလို့ ပြောစရာ တစ်ခု ရှိပါတယ်။ ကလေးအဖို့ မိခင်နို့ရည်ဟာ အကောင်းဆုံးလို့ သူက အလေးအနက်ပြောလေ့ ရှိပါတယ်။) ကိုယ့်သားသမီး ကိုတော့ စွန့်ပစ်ပြီး

သူများတွေကို သားသမီး ဘယ်လို ဘယ်ညာနဲ့ သူမို့ပြောရဲတယ်လို့ ဆိုချင်ဆို၊ ခေတ်ပညာရေး သီအိုရီမှာ ရူးဆိုးရဲ့အယူအဆတွေဟာ အမှန်ပဲ အရာရောက်တယ်လို့ ပြောနိုင်ပါတယ်။

နိုင်ငံရေးစာပေမှာ ရူးဆိုးရဲ့ အရေးအသားတွေက သူပိုင် မူလစိတ်ကူးတွေမို့လို့ နှစ်သက်စရာတွေ ရှိပါတယ်။

ညီမျှရေး သဘောတရားကို သူက သိပ်ပြီး အလေးအနက် ထားပြီး တင်ပြတယ်။ ပြီးတော့ အခု လူမှုအဖွဲ့အစည်း မှာလည်း မခံနိုင်လောက်အောင် မတရားတာတွေရှိတယ်လို့ သူကဆက်ပြီး အပြင်းအထန် ပြောဆိုလေ့ရှိတယ်။ (**“လူက မွေးတုန်းက လွတ်လပ်တယ်။ နောက်တော့ ကြိုးနဲ့ ချည်နှောင်ရစ်ဖွဲ့တာကို မလွတ်တမ်းခံနေရတယ်”** လို့ ပြောပါတယ်။)

ရူးဆိုးကို အကြမ်းဖက်လို့ မခေါ်နိုင် ပေမယ့် သူ့လုံ့ဆော်ချက်ကြောင့် အသာတကြည်ပြုပြင်ရေးကို ဘေးဖယ်ပြီး တော်လှန်ပုန်ကန်မှ ဖြစ်တော့မယ်လို့ နိုးကြားသူတော့ ပေါ်လာပါတယ်။ ရူးဆိုး အယူအဆမှာ ကိုယ်ပိုင်ပစ္စည်းနဲ့ ပတ်သက်တဲ့ကိစ္စဟာ (တခြား အချက်တွေမှာ လိုပဲ) မကြာခဏ ရှေ့စကားနောက်စကား မညီတာတွေ ရှိပါတယ်။ တစ်ခါက သူကပဲ လူအများမှာ ဥစ္စာပိုင်ဆိုင်ခွင့်ဟာ အရေးအကြီးဆုံး အခွင့်အရေး ဖြစ်တယ်လို့ ပြောခဲ့ဖူးတယ်။ ဒါပေမယ့် ပစ္စည်းပိုင်ဆိုင်ခွင့်ကို သူ ဝေဖန်တိုက်ခိုက်တာက လူတကာက ပိုပြီး အလေးအနက် ယုံကြည်တယ်။ ဒါနဲ့ ရူးဆိုးဟာ ကိုယ်ပိုင်ပစ္စည်းကို အများဆိုး ပုတ်ခတ်ရှုတ်ချသူ ဖြစ်လာပြီး နောင်အခါ ဆိုရှယ်လစ်ဝါဒ၊ ကွန်မြူနစ်ဝါဒတွေ ပေါ်လာဖို့ ရှေ့က လမ်းခင်းပေးနေသူ ဖြစ်လာပါတယ်။

နောက်ဆုံး တစ်ချက်ပြောစရာက အုပ်ချုပ်ရေး စည်းမျဉ်းနဲ့ ပတ်သက်ပြီး ပြောသင့်တဲ့စကားတွေကို ရူးဆိုး ပြောသွားတာကို မမေ့သင့်ပါ။ လူမှုကတိကဝတ်ရဲ့ အရေးအကြီးဆုံး အချက်က **‘အပေါင်းပါတွေထဲက တစ်ဦးချင်း ဆိုတဲ့အယူအဆကို လုံးလုံးပျောက်ပြီး တစ်ပြုံလုံးဆိုတဲ့ အယူအဆကို သွင်းယူပါ’** လို့ ရူးဆိုးက ဆိုပါတယ်။ ဒီအယူမှာ ပြည်သူ့လွတ်လပ်ခွင့်၊ အကျိုးခံစားခွင့် ဆိုတာတော့ မှေးမှိန်သွားတယ်။ ရူးဆိုး ကိုယ်တိုင်က အာဏာပိုင်တွေကို ဆန့်ကျင်ပေမယ့် သူရေးတဲ့စာအုပ်က အာဏာရှင်စနစ်ကို ထောက်ခံ လျက်သား ဖြစ်နေပါတယ်။

ရူးဆိုးကို (ခပ်ကြောင်ကြောင်လို့ မပြောတောင်) အင်မတန် စိတ်လှုပ်ရှားတဲ့လူလို့ စွပ်စွဲပုတ်ခတ်ကြတယ်။

ပြင်းထန်တဲ့ မျိုးချစ်၊ ရှင်းအောင် မတွေးမမြင်တဲ့လူ၊ လက်တွေ့ လုပ်မရတဲ့ အတွေးသမားဆိုသလို ပြောတတ်ကြတယ်။ ပြောသင့်ပြောထိုက်ပါတယ်။ သူ့မှာ ချွတ်ယွင်းချက်တွေ အများကြီးရှိပါတယ်။ ဒါပေမယ့် တစ်ချက် တစ်ချက် သိပ်ထိမိ၊ သိပ်အရာရောက်တဲ့ အတွေးအခေါ်တွေ သူ့မှာပေါ်လာတတ်လို့ ဒီလိုအတွေးတွေက ခေတ်သစ် အယူအဆမှာ နှစ် ၂၀၀ ကျော် လွှမ်းမိုးနေပါတယ်။

# (၇၉) နစ်ကိုလို မက်ခီယာဗယ်လီ (၁၄၆၉ – ၁၅၂၇)

## NICCOLO MACHIAVELLI (1469 – 1527)

အုပ်စိုးသူ မင်းစိုးရာဇာမှန်သမျှ မိမိတန်ခိုးအာဏာ ခိုင်မြဲတည်တံ့ ကြီးပွားတိုးတက် စေချင်ရင် ပရိယာယ် များများနဲ့ လှည့်စားရမယ်၊ လိမ်ရမယ်၊ ညာရမယ်၊ အာဏာကို သုံးပြီး မညှာမတာ ဖိစီးနှိပ်စက် သုတ်သင်ရမယ် ဆိုတဲ့ အကြံဉာဏ်တွေကြောင့် အများတကာရွံမုန်းတဲ့ အီတလီ (Italian) လူမျိုး ဒဿနိကပညာရှင်ဟာ နစ်ကိုလို မက်ခီယာဗယ်လီ (Niccolo Machiavelli) ဖြစ်ပါတယ်။

ဘယ်နေရာမှာမှ ဒါမျိုး ဒါလုပ်လို့မသင့်ပါကလားလို့ ဆုတ်ဆိုင်းခြင်း မရှိတဲ့၊ လူအများက လူယုတ်မာလို့ အခေါ်ခံရတဲ့လူက ကမ္ဘာမှာ အယုတ်တမာတွေပဲ လုပ်နေကြတာ မဟုတ်လား။ ဟန်ကောင်းကောင်းနဲ့ စကားလှလှ ပြောပြီး တကယ်တမ်းတော့ ယုတ်မာ ကြတာပါပဲ။ ငါ့လို ဖြောင်ပြောပြီး ဖြောင်မလုပ်ရဲကြတာ တစ်ခုပဲ ကွားခြားတယ်။ အဲဒါကို ထောက်ခံ ကျေနပ်တဲ့ လူတွေလည်း ရှိပါတယ်။ သူရေးတဲ့စာတွေကို နိုင်ငံရေးသမားရော ဒဿနိကဆရာတွေပါ အသေးစိတ် လေ့လာကြတယ်။ အဲဒီလောက် ဂရုတစိုက် ဖတ်ကြ၊ လေ့လာကြတဲ့ စာမျိုးက နည်းတယ်။ အဲဒါလည်း အံ့သြစရာ တစ်ခု ဖြစ်ပါတယ်။

မက်ခီယာဗယ်လီကို အီတလီ၊ ဖလောရဲင့်စ် (Florence) မှာ ၁၄၆၉ က မွေးဖွားခဲ့ပါတယ်။ အဖ ရှေ့နေ၊ ဂုဏ်ကြီးတဲ့ မျိုးနွယ်က ဆင်းသက်တယ်။ ဥစ္စာစည်းစိမ် ပါးရှားတယ်။ အီတလီမှာ ရှေးစာပေ ပညာတွေကို ပြန်ပြီး လေ့လာတဲ့ ရီနေးဆန့် (Renaissance) ခေတ်က ပြင်သစ် (France)၊ စပိန် (Spain)၊ အင်္ဂလန်(England) လို ပေါင်းစည်းညီညွတ် စည်ပင်ချိန်နဲ့ ဆန့်ကျင်ဘက်၊ အီတလီက အစိပ်စိပ်အမြွာမြွာ ကွဲနေချိန်ဖြစ်လို့ ဝလေ့အရာမှာ ပြောင်မြောက် ကြီးကျယ်ပေမယ့် နိုင်ငံရေး အရ အားနည်းနေချိန် ဖြစ်ပါတယ်။

မက်ခီယာဗယ်လီ အရွယ်ရောက်တဲ့အခါ ဖလော့ရဲင့်စ် ကို မဲဒီစီ (Medici) မင်းဆက် အသရေရှင် လော်ရန်ဇို (Lorenzo) အုပ်ချုပ်နေချိန် ဖြစ်ပါတယ်။ ဒါပေမယ့် လော်ရန်ဇို နတ်ရွာစံပြီးတဲ့ ၁၄၉၂ နောက်မကြာမီ မဲဒီစီတွေကို

ဖလော်ရဲင့်စ်က မောင်းထုတ်လိုက်ပြီး ပြည်ထောင်စု သမ္မတနိုင်ငံ ဖြစ်သွားတယ်။ ၁၄၉၈ မှာ အသက် နှစ်ဆယ့်ကိုးနှစ်ရှိတဲ့ မက်ခီယာဗယ်လီဟာ ဖလောရင့်စ်က ပြည်သူ့ဝန်ထမ်းအဖြစ်နဲ့ ရာထူးမြင့်မြင့်က ရထားပြီး ဖြစ်တယ်။ အဲဒီကစပြီး တစ်ဆယ့်လေးနှစ်လုံးလုံး ဖလောရင့်စ် သမ္မတနိုင်ငံရဲ့ သံကြီးတမန်ကြီးအနေနဲ့ အီတလီတွင်း အီတလီ၊ ပြင်သစ်၊ ဂျာမနီနိုင်ငံတွေကို ရောက်ခဲ့ပါတယ်။ ဖလောရင့်စ်သမ္မတနိုင်ငံက ၁၅၁၂ မှာ ပြိုလဲ ပျက်စီးသွားတယ်။ မဲဒီစီတွေ အာဏာပြန်ရတယ်။ မက်ခီယာ ဗယ်လီ အလုပ်ပြုတ်တယ်။ နောက်တစ်နှစ်မှာ မဲဒီစီ မင်းသစ်တွေကို ဖယ်ရှားပစ်ဖို့ ကြံရာပါဆိုပြီး အဖမ်းခံ ရတယ်။ အနှိပ်စက် အညှဉ်းပန်းခံရတယ်။ အပြစ်မရှိတာ ထင်ရှားတော့မှ အဖမ်းခံရတဲ့နှစ်မှာပဲ လွှတ်လိုက်တယ်။ အဲဒီနောက် ဖလောရင့်စ်နဲ့ မဝေးလှတဲ့ ကက်စီယာနို (San Casciano) မှာ ခြံမြေ သေးသေးဝယ်ပြီး နေလိုက်ပါတယ်။ နောက်တစ်ဆယ့်လေးနှစ် အတွင်းမှာ သူရေးတဲ့ စာအုပ်တွေအများကြီးထဲက ကျော်ကြားတဲ့ နှစ်အုပ်က ၁၅၁၃ ခုနှစ်ရေးတဲ့ မင်းသား (The Prince) နဲ့ တိုင်တပ်စ် လီဗီယပ်စ်ရဲ့ ပထမကျမ်း ဆယ်ကျမ်းအကြောင်း ပြောပြချက် (The Discourses upon the first Ten Books of Titus Livius) ဖြစ်ပါတယ်။ တခြားကျမ်းတွေက စစ်ပြုနည်း (The Art of War)၊ ဖလောရင့်စ်သမိုင်း (History of Florence) နဲ့ အခုထိ ရံဖန်ရံခါ ကပြရသေးတဲ့ မန္ဒြဂိုလ (Lamandragola) ပြဇာတ်ဖြစ်ပါတယ်။ ဒါပေမယ့် မင်းသား (The Prince) အတွက် သူနာမည်ရတာပါ။ အဲဒီကျမ်းက ဒဿနိကကျမ်းဖြစ်ပြီး လက်စွမ်းပြကျမ်း၊ ဖတ်လို့ လွယ်တယ်။ အရေးလည်းကောင်းတယ်။ မက်ခီယာဗယ်လီမှာ အိမ်ထောင်ရှိတယ်။ ကလေး ခြောက်ယောက်၊ ၁၅၂၇ မှာ ကွယ်လွန်တော့ အသက်၅၈ နှစ်ရှိပြီ။ နိုင်ငံအကြီးအကဲရဲ့ လက်စွဲစာအုပ်က မင်းသား ဖြစ်ပါတယ်။ ဒီကျမ်းရဲ့အခြေခံကို ပြောရရင် မင်းဖြစ်တဲ့ပုဂ္ဂိုလ်က အောင်မြင်ချင်ရင် မိမိဂုဏ်သိက္ခာကို နည်းနည်းကလေးမှ ငဲ့ညှာဖို့ မလိုဘူး။ အနှပ်အပါး ရှိဖို့နဲ့ လက်နက် အားကောင်းဖို့ပဲ လိုတယ်။ မက်ခီယာဗယ်လီ အဆိုကို ပြောရရင် နိုင်ငံတစ်ခုမှာ အလိုအပ်ဆုံး အင်္ဂါရပ်က လက်နက် တောင့်တင်းဖို့ပဲ ဖြစ်တယ်။ ကိုယ့်တိုင်းသူ ပြည်သားနဲ့ ဖွဲ့ထားတဲ့တပ်ဟာ အားအကိုးရဆုံးဖြစ်တယ်။ ကြေးစားတပ်၊ သူတစ်ပါးရဲ့တပ် အဲဒါတွေကို အားကိုးနေရရင် ကိုယ့်အခြေအနေဟာ အညံ့ဆုံး၊ ဘေးအန္တရာယ် အများဆုံး တွေ့ရတတ်တယ်လို့ ပြောနိုင်ပါတယ်။ ရှင်ဘုရင်ဟာ လူအများရဲ့ ထောက်ခံချက်ကို ရယူနိုင်ဖို့ သိပ်လိုတယ်လို့လည်း ပြောပါတယ်။ ဘေးဒုက္ခနဲ့ကြုံရင် လူအများရဲ့ထောက်ခံမှု အလိုအပ်ဆုံး ဆိုတာ သိမယ်။ ဒီနေရာမှာ အာဏာကို အရယူတဲ့အခါ ကျေးတော်မျိုး၊ ကျွန်တော်မျိုးတွေကို စိတ်ဝမ်းငယ်အောင်၊ ငြိုငြင်အောင် လုပ်ရတာမျိုး ကြုံတွေ့ ရတတ်တယ်။ အာဏာသိမ်းချိန်မှာ ရက်စက်စရာရှိရင် အပြတ်လုပ်၊ နောင်ကြဉ်သွားအောင် တစ်ခါတည်းလုပ်လို့ အကြံပေးပါတယ်။ အဲဒါမှ ခဏခဏ မလုပ်ပဲ နေလို့ရမယ်လို့ သူက ပြောပါတယ်။ ကျေးဇူးပြုတဲ့အခါမှာ နည်းနည်းပဲပြု၊ ဒါမှ ကျေးဇူးကို ခံစားခွင့်ရတယ်။ အုပ်ချုပ်ရေးမှာ အောင်မြင်ဖို့ မူးကောင်း မတ်ကောင်း သိပ်လိုတယ်။ အလိုကြိုက် အလိုက်သင့် မြှောက်ပင့်တတ်သူတွေ ဝိုင်းရံ မနေဖို့ သတိထားရမယ်လို့လည်း ပြောပါတယ်။ အဲဒီလို လုပ်နိုင်ဖို့လည်း သင်ကြားပါတယ်။

မင်းသားကျမ်း၊ အခန်း ၁၇ မှာ ချစ်တာနဲ့ ကြောက်တာ ဘယ်ဟာ ကောင်းသလဲလို့ ရှင်းပြထားတယ်။

> 'အမှန်က ချစ်ကြောက်ရိုသေတာက အကောင်းဆုံး ဖြစ်တယ်။ ဒါပေမဲ့ ကြိုက်ရာတစ်ခုကို ပြောပါဆိုရင် ချစ်တာထက် ကြောက်တာက ပိုပြီး ဘေးအန္တရာယ် နည်းတယ်။ ချစ်တယ် ဆိုတာက အပြန်အလှန် ငဲ့ညှာတဲ့ သဘောရှိပေမယ့် လူ့သဘာဝက တစ်ကိုယ်ကောင်း စိတ်များတတ်လို့ လိုအပ်ရင် သစ္စာဖောက် နိုင်တယ်။ ကြောက်နေရင် မဟုတ်တာ မလုပ်ရဲတော့ပါ။'

အခန်း ၁၈ မှာ ရှင်ဘုရင်ဟာ ဘယ်နည်းလမ်းကို လက်စွဲ ထားရမလဲမေးရင် ကိုယ်ကျိုးကိုကြည့်ပြီး ထုံးနည်းကို လွှတ်သင့်လွှတ်ရမှာ ဖြစ်တယ်လို့ ပြောပါတယ်။ အာမခံချက် ပျက်ရင်လည်း အကြောင်းယုတ္တိရှိအောင် ပြနိုင်စရာ အချက်တွေ ရှိပါတယ်။ လူတွေဟာ အတယ်၊ အခြေအနေကို ကြည့်ပြီး ရသလောက်ပဲ လက်ခံ တတ်ကြတယ်။ လိမ်ကြည့်ပါ။လိမ်ခံချင်သူတွေ များတာကို တွေ့မယ်။ ဒီအယူအဆမှာ လက်တွေ့ကျတဲ့ သဘောထား တစ်ခုက သူတစ်ပါးရဲ့ အာမခံချက် ဆိုတာကိုလည်း မယုံပါနဲ့လို့ ပြောပါတယ်။

မင်းသားကျမ်းကို "အာဏာရှင်လက်စွဲ" လို့ ခေါ်လေ့ရှိပါတယ်။ မက်ခီယာဗယ်လီရဲ့ ဝန်ထမ်းဘဝနဲ့ ရေးသားတဲ့ တခြားကျမ်းတွေအရ ပြောရရင် သူက သမ္မတနိုင်ငံ အစိုးရကို အာဏာရှင် အစိုးရထက်ပိုပြီး နှစ်သက် ပါတယ်။ ဒါပေမဲ့ အီတလီရဲ့ နိုင်ငံရေး၊ စစ်ရေး ကျဆင်းတာတွေကို မကျေမနပ်ဖြစ်လွန်းလို့ တိုင်းနိုင်ငံကို စုစည်းပြီး အစွမ်းထက်တဲ့မင်း ပေါ်လာစေချင်တယ်။ ဒါမှ နိုင်ငံခြား အနှောင့်အယှက်ကိုလည်း မောင်းထုတ်နိုင်တယ်။ နောက်တစ်ချက်မှတ်သားစရာကောင်းတာက ကြမ်းကြမ်း ရမ်းရမ်း လုပ်ပါလို့ သူများကို မြှောက်ပေးပေမယ့် သူကိုယ်တိုင်က စိတ်ကူးယဥ်ယဥ် မျိုးချစ်စိတ်အပြည့်နဲ့ သူပြောသလို သူလိုက်လုပ်နိုင်မယ့် လူစားမဟုတ်ပါ။

မက်ခီယာဗယ်လီလို့ အပြင်းအထန် ရှုတ်ချတာကို ခံရတဲ့ ဒဿနိကဆရာ မရှိပါ။ နှစ်ကာလအကြာကြီး သူ့ကို မကောင်းဆိုးဝါးစီးနေတဲ့လူ၊ ပြောပုံလုပ်ပုံ ဆိုးညစ်ယုတ်မာ တယ်လို့ အထင်ခံရတယ်။ သူပေးတဲ့နည်းကို လိုက်နာတဲ့လူတွေကပဲ သူ့ကို ပြင်းပြင်းထန်ထန် ဝေဖန်ရှုတ်ချ တယ်။ မက်ခီယာဗယ်လီကို အကျင့်စာရိတ္တ ညံ့သူ အနေနဲ့ ဝေဖန်ကြရာမှာလည်း သူ့ကိုစွပ်စွဲပေမယ့် သူ့စကားတွေမှာ ပါတဲ့အတိုင်း ဒီစိတ်ကူးဒီအလုပ်တွေကို တကယ် လက်တွေ့လုပ်လို့ အောင်မြင်တာကို ကြည့်ပြီးမှ သူက အခုလို ထင်မြင်ချက်နဲ့ တစ်ဆင့်ပြောတာ ဖြစ်တယ် ဆိုတာ ထင်ရှားပါတယ်။

ရှေးပဝေသဏီ ကစပြီး ခေတ်အဆက်ဆက် အောင်အောင်မြင်မြင် သုံးလာတဲ့နည်းတွေ ဖြစ်တယ်။

မက်ခီယာ ဗယ်လီ ပြောတဲ့အထဲမှာ ရှေးက တကယ့် အဖြစ်အပျက်တွေကို ကိုးကားပြီး ပြောမြဲဖြစ်တယ်။ အဲဒါအပြင် လက်ငင်းနမူနာတွေလည်း ထည့်ပြောပါ သေးတယ်။ စံပြအဖြစ် သူပြောတဲ့ ဆီဇာဘောဂျီယ (Cesare Borgia) က သူ့ဆီက နည်းခံသူ မဟုတ်၊ ဆီဇာဘောဂျီယနည်းကိုသာ မက်ခီယာဗယ်လီက ယူပြောတာ ဖြစ်ပါတယ်။

နိုင်ငံရေး ခေါင်းဆောင်တွေထဲက ဘင်နစ်တို မူဆိုလီနီ (Benito Mussolini) တစ်ယောက်သာ မက်ခီယာဗယ်လီကို လူပုံအလယ်မှာ ချီးမွမ်းပြောဆိုတာ မဟုတ်ပါ။ နိုင်ငံရေးမှာ ထင်ရှားသူတိုင်း မင်းသား ကို အသေးစိတ် ဂရုတစိုက် ဖတ်ကြပါတယ်။ နပိုလီယံက ဒီကျမ်းကို ခေါင်းအုံး အိပ်တယ်လို့ အဆိုရှိတယ်။ ဟစ်တလာနဲ့ စတာလင်တို့တောင် ပါသေးတယ်လို့ ဆိုပါတယ်။ အဲဒီနေရာမှာ မက်ခီယာဗယ်လီ ပြောတဲ့နည်းတွေကို သူ့ထက် ရှေးကျတဲ့သူတွေနဲ့ သူ့နောက်က လူတွေမှာ ဘယ်သူတွေက ပိုပြီး သုံးစွဲခဲ့ပါသလဲလို့ မေးကြည့်ပါ။ နောက်ပိုင်း များတာကို တွေ့မယ်။ ဒါကြောင့်လည်း သူ့ကို ဒီစာအုပ်မှာ အခုလို နောက်ပိုင်း နေရာကို ပို့ထားရတာ ဖြစ်ပါတယ်။ သူ့စာကို ဘယ်လောက် လက်တွေ့လုပ်ကြသလဲလို့ ပြောဖို့ခက်ပေမယ့် နိုင်ငံရေး ကျင့်ထုံးမှာ သြဇာ ရှိတာတော့ သေချာတယ်။ ရှေးက ဆရာကြီးတွေ ဖြစ်တဲ့ ပလေတို (Plato)၊ စိန့်သြဂတ်စတင်း (St. Augustine) တို့က နိုင်ငံရေးကို ယုံကြည်မှု အထိမ်းအချုပ်တွေနဲ့ ဖက်တွဲပြီး လေ့လာတယ်။ မက်ခီယာဗယ်လီက သမိုင်းနဲ့ နိုင်ငံရေးကို အခုမျက်မြင်နဲ့ ညှိပြီး ပြောတယ်။ လူမှုကျင့်ထုံးကို အလေးအနက် မထားပါ။ တစ်မျိုးပြောရရင် အာဏာလိုချင် ဒီလိုလုပ်လို့ မပြောပါ။ အာဏာမြဲချင်ရင် ဒီလိုလုပ်လို့တော့ပါတယ်။ ဘယ်လိုလုပ်လို့ အာဏာ မြဲနေတာကိုသာ ပြောတယ်ဆိုရင် ပိုမှန်တယ်။ လုပ်သင့်တာကို မပြော၊ လုပ်နေတာကိုသာ ပြောပါတယ်။ အခုထက် နိုင်ငံရေးမှာ လက်တွေ့ကိုသာ အာရုံစိုက် ရတယ် ဆိုတဲ့အချက်ကတော့ မက်ခီယာဗယ်လီရဲ့ သြဇာ၊ သူ့ကျေးဇူးဖြစ်ပါတယ်။ မက်ခီယာဗယ်လီ (Machiavelli) ကို ခေတ်နိုင်ငံရေး ခေါင်းဆောင်လို့ ခေါ်ရင်ဖြစ်ပါတယ်။

5, October, 2001.

# (၈၀) သောမတ်စ်မေးလ်သပ်စ် (၁၇၆၆ – ၁၈၃၄)

## THOMAS MALTAUS (1766 – 1834)

အရင်က လူသိနည်းတဲ့ အင်္ဂလိပ်တရားဟောဆရာ သောမတ်စ် ရောဗတ် မေးလ်သပ်စ် (Thomas Robart Maltaus) က ၁၇၉၈ မှာဆိုပေမယ့် သိပ်အရာရောက်တဲ့ လူဦးရေ အတိုးအလျော့နဲ့ ချိန်ဆပြီး အနာဂတ်လူမှု တိုးတက်ရေးကို လေ့လာခြင်း (An Essay on the Principle of Population it Affect the Future Improvement Of Society) စာအုပ်ကို ရေးသား ထုတ်ဝေခဲ့ပါတယ်။

မေးလ်သပ်စ်ရဲ့ကျမ်းမှာ လူဦးရေတိုးပုံဟာ စားစရာအတွက် တိုးနှုန်းနဲ့ မမျှတာကို အခြေခံအနေနဲ့ ပြောပြတာဖြစ်မယ်။ သူ့မူလစာတမ်းမှာ သူ့စိတ်ကူးကို တိကျမှန်ကန်အောင် အချိုးနှုန်းတွေကို တင်ပြလာပါတယ်။ လူဦးရေတိုးပုံက ဂဲဩ မေတြီ (geometrical) တိုးပုံဖြစ်တဲ့ ၁၊ ၂၊ ၄၊ ၈၊ ၁၆... ... ဆိုသလို ပွားများလာတယ်။ စားသောက်ကုန်အတွက်တိုးပုံကတော့ သင်္ချာနည်းနဲ့ ၁၊ ၂၊ ၃၊ ၄၊ ၅... တိုးတာဖြစ်လို့ အချိုးတိုးရင် ဒုက္ခတွေ့မယ်လို့ ပြောချင်တယ်။ နောက်ထပ် တည်းဖြတ်ပုံနှိပ်တဲ့အခါ သူ့ဝါဒကို စောစောလောက်ကကို သိပ်ခိုင်မယ်လို့ မပြောတော့ဘဲ အပြေးနည်းနည်း ကွာပါတယ်။ လူဦးရေ တိုးပုံနဲ့ အစာရေစာ ရရှိပုံဟာ အတိအကျ မဟုတ်ပေမယ့် အစားအစာ ဖြည့်နိုင်စွမ်းရှိတဲ့ အတိုင်းအတာ အထိသာ တိုးပွားနိုင်တယ်လို့ ဆိုပါတယ်။ ဒါပေမယ့် သူ့ကျမ်းတွေရဲ့ နိဂုံးစကားမှာ လူသား တစ်ဇာတ်လုံး ဆင်းရဲပြီး ငတ်သေကြဖို့ များတယ်လို့ ဆိုပါတယ်။ နည်းပညာတွေ ဘယ်လောက်ပဲ တိုးတိုး၊ အစားအစာက အတိုင်းအဆနဲ့ ကန့်သတ်ချက် ရှိနေလို့ အတိုင်းအဆမရှိဘဲ အတင်း တိုးတက်နေတဲ့ လူဦးရေ မညီမမျှ ဖြစ်နေတယ်။ မြေပြင်က လူတွေစားဖို့ ပစ္စည်းထုတ်ပေးတာ မနိုင်မနင်းဖြစ်ဖို့ သေချာတယ်။ နည်းလမ်း ရအောင်ရှာပြီး လူဦးရေ တိုးပွားနေတာကို ရပ်အောင် မလုပ်နိုင်ကြတော့ဘူးလားလို့ မေးရင် လုပ်လို့ဖြစ်ပါတယ်လို့ ဖြေမှာပါ။ စစ်ဘေး၊ ရောဂါဘေး၊ သဘာဝအန္တရာယ်ကြီးတစ်မျိုးမျိုးက လူဦးရေကို မကြာခဏ လျှော့ချပေးနေပါတယ်။ အဲဒါတောင် လူဦးရေ တိုးပွားနေတာကို ယာယီလောက်ပဲ ဟန့်တား နိုင်တယ်။ အသေအပျောက်များ ပြန်တော့လည်း နမြောဝမ်းနည်း ထိတ်လန့်စရာ ဖြစ်ရပြန်တယ်။

မေးလ်သပ်စ်က လူဦးရေ ဟန့်တားဖို့ နည်းတစ်နည်း သာရှိပါတယ်။ အဲဒီနည်းက 'အကျင့်စာရိတ္တနဲ့ တားမြစ်ချက်' ဖြစ်တယ်။ ဘယ်လိုဖြစ်အောင် လုပ်သင့်သလဲ ဆိုရင် လင်ယူ မယားယူနောက်ကျပါစေ၊ လက်မထပ်ခင်ကာဘဲ ရင်းနှီးလို့ မဖြစ်ဘူး၊ နိုင်အောင်ထိန်း၊ လက်ထပ်ပြီး တော့လည်း လိင်ဆက်ဆံရေးကို ခပ်ကြဲကြဲချဲဖို့ လိုမယ်။ မေးလ်သပ်စ်က လက်တွေ့ဆန်တဲ့လူဖြစ်လို့ သူပြောတဲ့ နောက်ဆုံးတစ်ချက်ကို လူတွေက ဂရုတစိုက် လိုက်နာမယ် မထင်ဘူး။ ဒီလိုဆိုရင် လူဦးရေ တိုးပွားတာကို တားမရရင် ဆင်းရဲလိုက်တဲ့ အဖြစ်အပျက်က မလွှဲမသွေ ကြုံတွေ့ရ တော့တယ်လို့ ပြောပါတယ်။

မေးလ်သပ်စ် ကိုယ်တိုင်က ပဋိသန္ဓေတားဆေး၊ ပဋိသန္ဓေတားနည်း အဖုံဖုံကို လိုက်နာကျင့်သုံး ေနကြရင် ကော ဘယ်လိုအရေးယူမလဲ ဆိုတာက သူကျမ်းရဲ့ အခြေခံ သဘောတရား ဖြစ်လာပါတယ်။ သန္ဓေတားနည်းကို ပထမဆုံး အရေးတယူ ပြောသောသူက သြဇာလည်း ကြီးတယ်၊ ပြုပြင်ရေး ကိစ္စမှန်သမျှကိုလည်း အလေးအနက် ထားတယ်ဆိုတဲ့ အင်္ဂလိပ်ပြုပြင်ရေးဆရာ ဖရန်ဆစ်ပရိုက်စ် (Francis Price ၁၇၇၁ – ၁၈၅၄) ဖြစ်ပါတယ်။ ဒီပုဂ္ဂိုလ်က မေးလ်သပ်စ်ရဲ့ စာကိုလည်း ဖတ်ဖူးတယ်။ သိပ်လည်း ကြိုက်တယ်။ သူကိုယ်တိုင်က ဒီကိစ္စမျိုးတွေမှာ အရေးတယူ ပါဝင်လိုတယ်။ ဒါနဲ့ ၁၈၂၂ ကပဲ တားဆေးသုံးပါလို့ စာတစ်အုပ် ရေးလာပါတယ်။ တားနည်းတွေကို အလုပ်သမားတွေ သိအောင် ပြောဟောပေးတယ်။ အမေရိကန် ပြည်ထောင်စုမှာ ဒေါက်တာချားစ်နိုလ်တန် (Dr. Charles Knowlton) က ၁၈၃၂ မှာ ပဋိသန္ဓေတားနည်း စာအုပ်တစ်အုပ် ရေးသားခဲ့တယ်။ ပထမဆုံးပေါ်လာတဲ့ မေးလ်သပ်စ်အဖွဲ့ (Malthus League) ကို ၁၈၆၀ ကျော်မှာ တည်ထောင်ခဲ့တယ်။ ပြီးတော့ နှိုင်းချိန်ပြီး အိမ်ထောင်ရဲ့ လူဦးရေကို ကန့်သတ်ဖို့ကို ပြောဟောသူ၊ လိုက်နာသူများ လာတယ်။ မေးလ်သပ်စ် ကိုယ်တိုင်က သန္ဓေတားဆီးတာကို စာရိတ္တဘက်က ကြည့်ပြီး မထောက်ခံနိုင်ဘူးဆိုပေမယ့် တားဆီးနည်း ကြိုက်သူတွေကို မေးလ်သပ်စ် ဂိုဏ်းသားသစ် (Neo Malthusians) လို့ ခေါ်ကြပါတယ်။

စီးပွားရေးသီအိုရီမှာလည်း မေးလ်သပ်စ်ရဲ့ဝါဒကို အရေးတယူ သုံးစွဲလာတာကို တွေ့ရပါတယ်။ စီးပွားရေး ပညာရှင်တချို့က ထုံးစံ (ပုံမှန်) အခြေအနေမှာ လူအရေအတွက် သိပ်တိုးပွားလာရင် လုပ်သားတွေရဲ့ လုပ်ခဟာလည်း စားဝတ်နေရေး ဖူလုံရုံ၊ ရတဲ့အခထက် အထင်အရှားပိုပြီး မြင့်မားလာဖွယ်မရှိလို့ ယူဆတယ်။ (မေးလ်သပ်စ်နဲ့ ခင်မင်ရင်းနှီးသူ) ထင်ရှားတဲ့ အင်္ဂလိပ် စီးပွားရေးပညာရှင် ဒေးဗစ်ရီကာဒို (David Ricardo) က **"ထုံးစံလုပ်အားတန်ဖိုးဟာ လုပ်သားတွေ ရှင်သန်နေအောင်၊ အလုပ်ဒဏ်ကို ကြံ့ကြံ့ခံနိုင်အောင် ဝတ်စားဖို့လုံလောက်ရင် ပြီးတယ်၊ တိုးပေးစရာ၊ လျှော့ပေးစရာ မလိုဘူး"** လို့ ယူဆတယ်။ ဒီသီအိုရီကို အများက "လုပ်ခသံဥပဒေ" (iron law of wages) ခေါ်တယ်။ ကားလ်မတ်ခ်စ် (Karl Marx) က လက်ခံပြီး လိုက်ရေးတယ်။ သူ "အစွန်းထွက်တန်ဖိုး" (theory Of surplus value) ဆိုတာရဲ့ အရေးအပါဆုံး အစိတ်အပိုင်း ဖြစ်တယ်။ မေးလ်သပ်စ်ရဲ့ အယူအဆဟာ

သတ္တာဗေဒ ပညာမှာလည်း လွှမ်းမိုးခဲ့တယ်။ ချားလ်စ်ဒါဝင် (Charles Darwin) က လူဦးရေဆိုင်ရာဥပဒေသ (Essay in the Principle of Population) ကို သူဖတ်ရပါတယ်။ အဲဒီကျမ်းက စဉ်ဆက်မျိုး၍ ပြောင်းလဲခြင်းသီအိုရီ (Theory Of evolution)မှာ သဘာဝရဲ့စီမံချက်ကိုပဲ လိုက်ပြီး အရေးပါတဲ့ကွင်းဆက်ကိုရှာဖို့ လမ်းစရပါတယ်လို့ ပြောခဲ့တယ်။

မေးလ်သပ်စ်ကို အင်္ဂလန်၊ ဆာရေး (Surrey) နယ်၊ ဒေါ်ကင် (Dorking) မြို့မှာ ၁၇၆၆ က မွေးဖွားခဲ့တယ်။

ကိမ်းဗရစ်တက္ကသိုလ် (Cambridge University) ယေရှု ကောလိပ် (Jesus College) မှာ ပညာသင်ခဲ့တယ်။ လူတော် တစ်ယောက်ပါ။ ၁၇၈၈ မှာ ဘွဲ့ရပြီး ဘွဲ့ရတဲ့နှစ်မှာပဲ အန်ဂလိကန် (Anglican) ဂိုဏ်းမှာ ရဟန်းခံ ခဲ့တယ်။ ၁၇၉၁ မှာ မဟာဝိဇ္ဇာ ဘွဲ့ရတယ်။ ၁၇၉၉ မှာ ယေရှုကောလိပ်ရဲ့ ဆိနိတ် (Senate) အဖွဲ့ဝင် (Fellow) ဖြစ်လာပါတယ်။ သူ့အယူအဆကို ပထမဆုံး နာမည်ဝှက်နဲ့ရေးပြီး ပုံနှိပ်ပါတယ်။ လူကြိုက်များတယ်။ သူလည်း ကျော်ကြား လာပါတယ်။ နောက်ငါးနှစ် (၁၈၀၅) ကြာတော့မှ ပိုပြီးပြည့်စုံအောင် ရေးပြီး ပုံနှိပ်ပါတယ်။ ထပ်ဖြည့် ပြင်ဆင်ပြီး ပုံနှိပ်ရတယ်။ ၁၈၂၆ မှာ ခြောက်ကြိမ်မြောက် တည်းဖြတ် ပုံနှိပ်ပြီးပါတယ်။

မေးလ်သပ်စ်က ၁၈၀၄၊ အသက် ၃၈ နှစ်ရောက်မှ အိမ်ထောင်ပြုတယ်။ ၁၈၀၅ မှာ သမိုင်းနဲ့ နိုင်ငံစီးပွားရေး အတွက် ဟေလေဗာရီ (Hailevhary) ရဲ့ အရှေ့အိန္ဒိယ ကုမ္ပဏီကောလိပ် (The East India Company) ပါမောက္ခ ဖြစ်လာတယ်။ အဲဒီရာထူးမှာပဲ ကွယ်လွန်တဲ့အထိ ထမ်းဆောင် ခဲ့ပါတယ်။ စီးပွားရေး နဲ့ပတ်သက်ပြီး မေးလ်သပ်စ်က စာအုပ်တွေ ရေးဖူးတယ်။ အဖိုးတန်ဆုံးက ၁၈၂၀ မှာ ပုံနှိပ်ထုတ်ဝေတဲ့ နိုင်ငံစီးပွားရေးအခြေခံ (The Principle of Political Economy) ကျမ်းဖြစ်ပါတယ်။

နောင်အခါ ဘောဂဗေဒ လေ့လာသူတွေက အသုံးပြုတယ်။ အထူးသဖြင့် ၂၀ ရာစုနှစ်မှာ အရေးပါတဲ့ ဂျွန်မေနဒ်ကင်း (John Maynard Keynes) ဖြစ်တယ်။ မေးလ်သပ်စ်ကို အသက်ကြီးမှ ဂုဏ်ပြုကြတယ်။ ၁၈၃၄ အသက် ၆၈ မှာ အင်္ဂလန်၊ ဘာ့သ် (Bath) အနားမှာ ကွယ်လွန်တယ်။ သားသမီး ၃ ယောက်ထဲက ၂ ယောက်ကျန်ရစ်တယ်။ မြေးမရှိ။ မေးလ်သပ်စ်ကွယ်လွန်ပြီး အချိန်တော်တော်ကြာမှ ပဋိသန္ဓေတားနည်း ခေတ်စားလာပါတယ်။ ဒါကြောင့် မေးလ်သပ်စ်နဲ့ ဒီလို ပဋိသန္ဓေကို ဆစ်ပိုင်းထားရမယ်ဆိုတဲ့ အယူအဆဟာ သူ့တစ်ဦးတည်းရဲ့ ဆောင်ရွက်ချက် မဟုတ်ပါလို့ ပြောတဲ့လူတွေ ရှိလာပါတယ်။ ကျွန်တော် ကတော့ ဒီလိုမပြောသင့်၊ ပြောရင် မမှန်ဘူးလို့ ယူတယ်။ ဘာပြုလို့လဲဆိုတော့ ၁၉ ရာစုနှစ်က ထိပ်တန်း အတွေးအခေါ်ပုဂ္ဂိုလ် ချားလ်စ်ဒါဝင်နဲ့ ကားလ်မတ်ခ်စ်တို့ကို မေးလ်သပ်စ်က အယူအဆပိုင်းမှာ လွှမ်းမိုးခဲ့တာ အထင်အရှား သိနေရလို့ ဖြစ်ပါတယ်။ ဒုတိယအချက်က မေးလ်သပ်စ် ဂိုဏ်းသစ်တွေရဲ့ ဝါဒတွေကို လူအများစုက လက်ငင်း ယူငင် အသုံးမပြုပေမယ့် သူတို့ပြောတာကို မထေမဲ့မြင်မပြုသာ၊ ဘယ်တော့မှ

တိမ်မြုပ်မသွားဘူး ဆိုတာကို တွေ့ရပါတယ်။ အခုခေတ် လူ့ဦးရေ ကန့်သတ်ရေး လုပ်ရှားမှုဟာ မေးလ်သပ်စ် အသက်ရှိစဥ်ကပဲ စခဲ့တဲ့ လှုပ်ရှားမှု ဖြစ်ပါတယ်။ သောမတ်စ် မေးလ်သပ်စ် ဟာ အုပ်ချုပ်ရေးကောင်းတဲ့ နိုင်ငံဖြစ်ပေမယ့် လူ့ဦးရေများလွန်းလာရင် ဒုက္ခရောက် နိုင်တယ်လို့ စပြောတဲ့လူတော့ မဟုတ်ပါ။ မေးလ်သပ်စ် ကိုယ်တိုင်က ပလေတိုနဲ့ အရစ္စတိုတယ် တို့လည်း ဒီပြဿနာကို သုံးသပ်ဖူးတယ်လို့ ပြောသွားပါတယ်။ 'ကလေး မွေးချင်တိုင်း မွေးဆိုပြီး လွှတ်ထားရင် ဆင်းရဲကြတော့မှာပေါ့' လို့ ပြောစကားကို ထောက်ပြ ခဲ့ပါတယ်။

မေးလ်သပ်စ်က အရင်းခံ မဟုတ်လို့ဆိုပြီး သူ့ကို အထင်မသေးသင့်ပါ။ ပလေတိုနဲ့ အရစ္စတိုတယ်တို့က ဒီကိစ္စကို အရင်းမူလပြုပြီး ဆွေးနွေး ဟောပြောတာ မဟုတ်ပါ။ ကြုံလို့ အသင့်အတင့် ပြောတာပဲဖြစ်တယ်။ ဒီတော့ ဘယ်သူကမှ အလေးအနက် ထားပြီး ဆက်မလုပ်၊ ဆက်မပြောဘဲ ချန်ခဲ့ကြတယ်။

မေးလ်သပ်စ်ကသာ ဒါကို အခြေခံပြီး ချဲ့ထွင် စဉ်းစား ရေးသားတာဖြစ်တယ်။ နောက်ဆုံး အနေနဲ့ ပြောချင်တာက မေးလ်သပ်စ်ကြောင့်သာ လူ့ဦးရေ သိပ်များရင် သိပ်ဒုက္ခ ရောက်နိုင်တယ်လို့ ပညာရှင် လောကမှာ အရေးတယူ ပြောလာတာ ဖြစ်ပါတယ်။

6, October, 2001.

# (၈၁) ဂျွန်ဖစ်ဂျရယ် ကနေဒီ (၁၉၁၇ – ၁၉၆၃)

# JOHN FITZGERALD KENNEDY (1917 –1963)

မက်ဆာချူးဆက် (Massachusetts) ပြည်နယ် ဘရွတ်ကလင်း (Brookline) မှာ ၁၉၁၇ က ဂျွန် ဖစ်ဂျရယ် ကနေဒီ (John Fitzgerald Kennedy) ကို မွေးဖွားပါတယ်။ အမေရိကန်ပြည်ထောင်စု သမ္မတအဖြစ် ၂၀ ဇန်နဝါရီ ၁၉၆၁ က တက္ကဆက် (Texas) ပြည်နယ် ဒါးလာ့စ် (Dallas) မှာ လုပ်ကြံခံရတဲ့ ၆ နိုဝင်ဘာ ၁၉၆၃ အထိ တာဝန် ထမ်းဆောင်ခဲ့ပါတယ်။ ကနေဒီရဲ့ အတ္ထုပ္ပတ္တိဆိုင်ရာ အကြောင်းအရာတွေကို ဒီမှာ ထပ်မပြောလိုပါ။ ဘာပြုလို့လဲ ဆိုတော့ သိကြပြီးဖြစ်မှာပဲလို့ ယူဆတယ်။ အဲဒါအပြင် ကနေဒီရဲ့ ကိုယ်ရေးအဖြစ်အပျက်နဲ့ နိုင်ငံရေး ဆောင်ရွက်ချက် တွေကြောင့် ဒီစာအုပ်မှာ သူ့အကြောင်းကို ထည့်သွင်း ဖော်ပြတာ မဟုတ်လို့ပါ။

အခုက နောက်နှစ်ပေါင်း တစ်ထောင်ကြာ သွားပြီဆိုရင် ငြိမ်းချမ်းရေးတပ် (The Peace Corps)၊ တိုးတက်ရေးမိတ်ဖွဲ့ (The Alliance of Progress)၊ ဝက်ပင်လယ်အော် (The Bay Of Pigs) ကို ဘယ်သူမှ အမှတ်ရ တော့မှာ မဟုတ်ပါ။ ကနေဒီရဲ့ဝါဒဆိုပြီး အကောက်ခွန်နဲ့ ပြည်သူ့ အခွင့်အရေးဆိုင်ရာ ဥပဒေတွေ လုပ်ခွင့် ဆိုတာလည်း ဘာမှ အရေးကြီးဖွယ် မဟုတ်တော့ပါ။

ဂျွန်အက်ဖ်ကနေဒီ (John F. Kennedy) ကို ဒီစာအုပ်ထဲမှာ ထည့်ရခြင်းရဲ့အကြောင်းက တစ်ခုပဲ ရှိတယ်။ အပိုလိုလေဟာပြင်လုပ်ငန်းကို ဖြစ်မြောက် အောင် ရှေ့ဆုံးကဦးဆောင်ခဲ့တဲ့ အချက် တစ်ခုတည်းကြောင့်ပဲ ဖြစ်ပါတယ်။ ကနေ့ကစပြီး နောက်နှစ်ပေါင်း ငါးထောင်အတွင်းမှာ ကမ္ဘာပေါ်က လူမှုန်သမျှ အစအနပျောက်အောင် ကြေမွ မသွားသေးဘူး ဆိုရင် ငါတို့ လပေါ် ရောက်ခဲ့တယ်ဆိုတဲ့ အချက်ဟာ တကယ့်ကြီးကျယ်တဲ့ကိစ္စ၊ လူ့သမိုင်းမှာ အကြီးကျယ်ဆုံး မှတ်တိုင်ဖြစ်တာကိုတော့ ဖျောက်ဖျက်မရ၊ ထင်ရှား ကျန်ရစ်ခဲ့ပါလိမ့်မယ်။ လစီမံကိန်းရဲ့ အရေးပါပုံကို ထပ်ဆောင်းပြီး နည်းနည်းပြောချင်ပါသေးတယ်။ ပထမ ဂျွန်အက်ဖ်ကနေဒီဟာ လပေါ် လူတက်ဖို့ ကိစ္စမှာ သူက တကယ့် အခရာ ဖြစ်မဖြစ် စစ်ဆေးရမယ်။ လပေါ် ပထမဆုံး ခြေချနင်းတဲ့ နေးလ်အမ်းစထရောင်း (Neil Armstrong) ဖြစ်ဖြစ်၊ အက်ဒွင်အယ်လဒရင် (Ederin Aldrin) ဖြစ်ဖြစ် တစ်ယောက်ယောက်ကို

ဂုဏ်ပြုဖို့ ပိုမကောင်းဘူးလားလို့ မေးစရာ ရှိပါတယ်။ ဘယ်လောက်ကြာကြာ နာမည်ကြီး နေမလဲဆိုတာနဲ့ ချင့်ပြီး တန်ဖိုးထားမယ်ဆိုရင် ကျွန်တော့် အထင်က နေးလ်အမ်းစထရောင်းကို နောက်အနှစ် ငါးထောင်မှာ လူတွေက ဂျွန်အက်ဖ် ကနေဒီ ထက်ပိုပြီး သိနေကြဦး မယ်လို့ ထင်ပါတယ်။ ဒါပေမဲ့ အရှိန်အဝါနဲ့ ဩဇာကြီးပုံကတော့ အမ်းစထရောင်းရော အယ်ဒရင်တို့က ဘာမှ အရေးမပါတော့ပါ။ မတော်တဆ သူတို့နှစ်ဦးစလုံး အပိုလို ၁၁ (Apollo. 11) မလွှတ်ခင် နှစ်လအလိုက အကြောင်း တစ်ခုခုကြောင့် သေသွားကြမယ် ဆိုရင် သူတို့နေရာကို ဝင်ပြီး လုပ်နိုင်ကြဖို့ လေ့ကျင့်ပြီးသား လူတစ်ဒါဇင် (၁၂ ဦး) ကျော်ကျော် အသင့်ရှိတယ်။ ဒီလိုဆိုရင် လေဟာပြင် ခရီးဆိုတဲ့ သိပ္ပံပညာ စေစားချက် ဖြစ်ထွန်းဖို့ စွမ်းဆောင်ချက်မှာ ဝဲင်ဟာဗွန်ဘရောင် (Wermher Von Braum) နဲ့ အလားတူ သိပ္ပံဆရာနဲ့ အင်ဂျင်နီယာတွေရဲ့ ကျေးဇူးလို့ ပြောချင်သလား။ ဝဲင်ဟာဗွန်ဘရောင်ဟာ သူလုပ်သင့်တာထက်ပိုပြီး လေဟာပြင် အစမ်းခရီး ပြင်ဆင်တဲ့အခါ အလုပ် ကြိုးစားခဲ့တာ မှန်ပါတယ်။ သူ့ရှေ့က ကွန်စတန်တင် စီယိုလ်ကော့ဖ်စကီး (Konstantin Tsiolkovsky)၊ ရောဗတ် အိပ်ချ် ဂေါဒါတ် (Robart H. Goddard) နဲ့ ဟာမန်း ဩဗဘ့သ် (Herman Oberth) တို့တွေလည်း ဒီလိုပဲ ကြိုးစားခဲ့ကြတာ ဖြစ်ပါတယ်။ နိုင်ငံရေးအရ အပိုလိုစီမံချက် (Apollo Project) ကို မဖြစ်မနေ လုပ်မယ်လို့ ဆုံးဖြတ် လိုက်တဲ့အခါ စပြီး ဘယ်သိပ္ပံပညာရှင် တစ်ဦး ဖြစ်ဖြစ်၊ ဆယ်ဦး အထက်ဖြစ်ဖြစ် သူတို့က အောင်မြင်ရေးအတွက် အရေးအပါဆုံး ဖြစ်တဲ့လူတွေ မဟုတ်တော့ပါ။ အရေးအကြီးဆုံး အခက်အခဲကို ချိုးဖျက်ရမှာက သိပ္ပံ အစွမ်းသက်သက်လို့ မထင်ထိုက်။ ဒေါ်လာ ၂၄ ဘီလီယံ (နှစ်ဆယ့်လေးကုဋေ) သုံးမယ်လို့ နိုင်ငံရေးက ဆုံးဖြတ် ပေးတာ ဖြစ်လို့ အရေးပါပါတယ်။

ကောင်းပြီ၊ နိုင်ငံရေးအရ ဆုံးဖြတ်ချက်ဆိုတာကို ပြောပြရဦးမယ်။ ဂျွန်အက်ဖ်ကနေဒီ မတိုင်မီက ဆုံးဖြတ်ရင်၊ သူ့နောက်မှ ဆုံးဖြတ်ရင် မဖြစ်နိုင်တော့ဘူးလား။ ဒီလိုဖြစ်မယ် မထင်ပါ။ အတိအကျပြောဖို့ ခက်တယ် ဆိုဦးတော့ တစ်ခါခါတော့ လပေါ် လူပါတဲ့ခရီး အတွက် စရိတ် ထုတ်ပေးမယ့် အစိုးရ ပေါ်ပေါက်လာနိုင်ပါတယ်။ ဂျွန်အက်ဖ်ကနေဒီကလည်း အများ လူထုဆန္ဒကို ဆန့်ကျင်ပြီး ဒီကိစ္စကို ဇွတ်တွန်းတင်နေရတာ မဟုတ်ပါ။

နောက်တစ်ဖက်ကနေပြီး ပြောရရင် လူထုကြီး ဒီလို သိပ်ကြီးကျယ်တဲ့ ကိစ္စကြီးကို အတင်းဖိပြီး မဖြစ်ဖြစ်အောင် လုပ်လို့ တောင်းဆိုနေတာလည်း မဟုတ်ပါ။ ဥပမာ ၁၉၅၉ ကဖြစ်ဖြစ်၊ ၁၉၆၀ ပြည့်မှာဖြစ်ဖြစ် ပြည်ထောင်စု ကွန်ဂရက် (United States Congress) က အပိုလိုစီမံကိန်း (Apollo Programme) ကို ဥပဒေပြုပြီး လိုတဲ့စရိတ်ကို သမ္မတ အိုင်စင်ဟောင်ဝါ (Eisenhower) က ပေးဖို့ အတည်ပြု ဖူးတယ် ဆိုပါရင် ကနေဒီက ရေသာစီးပြီး လိုက်ခဲ့ရုံပဲလို့ ဆိုနိုင်ပါတယ်။ တကယ့် အဖြစ်အပျက်က ဒီလိုမဟုတ်ပါ။ အမေရိကန်နိုင်ငံသားတချို့က ဒီလို လေဟာပြင်စီမံကိန်း တစ်မျိုးမျိုးကို တောင့်တမယ်လို့ ပြောနိုင်ပေမယ့် အခုလောက် ကြီးကျယ်တာမျိုးကို လူတကာ အုံးအုံး ကျွက်ကျွက် တောင်းဆိုတဲ့ သဘောမရှိဘူးပါ။ အပိုလိုဆယ့်တစ်

အောင်မြင်ခဲ့ပြီးတဲ့တိုင်အောင် ဒါလောက် ငွေကုန်ကြေး ကျခံပြီး ထိုက်တန်အောင် အကျိုးကျေးဇူး ရှိရဲ့လားလို့ မေးနေပါတယ်။ ၁၉၆၉ ကစပြီး NASA ဘတ်ဂျက် (budget) ဟာ ဒလဟော ကျဆင်း ခဲ့ရပါတယ်။

အဲဒါကြောင့် ဂျွန်အက်ဖ် ကနေဒီကသာ ဦးဆောင် ဦးရွက် မလုပ်ရင် အပိုလိုစီမံကိန်း တကယ် စဖြစ်ဖို့ မျှော်လင့်ချက် မရှိပါ။ သူကသာ မေ ၁၉၆၁ က အခု ဆယ်စုနှစ် မကုန်မီ လူပါတဲ့ယာဥ်လကို ဆင်းစေရမယ်လို့ မကြုံးဝါးရင် ဒီကိစ္စ မပေါ်ပေါက် မဖြစ်ထွန်းနိုင်ပါ။ သူကသာ ကွန်ဂရက်ရဲ့ ထောက်ခံ ခွင့်ပြုချက်ကို ရအောင်ယူပေးပြီး သူ့လက်အောက်မှာပဲ အစီအစဥ်ကျအောင် ဆောင်ရွက် ပေးတာ ဖြစ်တယ်။ လခရီးဟာ တစ်နေ့ဖြစ်မှာပဲလို့ ပေါ့ပေါ့တန်တန် မတွက်ပါနဲ့။ (ဖြစ်မယ် မထင်မိပါ။) တချို့က အပိုလိုစီမံကိန်းဟာ အဆမတန် ကြီးကျယ်တဲ့ ဟေးလားဝါးလားကြီးဟာ တကယ်တန်ဖိုးရှိတာ မဟုတ်ဘူးလို့ ပြောတယ်။ ၂၀ ဇူလိုင် ၁၉၆၉ လပေါ် လူခြေချတဲ့နေ့ရဲ့ နှစ်ပတ်လည်ပွဲ လုပ်မယ်။ လုပ်ရင် အမျိုးသားရက်အား (national holiday) အဖြစ် ရုံးပိတ်ပေးတာ ဆိုတာမျိုး မလုပ်ကြပါ။ ကိုလမ်ဘတ်စ်နေ့ (Columbus Day) လို့ တစ်ဆယ့်ခြောက်ရာစုနှစ်က မလုပ်ခဲ့ပေမယ့် ခုအခါ ခေတ်သစ် အစပြုရာကာလလို့ တန်ဖိုးထားပြီး အထိမ်းအမှတ် လုပ်နေကြတာကို သတိပြုပါ။ အပိုလိုစီမံကိန်း (Apollo Project) ကို ဆက်ပြီး ဘာမှ မလုပ်ပေမယ့် လူသားတွေရဲ့ အကြီးဆုံး အောင်ပွဲ တစ်ရပ်လို့ အမြဲမှတ်ယူထားကြပါတယ်။ လေဟာပြင် ခရီးသွားရယ်လို့ အပိုလိုစီမံကိန်း နောက်က လိုက်မလာ ပေမယ့် နောင်အခါ ဒီကိစ္စဟာ အရေးပါ လာဖို့ရှိပါတယ်။ ဒီလိုဆိုရင် အတ္တလန်တစ် (Atlantic) ကိုဖြတ်တဲ့ ကိုလမ်ဘတ်စ် (Columbus)လို အပိုလိုဆယ့်တစ် (Apollo 11) ခရီးဟာလည်း လူ့သမိုင်းမှာ ခေတ်သစ်စတဲ့ မှတ်တိုင်ရယ်လို့ နောက်တစ်ဆက် လူငယ်တွေက စွဲမြဲယူဆ လာကြမှာ ဖြစ်ပါတယ်။ မေ ၁၉၆၁ က ခုဆယ်စုနှစ်မကုန်မီ လူစီးလေယာဥ် လပေါ် ရောက်မယ်လို့ ကနေဒီ ကြွေးကြော်တဲ့အတိုင်း ၂၀ ဇူလိုင် ၁၉၆၉ က အာကာသယာဥ်စီးခြေရာကို လမှာ ချထားခဲ့ပြီး ပါပြီ။

23, October, 2001.

# (၈၂) ဂရယ်ဂိုရီပင်ကပ်စ် (၁၉၀၃ – ၁၉၆၇)

# GREGORY PINCUS (1903 – 1967)

ပဋိသန္ဓေတားတဲ့ သောက်ဆေးပြားကို ပေါ်ထွက် လာအောင် ဆောင်ရွက်တဲ့လူတွေထဲမှာ အရေးပါတဲ့ လူတစ်ဦးဖြစ်ခဲ့သူက ဂရယ်ဂိုရီပင်ကပ်စ် (Gregory Pincus) ဖြစ်ပါတယ်။ သူ့ကို တကယ်ပဲ လူသိနည်း ပါတယ်။ တခြားကမ္ဘာကျော်လူတွေနဲ့ မတူပေမယ့် သူဟာ နယ်ကျယ်ကျယ်မှာ ဩဇာသက်ရောက်ခဲ့တဲ့လူ ဖြစ်ပါတယ်။ ဒီဆေးပြားမှာ သတ္တိထူး နှစ်မျိုးရှိတယ်။ လူတွေ အဆမတန် တိုးပွားများပြားလာမှာကို သိပ်စိုးရိမ်စိတ်ဖြစ်နေတဲ့ အခုကမ္ဘာမှာ ဒီဆေးပြားရဲ့အာနိသင်ကြောင့် လူဦးရေ ကန့်သတ်နိုင်ဖို့ နည်းလမ်း ပေါ်တဲ့အတွက် သိပ်အရာ ရောက်တယ်။ ဒီလို တိုက်ရိုက်အကျိုးကျေးဇူးကို မမြင်ရ ပေမယ့် အရာရောက်တဲ့ နောက်အကျိုးတစ်ခုက လိင်နဲ့ ပတ်သက်တဲ့ သဘောထား အမူအကျင့် ပြောင်းလဲလာတာ ဖြစ်ပါတယ်။ ပြည်ထောင်စု (USA) မှာ အရင် အနှစ် သုံးဆယ်ကျော်ကစပြီး အဖိုအမ ဆက်ဆံရေးမှာ အထင်အရှား အကြီးအကျယ် ပြောင်းလဲချက်ရှိလာတာကို တွေ့ရပါတယ်။ ဒီလိုဖြစ်ဖို့ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး အချက်တွေစုပေါင်းပြီးမှ ဒီလိုပြောင်းလဲ တယ်ဆိုတာကို မငြင်းပါ။ ဒါပေမယ့် အခုတော်လှန် ပြောင်းလဲရေးဟာ ဒီဆေးပြားကြောင့် ဖြစ်တယ်လို့ ပြောနိုင်ပါတယ်။ အရင်က လင်ရှိရှိ၊ မရှိရှိ မလိုချင်ဘဲ ပဋိသန္ဓေရမှာကို မိန်းမတိုင်း သိပ်စိုးရိမ်ကြတယ်။ အခု သန္ဓေတွယ်မှာ မကြောက်ရလို့ အမျိုးသမီးတွေဟာ လိင်ဆက်ဆံရေးမှာ ကြောက်ဆုတ်ကြောက်ဆုတ် မဖြစ်တော့ပါ။ ဒီလိုအခြေအနေ တစ်မျိုး ဖြစ်လာတဲ့အတွက် သဘောထားရော၊ ဟန်အမူအရာပါ ပြောင်းတယ်။ ဧနောဗစ် (Enovid) ခေါ် ပထမဆုံးပေါ်တဲ့ သန္ဓေတားဆေးဟာ ဒါလောက်ပဲ ဂုဏ်သတ္တိကြီးမှာ ဒါမဖြစ်နိုင်ဘူးလို့ ပြောတဲ့လူတွေက ဒီဆေးပြား မပေါ်မီကဘဲ သန္ဓေကို တားဆီးဖို့ သိနေကြပြီ၊ သုံးနေကြပြီ။ ဒါပေမဲ့ ဒီလိုပြောတဲ့လူတွေ ခွဲခြားပြီးသိဖို့ ကောင်းတဲ့ အချက်က နည်းပညာမှာ စွမ်းတယ် ဆိုဦးတော့ စိတ်က အားကိုး ယုံကြည်ကြရဲ့လား ဆိုတဲ့အချက်ဖြစ်ပါတယ်။ ဆေးပြား မရှိတဲ့အခါက ‘လူတတ်’ တွေက အဖုံး (diaphragm) ကိုသုံးပါလို့ ခိုင်းတယ်။ အဖုံးကလည်း အားကိုး လောက်ပါတယ်။ ဒါပေမဲ့ လက်တွေ့မှာ အမျိုးသမီး အများစုက အရင်ကရော ခုထိမှာပါ အဖုံးကို မသုံးလိုကြပါ။ မှတ်သားလောက်တဲ့ နောက်အချက် တစ်ချက်က လက်တွေ့စိတ်ချရတဲ့ အဖုံးကို မသုံးလိုဘဲ အခုမှ စမ်းသပ်ဆဲဖြစ်တဲ့ဆေးပြားကို (အန္တရာယ် ရှိလေမလားလို့ မတွေးမဆဘဲ)

သုံးကြည့်တာပေါ့ဆိုတဲ့ အမျိုးသမီးက ရာထောင်မက များနေပါတယ်။ နေဘဗစ် (Enovid) ပေါ်ပေါက်လာတာကလည်း သိပ်ကြီးကျယ်တဲ့ အောင်မြင်ချက်လို့ ပြောဖို့ခက်ပါတယ်။ သူ့ကိုသုံးရင် သုံးသူရဲ့ကျန်းမာရေးကို တစ်မျိုးတစ်ဖုံ ထိခိုက်နိုင်တယ်။ သိပ်မကြာမီ သူ့ထက်စွမ်းတဲ့ဆေး၊ ပိုပြီး အန္တရာယ်ကင်းတဲ့ဆေး ဆိုတာမျိုး ဆက်တိုက် ပေါ်ထွက်လာနိုင်စရာ ရှိတယ်။ ဒါပေမဲ့ ဖြစ်ပေါ်နေတဲ့ ရေစီးကြောင်းကို ကြည့်လိုက်ရင် နောက်ပေါ်တွေက သူ့ထက် နည်းနည်းလည်း သာနိုင်တော့မယ်။ အသင့်အတင့် သူ့ကိုပဲ ပြုပြင်ထားတာတွေဖြစ်မယ်။ သူ့ကို အခုအတိုင်း သုံးစွဲသူ အများစုက ကျေနပ်နေပြီ။ (အကြောင်း တိုက်ဆိုင်လို့ ဆက်ပြောစရာ အချက်တစ်ခုက အရင် အနှစ်သုံးဆယ်ကျော် အတွင်း ဒီဆေးပြားကို မှန်မှန်သုံးတဲ့ သန်းနဲ့ချီပြီး အရေအတွက် ရှိတဲ့ အမေရိကသူ အမျိုးသမီးတွေဟာ သိသိသာသာ အသက်ရှည်လာတယ်။ ဒါကိုထောက်ရင် ဒီဆေးပြားဟာ ကျန်းမာရေးကို ထိခိုက်တယ် ဆိုပေမယ့် သာမညပါ။ သိပ်မကြီးကျယ်ဘူးလို့ အထင်အရှား ပြသနေတယ်။) ၁၉၅၇ ပြည့်လွန်နှစ်တွေ အတွင်းမှာ နေဘဗစ် ပေါ်ထွန်း တိုးတက်ကြီးပွားတာဟာ သန္ဓေတားနည်းတွေထဲက သူတစ်ခုသာ အရာရောက်တယ်လို့ အပြတ်အသတ် အောင်ပွဲ ရနေတယ်ဆိုတာကို သမိုင်းက သက်သေခံမယ်၊ သက်သေခံ နေပြီဖြစ်တယ်လို့ ဆိုရပါမယ်။ သန္ဓေတားဆေးပြား သောက်ရတာကို ကျေနပ်နှစ်သက် စွဲလမ်းလာအောင် လုပ်ပေးသူတွေ အများကြီး ပေါ်လာတယ်။ အကျယ်တဝင့် အချိန်အကြာကြီး ဆွေးနွေးကြပါတယ်။ ဒါပေမယ့် ဘယ်သူမှ ဒီဆေးပြားကို ဘယ်လို ဓာတ်ပစ္စည်းတွေ ပါသင့်၊ မပါသင့် ကို ပြောပြ ဖော်ထုတ်မပေးနိုင်ကြပါ။ ပြီးတော့ ဆန်းကြယ်ပုံ တစ်ခုက ဒီဆေးပြားကို ၁၉၃၇ လောက် ဝေးကွာတဲ့ ခေတ်ကာလကိုပဲ တွေ့ထားတာ ဖြစ်ပါတယ်။ အဲဒီနှစ်က အေဒဗလျူမိတ်ပိစ် (A. W. Makepeace)၊ ဂျီအယ်လ် ဝိန်းစတိန်း (G.L. Weinstein) နဲ့ အဲမ် အိပ်ချ် ဖရစ်ဒ်မဲန် (M.H.Friedman) တို့က (အမျိုးသမီး ဟိုမုန်းတစ်မျိုးဖြစ်တဲ့) ပရိုဂျစ်စထရုံး (Progesterone) ကို ဆေးထိုးဒယ်နဲ့ ဓာတ်စမ်းခန်းမှာ မွေးထားတဲ့ သတ္တဝါငယ်တွေမှာ ထိုးထည့်ပေးရင် အမိသန္ဓေမျိုး (Ovum) မကျအောင် တားဆီးပြီး ဖြစ်တယ်လို့ သိပါတယ်။ အခုလို အရေပြားအောက်ကို ဆေးရည် ထိုးသွင်းရတဲ့နည်းကို သန္ဓေတားချင်တဲ့ မိန်းကလေးတွေက သိပ်ကြိုက်ပုံ မပေါ်ပါဘူး။ ပြီးတော့ ဒီပရိုဂျစ်စထရုံးက သိပ်ဈေးကြီးတယ်။ ဒါကြောင့် နည်းတွေ့ ပေမယ့် ခေတ်မစားပါ။ ဆေးပြား စပြီးထုတ်လုပ်တာကတော့ ၁၉၅၇ ပြည့်ဝန်းကျင်ဖြစ်ပါတယ်။ အမေရိက ဇီဝဗေဒဆရာ ဂရယ်ဂိုရီ ပင်ကပ်စ်က ဒီပြဿနာရဲ့အဖြေကို စဉ်းစားကြံဆ ပေးနိုင်တာ ဖြစ်မယ်။ သူ့ကို ဒီကိစ္စ ဆောင်ရွက်ပေးဖို့ နှိုးဆော်သူက အိမ်ထောင်ဦးရေကန့်သတ်ပါ (Family Planning) လို့ ရှေးရှေးကပဲ ဟောပြောနေသူ မာဂရက်ဆန်ဂါ (Margaret Sanger) ဖြစ်ပါတယ်။ ဒီအလုပ်ကို ပင်ကပ်စ်နဲ့ အသင့်တော်ဆုံးလို့ ဒီ အမျိုးသမီးကြီးက သိထားပါတယ်။ သူက ဇီဝတွင်း ဖြစ်ပျက်မှု (Metabolism) နဲ့ နို့တိုက်သတ္တဝါ (Mammals) တွေမှာ မျိုးဆက်ဆင့်ပွားပုံ အရပ်ရပ်ကို အထူးနားလည်သူ ဖြစ်တဲ့အပြင် မက်ဆာချူးဆက်ပြည်နယ်၊ ရှရူဗာရီ (Shrawbary) က ဝေါဆက်စတာ ဖောင်ဒေးရှင်း (Worcester Foundation) ဓာတ်စမ်းရုံရဲ့ ညွှန်ကြားရေးမှူး

ဆိုတော့ ဒီကိစ္စတွေကို အမြဲ ထိတွေ့ပြီး ဇီဝဗေဒ (Biology) မှာ သုတေသန လုပ်နေသူဖြစ်ပါတယ်။ ပင်ကပ်စ် ချက်ချင်းပဲ သူ့ပညာ၊ သူ့ဥာဏ်နဲ့ ဒီပြဿနာရဲ့ သဘောဟာ ဘယ်လိုရှိတယ်၊ ဘယ်လိုရှင်းရမလဲဆိုတာကို စဥ်းစား မိတယ်။ သူက ဒေါက်တာ မင်ကြွေချန် (Min-Chuch Chang) ကို ဝေါဆက်စတာ ဖောင်ဒေးရှင်း ဓာတ်စမ်းရုံမှာ ရုံတွင်း မြွေတိရစ္ဆာန်တွေကို အမိမျိုးဆက် (Ovulation) နှိမ်ဖို့ ပရိုဂျက်စထရုန်းကို တိုက်ဆေး အဖြစ် သုံးလို့ရ မရ စမ်းသပ် စေပါတယ်။ ချန်ရဲ့ စမ်းသပ်ချက်တွေ အောင်မြင်တဲ့ အပြင် ရှေ့ဆက်ပြီးလုပ်ဖို့ အထောက်အကူ တစ်မျိုးကလည်း စောစောကပဲ ပေါ်ပေါက် နေတယ်။ ဓာတ်ခွဲဆရာ ရပ်ဆယ်မာကာ (Russell Maker) က ပရိုဂျက်စထရုန်းကို ဈေးပေါပေါနဲ့ အတု လုပ်ပေးပါတယ်။ သားဖွားမီးယပ်ဆရာ ဒေါက်တာ ဂျွန်ရော့ခ် (Dr. John Rock) က ပင်ကပ်စ်ပေးတဲ့ အကြံဥာဏ်အရ အမျိုးသမီး (human female) ကို ပရိုဂျက်စထရုန်း ဆေးပြား ကျွေးရင် သန္ဓေတားနိုင်ပါသလားလို့ စမ်းသပ်ခိုင်းရာ ရနိုင်တယ်လို့ သိရပါတယ်။ ဒါပေမဲ့ ရော့ခ်ရဲ့ စမ်းသပ်ချက် အရ ပေါ်လာတဲ့အခက်အခဲနှစ်ရပ်က ပရိုဂျက်စထရုန်းကို ဆေးပြားလုပ်ပြီး စားရင် အမိမျိုးဆက်ကို ၈၅ ရာခိုင်နှုန်းသာ ဖျက်ဆီးနိုင်တယ်။ အဲဒါတောင် ဆေးပြားတွေ အများကြီးသောက်မှ ဖြစ်နိုင်တယ် လို့ ပြောပါတယ်။

ပင်ကပ်စ်ကတော့ သူစထွင်တဲ့လမ်းဟာ လမ်းကောင်း လမ်းမှန် ဖြစ်တယ်လို့ လက်မလျှော့ပဲ ဆက်ပြီး ကြံဆ ရှာဖွေတယ်။ ပရိုဂျက်စထရုန်းကို ချို့ယွင်းချက် မပါဘဲ အစွမ်းထက်မယ့်ဆေးကို ရှာပါတယ်။ ဓာတုပစ္စည်း ထုတ်တဲ့ ကုမ္ပဏီရှိသမျှကို သူတို့ထုတ်တဲ့ ဆေးထဲမှာ ပရိုဂျက်စထရုန်းနဲ့ ဆက်စပ်နေတဲ့ဆေး၊ စတီးရွိုက်စ် (Steroids) နဲ့ စပ်သမျှဆေးတွေကို နမူနာပါ ပို့ပေးဖို့ မေတ္တာရပ်ခံလိုက်တယ်။ ပို့လိုက်တဲ့ဆေးတွေကို စမ်းသပ်တဲ့အခါ ဂျီဒီဆာလ် (G.D. Searle) ကုမ္ပဏီက ထုတ်တဲ့ နိုရေသိုင်နောဒရယ် (norethynodrel) ဟာ အထက်မြက်ဆုံး ဖြစ်တာကို တွေ့ရှိပါတယ်။

၁၉၅၀ ပြည့်ကစပြီး သူ ကြိုးစား ဆောင်ရွက် ခဲ့တာတွေထဲမှာ ဒီတစ်ခါ အကောင်းဖြစ်တယ်လို့ ပင်ကပ်စ် ထင်တယ်။ သူ့ရဲ့ သုတေသနစချိန်က ဒီဆေး မပေါ်သေးပါ။ ၁၉၅၂ မှာ ဆာလ် (Searle) ဓာတ်စမ်းရုံတွေက ဘယ်သူမှ သောက်ရတဲ့ သန္ဓေတားဆေးကို ရှာနေတာ မဟုတ်ပါ။ ပြီးတော့ မရှာဘဲ သန္ဓေတားဆေး ကောင်းကောင်း တွေ့ရှိရထားပြီး ဖြစ်တယ်လို့လည်း သတိမပြုမိကြပါ။ ပင်ကပ်စ်က သူ့ရဲ့သုတေသနအဖွဲ့နဲ့ နိုရေသိုင်နော ဒရယ်လ်ကို သူ့ချည်း မဟုတ်ဘဲ မက်စတြာနောလ် (mestranol) နည်းနည်းနဲ့ ဖြည့်စွက်လိုက်ရင် ပိုပြီး ထိရောက် လိမ့်ဦးမယ်လို့ သိရှိလာပါတယ်။

ဒီနှစ်မျိုး ပေါင်းပြီး ဂျီဒီဆာလ် (G.D. Searle) ကုမ္ပဏီက နောဗစ် (Enovid) ကို ထုတ်လုပ်ပြီး ပင်ကပ်စ်က ၁၉၅၅ ရောက်တဲ့အခါ ဒီဆေးပြားကို ကွင်းဆင်းပြီး အကျယ်တဝင့် စစ်ဆေးချိန် တန်ပြီလို့ ယူဆပါတယ်။ ဧပြီ ၁၉၅၆ မှာ ကွင်းဆင်း စစ်ဆေးရေး စတယ်။ ပွာတိုရီကို (Pueto Rico)၊ စန်ဂွမ်း (San Juan) ဆင်ခြေဖုံး ရပ်ကွက်မှာ အမျိုးသမီးဒေါက်တာ အိဒရစ် ရိုက်စ်ရေး (Dr. Edris Rice-Wray) က

ကြီးကြပ်တယ်။ ကိုးလ တိုင်တိုင် စစ်ဆေးပြီးတဲ့အခါ ဒီဆေးဟာ ပဋိသန္ဓေတားဆေး အဖြစ်နဲ့ ထူးထူးခြားခြား စွမ်းတယ်လို့ ဖော်ထုတ် နိုင်ပါတယ်။ ဒါပေမယ့် စစ်ဆေးရေးကို ရှေ့ဆက်ပြီး သုံးနှစ်ကြာအောင် စစ်ဆေးပြီးခါမှ မေ ၁၉၆၀ မှာ ဧနောဗစ်ကို အစာနဲ့ဆေး ထိန်းကွပ်ရေးဌာန (Food and Drug Administration) က ထုတ်ဝေ ရောင်းချ ခွင့်ပြုလိုက် ပါတယ်။

အခုပြောတဲ့အတိုင်း ဂရယ်ဂိုရီ ပင်ကပ်စ်ဟာ သူကိုယ်တိုင် သန္ဓေတားဆေးပြားကို ထုတ်လုပ်ပြီး မရောင်းပါ။ နိုရေသိုင်နောဒ ရယ်လ်ကို ဖရင့် ကိုလ်တန် (Frank Colton) က စတင် ဖော်စပ်သူဖြစ်ကြောင်း သေချာတယ်။ သူ့ကိုလည်း ကူညီရိုင်းပင်းသူတွေရှိလို့ အပေါင်းအပါ အားလုံးကိုပဲ ချီးမွမ်း ဂုဏ်ပြုရမှာ ဖြစ်ပါတယ်။ ဒီလိုပဲ ပင်ကပ်စ် အုပ်စုမှာလည်း ဂျွန်ရော့ခ်၊ မင်ကြွေချန်နဲ့ ဒေါက်တာ စယ်လ်ဆို–ရေမွန်ဂါစီယား (Dr. Celso Ramon Garcia) တို့ ပါဝင်ဆောင်ရွက်ချက်လည်း အရေးပါတယ်။ ဒေါက်တာ ရိုက်စ်ရေး (Dr. Rice Wray)၊ မာဂရက်ဆန်ဂါ (Margaret Sanger) တို့နဲ့ နာမည် မဖော်ပြပေမယ့် ပါဝင်ဆောင်ရွက်သူတွေ အများအပြား ရှိပါတယ်။ ဘာပဲပြောပြော ဂရယ်ဂိုရီ ပင်ကပ်စ်ကတော့ ဒီစီမံကိန်း တစ်ခုလုံးမှာ မဏ္ဍိုင် နိုးဆော်သူ အဖြစ်နဲ့ ပါဝင်တယ်။ သန္ဓေတား ဆေးပြားကို တကယ်အားကိုးလောက်အောင် လုပ်ပေးဖို့ လိုလိုလားလား ကြိုးစားဆောင်ရွက်သူ ဖြစ်တယ်။ သိပ္ပံပညာ အခြေခံကြီးတယ်။ စီမံ ဆောင်ရွက်နိုင်တဲ့ စွမ်းအား လည်းရှိတယ်။ ဒါကြောင့်လည်း အောင်မြင်သွားတာဖြစ်တယ်။ သူက အခြေခံ စိတ်ကူး ထုတ်ပေး ပြီးတော့ ငွေကြေး ကုန်ကျစရိတ်ကို ရှာပေးနိုင်သူလည်း ဖြစ်ပါတယ်။ စွမ်းဆောင်နိုင်မယ့် ပညာသည်ကိုလည်း ဖော်ထုတ် ဖိတ်ခေါ် ပူးတွဲ ဆောင်ရွက်ပါတယ်။ သူ့မှာ အမြင်ရှိတယ်၊ ဆုံးဖြတ်ချက် နိုင်တယ်။ ဒါကြောင့် သူ့ကို ဒီကိစ္စမှာ အကြီးမားဆုံး ဂုဏ်ပြုထိုက်တယ်။ ဒီလို သူ့ကို ဦးထိပ်ထားပြီး ဂုဏ်ပြုချက် ကိုလည်း အရထိုက်ဆုံး ပုဂ္ဂိုလ် ဖြစ်ပါတယ်။

ဂရယ်ဂိုရီ ပင်ကပ်စ်ကို နယူးဂျာစီ (New Jersey) နယ်။ ဝုဒ်ဘိုင်း (Wordbine) မှာ ၁၉၀၃ ခုနှစ်က မွေးဖွား ခဲ့တယ်။ ရုရှမိဘ (Russian–Jewish parents) က ဆင်းသက်သူ ဖြစ်တယ်။ ၁၉၂၄ က ကော်နယ် (Cornell) တက္ကသိုလ်က ဘွဲ့ရခဲ့တယ်။ ပါရဂူဘွဲ့ကိုတော့ ဟားဗတ် (Harvard) က ၁၉၂၇ မှာ ရတယ်။ နောက် ဟာဗတ်နဲ့ ကိမ်းဗရစ်ချ် (Cambridge) လိုနေရာ တွေမှာ လေ့လာစမ်းသပ်တဲ့ အဖွဲ့ပေါင်းစုံမှာ အမှုထမ်းခဲ့ပြီး ကလပ် (Clark) မှာ ပါမောက္ခ အဖြစ်နဲ့ နှစ်အကြာကြီး နေခဲ့တယ်။ ၁၉၄၄ မှာ သတ္တဗေဒ (Biology) စမ်းသပ်ရေး အတွက် ထူထောင်တဲ့ ဝေါဆက်စတာ ဖောင်ဒေးရှင်း (Worcester Foundation) ဖြစ်မြောက်ရေးမှာ ပါဝင်ခဲ့တယ်။ အဲဒီက ဓာတ်စမ်းရုံတွေမှာ ဒါရိုက်တာ အဖြစ် နှစ်တွေ အကြာကြီး နေခဲ့တယ်။ သိပ္ပံပညာ သုတေသနစာတမ်း ၂၅၀ ကျော်ရေးသား ထုတ်ဝေတဲ့အပြင် ၁၉၆၅ က မျိုးပွားကို ထိန်းသိမ်းနိုင်ခြင်း (The Conquest of Fertility) အမည်ရှိတဲ့ ကျမ်းစာအုပ်ကို ရေးသား ထုတ်ဝေခဲ့ပါတယ်။ သိပ္ပံပညာဆိုင်ရာ ဂုဏ်ထူးဘွဲ့ထူးတွေကို ပင်ကပ်စ် ဘဝသက်တမ်း တစ်လျှောက်မှာ အများကြီး ရခဲ့ပါတယ်။ ဒါပေမယ့် သူရော၊

သူ့အပေါင်းအပါတွေပါ ဒီဆေးပြား အတွက် ဘယ်သူမှ နိုဘယ်လ်ဆု မရခဲ့ပါ။ ၁၉၆၇ ခုနှစ် ဘော့စတွန် (Boston)မှာ ပင်ကပ်စ် ကွယ်လွန်တဲ့အခါ အများ ပြည်သူက သတိမထား မိလိုက်ကြပါ။ သူ့ရောင်းရင်း သိပ္ပံပညာရှင် တွေလည်း မသိလိုက်ကြပါ။ အခု ခေတ်ပေါ်တဲ့ စွယ်စုံကျမ်းတွေထဲမှာ သူ့နာမည် မပါတဲ့ ကျမ်းတောင် ရှိတယ်။ အဲဒါပေမဲ့ သူဟာ လူ့သမိုင်းမှာ သိပ်အရာရောက်တဲ့ နည်းတစ်ခုကို ဆောင်သယ်ပြီး အောင်မြင်အောင် တီထွင်နိုင်သူ တစ်ယောက် ဖြစ်ပါတယ်။

24, October, 2001.

# (၈၃) မနိ(၂၁၆ – ၂၇၆)

# MANI (216 – 276)

ခရစ်သုံးရာစုနှစ်က မနိ (Mani) အမည်ရှိတဲ့ တမန်တော် တစ်ပါး ပေါ်လာပါတယ်။ သူ့ကို စွဲယူပြီး မနိဆေ အယူဝါဒ (Manichacism) ပေါ်ထွန်း ခဲ့တယ်။ အခုတော့ ဒီဝါဒကို စွဲယူသူ လုံးဝ မရှိတော့ပါ။ ဒီတမန်တော် သက်တော်ထင်ရှား ရှိစဉ်ကတော့ ကိုးကွယ် ဆည်းကပ်သူ၊ သူ့ဝါဒ သူ့လမ်းညွှန်သမျှကို လိုက်နာ ယုံကြည်သူ အင်မတန် များတယ်လို့ သိရပါတယ်။ အနောက်အာရှ (Middle East) မှာ ဒီဝါဒ စတင်ပေါ်ပေါက်ပြီး အနောက်ဘက် အတ္တလန်တစ် (Atlantic) သမုဒ္ဒရာကမ်းစပ်အထိ၊ အရှေ့ဘက် ပစိဖိတ် (Pacific) သမုဒ္ဒရာကမ်းစပ်ထိ ပျံ့နှံ့အောင် လူကြိုက်များ ခဲ့ပါတယ်။ အနှစ်တစ်ထောင်ကျော်အထိ မနိ (Mani) စတင်တဲ့ ယုံကြည်မှုဆိုတာက စောစောက ပေါ်ပေါက်ပြီးသား အယူဝါဒတွေထဲက (ကောင်းနိုးရာရာ) ဆွဲထုတ်ပေါင်းစပ် ထားတာဖြစ်လို့ သိပ်စိတ်ဝင်စားစရာ ကောင်းပါတယ်။ မနိက ဇော်ရော့အက်စတာ (Zoroaster)၊ ဗုဒ္ဓ (Buddha) နဲ့ ယေရှု (Jesus) တို့တွေဟာ တမန်တော် (Prophets) အစစ်တွေပါလို့ အသိအမှတ်ပြုတယ်။ ဒါပေမဲ့ သူက နောက်ဆုံး ပေါ်လာသူဖြစ်လို့ အရင်က ပေါ်လာသူ တွေ ပြောဟောတာထက် သာတယ်လို့ ဆိုပါတယ်။ ဗုဒ္ဓနဲ့ ခရစ် ပြောဆိုချက်တွေကို မနိ အယူဝါဒမှာ ပါတယ်ဆိုပေမယ့် (အနောက်တိုင်းသားတွေကတော့) ဇော်ရော့အက်စတာရဲ့ ပြန်ကဟပ် သဘောတရားက ပိုများတယ်လို့ ထင်ကြတယ်။ မနိရဲ့ ပြောဟောတဲ့ တရားက ကမ္ဘာကို တန်ခိုးရှင် တစ်ပါးထဲက အုပ်စီးနေတာ မဟုတ်ဘူး။ အမြဲအားနှစ်ခုဟာ ပြိုင်နေတယ်လို့ သွန်သင်ပါတယ်။ အားတစ်ခုက အမှားဘက်က အမှောင်၊ နောက်တစ်ခုက အမှန်တရားနဲ့ အလင်းဖြစ်တယ်လို့ ဆိုပါတယ်။ ခပ်ပေါ့ပေါ့ တန်တန်တွေးရင် ဒါအယူအဆဟု ခရစ်တော် ဆုံးမချက်က ဘုရားနဲ့ မကောင်းဆိုးဝါး ပြိုင်ဆိုင်တဲ့ သဘောတရားလို့ ပြောနိုင်ပါတယ်။ ဒါပေမယ့် မနိသဘောတရားမှာ အကောင်းနဲ့ အဆိုး ပြိုင်ဆိုင်ကြရာမှာ တစ်ဖက်နဲ့တစ်ဖက် အားချင်း ညီမျှနေတယ်လို့ ပြောပါတယ်။ ဒီလိုဆိုရင် ခရစ်တော်နဲ့ ဂျူးအယူဝါဒ ဒဿနိကတွေမှာ အမှောင်ဘက်က အနိုင်ရ သွားမှာကို သိပ်ပြီး သတိထား ကြိုးစားချေဖျက်ရတဲ့ ပြဿနာမျိုး မရှိ၊ မနိဒဿနမှာ ပြဿနာ မရှိပါ။ မနိ တရားတော်ကို အသေးစိတ် တင်ပြဆွေးနွေးဖို့ နေရာမပေးနိုင်ပါ။ အချုပ်သဘောကိုသာ ပြောရမယ်ဆိုရင် လူတစ်ဦး တစ်ယောက်ရဲ့ ဝိညာဉ်ဟာ အကောင်းတရား၊ လူ့ခန္ဓာကိုယ်က

မကောင်းတရားဖြစ်လို့ ကာမနိုးနှောမယ် ဆိုရင် မျိုးဆက်သစ်ရဖို့ ကိစ္စလို့ အကြောင်းပြတာ ကိုတောင် လက်မခံဘဲ အပြတ် ပိတ်ပင်တားမြစ်ပါတယ်။ ဒီလိုပဲ အသား မစားနဲ့၊ သေရည်သေရက် မသောက်နဲ့လို့ တားတယ်။ ဒါလောက်သိရင် ဒီလိုဆုံးမသွန်သင်တာဟာ လိုက်နာမယ့်လူ အများအစား မရနိုင်လို့ ပြောချင်ကြမယ်။ တစ်ဖက်က ထွက်ပေါက်ရှိပါတယ်။ ယုံကြည်တဲ့လူ အားလုံးကို မဖြစ်မနေ လိုက်နာ ရမယ်လို့ မပြောပါ။ လက်ရွေးစင် လူနည်းစုကိုသာ ကန့်သတ်ပြီး လိုက်နာ စေရမယ် ပညတ်ထားပါတယ်။ ရိုးရိုးအသင်းဝင်တွေက လက်ထပ်မယား၊ တိတ်တခိုး မယား ထားရပါတယ်။ သားသမီး မွေးခွင့်၊ အသားစားခွင့်၊ ဝိုင် (Wine) သောက်ခွင့် ဆိုတာမျိုးတွေကို လုပ်နိုင်ပါတယ်။ အဲဒီလို တရားတော်ကို သာမန်ကြားနာသူတွေရဲ့တာဝန်က လက်ရွေးစင်တွေကို ကျွေးမွေး ထောက်ပံ့ကြရမယ်။ (ဒီလိုပဲ ရဟန်းသံဃာကိုသာ ကာမဂုဏ်ကိစ္စကို တားမြစ်ပေမယ့် ကျန်လူတွေကို မတားတဲ့ အယူဝါဒတွေ ရှိပါတယ်။) လက်ရွေးစင် ပုဂ္ဂိုလ်တွေက သေလွန်ရင် နိဗ္ဗာန် ရောက်တယ်။ ကြားနာသူတွေက ရောက်တော့ရောက်မယ်၊ ကြာမယ်။ မနီဂိုဏ်းခွဲ ကက်ထရိ (Cathari) တွေက ကြားနာသူလည်း လက်ရွေးစင်တွေလို နိဗ္ဗာန်ရောက်မယ်၊ မရောက်မီလည်း အသင့်အတင့် စည်းကမ်း ဖောက်ခွင့်ပြု ပါတယ်။

မနီကို မက်ဆိုပိုတေးမီးယား (Mesopotamia) မှာ ခရစ် ၂၁၆ ခုနှစ်က မွေးဖွားတယ်။ အဲဒီတုန်းက ပါရှအင်ပါယာ (Persian Empire) မှာ အာသဆဒ် (Arsacid) ခေါ် ပထန် (Parthian) မင်းဆက် အုပ်စိုးချိန် ဖြစ်တယ်။ ပါရှ လူမျိုးတွေက ဇော်ရော့အက်စတာ ဂိုဏ်းခွဲတွေထဲက တစ်ဂိုဏ်းဂိုဏ်းကို ကိုးကွယ်ကြမြဲဖြစ်ပါတယ်။ မနီက ခရစ် အယူဝါဒကို အများကြီး လိုက်နာနေတဲ့ ဇော်ရော့အက်စတာ ဂိုဏ်းခွဲ ငယ်ငယ် တစ်ခုမှာ မွေးဖွားကြီးပြင်းခဲ့ပါတယ်။ အသက် တစ်ဆယ့်နှစ်နှစ်သား အရွယ်ကပဲ အထက်က ပြောပြလာလို့ အကြားအမြင် ရတယ်လို့ ဆိုပါတယ်။ အသက်နှစ်ဆယ့်လေးနှစ် ရှိတဲ့အခါ အယူဝါဒသစ်ကို စတင် ဟောပြောခဲ့ပါတယ်။ သူ့ရဲ့မွေးရပ်မြေနေမှာ လိုက်နာသူနည်းလို့ အိန္ဒိယ အနောက်မြောက်ဒေသကို လာခဲ့ပြီး နေရာသစ်မှာ မင်းတစ်ပါးကို သူ့အယူကို လက်ခံအောင် သိမ်းသွင်းနိုင်ခဲ့ပါတယ်။ ပါရှ (Persia) ကို ၂၄၂ ခုနှစ်က ပြန်လာပြီး ပထမ ရှပုရ် (Shapur I) ကို ချဥ်းကပ် ပြောဟောခွင့်ရတဲ့အခါ ရှပုရ်ဘုရင်က သူ့အယူဝါဒကို လက်ခံ ယုံကြည်တယ်လို့ အတိအကျ ဖွင့်ဟ ပြောဆိုခြင်း မပြုပေမယ့် ပါရှအင်ပါယာ (Persian Empire) ကြီးအတွင်းမှာ လှည့်ပတ် ဟောကြားခွင့် ပြုထားပါတယ်။ (အခုပြောတဲ့ ပါရှ အင်ပါယာကို တစ်ခါတစ်ရံ စက်စနိဒ် အင်ပါယာ (Sassanid Empire) လို့ ခေါ်တယ်။ ၂၂၆ ကစပြီး မင်းဆက် အသစ် စခဲ့တယ်။) ပထမရှပုရ်နဲ့ ပထမ ဟောရ်မိဇ် (Hormizd I) ကေရာဇ်တွေလက်ထက်မှာ မနီကို အတားအဆီး မရှိ ပြောဟောခွင့်ပြုထားလို့ သူ့အယူကို ကူးပြောင်းလာတဲ့ လူအတော်များလာပါတယ်။ အဲဒီအခါကပဲ နိုင်ငံခြား သာသနာပြုတွေလည်း လွှတ်ပါတယ်။ ဒါပေမဲ့ အခုပြောတဲ့ စက်စနိဒ်မင်းဆက်က နိုင်ငံတော် သာသနာလို့ ဇော်ရော့ အက်စတာ အယူဝါဒကို အသိအမှတ်ပြုပြီး ဖြစ်နေလို့ ဇော်ရော့အက်စတာ ရဟန်းတွေက မနီ ခုလို အောင်မြင်လာတာကို မနှစ်သက်ပါ။

သူတို့က ကန့်ကွက်ထားကြောင်း ပထမဗဟ္ရမ် (Bahram I) နန်းတက်ချိန် ၂၇၆ ခုနှစ်လောက်ကစပြီး မနိကို ဖမ်းပြီး ထောင်ချလိုက်တယ်။ နှစ်ဆယ့်ခြောက်ရက်တိုင်တိုင် ရက်ရက်စက်စက် ညှဉ်းပန်း နှိပ်စက်ခံရလို့ မနိ ကွယ်လွန် ရပါတယ်။

မနိတစ်သက်တာမှာ ကျမ်းစာအုပ်အများ ရေးသား ဖြန့်ဝေခဲ့တယ်။ တစ်ကျမ်းပဲ ပါရှဘာသာနဲ့ ရေးတယ်။

ကျန်တဲ့ကျမ်းတွေ ယေရှုခေတ်က သုံးတဲ့ အာရမိခ် (Aramaic) ဘာသာစကားနဲ့ သိပ်နီးစပ်တဲ့ ဆီးမိုက် (Semite) ဘာသာစကားရဲ့ အဆွယ်အပွားဖြစ်တဲ့ ဆိရိယက် (Syriac) ဘာသာနဲ့ ရေးသားခဲ့ပါတယ်။ အဲဒီကျမ်းတွေကို မနိအယူဝါဒရဲ့ ကျမ်းကြီးကျမ်းခိုင်တွေ ဖြစ်လာပါတယ်။ ဒီအယူဝါဒ ကျဆင်း ပျောက်ကွယ် သွားတဲ့အခါ ဒီကျမ်းတွေလည်း တိမ်ကော ပပျောက်သွား တယ်။ နှစ်ဆယ်ရာစုနှစ်ထဲမှာ တချို့ပြန်တွေ့ တာလည်း ရှိပါတယ်။ မနိဝါဒ ပေါ်လာစဥ်ကစပြီး သူတို့အယူကို ကူးပြောင်း လက်ခံကျင့်သုံးဖို့ အပူတပြင်း လှုံ့ဆော် တိုက်တွန်းလေ့ ရှိပါတယ်။ တမန်တော် အသက် ထင်ရှား ရှိစဥ်ကပဲ ယုံကြည်သူတွေ အိန္ဒိယက ဥရောပအထိ ရှိခဲ့ပါတယ်။ ကွယ်လွန်ပြီးတဲ့အခါမှာလည်း ဆက်လက် ပျံ့ပွားခဲ့လို့ အနောက်ဘက်မှာ စပိန်၊ အရှေ့ဘက်မှာ တရုတ်ထိ ထင်ရှားခဲ့ပါတယ်။ အနောက်တစ်ခွင်မှာ အကြီးမားဆုံး အချိန်က လေးရာစုနှစ်ဖြစ်တဲ့အတွက် အဲဒီအခါက ခရစ်ဝါဒရဲ့ အကြီးမားဆုံး အန္တရာယ် ဖြစ်လာပါတယ်။ (စိန့်ဩဂတ်စတင်းဟာ မနိဂိုဏ်းဝင် ကိုးနှစ် ဖြစ်ခဲ့ဖူးပါတယ်။) ရောမ အင်ပါရာမှာ ခရစ် အယူဝါဒကို နိုင်ငံတော်အယူဝါဒလို့ သတ်မှတ်တဲ့အခါ မနိဂိုဏ်းကို အပြင်းအထန် နှိပ်ကွပ်ဖျက်ဆီးတဲ့ အတွက် ၆ဝဝ လောက် ကစပြီး အနောက်ဘက်မှာ ဒီအယူဝါဒ ပပျောက် သွားပါတယ်။

မက်ဆိုပိုတေးမီးယား (Mesopotamia) နဲ့ အီရန် (Iran) မှာ ဆက်လက်ရှင်သန်နေတဲ့အပြင် အဲဒီက ဗဟိုအာရှ (Central Asia)၊ တာကစ်စတန် (Turkestan) နဲ့ အနောက်တရုတ် (China) အထိ ပျံ့ပွားသွားပါသေးတယ်။ ရှစ်ရာစုနှစ် အကုန်ပိုင်းကို ရောက်တဲ့အခါ ဒီအယူဝါဒဟာ အီဂါရ်စ် (Uighurs) မှာ နိုင်ငံတော် အယူဝါဒဖြစ်လာပြီး အနောက်တရုတ်နဲ့ မွန်ဂိုလီးယား (Mongolia) မှာ ထင်ရှားတဲ့အယူဝါဒ ဖြစ်ခဲ့ပါတယ်။ တရုတ်နိုင်ငံ အတွင်းပိုင်းကို ဝင်ပြီး ပင်လယ်စပ်အထိ ပျံ့နှံ့တဲ့ အပြင် ထိုင်ဝမ် (Taiwan) ထိရောက်တဲ့ ကိုးကွယ်ယုံကြည်မှု ဖြစ်ခဲ့တယ်။ ဒါပေမယ့် ခုနစ်ရာစုနှစ်မှာ အစ္စလာမ် (Islam) က အပြီးတိုင် ထိုးဖောက် အောင်မြင်လာတဲ့အခါ မနိဝါဒ ယုတ်လျော့ ကျဆင်းသွားပါတယ်။ ရှစ်ရာစုနှစ် ကစပြီး ဘဂ္ဂဒက် (Baghdas) ရှိ အဗ္ဗဆဒ် (Abbasid) ကာလစ် (Caliphs) အုပ်စိုးသူအကြီးအကဲတွေက အပြင်းအထန် နှိပ်ကွပ်လို့ မနိဝါဒဟာ မက်ဆိုပိုတေးမီးယားနဲ့ အီရန်မှာ တွဲစပ်ပြီး ရှိနေပေမယ့် နောက်ဆုံး တိမ်မြုပ်ရတယ်။ နောက်ကိုးရာ စုနှစ်မှာ ဗဟိုအာရှမှာလည်း ကျဆင်း လာပါတယ်။ မွန်ဂို ကျူးကျော်စစ်တွေ တစ်ဆယ့်သုံးရာ စုနှစ်မှာ

ပေါ်လာတဲ့အခါကျတော့ မနိဂိုဏ်းဟာ အပြီးတိုင် တိမ်မြုပ် သွားရပါတယ်။ ဒါတောင် မာကိုပိုလိုက ၁၃၀၀ လောက်က တရုတ်မှာ မနိဝါဒ ရှိသေးတယ်၊ သူတွေ့ခဲ့တယ် လို့ ပြောပါသေးတယ်။ အဲဒီအချိန်တွေမှာ မနိမှာ ဂိုဏ်းခွဲတွေ ဥရောပမှာ အများကြီးရှိခဲ့တယ်။ ပေါလီစီယ (Paulicias) တွေကို ခုနစ်ရာစုနှစ်မှာ ဗိုင်ဇန်တိုင်းအင်ပါယာ (Byzantine Empire) မှာ တွေ့တယ်။ ဗိုဂိုမီလ် (Bogomils) တွေကတော့ ဘော်လ်ကန် (Balkan) မှာ အင်အား အများဆုံး ဖြစ်ပြီး အဲဒီမှာ တစ်ဆယ်ရာစုနှစ်လောက်က ထွန်းကားခဲ့ပါတယ်။ ဒါပေမယ့် ဥရောပမှာ ပေါ်လာသမျှ မနိဂိုဏ်းတွေထဲမှာ (အယ်ဗီဂျဲန်စီယ Albigensian လို့ ပြင်သစ်ရဲ့ အယ်ဗီ (Albi) မြို့ကို စွဲပြီးခေါ်တဲ့ဂိုဏ်းဟာ) ကက်ထရီ (Cahtari) ဂိုဏ်းဟာ အထင်ရှားဆုံး ဖြစ်တယ်။ တစ်ဆယ့်နှစ်ရာစုနှစ်အတွင်းမှာ ဥရောပမှာ ခေတ်အစားဆုံး မနိဂိုဏ်းကြီး ဖြစ်တယ်။ အထူးသဖြင့် ပြင်သစ် တောင်ပိုင်းမှာ သိပ်ပြီး လိုက်နာကျင့်သုံးသူပေါတယ်။ ဒီအယ်ဗီဂျဲန်စီယတွေက သူတို့ကိုးကွယ် ယုံကြည်တဲ့ အယူဝါဒဟာ မနိနဲ့ သက်ဆိုင်နေပေမယ့် ငါတို့ ခရစ်ယာန်တွေလို့ ပြောလေ့ရှိပါတယ်။ သူတို့က ရှေးရိုး ခရစ်ယာန်ဂိုဏ်းဝင် (Orthodox Christians) တွေကတော့ မိစ္ဆာဒိဋ္ဌိလို့ပဲ ခေါ်ဝေါ်ပါတယ်။ နောက်ဆုံး ရဟန်းမင်း တတိယအင်နိုဆင့် (Innocent III) က အလယ်ခေတ် ရဟန်းမင်းတွေထဲမှာ တန်ခိုးအကြီးဆုံး၊ အယူအသီးဆုံးဖြစ်တဲ့ ပုဂ္ဂိုလ်က ခရစ်ရဲ့ရန်သူ (Crusade) တွေကို ချေမှုန်းရပါမယ်လို့ စီမံကိန်း ဆွဲပြီး ချေမှုန်း ဖျက်ဆီးလို့ ပျက်စီးသွားရပါတယ်။ လူတွေလည်း ကြောက်ခမန်းလိလိဖြစ်အောင် အများကြီး အသက်ဆုံးရှုံးသွားလို့ ပြင်သစ်တောင်ပိုင်းဟာ ကြေမွ သွားတယ်။ အယ်ဗီဂျဲန်စီယနဲ့ စိစိညက်ညက် ကြေအောင် ချေမှုန်းတာကို ခံလိုက်ရပါတယ်။ အဲဒါတောင် အီတလီက ကက်ထရီဝါဒဟာ တစ်ဆယ့်ငါးရာ စုနှစ်ထိ မပျောက်မပျက် ဆက်လက်ရှိနေတာကို တွေ့ကြ ရပါသေးတယ်။

ဘယ်အယူဝါဒ ဖြစ်ဖြစ် ယုံကြည်တဲ့လူတွေ အပေါ်မှာ အင်မတန် သြဇာရှိပါတယ်။ မနိအယူဝါဒဟာ အခုအခါ တိမ်မြုပ်နေပြီ ဖြစ်ပေမယ့် တစ်ခါက လူတွေ အများကြီးကို ထိရောက်အောင် ထိန်းချုပ်ကွပ်ကဲနိုင်ခဲ့တဲ့ အယူဝါဒကြီး တစ်ခု ဖြစ်ခဲ့လို့ အရေးပါ အရာရောက်တယ်။ မနိကလည်း တန်ခိုးကြီး ပုဂ္ဂိုလ်တစ်ဦး ဖြစ်ခဲ့ပါတယ်။ (မနိ ဟောပြောလို့ တခြားဝါဒီတွေက လန့်ပြီး ဒီဝါဒကို ဝိုင်းပြီး တိုက်ခိုက်တာဖြစ်လို့ ဒီဝါဒဟာ တန်ခိုးသြဇာ ကြီးမားခဲ့ပုံကို သိနိုင်ပါတယ်။) အယူဝါဒသစ်ကို ထူထောင်နိုင်တဲ့ မနိရဲ့ ပုဂ္ဂိုလ်စွမ်းဟာလည်း အင်မတန်ကြီးမားပါတယ်။ ဝါဒသစ်ကို စပြီး ထွင်ပြင်ဟောပြော ရေးသားပြီး ကျင့်စဥ်နဲ့ နည်းဥပဒေသ တွေ သတ်မှတ် ပေးနိုင်ပါတယ်။ အထက်အထက်က ပေါ်ခဲ့တဲ့ ဝါဒတွေကို ယှဉ်သုံးစွဲတာ မှန်ပေမယ့် သူက စုစည်းပုံ တစ်မျိုး၊ ပုံစံ တစ်မျိုးနဲ့ ချပေးနိုင်တယ်။ မနိ အယူဝါဒကို လက်ခံသူတွေ၊ ဝါဒဆိုင်ရာ လက်ရွေးစင် ရဟန်းလို့ သီးသန့်ကျင့်ကြံတဲ့ အဖွဲ့ဝင်တွေ၊ သတ်မှတ်တဲ့ စည်းကမ်းနဲ့ ကျမ်းစာတွေ ပေါ်လာတဲ့အခါ ဒါတွေအားလုံးကို ပုဂ္ဂိုလ် တစ်ဦးထဲက လူတွေ အများကြီး လိုက်နာလာအောင် စည်းရုံးခဲ့တယ်။ အဲဒီလိုစွမ်းသူ အင်မတန် နည်းတယ်ဆိုတဲ့ အချက်တွေဟာ ထင်ထင်ရှားရှား ပေါ်လာပါတယ်။ သူ့လိုပုဂ္ဂိုလ် မပေါ်ရင် ဒီလိုဝါဒလည်း မဖြစ်ထွန်းနိုင်ပါ။

ဒါကြောင့် မနိဟာ တခြား အယူဝါဒ ခေါင်းဆောင်တွေလို အရှာ ရောက်တယ်။ သိပ္ပံပညာရှင်တွေ၊ လူ့အသုံးအဆောင် ဆိုင်ရာ နည်းသစ်ပစ္စည်းသစ် တီထွင်သူတွေထက် အဆ အများကြီး ပိုပြီး အဖိုးတန်တယ်။ ဒါကြောင့် မနိကို ဒီစာအုပ်ထဲမှာ နေရာ ပေးရမယ်။ ဘယ်အဆင့် ဘယ်နေရာလဲ မေးပါ။ ရှင်းရှင်း ပြောတော့ ခရစ်၊ အစ္စလာမ်နဲ့ ဗုဒ္ဓအယူဝါဒတွေကို တီထွင် ဖော်ပြ ဟောပြောသူတွေမှာ အခုဆိုရင် နောက်လိုက် ကုဋေမကရှိနေပြီ။ ဇော်ရော့အက်စတာ နဲ့ ဇိန (Jainism) ဝါဒတွေ အခုထိ မပျောက်မပျက်သေးပေမယ့် မနိဝါဒ ကတော့ ပျောက်သွားပြီ။ ဒါပေမယ့် အခုပြောတဲ့ ဇော်ရော့အက်စတာနဲ့ ဇိနအယူတွေကို လိုက်နာသူဟာ မနိဝါဒ ထင်ရှားစဉ်က ရှိတဲ့ ယုံကြည်သူ အရေအတွက်ကို မမီ၊ အဲဒီဝါဒတွေထက်လည်း လူတွေ အပေါ်မှာ ဩဇာပိုပြီး ထိရောက်တယ်။ ဒါ့ကြောင့် ဇော်ရော့အက်စတာနဲ့ မဟာဝီရ ထက် မြင့်တဲ့အဆင့်မှာ ဒီ မနိဝါဒဆရာကို ထား ရပါတယ်။

7, November, 2001.

# (၈၄) လီနင် (၁၈၇၀ – ၁၉၂၄)

# LENIN (1870 – 1924)

ဗလဒီမာရ် အိလစ်ချ် ဥလိယနော့ (Vladimia Ilyich Ulyanor) ရဲ့ ကမ္ဘာတွင် အောင်ကျော်တဲ့ နာမည် နောက်တစ်မျိုးက လီနင် (Lenin) ဖြစ်ပါတယ်။ သူဟာ ရုရှ (Russia) မှာ ကွန်မြူနစ်ဝါဒ (Communism) ကို အဦးအစ ပေါ်ပေါက်လက်ခံ ကျင့်သုံးအောင် ဆောင်ရွက်တဲ့ ထိပ်တန်း အကျဆုံး နိုင်ငံရေး ခေါင်းဆောင်လည်း ဖြစ်ပါတယ်။ ကားလ်မာ့ခ်စ် (Karl Marx) ကို အင်မတန် ကြည်ညို လေးစားပြီး သူပြတဲ့လမ်းစဉ်ကို အတိအကျ ဖြစ်အောင် လိုက်နာတဲ့ ပုဂ္ဂိုလ်ဖြစ်လို့ မာ့က်စ် (Marx) ရည်ညွှန်းသမျှ အခြင်းအရာတွေကို မဖြစ်မနေ လိုက်နာ ဆောင်ရွက်သူ လို့လည်း ထင်ရှားပါတယ်။ လီနင်လမ်းစဉ်ဖြစ်တဲ့ ကွန်မြူနစ်ဝါဒလို့ ကမ္ဘာမှာ ကျယ်ကျယ်ပြန့်ပြန့် အလျင်အမြန် ပေါ်ထွန်းလာအောင် လုပ်ပေးနိုင်သူ ဖြစ်လို့လည်း သူက ကမ္ဘာ့သမိုင်းမှာ အင်မတန် ဩဇာရှိတဲ့ ပုဂ္ဂိုလ်တစ်ဦးဖြစ်တယ်လို့ သတ်မှတ်နိုင်ပါတယ်။

ရုရှမှာ လီနင်ကိုစွဲပြီး အခု ဥလိယနော့စ်ခ် (Ulyarnorsk) လို့ခေါ်တဲ့ စိမ်းဗရစ်ခ် (Simbirsk) မြို့မှာ ၁၈၇၀ ပြည့်က မွေးဖွားခဲ့ပါတယ်။ သူ့ဖခင်က သစ္စာရှိတဲ့ အစိုးရ ဝန်ထမ်းတစ်ဦး ဖြစ်ပါတယ်။ သူ့အစ်ကို အလက်ဇန္ဒား (Alexander) ကတော့ ဇာဘုရင် (the Czar) ကို လုပ်ကြံမှုနဲ့ ဖမ်းဆီး ကွပ်မျက်ခြင်း ခံရပါတယ်။

အသက် နှစ်ဆယ့်သုံးနှစ် ရှိတဲ့အခါ လီနင်ဟာ အင်မတန် ပြင်းထန်တဲ့ မာ့ခ်စ်ဝါဒီ တစ်ယောက် ဖြစ်လာပါတယ်။ ဇာအစိုးရ (Czarist Government) က တော်လှန်ပုန်ကန်ဖို့ ကြိုးစားသူ တစ်ယောက် ဖြစ်တယ်လို့ စွဲချက်နဲ့ သူ့ကို ထောင်မှာ တစ်ဆယ့်လေးလထားပြီး ဆိုက်ဘေးရီးယား (Siberia) ကို ပြည်နှင်ဒဏ်နဲ့ ပို့ထားခဲ့တယ်။ ဆိုက်ဘေးရီးယားမှာ သုံးနှစ်နေရစဉ်က (သူ့မှာ ဒုက္ခကြီး လှတယ်လို့ မမှတ်မယူ) နိုင်ငံရေး လုပ်ဖော်ကိုင်ဖက် တစ်ယောက်နဲ့ အကြောင်းပါပြီး ရုရှမှာ ဓနရှင်ဝါဒ တိုးတက် ထွန်းကားခဲ့ပုံ အမည်နဲ့ ကျမ်းစာ တစ်အုပ် ရေးသားခဲ့တယ်။ ဆိုက်ဘေးရီးယား ပြစ်ဒဏ်က ဖေဖော်ဝါရီ ၁၉၀၀ ပြည့်မှာ ပြီးဆုံးတော့ လပိုင်းအတွင်းမှာ လီနင်က အနောက် ဥရောပမှာ လှည့်လည်ပြီး တစ်ဆယ့်ခုနစ်နှစ် နေထိုင် ခဲ့တယ်။ တော်လှန်ရေးသမားလို့ ပီပီသသ ခေါ်ရ လောက်အောင် အစဉ်တစိုက် နိုင်ငံရေးကိုပဲ လုပ်တယ်။ သူ ပါဝင်တဲ့ ရုရှဆိုရှယ်လစ် ဒီမိုကရက်တစ်ပါတီ (Russian Social Democratic

Party) မှာ နှစ်ဂိုဏ်းကွဲတော့ လီနင်က အားကြီးတဲ့ ဘော်ရှီဗစ် (Bolsheviks) ဘက်မှာ ခေါင်းဆောင် ဖြစ်လာပါတယ်။ ပထမ ကမ္ဘာစစ်ကြီးက လီနင် ထင်ရှား အောင်မြင်ဖို့ အခြေခံအကြောင်းတစ်ရပ် ဖြစ်လာပါတယ်။ ဒီစစ်ကြီးဟာ ရုရှအတွက် စစ်ရေး၊ စီးပွားရေး၊ ဘက်စုံ ထိခိုက်နစ်နာစေတဲ့ ပွဲကြီးလည်း ဖြစ်တယ်။ ဇာဘုရင် အုပ်ချုပ်ရေးကို အကြီးအကျယ် မကျေမနပ် ဖြစ်လာကြပြီး နောက်ဆုံး မတ် ၁၉၁၇ မှာ ဇာအစိုးရကို ဖြုတ်ချပြီး ဒီမိုကရေစီ အစိုးရ ပေါ်ပေါက် အုပ်ချုပ်နေပြီလို့ ခဏပန်း ထင်ကြပါတယ်။ ဇာဘုရင် နန်းကျပြီ ဆိုတဲ့အခါ လီနင်က ရုရှကို ချက်ချင်း ပြန်လာတယ်။ ရောက်တဲ့အခါ ဒီမိုကရက် တစ်ပါတီတွေဟာ ယာယီအစိုးရ ဖွဲ့စည်းတည်ထောင်ထားပေမယ့် တကယ်တန်ခိုး အာဏာမရှိ ဆိုတဲ့အချက်ကို ရိပ်စားမိတယ်။ အင်အားနည်းပေမယ့် စည်းစနစ်ကျနတဲ့ ကွန်မြူနစ်ပါတီ (Communist Party) က အာဏာသိမ်းယူဖို့ အခွင့်အလမ်း ကောင်းကောင်း ပွင့်နေပြီကို သိပါတယ်။ အဲဒါနဲ့ သူက ဘော်ရှီဗစ်တွေကို ယာယီအစိုးရကို ဖြုတ်ချပြီး ကွန်မြူနစ်အစိုးရနဲ့ မြန်မြန် အစားထိုးရမယ်လို့ လှုံ့ဆော် လိုက်တယ်။ ဇူလိုင်လထဲမှာ ဆူပူမှု တစ်ခုကို ဖန်တီး လိုက်ပေမယ့် မအောင်မြင်ပါ။ လီနင် ကိုယ်တိုင် ပြေးရပုန်းရ ဖြစ်လိုက်ပါသေးတယ်။ နိုဝင်ဘာ ၁၉၁၇ မှာ ဒုတိယအကြိမ် တော်လှန်ကြတော့ အောင်မြင်ပြီး လီနင်ဟာ နိုင်ငံ အကြီးအကဲသစ် ဖြစ်လာပါတယ်။ အစိုးရ အဖွဲ့ခေါင်းဆောင် ဖြစ်လာတဲ့ လီနင်ဟာ ရက်စက်တယ်။ လုပ်သမျှကို ထိရောက် အောင်မြင်အောင် စီမံနိုင်တယ်။ ပထမ ထိပ်တန်းထားပြီး လုပ်တဲ့ကိစ္စက ဆိုရှယ်လစ်စီးပွားရေး (Socialistic economy) စနစ်ကို အမြန်ဆုံးရအောင် မညှာမတာ ဆောင်ရွက်လိုက်တယ်။ လုပ်ချင်တိုင်း မဖြစ်တဲ့အခါမှာ ခွတ်ဆက်ပြီး လုပ်ရင် နစ်နာဖို့ပဲဆိုတာ သိတာနဲ့ တစ်ပြိုင်နက် လမ်းပြောင်းပြီး အရင်းရှင် ဆိုရှယ်လစ်စီးပွားရေး (Capitalist Socialist Economy) ကို ထွင်လိုက်တယ်။ လုပ်လက်စကိစ္စကို ေပြာင်းပြန် လုပ်ရဲတယ်။ အဲဒီပုံစံကို ဆိုဗီယက်ပြည်ထောင်စု (The Soviet Union) မှာ နှစ်ပေါင်းများစွာ ကျင့်သုံးခဲ့ပါတယ်။ မေ ၁၉၂၂ မှာ လီနင်မှာ ပြင်းထန်တဲ့ နှလုံးရောဂါ ရတယ်။ ၁၉၂၄ မှာ ကွယ်လွန်တဲ့အထိ ဘာအလုပ်မျှ ဆက်ပြီး ဆောင်ရွက် လုပ်ကိုင်နိုင်တယ်လို့ မရှိတော့ပါ။ ကွယ်လွန်တဲ့အခါ ရုပ်အလောင်းကို တာရှည်ထားနိုင်အောင် အကျအန ဆေးစီရင်တယ်။ မော်စကို (Moscow) ရင်ပြင်နီ (Red Square) မှာ သင်္ချိုင်းတော် (Mausoleum) လုပ်ပြီး လူအများ လာရောက်ကြည့်ရှုခွင့်ပေးတယ်။

ရုရှမှာ ဘော်ရှီဗစ်တွေ အာဏာရအောင် ရှေ့တန်းက တက်တက်ကြွကြွ ခေါင်းဆောင်သူမှာ လီနင် ဖြစ်ပါတယ်။ ဒီလိုလုပ်တဲ့အတွက် ကမ္ဘာမှာ ပထမဆုံး ကွန်မြူနစ် အစိုးရကို တည်ထောင်နိုင်ခဲ့ပါတယ်။ ကားလ်မာ့ခ်စ်ရဲ့ အယူအဆတွေကို တကယ့်နိုင်ငံရေး ကျင့်ထုံးဖြစ်အောင် ပထမဆုံး ဖော်ထုတ်ပေးခဲ့သူပဲ ဖြစ်ပါတယ်။ ဒီလို ပထမခြေကုပ် ရရှိလိုက်တဲ့အတွက် ခေတ်သစ် ကမ္ဘာသမိုင်းမှာ ထင်ရှားတဲ့ အပြောင်းအလဲတွေ ပေါ်ပေါက် စေပါတယ်။ ၁၉၁၇ က စတင်ပြီး ၁၉၇၉ အထိ ကမ္ဘာမှာ ကွန်မြူနစ်တန်ခိုး (Communist Power) ဟာ အဆက်မပြတ် ချဲ့ထွင် ကျယ်ပြန့်လာပါတယ်။

အဲဒီလိုနဲ့ ကမ္ဘာ့လူဦးရေရဲ့ သုံးပုံတစ်ပုံဟာ ကွန်မြူနစ် အုပ်ချုပ်ရေး (Communist Rule) လက်အောက်မှာ နေထိုင်ခဲ့ရပါတယ်။ တကယ် အစွမ်းထက်တဲ့ နိုင်ငံရေး ခေါင်းဆောင် ဖြစ်တဲ့အပြင် အများကြီး စာရေးနိုင်တဲ့အတွက် လူအများကို ထိထိရောက်ရောက် လှုံ့ဆော် စည်းရုံး နိုင်တဲ့အတွက် သူ့ကို တန်ခိုး သတ္တိရှိသူလို့ ခေါ်နိုင်ပါတယ်။ လီနင်ရဲ့ အယူအဆဟာ မာ့က်စ်ကို တိုက်ရိုက် ဆန့်ကျင်တယ်လို့ ပြောရမှာထက် အလေးအနက် ထားပြီး လက်တွေ့ ဆောင်ရွက်ပုံမှာ ကွာခြားတာကို ထင်ထင်ရှားရှား သိသာပါတယ်။ လီနင်က လက်တွေ့ တော်လှန်ရေး လုပ်တဲ့အခါ နည်းပရိယာယ်ကို အများကြီး အလေးအနက် ထားပြီး စိတ်ဝင်တစား ဆောင်ရွက်တယ်။ သူ့ကိုယ်သူလည်း ဒီကိစ္စမှာ ကျွမ်းကျင်တယ်လို့ ယုံတယ်။ သူက အကြမ်းဖက် သမား၊ အကြမ်းနည်းပဲ အရေးပါအရာ ရောက်တယ်လို့ ယုံကြည်ထားသူ ဖြစ်ပါတယ်။ **'သမိုင်းမှာ အကြမ်းနည်း မသုံးပဲ ဘယ်လူတန်းစားတိုက်ပွဲဟာ အောင်မြင် သွားတယ်လို့ ဖြစ်ရာရှိပါသလား'** လို့ အမြဲမေးလေ့ ရှိပါတယ်။ မာ့ခ်စ် ကိုယ်တိုင်က ပစ္စည်းမဲ့အာဏာရှင်စနစ်လို့ အင်မတန် ပြောခဲ့တယ်။ လီနင်ကတော့ ဒါမျိုးပဲ ပြောဖို့ အကျင့်ပါနေပြီ။ ဥပမာ ပစ္စည်းမဲ့အာဏာရှင် စနစ်ဆိုတာ ဘာဥပဒေ၊ ဘာလုပ်ရိုးကိုမှ ဂရုမစိုက်ဘဲ ခွန်အားကိုသာ အရင်းထားပြီး ဆောင်ရွက်တာ ဖြစ်တယ်လို့ ပြောလေ့ရှိပါတယ်။ လီနင်ရဲ့ နိုင်ငံရေးဝါဒ စစ်စစ်ဟာ ဘယ်လောက်အရေးပါသလဲ၊ အဲဒါကို ဒီစာအုပ် ပထမပုံနှိပ်စဉ်က ဒီလိုရေးခဲ့ဖူး ပါတယ်။ ဆိုဗီယက်အစိုးရ (Soviet Government) ရဲ့ အထူး အရေးပါတဲ့ အခြင်းအရာကတော့ (နိုင်ငံ အမြောက်အမြားမှာ ပေါ်ရှိနေတဲ့ ဆိုရှယ်လစ် အစိုးရတွေကို) စီးပွားရေး အခြေခံပြီး အလုပ်လုပ်တာ မဟုတ်။ နိုင်ငံရေး အာဏာကို ရက်အကန့်အသတ် မရှိ ထိန်းထားနိုင်ဖို့နည်းကို ရယူကျင့်သုံး နေခြင်းပဲ ဖြစ်ပါတယ်။ လီနင်ရဲ့ ခေတ်ကာလ ကစပြီး ကမ္ဘာမှာ ဘယ်နေရာမှာ ဖြစ်ဖြစ် ကွန်မြူနစ် အစိုးရရှယ်လို့ အခိုင်အမာဖွဲ့ပြီး ဒါကစပြီး ဘယ်အခါမှာမှ အဲဒီအစိုးရကို ဖြုတ်ချ နှင်ထုတ် ခံရတယ်လို့ မတွေ့ရဖူးပါ။ ပြည်တွင်းမှာ ရှိတဲ့ အာဏာကို အထောက်အကူဖြစ်စေတဲ့ သတင်းစာစောင်၊ ဘဏ်၊ ကျောင်းတော်၊ လုပ်သား အစည်းအရုံး စတဲ့ဌာနတွေကို အနိုင်အနင်း အုပ်စီး ထားလိုက်ရင် ကွန်မြူနစ် အစိုးရအတွက် ပြည်တွင်း အန္တရာယ် ရှိသမျှကို ဖယ်ရှားပြီး ဖြစ်သွားပါတယ်။ သူတို့ရဲ့ သံချပ်ကာဝတ်မှာ လစ်ကွက်ညှံ့ကွက် ရှိကောင်း ရှိမယ်၊ အဲဒီချို့ယွင်းချက်ကို ဘယ်သူမှ ရှာမတွေ့သေးပါ။ ဒီစာပိုဒ်ကို ကျွန်တော်ရေးတဲ့ ၁၉၇၇ က အချက်အလက် ပြည့်စုံပြီး သဘောယုတ္တိရှိတယ်လို့ ထင်မိပါတယ်။ ဒါပေမယ့် မခု မကြာခင်က ပေါ်လာတဲ့ အဖြစ်အပျက်တွေက ကျွန်တော် သေသေချာချာ အတွက်လွဲတယ်၊ မှားတယ် ဆိုတာကို ဖော်ထုတ်ပြသသွားပါပြီ။ အပြီးအစီး အာမခံတယ်ဆိုတဲ့ လီနင် အုပ်စီးပုံဟာ ဘယ်ညာ မလွဲ ပြိုကွဲ သွားပါပြီ။ လီနင်ကလည်း သူ့နည်းဟာ တာရှည် ခံမယ်လို့ ယုံတယ်။ သူ့ရန်သူတွေ ကလည်း သူ့စနစ်ဟာ ထာဝရ ဖြစ်တော့မှာပဲလို့ ထိတ်လန့်နေကြတယ်။ သူက အကျဉ်းထောင်နဲ့ ဝါဒဖြန့်ယန္တရားတွေသာ ကောင်းကောင်း လည်ပတ်ပါစေ။ သူထွင်ထားတဲ့ အုပ်ချုပ်ပုံဟာ ရာစုနှစ် ပေါင်းများစွာ မပျက်မစီး တည်တန့်နေမယ်လို့ မျှော်လင့်တယ်။ သူ မှားပါတယ်။ ဒါ့ကြောင့် ကျွန်တော် စိုးရိမ်သလောက် သူ့သြဇာ သမိုင်း မရှည်ပါ။ လီနင်ကို

ဝါဒရေးရာမှာ အရာရောက်တယ်လို့ တကယ် ဖြစ်တာထက် ပိုပြီး ထင်မိတယ်။ ဘာပြုလို့လဲ ဆိုတော့ သူ့စီးပွားရေး အမြင် အားလုံးနီးနီးဟာ ကားလ်မာ့က်စ်ဆီက ရယူထားလို့ ဖြစ်ပါတယ်။ ဒါပေမယ့် လက်တွေ့ အားဖြင့် နိုင်ငံရေး ခေါင်းဆောင်ဘဝမှာ အာဏာကို အရယူပြီး နိုင်ငံကို ပြောင်းလဲအောင် သူလုပ်နိုင်ခဲ့တယ်။ သမိုင်းမှာ သူ့ကို ဘယ်အဆင့် ဘယ်နေရာမှာ ထားရမလဲလို့ တွေးတဲ့အခါ သူ့ဆောင်ရွက်ချက်တွေကို သူ့ကိုဆက်ခံတဲ့ ဂျိုးဆက် စတာလင် (Joseph Stalin) ရဲ့ ဆောင်ရွက် ချက်တွေနဲ့ ရှေးဦးစွာ နှိုင်းယှဉ်ကြည့်ဖို့ လိုပါတယ်။

လီနင်ဟာ စိုးမိုးအုပ်ချုပ်ခွင့် ၅ နှစ်သာ အချိန်ရ ပါတယ်။ အဲဒီ ၅ နှစ်အတွင်းမှာ ရှရှသူကောင်းရိုးကို အပြီးတိုင် ဖျက်ဆီး နိုင်ပါတယ်။ ဆိုရှယ်လစ်ဝါဒ (Socialism) လမ်းစဥ်အတိုင်း တိုင်းပြည်ကို ကြိုးကိုင် နိုင်ပါတယ်။ ဒါပေမယ့် ဆိုဗီယက် တောင်သူတွေကို စုပေါင်း လယ်ယာ လုပ်ဖြစ်အောင် နှိုးဆော်တာက လီနင် မဟုတ်၊ စတာလင် ဖြစ်တယ်။ ဆိုဗီယက်ယူနီယန် (Soviet Union) မှာ ပုဂ္ဂလိက လုပ်ငန်း ချုပ်ငြိမ်းအောင်လုပ်တာ လီနင် မဟုတ်၊ စတာလင် ဖြစ်ပါတယ်။ အခုလို ဆိုဗီယက် ကွန်မြူနစ် ဝါဒဟာ ကမ္ဘာ အင်အားစုကြီး ဖြစ်အောင် ပြောင်းလဲပြီး အနောက်တိုင်းက နိုင်ငံတကာ၊ တစ်ကမ္ဘာလုံးက နိုင်ငံတကာကို အံတုနိုင်တာ လီနင်မဟုတ်၊ စတာလင်သာ ဖြစ်ပါတယ်။ စိုးမိုးခွင့်ရတဲ့ နှစ်အနည်းငယ် အတွင်းမှာ လူသန်းပေါင်း များစွာကို ကွပ်မျက်ပြီး လီနင်ဟာ ကွန်မြူနစ်လမ်းစဥ်(Communist Programme) ကို ဆန့်ကျင်သူ မှန်သမျှကို ချေမှုန်းဖို့ အကျဥ်းစခန်းတွေ အများကြီး ဖွင့်လှစ်နိုင်ခဲ့တယ်။ ဒါပေမယ့် ဂုလက် အာချီပဲလေဂို (Gulag Archipelago) ဖြစ်တဲ့ အကျဥ်းစခန်းတွေကို အဆမတန် များအောင် ဖွင့်နိုင်တာက စတာလင် လက်ထက်မှာ ဖြစ်ပါတယ်။ စတာလင်ကသာ အစိုးရ အမိန့်နဲ့ လူတွေအများကြီးကို ဖြုတ်ထုတ် သတ်ဖြတ် ခဲ့ပါတယ်။ ဒါပေမယ့် စတာလင်ရှေ့က လီနင်က ပွဲဦးထွက် ဖြစ်နေတော့ လီနင်ကသာ ရှေ့ဆောင်လမ်းပြ ဖြစ်တယ်။ သူတို့နှစ်ယောက်မှာ လီနင်ကိုသာ ပိုပြီး တာဝန် ပုံသင့်တယ်လို့ ပြောရမှာလား။ ဒီကိစ္စကို မက်ဆီဒုန် (Macedon) ဘုရင် ဒုတိယဖိလစ် (Philip II) နဲ့ သား မဟာအလက်ဇန္ဒား (Alexander the Great)တို့ အဖြစ်အပျက်နဲ့ နှိုင်းယှဥ်ရမှာ ဖြစ်တယ်လို့ ထင်ပါတယ်။ ဖိလစ်ရဲ့ စစ်ရေးစည်းရုံးရေး ကျွမ်းကျင်မှုဟာ အလက်ဇန္ဒား အဖို့ လမ်းညွှန်ဖြစ်တယ်။ ဆက်လက် ဆောင်ရွက်ဖို့ အခွင့်လမ်းစ ဖော်ပေးတာဖြစ်တယ်။ တစ်ဖက်က ကြည့်ပြန်ရင် အလက်ဇန္ဒားလို ပုဂ္ဂိုလ်သာ အခုလိုရတဲ့ အခွင့်အရေးကို ယူပြီး အလွန်အကဲ ကြီးကျယ် အောင်မြင်အောင် အမြတ်ထုတ်နိုင်တာ ဖြစ်ပါတယ်။ သူ့အောင်မြင်ပုံက အများ မျှော်လင့်တာထက် ပိုပြီး ပြည့်စုံတယ်။ အများတကာထက် အများကြီးသာတယ်။ အဲဒါကြောင့် ကွင်းဆက် အနေနဲ့ အလက်ဇန္ဒားက အထူးကြီးကျယ် ပေါက်မြောက်တယ်။ ဒီလို ချင့်ချိန်မယ် ဆိုရင် လီနင်ထက် စတာလင်က ပိုပြီး တန်ခိုးဩဇာ ကြီးမားတယ်လို့ ဆုံးဖြတ်ရမှာဖြစ်ပါတယ်။ လီနင်ကို စတာလင်လောက် မစွမ်းဘူး၊ (ကွန်မြူနစ် လှုပ်ရှားမှုကြီး တစ်လျှောက်လုံးမှာ မာ့က်စ်ရဲ့ ရေးသား လှုံ့ဆော်ချက်တွေသာ

ဝါဒပိုင်းမှာ စတင် နှိုးဆွချက်ဖြစ်လို့ မာ့က်စ်ထက် သာလွန်ပြီး နေရာ မရနိုင်ဘူးဆိုတဲ့ တိုင်အောင်) လီနင်ကို အရေးပါသူ ပုဂ္ဂိုလ် တစ်ဦးလို့ သတ်မှတ်ရမှာ ဖြစ်ပါတယ်။ ဆိုဗီယက်ပြည်ထောင်စုသမ္မတနိုင်ငံ (USSR) မှ စတာလင် ပါဝင် ကပြဖို့ အစဖော်ပေးသူ၊ နိုင်ငံတကာမှာ ကွန်မြူနစ် လှုပ်ရှားမှုအတွက် သူ့စာ၊ သူ့လုပ်ထုံး၊ သူ့နမူနာပါ တွင်ရစ်ခဲ့ပါတယ်။ လူတချို့က ဆိုဗီယက်ပြည်ထောင်စုမှာ လူတွေကို သတ်သင် ပစ်တာ များလွန်းတယ်လို့ ဆိုပေမယ့် ဒီသုတ်သင်ရေး စနစ်အတွက် လီနင်ကို အပြစ် မဖို့သင့်ပါ။ အဆမတန် ရက်စက်ပြီး အတိုင်းအဆ မရှိ ရမ်းကားတာက စတာလင် တစ်ယောက်တည်း ဖြစ်ပါတယ်။ ဒါလောက်လည်း မပြောသင့်ဘူးလို့ ကျွန်တော် ထင်ပါတယ်။ စတာလင် တန်ခိုး အာဏာမရခင်ကပဲ ဆိုဗီယက် ပြည်ထောင်စု သမ္မတနိုင်ငံမှာ လူတွေ သန်းနဲ့ချီပြီး အသတ်ခံ ရပါတယ်။ အဒီလိုပဲ တခြားနိုင်ငံတွေက ကွန်မြူနစ် ခေါင်းဆောင်တွေက အင်မတန် ရိုင်းစိုင်း ရက်စက်ပြီး ဖျက်ဆီး ချေမှုန်းမှု အမြောက်အမြား ပြုလုပ်ခဲ့ကြပါတယ်။ ထိပ်တန်းထားပြီး စံပြနမူနာအဖြစ် ကမ္ဘောဒီးယား (Cambodia) မှာ ၁၉၇၅ က ၁၉၇၉ အတွင်း ပိုလ်ပေါ့ (Pol Pot) ပြုမူပုံကို ကြည့်ပါ။ အချိန် ကာလ တိုတောင်းပေမယ့် ကမ္ဘောဒီးယားသား လူနှစ်သန်းလောက် သတ်ပစ်တယ်။ နှိုင်းယှဉ်ကြည့်ရင် ဆိုဗီယက်ပြည်ထောင်စု စတာလင် လက်ထက် နှစ်ဆယ့်ငါးနှစ်မှာထက် အနှိုင်းအဆမှာ အများကြီး ပိုပါတယ်။ လီနင် လမ်းစဥ်ကို လိုက်ရင် ဒီလိုပဲ သုတ်သင်ရေးတွေ မလွှဲမသွေ ပေါ်လာမှာပါလို့ မပြောနိုင် ပေမယ့် အလွန်အကျွံတွေကို အလုပ်ရ လွယ်အောင် သူက နမူနာစံပြဖြစ်နေတယ်။ လီနင်ဟာ သူ့တစ်သက်မှာ မတရား ဖိစီးနှိပ်စက်တာကို ဖယ်ရှားမယ် ဆိုတဲ့ အစွဲနဲ့ အလုပ်လုပ်ခဲ့ ေပမယ့် သူ တကယ် အောင်မြင်တာကတော့ လူတစ်ဦးစီရဲ့ လွတ်လပ်မှုကို ဖျက်ဆီးပစ်တယ်။ သူ ဒီလိုလုပ်ခဲ့တဲ့ နယ်ရဲ့ အကျယ်အဝန်းကလည်း ကမ္ဘာမှာ မသေးငယ်ပါ။ (ဒီစာအုပ်စရေးစက) မာ့က်စ်လီနင် (Marxist/Leninist) အရေးတော်ပုံကြီးဟာ ရာစုနှစ်များစွာ ကြာရှည် ခိုင်မြဲမယ်လို့ ကျွန်တော် စိုးရိမ်သလို မဖြစ်တဲ့အခါ ဒီစာအုပ်မှာ ရှေ့တန်း လူပုဂ္ဂိုလ် နှစ်ဆယ်ထဲမှာ သူ့ကို နေရာ မပေးပေမယ့် ကျော်စွာ ၁၀၀ ထဲကတော့ မဖြုတ်နိုင်သေးပါ။ ရုရှမှာ ခေတ်ပြောင်းအောင် လုပ်နိုင်တဲ့နေရာမှာ မဟာပီတာ (Peter the Great) နဲ့ ယှဉ်သာတယ်။ တခြား နိုင်ငံတွေ အပေါ်မှာ ဩဇာပျံ့ပုံကို ပြောရရင်လည်း စတာလင် အောက်ရောက်ပေမယ့် ပီတာထက် သာပါတယ်။

10, November, 2001.

# (၈၅) ဆွိဝဲန်တိ (၅၄၁ – ၆၀၄)

# SUI WEN TI (541 – 604)

တရုတ်ဧကရာဇ် ဆွိဝဲန်တိ (Sui Wen Ti)၊ အမည်ရင်း ယန်ကျိန် (Yang Chien) ဟာ နှစ်ပေါင်းများစွာ အစိတ်စိတ် ပြိုကွဲနေတဲ့ တရုတ်ကို ပြန်လည် စုစည်း ပေးနိုင်သူ ဖြစ်ပါတယ်။ နိုင်ငံရေးအရ သူစုစည်းပေးတဲ့ အဖွဲ့အစည်းဟာ ကြားထဲမှာ ရာစုနှစ်တွေ အကြာကြီး ခိုင်မြဲတာကို တွေ့ရပါတယ်။ အဲဒါကြောင့် တရုတ်ဟာ ကမ္ဘာ့တန်ခိုးကြီး နိုင်ငံတွေထဲမှာ တစ်နိုင်ငံအဖြစ် ပါဝင်လာတာ ဖြစ်တယ်။ အဲဒါကို အရေးပါတဲ့ နောက်ရလာဒ် တစ်ခုက တရုတ်လူဦးရေဟာ ကမ္ဘာ့ လူဦးရေရဲ့ ငါးပုံတစ်ပုံ ရှိပေမယ့် ဥရောပ(Europe) နဲ့ အနောက်အာရှ(Middle East)ကို ကမ္ဘာတစ်ဝန်းက ဒေသ အမျိုးမျိုးမှာ နေထိုင်သူတွေကို စစ်ကြီးတွေနဲ့ အန္တရာယ်ကို မကြာခဏ ကြုံရပြီး ဘေးဒုက္ခတွေကို ခံရသလို မခံရတာဖြစ်ပါတယ်။ သူ့ရှေ့က ပေါ်ခဲ့တဲ့ ရှီဟွမ်တိ (Shih Huang Ti) က ခရစ်မပေါ်မီ သုံးရာစုနှစ်က တရုတ် တစ်နိုင်ငံလုံးကို စုစည်း ပေးခဲ့ပေမယ့် သူထူထောင်တဲ့ ကျိန် (Ch'in) မင်းဆက်ဟာလည်း သူသေလွန်ပြီး မကြာခင်မှာ ပျက်စီး ခဲ့ပါတယ်။ ဒါပေမဲ့ ခရစ်မပေါ်မီ ၂၀၆ ခုက ခရစ်ပေါ်ပြီး ၂၂၀ ပြည့် အထိ စိုးအုပ်ခဲ့တယ်။ ဟန် (Han) ပျက်စီး ပြီးတော့ တရုတ်ပြည်တွင်း ညီညွတ် စည်းလုံးခြင်း ဟာလည်း အချိန်အကြာကြီး ပြိုကွဲသွားတော့ ရောမ အင်ပါရာ (Romen Empire) ပျက်စီးတဲ့နောက် ဥရောပ အမှောင်ခေတ် (Dark Age of Europe) နဲ့ အကြမ်းဖျဉ်းဆင်တူနေပါတယ်။

ယန်ကျိန်ကို ၅၄၁ ခုနှစ်မှာ မွေးဖွားတယ်။ တရုတ် မြောက်ပိုင်း တန်ခိုးသြဇာကြီးတဲ့ အမျိုးတွေထဲမှာ သူ့ကို မွေးတာဖြစ်လို့ သူ့အသက် တစ်ဆယ့်လေးနှစ်မှာပဲ စစ်ရာထူး တစ်ခုကို ပထမ ရရှိ အမှုထမ်းခဲ့ရတယ်။ ယန်ကျိန်က လုပ်ရည်ကိုင်ရည် ရှိလို့ ရာထူး အတက်မြန်တယ်။ သူ အမှုထမ်းတဲ့ မြောက်ပိုင်း ကြိုမင်းဆက် ဧကရာဇ်က မြောက်ပိုင်း တရုတ်ကို အုပ်စီး မိအောင် လုပ်တဲ့အခါ သူက သိပ်အားကိုး ရတာဖြစ်လို့ သူ့ကို မြှောက်စားတယ်။ ပြီးတော့ ၅၇၃ မှာ ယန်ကျိန်ရဲ့ သမီးကို အိမ်ရှေ့မင်းသားနဲ့ ပေးစားတယ်။ ငါးနှစ်ကြာတော့ ဧကရာဇ် နတ်ရွာစံတယ်။ အိမ်ရှေ့မင်းသားက စိတ် သိပ်မမှန်ဘူး။ ဒီတော့ အာဏာလုပွဲ ဖြစ်လာတယ်။ အသက်လေးဆယ်၊ ၅၈၁ ခုနှစ်မှာ သူ့ကိုပဲ ဧကရာဇ် အသစ်အဖြစ် တင်မြှောက် လိုက်ကြတယ်။ သူက တရုတ်မြောက်ပိုင်း ဧကရာဇ် ဖြစ်ရတာလောက်နဲ့ မကျေနပ်နိုင်ပါ။ ဒါကြောင့် အသေအချာ စီစဉ်ပြီး တောင်ပိုင်း တရုတ်ပြည်ကို ၅၈၈ ခုနှစ်မှာ ကျူးကျော် ဝင်ရောက် တိုက်ခိုက် ပါတော့တယ်။

ကျူးကျော်စစ်ပဟာ အောင်ပွဲ မြန်မြန် ရလို့ ၅၈၉ ခုမှာ သူဟာ တရုတ် တစ်နိုင်ငံလုံးကို အုပ်စိုးပိုင်သူ ဖြစ်လာပါတယ်။

သူ့လက်ထက်မှာ ဆွီဝဲန်တီဟာ စုပေါင်းထားတဲ့ ဧကရာဇ် နိုင်ငံကြီးအတွက် သိပ်ပြန့်ကြီးမားတဲ့ မြို့တော်သစ်ကြီးကို တည်ဆောက်ပါတယ်။ ပြီးတော့ မဟာတူးမြောင်း (Grand Canal) နဲ့ နိုင်ငံမြောက်ပိုင်းက ဝှမ်ဟိုး (Hwang Ho မြစ်ဝါ) နဲ့ နိုင်ငံအလယ်က ယန်ဇီ (Yangtze) ကို ဆက်သွယ် ပေးပါတယ်။ သူ့သားတော် လက်ထက်ရောက်မှ ဆည်မြောင်းကြီး ဖောက်တာ လက်စ သတ်တယ်။ ဒီလို ဆက်သွယ်ပေးလို့ တောင်ပိုင်းနဲ့ မြောက်ပိုင်း တရုတ်ဟာ ပေါင်းစည်း ညီညွတ်ဖို့ ပိုပြီး နီးစပ် သွားရပါတယ်။

ဧကရာဇ်ရဲ့ အရေးအပါဆုံး ပြုပြင်ရေးက အစိုးရ အရာရှိ ရွေးတဲ့အခါ ပြည်သူ့ဝန်ထမ်း ရွေးကောက်တဲ့ စာမေးပွဲ စနစ်ကို တီထွင်ခြင်း ဖြစ်ပါတယ်။ တရုတ် တစ်ပြည်လုံး ရာစုနှစ် အများကြီးအတွင်း အုပ်ချုပ်ရေး အတွက် အင်မတန် အရည်အချင်းနဲ့ ပြည့်စုံတဲ့ အရာရှိကို ရှာပေးနိုင်ခဲ့ပါတယ်။ ဒီလိုရွေးတဲ့အခါ လူတော်ဖို့ပဲ အရေးကြီးတဲ့၊ လူ့အဆင့်အတန်းမရွေး အလွှာစုံက လူတွေကို စာမေးပွဲဝင်ခွင့် ပေးထားတယ်။ (ဒီစနစ်ကို ဟန် Han မင်းဆက်ကပဲ စတင်သုံးခဲ့ပေမယ့် နှစ်ရှည်လများ ကြာတော့ ရာထူးကြီးတွေဟာ အဖေက သားကို ဆက်ခံ ခွင့်ပြုတဲ့ ရိုးရာ အမှုထမ်းတွေ ဖြစ်လာတယ်။)

ဆွီဝဲန်တီက မွေးရာဇာတိမှာ မင်း မလုပ်ရတဲ့ဆိုတဲ့ စနစ်ကိုလည်း တီထွင်လိုက်ပါတယ်။ ဆိုလိုတာက ဘယ်အရာရှိမှ ကိုယ့်ရွာမှာလာပြီး စိုးမိုး အုပ်ချုပ်ခွင့် မပေးတဲ့ စနစ် ဖြစ်ပါတယ်။ ဒီလိုဆိုရင် လူချင်းရင်းနှီးလို့၊ သွေးသားစပ် လို့ဆိုပြီး မျက်နှာသာပေးတာမျိုး မရှိနိုင်တော့ဘူး။ နောက်တစ်ချက်ကလည်း အဲဒီမင်းဟာ အင်မတန် အားကောင်းတဲ့ အမာခံ နောက်ကို အများကြီး စုဆောင်း ဖွဲ့စည်းလို့ မရနိုင်တော့ဘူး။ ဆွီဝဲန်တီဟာ ဘာမဆို ရဲရဲဝံ့ဝံ့ လုပ်နိုင်စွမ်းရှိတယ် ဆိုပေမယ့် အင်မတန် သတိထားပြီး နှိုင်းနှိုင်းချိန်ချိန် လုပ်သူ တစ်ယောက် ဖြစ်ပါတယ်။ ငွေကုန်ကြေးကျ မများအောင် ဆင်ခြင်တယ်။ ဒီတော့ တိုင်းသူပြည်သားကို ကြီးလေးတဲ့ အခွန်အခတွေ အထပ်ထပ် ဆောင်ဖို့ မလိုတော့ဘူး။ နောက်တစ်ချက်က သူ့နိုင်ငံခြားရေး ဝါဒကလည်း အောင်မြင်တဲ့ဝါဒ ဖြစ်ပါတယ်။ တခြားမင်းတွေ သူ့လိုအောင်မြင်ရင် မဆင်မခြင် ရမ်းကား လာတတ်တာမျိုး သူမလုပ်ဘူး။ ထိန်းနိုင်တယ်။ လူသန်း ပေါင်းများစွာကို အုပ်ချုပ် ရပေမယ့် သူက ထူးထူးခြားခြား မယားကြောက်ရသူ ဖြစ်နေတယ်။ သူ မိဖုရားက သိပ်ပြီး အစွမ်းထက်တယ်။ လင်ကို လွှမ်းမိုး နိုင်တယ်။ အဲဒါပဲ ကောင်းတဲ့အချက်ကို ရတယ်။ မယားရဲ့ အစီအမံတွေကြောင့် သူ့မှာ ပိုပြီး အောင်မြင် နေတယ်။ ရာထူး တိုးဖို့ မယားက လုပ်ပေးသလို၊ ရာထူး မြဲဖို့လည်း လုပ်ပေးနိုင်တယ်။ ဆွီဝဲန်တီဟာ အသက် ၆၃ နှစ်၊ ၆၀၄ မှာ ကွယ်လွန်တယ်။ မိဖုရားကြီး သိပ်မြှောက်စားတဲ့ ဒုတိယသားက လုပ်ကြံလို့ သေရတာ ဖြစ်တယ်လို့ အပြောများတယ်။ ဧကရာဇ်သစ် လက်ထက်မှာ နိုင်ငံခြား ဆက်ဆံရေး သိပ်ပြီးညံ့သွားတယ်။ ပြီးတော့ တရုတ်ပြည်တွင်းမှာလည်း

ပုန်ကန်ထကြွမှုတွေ များလာတယ်။ ၆၁၈ မှာ အသတ်ခံရတယ်။ အဲဒီအခါ ဆွီမင်းဆက်လည်း ပြုတ်သွားပါတယ်။ ဒါပေမယ့် တရုတ် စည်းလုံးရေးတော့ ပြိုကွဲ မသွားပါ။ ချင်ချင်းလိုပဲ ထန် (T'Ang) မင်းဆက် ပေါ်လာပါတယ်။

အဲဒီထန်မင်းဆက်က ၆၁၈ က ၉၀၇ အထိ အုပ်ချုပ်သွားလို့ ဆွဲဘုရင်တွေလို အထွေထွေ အုပ်ချုပ်ရေး ပုံမပျက် ထိန်းထားနိုင်တယ်။ သူတို့လက်အောက်မှာလည်း တရုတ်နိုင်ငံ စည်းလုံးရေးမပျက်။ (ထန် မင်းဆက် လက်ထက် ဟာ တရုတ်နိုင်ငံ အကောင်းဆုံး၊ အအောင်မြင်ဆုံးခေတ် ဖြစ်တယ်လို့ ဆိုရမယ်။ စစ်အင်အားလည်း သိပ်ကောင်းလို့ ဒီလို တည်ငြိမ်တာလည်း ဖြစ်နိုင်ပါတယ်။ အဲဒါအပြင် စာပေ အနုပညာဘက်ကလည်း သိပ်ကြီးပွား ထွန်းကားလာပါသေးတယ်။)

ဆွဲဝဲန်တိ ဘယ်လောက် အရေးပါသလဲလို့ ပြန်ပြီး စစ်ဆေးကြည့်ကြပါစို့။ ဒီကြောရာဇ်ကို စစ်ဆေးရင် ဥရောပ (Europe) က အင်မတန်ကျော်ကြားတဲ့ သျှားလမိန်း (Charlemagne) နဲ့ နှိုင်းယှဉ်ရမယ်။ သူတို့နှစ်ဦးဟာ ထမ်းပိုး ထမ်းယှဉ်နေတယ်။ ရောမအင်ပါရာ ပြိုပျက်ပြီး နှစ်သုံးရာ လွန်တဲ့အခါ အနောက်ဥရောပကို သျှာလမိန်းက ပြန်ပြီး စုစည်းနိုင်တယ်။ အဲဒီလိုပဲ ဟန်မင်းဆက်ပြုတ်ပြီး အနှစ်သုံးရာ့ငါးဆယ်ကြာတော့ ဆွဲဝဲန်တိက တရုတ်နိုင်ငံကို ပြန်ပြီး စုစည်း နိုင်တယ်။ သျှာလမိန်းက အနောက်ဘက်မှာ ပိုပြီး ထင်ရှား ကျော်ကြားတာတော့ မှန်တယ်။ ဒါပေမဲ့ ဆွဲဝဲန်တိက သူတို့နှစ်ယောက်မှာ ပိုပြီး သြဇာကြီးမားသူ ဖြစ်တယ်။ ပထမ အချက်က သူက ဥရောပမှာ အရေးပါတဲ့ အင်္ဂလန်၊ စပိန်နဲ့ တောင်ပိုင်းအီတလီတွေကို သျှာလမိန်းက ဘယ်တုန်း ကမှ မအောင်နိုင်ခဲ့ဖူးပါ။ ဒုတိယ အချက်က ဆွဲဝဲန်တိ စုစည်းတဲ့အခါ တရုတ်နိုင်ငံကြီးမှာ အကြာကြီး နောက်ထပ် မပြိုပျက်ဘဲ ရှိနေတယ်။ သျှာလမိန်းရဲ့ အင်ပါရာက မကြာခင် ကွဲအက်ပြီး နောက်ဘယ်တော့မှ ပြန်စုလို့မရတော့ပါ။

တတိယ အချက်က ခလေ့နဲ့ပတ်သက်ပြီး လွှမ်းမိုး နိုင်စွမ်းကို ကြည့်ရမယ်။ ထန်မင်းဆက်က အကုန် မဟုတ်တောင် တရုတ်နိုင်ငံရဲ့ တစ်စိတ်တစ်ပိုင်းမှာ စီးပွားရေး တောင့်တင်းအောင် လုပ်ပေးနိုင်တယ်။

တစ်ဖက်မှာ ကြည့်ရင် ကရိုလင်ဂျီယန်ရီနေဆန့် (Carolingian Renaissance) ဟာ သျှာလမိန်း သေတာနဲ့ တစ်ပါတည်း ကျဆင်းသွားတယ်။ သူ့အင်ပါရာလည်း ပျက်တော့တာပါပဲ။ နောက်ဆုံးပြောစမှတ်ပြုရမယ့် အချက်က ပြည်သူ့ဝန်ထမ်း ရွေးချယ်ရေး စာမေးပွဲစနစ် ဖြစ်ပါတယ်။ နှစ်တွေအရှည်ကြီးမပျက်ဘဲ ရှိနေတဲ့ စနစ်ပါ။ အင်မတန်လည်း အရာရောက်ပါတယ်။ ဒါတွေကို ထောက်ရင် ဥရောပဟာ ကမ္ဘာ့သမိုင်းမှာ တရုတ် ထက်အရာရောက်ပေမယ့် ဆွဲဝဲန်တိဟာ သမိုင်းမှာ သျှာလမိန်း ထက်ပိုပြီး အများအကျိုးရှိအောင် ဆောင်ရွက်နိုင်သူလို့ ပြောရမှာဖြစ်တယ်။ အမှန်က တရုတ်မှာရော ဥရောပမှာပါ ဆွဲဝဲန်တိ (Sui Wen Ti) လို ရေရှည်အရာရောက်တဲ့ပုဂ္ဂိုလ် နောက်ထပ်မပေါ်တော့ပါ။

# (၈၆) ဗစကို ဒဂါးမား (၁၄၆၀ ခန့် – ၁၅၂၄)

# VASCO DA GAMA(1460 – 1524)

ပေါ်တူဂီ (Portuguese) နယ်လှည့် ဗစကိုဒဂါးမား (Vasco Da Gama) ဟာ ဥရောပက အာဖရိက (Africa) ကိုပတ်ပြီး ရေလမ်းသက်သက် အိန္ဒိယ (India) သွားတဲ့လမ်း ကို ရှာဖွေတွေ့ရှိသူ ဖြစ်ပါတယ်။ ပေါ်တူဂီတွေဟာ ပင်လယ်ခရီးသည် မင်းသား ဟင်နရီ (Henry ၁၃၉၄ – ၁၄၆၀) လက်ထက်ကစပြီး စောစော ကပြောတဲ့ ရေလမ်းမျိုးတွေကို ရှာဖွေခဲ့ကြတယ်။ ဗာတိုလိုမူဒိုင်အာ့စ် (Bartolomen Dias) ဟာ ၁၄၈၈ ခုနှစ်က ပေါ်တူဂီ လမ်းသစ်ရှာဖွေရေးအဖွဲ့ကို ခေါင်းဆောင်ပြီး အာဖရိကတောင်ဘက်များကို ဂွတ်ဟုတ် (Good Hope) အငူကို လှည့်ပြီး ပေါ်တူဂီကို ပြန်ရောက် လာတယ်။ အဲဒီအခါကပဲ ပေါ်တူဂီ ဘုရင်က သူတို့လိုချင်တဲ့လမ်းကို ပိုင်ပိုင်နိုင်နိုင်သိဖို့ မဝေးတော့ဘူးလို့ တွက်မိပါတယ်။ ဒါပေမယ့် ကြန့်ကြာမှုတွေ အမျိုးမျိုး ကြုံတွေ့နေသေးလို့ ၁၄၉၇ ရောက်တဲ့အခါမှ အိန္ဒိယကျွန်း (Indies) ကို အဟုတ်တကယ် ရောက်အောင် ခရီးဆက်သွယ်မိပါတယ်။ အရှာအဖွေခရီးကို ခေါင်းဆောင်ဖို့ ရှင်ဘုရင်က ပေါ်တူဂီ (Portugal) ဆင်း (Sines) မှာ ၁၄၆၀ ပြည့်လောက်က မွေးဖွားတဲ့ ဗစကိုဒဂါးမား (Vasco da Gama) ခေါ် မင်းမျိုးဝင်သူတစ်ဦး ရွေးလိုက်ပါတယ်။ အာရေဗစ် (Arabic) ဘာသာ စကားပြောနိုင်သူ စကားပြန်တွေ အပါအဝင် သင်္ဘောသား အစုစု ၁၇၀ နဲ့ သင်္ဘောလေးစင်းကို ကွပ်ကဲ အုပ်ချုပ်ပြီး ဒဂါးမားဟာ ၈ ဇူလိုင် ၁၄၉၇ မှာ ခရီးထွက်ခဲ့ပါတယ်။ ပထမ ဗာဒေ အငူကျွန်းစု (Cape Verde Islands) ဘက်ကို အရောက်သွားတယ်။ ပြီးတော့မှ ဒိုင်အာ့စ် (Dias) လုပ်ပုံမျိုး အာဖရိကကမ်းရိုးတန်းကို မြှောင်ပြီး တောင်ဘက်ကို မလိုက်ဘဲ အတ္တလန်တစ်သမုဒ္ဒရာ (Atlantic Ocean) ထဲကပဲ ကမ်းကိုလွှတ်ပြီး တောင်ဘက်ကို တည့်တည့်ကြီး စုန်ဆင်းသွားပါတယ်။ အဲဒီလို ခရီးအများကြီး ပေါက်အောင်သွားပြီးမှ အရှေ့ကို လှည့်ပြီး ဂွတ်ဟုတ် (Cape Of Good Hope) ရောက်အောင် ဝင်လိုက်ပါတယ်။ အဲဒီကိုသွားတာ သိပ်မှန်တယ်။ ကမ်းရိုးအတိုင်း သွားတာထက် ခရီး ပိုတွင်တယ်။ ဒါပေမဲ့ ရေလမ်းခရီးမှာ ပိုပြီး ရဲရင့် တတ်ကျွမ်း နားလည်ဖို့လိုတယ်။ ဒီလိုသွားတော့ ကမ်းမမြင်ဘဲ ကိုလမ်ဘတ်စ် (Columbus) သွားတဲ့ခရီးရဲ့ ရက်တစ်ဆခွဲေလာက် ပိုကြာတယ်။ အစုစု ရက် ကိုးဆယ့် သုံးရက် ဖြစ်သွားတယ်။ ဒဂါးမား (da Gama) ဟာ ဂွတ်ဟုတ်အငူကို ၂၂ နိုင်ဝင်ဘာ ၁၄၉၇ မှာ ပတ်ပြီးလို့ အာဖရိက အရှေ့ကမ်းရိုးတန်းကို ဆန်တက်ခဲ့ပါတယ်။ ဒီလို မြောက်ဘက်ကိုလာတော့ ကနေ့ ကင်ညာ (Kenya)

နယ်ရဲ့ မူဆလင် (Muslim) စိုးမိုးအုပ်ချုပ်တဲ့ မွန်ဗာဆာ (Momvasa) နဲ့ မာလိန္ဒီ (Malindi) တွေအပါအဝင် မြို့ကြီးတွေကို ဝင်ရောက်ပါတယ်။ မာလိန္ဒီမှာ ကုလားလူမျိုး တက်မကိုင် တစ်ယောက်ကို အငှားတင်ပြီး အာရေဗီယ ပင်လယ် (Arabian Sea) ကို နှစ်ဆယ့်သုံးရက်နဲ့ ဖြတ်ပြီး အိန္ဒိယ (India) ကို ရောက်လာပါတယ်။ ပေါ်တူဂီက ထွက်ခဲ့တာ ဆယ်လလောက်ကြာတော့ ၂၀ မေ၊ ၁၄၉၈ မှာ ဒဂါးမားဟာ ကလီကတ် (Calicut) ဆိုတဲ့ တောင်အိန္ဒိယရဲ့ အရေးအပါဆုံး ကုန်သွယ်ဗဟိုဌာနကို ရောက်လာပါတယ်။ ကလီကတ်မှာ ဟိန္ဒူဝင်း ဇမောရင် (Zamorin) က အစမှာ ကောင်းကောင်း ကြိုဆိုဧည့်ခံပါတယ်။ နောက်တော့ ဒဂါးမားက အပေါစားပစ္စည်းတွေသာ လက်ဆောင် အဖြစ်နဲ့ပေးလို့ မကျေမနပ်ဖြစ်လာတယ်။ မူဆလင် (Muslim) ကုန်သည်တွေကလည်း အရင်က ငါတို့သာ ဒီနယ်ဒေသမှာ ရောင်းဝယ်ရေး အုပ်စီးနေတာကို အခု မခေါ်မဖိတ် ဝင်ရောက်လာတဲ့ သူစိမ်းကို မနှာလိုစိတ် ဖြစ်လာလို့ ဇမောရင်နဲ့ ရောင်းဝယ်ရေး မဟာမိတ် စာချုပ်မချုပ် ဖြစ်အောင် တားဆီးကြတယ်။ ဒါပေမယ့် ကလီကတ်ကက ဒဂါးမား ထွက်ခဲ့တဲ့ သြဂုတ်လမှာ ဟင်းမွှေးပစ္စည်း အများနဲ့ ကုလားအများကို ခေါ်ဆောင် နိုင်ခဲ့ပါတယ်။ အပြန်ခရီးဟာ အလာခရီးထက် ပိုပြီး ခက်ခဲပါတယ်။ အာရေဗီယပင်လယ်ကို ဖြတ်တဲ့အခါ သုံးလလောက် အချိန်ကြာတယ်။ သင်္ဘောသားတွေလည်း ပင်လယ်အူနာ (Seurvy) နဲ့ အတော်များများ သေဆုံးသွားတယ်။ နောက်ဆုံးမှာ သင်္ဘောနှစ်စင်းပဲ မချို့မယွင်း အကောင်းပြန်ရောက်တယ်။ ပထမတစ်စင်းကို ပေါ်တူဂီကို ၁၀ ဇူလိုင် ၁၄၉၉ မှာ ဝင်တယ်။ ဒဂါးမား ကိုယ်တိုင်ပါတဲ့ ဒုတိယအစင်းက နောက်နှစ်လကြာမှ ပြန်ရောက်တယ်။ တစ်ပတ်လည် ခရီးသွား သင်္ဘောသား ငါးဆယ့်ငါးယောက်ပဲ ပြန်ပါလာလို့ သုံးချိုးနှစ်ချိုး သေကျေန်ရစ်တယ်။ ဘာပဲပြောပြော သူ့ရဲ့ အသွားအပြန် တစ်ပတ်လည်ခရီးဟာ ၂ နှစ်ကြာ ပေမယ့် ၉ စက်တင်ဘာ ၁၄၉၉ မှာ လစ်စဘွန်း (Lisbon) ကို ဝင်လာတော့ ရှင်ဘုရင်ရော ဒဂါးမားပါ ဒီခရီးဟာ အကြီးအကျယ် အောင်မြင်တယ်။ အကြီးအကျယ် အကျိုးရှိတယ်လို့ နားလည်ကြပါတယ်။ ၆ လကြာတဲ့အခါ ရှင်ဘုရင် ပထမအစမ်းခရီးကို နောက်ထပ်ပြည့်တဲ့ ခရီးထွက်ကြမယ်လို့ အမိန့်တော် ထားပြီး ပေဒရို အက်ဗရက်စ် ကဘရယ် (Pedro Alvares Cabral) ကို လွှတ်ပါတယ်။ ကဘရယ် (Cabral) ဟာ အိန္ဒိယကို ရောက်တယ်။ လမ်းမှာ ကြုံလို့ ဝင်စူးစမ်းရင်း ဘရာဇီး (Brazil) ကို ရောက်သွားသေးတယ်။ တခြား ပေါ်တူဂီ လမ်းသစ်ရှာဖွေသူတွေ ဒီဒေသကို ရောက်ပြီးသား ဖြစ်တယ်လို့ ပြောကြပေမယ့် သူတို့ ဟင်းမွှေးပစ္စည်းတွေ အများကြီး ပြန်သယ်ယူလာနိုင်တဲ့အတွက် အောင်မြင် တယ်လို့ပဲ ပြောရမှာဖြစ်ပါတယ်။ ဒါပေမဲ့ ကဘရယ်ရဲ့ လူတချို့ကို ကလီကတ်မှာ အသတ်ခံခဲ့ရတဲ့အတွက် ကလဲ့စားချေဖို့ ဗစကိုဒဂါးမားကို ၁၅၀၂ ခုမှာ သင်္ဘော နှစ်ဆယ်နဲ့ လွှတ်လိုက်တယ်။ ဒဂါးမားက ဒီခရီး တစ်ခေါက်မှာတော့ အတော်ပဲကြမ်းတယ်၊ ရမ်းတယ်လို့ ဆိုရမယ်။

အိန္ဒိယ ကမ်းခြေဘက်မှာ အာရပ်သင်္ဘော တစ်စင်းကို ဖမ်းယူပြီး ပါတဲ့ပစ္စည်းတွေကို ယူလိုက်ပြီး သင်္ဘောသားတွေ အပြည့်နဲ့ သင်္ဘောကို

ပင်လယ်ထဲမှာပဲ မီးရှို့ပြီး နှစ်မြှုပ်ပစ်ခဲ့တယ်။ မိန်းမနဲ့ ကလေးတွေ အများကြီးနဲ့ သင်္ဘောသားတွေပါ သေကြေ ပျက်စီး သွားပါတယ်။ ကလီကတ်ကို ရောက်တဲ့အခါ အုပ်စိုးသူ ဇမောရင်ကို သင်္ဘောဆိပ်က မူဆလင်တွေ အားလုံးကို နှစ်ပစ် ပေးရမယ်လို့ စေခိုင်းပါတယ်။ ဇမောရင်က ချက်ချင်း ခိုင်းတာကို မလုပ်လို့ ဟိန္ဒူတံငါ သုံးဆယ့်ရှစ်ယောက်ကို ဖမ်းပြီး ခုတ်ထစ် သတ်ဖြတ်ပြီး သင်္ဘောဆိပ်ကို အမြောက်နဲ့ပစ်တယ်။ ဒေါသထွက်ပေမယ့် ဘာမှ ပြန်လည် ခုခံတိုက်ခိုက်ခြင်း မလုပ်နိုင်လို့ ဇမောရင်က ခိုင်းတဲ့အတိုင်း လိုက်နာဆောင်ရွက်ရတယ်။ အိမ်ပြန်လာတဲ့အခါ ဒဂါးမားက အရှေ့ အာဖရိကမှာ ပေါ်တူဂီပိုင် နယ်တွေအဖြစ် သိမ်းယူပြီး ကိုလိုနီ (Colony) ထူထောင်ခဲ့တယ်။ ဒီလို အမှုတော်ကို ထမ်းနိုင်တဲ့အတွက် ပေါ်တူဂီဘုရင်က ရာထူးကြီးတွေ၊ နယ်ပယ်တွေ၊ အငြိမ်းစား လခ ကောင်းကောင်းနဲ့ အခြား အဖိုးတန်ဆုတွေ ဒဂါးမားကို ပေးခဲ့ပါတယ်။ အိန္ဒိယကို ဒဂါးမား နောက်တစ်ခါ ဘုရင်ခံ အဖြစ်နဲ့ ၁၅၂၄ မှာ ပြန်သွားရပါသေးတယ်။ အိန္ဒိယ ရောက်လို့ လပိုင်းလောက်အတွင်းမှာ ဖျားပြီး ဒီဇင်ဘာ ၁၅၂၄ မှာ ဒဂါးမား ကွယ်လွန်သွားပါတယ်။ သူ့အလောင်းကို သယ်ယူလာပြီး လစ်စဘွန်း အနားမှာ မြှုပ်နှံ ထားပါတယ်။ ဒဂါးမားမှာ အိမ်ထောင်ရှိတယ်။ သားသမီး ခုနစ်ယောက် ထွန်းကားတယ်။ ဗစကိုဒဂါးမားရဲ့ ပင်လယ်ခရီးကြောင့် ဥရောပနဲ့ အိန္ဒိယနဲ့ အရှေ့ပိုင်း တစ်ခွင် တိုက်ရိုက် လမ်းပွင့်သွားတယ်။ နိုင်ငံ ပေါင်းများစွာမှာ ကောင်းကျိုး အများကြီး ရရှိသွားပါတယ်။ တာတို အနေနဲ့ တွက်ဆကြည့်ရင် အကျိုးအမြတ် အကြီးအကျယ် ရတာက ပေါ်တူဂီ ဖြစ်ပါတယ်။ ယဉ်ကျေးသူတွေ နေထိုင်ရာ ကမ္ဘာ့ အစွန်အဖျားက အင်မတန် ဆင်းရဲတဲ့ နိုင်ငံငယ်ကလေးဟာ အရှေ့နိုင်ငံတွေနဲ့ ကုန်သည် လမ်းသစ်ပွင့်ပြီး ဆက်သွယ် ခွင့်ရလို့ မကြာခင်မှာပဲ ဥရောပမှာ အချမ်းသာဆုံး နိုင်ငံတစ်နိုင်ငံ ဖြစ်လာပါတယ်။ ပေါ်တူဂီဟာ လက်အောက်ခံ ကိုလိုနီတွေနဲ့ အိန္ဒိယသမုဒ္ဒရာ (Indian Ocean) ပတ်လည်မှာ လွှမ်းမိုးနိုင်တဲ့နိုင်ငံ တစ်ခု အလျင်အမြန် ဖြစ်လာပါတယ်။ သူတို့ထူထောင်တဲ့ တပ်စခန်းတွေဟာ အိန္ဒိယ (India)၊ အင်ဒိုနီးရှား (Indonesia)၊ မဒဂါစကာ (Madagascar) နဲ့ အာဖရိက (Africa) အရှေ့ကမ်းရိုးတန်းမှာရော တခြားနေရာတွေမှာပါ ပေါ်လာပါတယ်။ ဒါတွေဟာ ဒဂါးမား ခရီးစမထွက်မီက ထူထောင်ခဲ့တဲ့ ဘရာဇီး (Brazil) က နယ်တွေရယ်၊ အနောက် အာဖရိကနယ်တွေရယ် စုပေါင်းလိုက်ရင် ကိုလိုနီ လက်နက်နိုင်ငံကြီးတစ်ခု ဖြစ်လာပါတယ်။ ပေါ်တူဂီဟာ ဒီနယ်ကြီးရဲ့ နေရာ အတော်များများကို လက်မလွှတ်ဘဲ နှစ်ဆယ်ရာစုနှစ်ဝက်အထိ စိုးမိုး အုပ်ချုပ် နိုင်ခဲ့ပါတယ်။

ဗစကိုဒဂါးမားက အိန္ဒိယရဲ့ ရောင်းဝယ်ရေး လမ်းသစ်ကို ဖွင့်ပေးလိုက်လို့ မူဆလင် (Muslim) ကုန်သည်တွေရဲ့ အိန္ဒိယသမုဒ္ဒရာကို လွှမ်းမိုး ချုပ်ကိုင် ထားတာကို အကြီးအကျယ် ဖြိုခွင်း ဖျက်ဆီး ပစ်လိုက်တာ ဖြစ်ပါတယ်။ ဒီကုန်သည်တွေဟာ မကြာခင်မှာပဲ ထောင်းထောင်း ညက်အောင် ချေဖျက်တာကို ခံရပြီး သူတို့နေရာကို ပေါ်တူဂီတွေက အပြီးအပိုင် ယူလိုက်ပါတယ်။ အဲဒါအပြင် ဥရောပက အိန္ဒိယ ကိုလာတဲ့ ကုန်သွယ်ရေး ကုန်းလမ်းတွေလည်း ဘယ်သူမှ ဆက်ပြီး အသုံးမပြုကြတော့ပါ။ ဘာပြုလို့လဲဆိုတော့ ပေါ်တူဂီတွေရဲ့

အာဖရိကကို ပတ်ပြီး သွားတဲ့ရေလမ်းက စရိတ်သက်သာလို့ ဖြစ်ပါတယ်။ ဒီလိုဖြစ်ရတာမှာ အရင်က အရှေ့ပိုင်း ကုန်သွယ်ရေးကို ချုပ်ကိုင်ခဲ့တဲ့ အော်တိုမန်တာ့ခ် (Ottoman Turks) နဲ့ (ဗင်းနစ် Venice တို့လို) အီတလီ ကုန်သည်မြို့တော်ကြီးတွေကိုပါ ထိခိုက် နစ်နာစေပါတယ်။ ကျန်ဥရောပကိုတော့ အရင်က အရှေ့ဖျားကုန်တွေကို စားသုံးဖို့ ဝယ်ရတဲ့ ကုန်ဈေးနှုန်းဟာ အများကြီး လျော့နည်း ကျဆင်းသွားပါတယ်။ နောက်ဆုံးအဖြေမှာ ဗစကိုဒဂါးမားရဲ့ ရေလမ်းခရီးဟာ ဥရောပ ကိုဖြစ်ဖြစ်၊ အနောက်အာရှ (West Asia လို့ခေါ်သင့်တဲ့ အရှေ့အလယ်ပိုင်း Middle East) ကိုဖြစ်ဖြစ် ထိခိုက်တာထက် အိန္ဒိယနဲ့ အရှေ့တောင်အာရှ (Southeast Asia) ကို (အကျိုးပြုပြီး အပြောင်းအလဲတွေ ဖြစ်ပေါ်စေဟန်က) ပိုပြီးများပြားပါတယ်။

အိန္ဒိယဟာ ၁၄၉၈ မတိုင်မီက ဥရောပနဲ့ ကင်းကွာ နေခဲ့ရတယ်။ ရာဇဝင် တစ်လျှောက်မှာ အိန္ဒိယဟာ တစ်ဦးတည်း လိုရာရအောင် ကိုယ့်ဘာသာ ဖြည့်စွမ်း ရတဲ့နိုင်ငံ ဖြစ်ခဲ့ရတယ်။ အပြင်လောကနဲ့ အဆက်အသွယ် ဆိုရင် အနောက်မြောက်ဘက်နဲ့ပဲ ရှိတယ်။ ဒဂါးမားရဲ့ခရီးက အိန္ဒိယကို ပင်လယ်ကမ်းကနေပြီး ဥရောပယဉ်ကျေးမှု (European Civilization) ကို တိုက်ရိုက် ဆက်သွယ် ပေးခဲ့ပါတယ်။ ဥရောပတိုက်သားတွေရဲ့တန်ခိုးသြဇာဟာ အိန္ဒိယမှာ တစ်စတစ်စ တိုးမြင့်လာလိုက်တာ တစ်ဆယ့်ကိုးရာစုဝက်ကို ရောက်တဲ့အခါ တိုက်ကြီး တစ်တိုက်နီးပါးရှိတဲ့ ဒေသကြီး တစ်ခုလုံးဟာ အင်္ဂလိပ် သရဖူအောက်ကို ကျရောက်သွားပါတော့တယ်။ (သမိုင်းအလိုအရ ဒီတစ်ကြိမ်သာ အိန္ဒိယ အားလုံးဟာ မင်းတစ်ပါးတည်း လက်အောက်ကို ရောက်ဖူးခဲ့ပါတယ်။) အင်ဒိုနီးရှား ဆိုရင် ဥရောပ သြဇာအောက်ကို ပထမ ကျရောက်ပြီးခါမှ ဥရောပစိုးမိုးတဲ့ လက်အောက်ခံ ဖြစ်ရတယ်။ နှစ်ဆယ်ရာစုနှစ်ဝက်ရောက်ခါမှ ကိုယ်ပိုင် အုပ်ချုပ်ခွင့်ကို ပြန်ရကြပါတယ်။ ဗစကိုဒဂါးမားကို နှိုင်းယှဉ် ကြည့်ချင်တယ်ဆိုရင် ယှဉ်နိုင်စရာ ခရစ်စတိုဖာ ကိုလမ်ဘတ်စ် (Christofher Columbus) ပဲရှိပါတယ်။ တချို့အချက်တွေမှာ ဒဂါးမားက သာပါတယ်။ ဥပမာ သူထွက်လာခဲ့တဲ့ ရေလမ်းခရီးဟာ အများကြီး သာလွန်အံ့သြ လောက်တဲ့ ဆောင်ရွက်ချက်ဖြစ်တယ်။ ကိုလမ်ဘတ်စ် ထွက်ခဲ့ဖူးတဲ့ခရီးထက် ပိုဝေးတယ်။ အချိန်ကာလ ပိုကြာတယ်။ သုံးဆ ပိုတယ်လို့ ဆိုနိုင်ပါတယ်။ ရေကြောင်းခရီးကို ပိုပြီး ကျွမ်းကျင်ဖို့ပဲ လိုပါတယ်။ (ကိုလမ်ဘတ်စ်ဟာ အနောက်ကို ဘယ်လိုသွားသွား ကမ္ဘာသစ် The New World ကို မုချမသွေ တွေ့မှာ ဖြစ်ပါတယ်။ ဒဂါးမားအဖို့မှာ ဂွတ်ဟုတ်အငူထဲမှာ လမ်းပျောက် သွားနိုင်ပါတယ်။) အဲဒါအပြင် ထပ်ပြီး ဖြည့်ပြောနိုင်တဲ့ အကွက်တစ်ကွက်က ကိုလမ်ဘတ်စ်နဲ့ မတူဘဲ မူလရည်မှန်း တဲ့နေရာကို ဒဂါးမားက ရောက်အောင် သွားနိုင်ပါတယ်။ အချေအတင် ပြောကြတဲ့အခါ ထပ်တိုးပြီး ဗစကိုဒဂါးမားက ကမ္ဘာသစ်ကို မတွေ့၊ ဥရောပ တိုက်သားတွေ အတွက် လူနေပြည့်ကျပ်ပြီးသား ဖြစ်နေတဲ့ ဒေသကို ရှာပေးတာလောက်ပဲ ရှိပါတယ် ပြောရင် ကိုလမ်ဘတ်စ် တွေ့တဲ့နေရာကလည်း လူတွေ နေထိုင် လက်စရှိနေပါပြီ။ ကိုလမ်ဘတ်စ် ရေကြောင်းခရီးဟာ အနောက်ခြမ်းကမ္ဘာရဲ့ ယခင်ရှိပြီးသား ယဉ်ကျေးမှုကို အကြီးအကျယ် အကျိုးပြုတာကို နောက်ဆုံးမှာ တွေ့ရှိရတယ်။ ဒဂါးမားရဲ့

ရေကြောင်းခရီးကလည်း အိန္ဒိယနဲ့ အင်ဒိုနီးရှားရဲ့ ယဉ်ကျေးမှုတွေမှာ အပြောင်းအလဲတွေ ရှိစေတယ်လို့ နောက်အခါသိနိုင်ပါတယ်။ ကိုလမ်ဘတ်စ်နဲ့ ဒဂါးမားတို့ အရေးပါပုံကို နှိုင်းယှဉ်တဲ့အခါ တောင်နဲ့မြောက် အမေရိက (America) ဟာ မြေဧရိယာအနေနဲ့ အိန္ဒိယထက် အများကြီး ကြီးမားပေမယ့် လူဦးရေ ကျတော့ အနောက်ကမ္ဘာမှာ ရှိသမျှ နိုင်ငံတွေရဲ့ လူဦးရေကို ပေါင်းပေမယ့်လည်း အိန္ဒိယကို မမီပါ။

ဘာပဲပြောပြော ကိုလမ်ဘတ်စ်ရဲ့သြဇာဟာ ဗစကိုဒဂါးမားရဲ့ သြဇာထက် အများကြီးထိရောက်ပါတယ်။ ပထမ အနေနဲ့ ပြောရရင် အာဖရိကကို ပတ်ပြီး အိန္ဒိယကို လမ်းစရှာဖို့ ဗစကိုဒဂါးမားက နည်းနည်းလေးမှ ဆော်သြရတာ မရှိပါ။ ပေါ်တူဂီရှင်ဘုရင်က ဒီခရီးကို ဗစကိုဒဂါးမား ဦးဆောင်စေလို့ စေခိုင်းခြင်းသာ ဖြစ်ပါတယ်။ ကိုလမ်ဘတ်စ်ရဲ့ ရေကြောင်းခရီးကတော့ သူကိုယ်တိုင် ဒီကို သွားရပါမယ့်အကြောင်း ကြိုးစား လှုံ့ဆော်ရတယ်။ သူအဆွယ်ကောင်းလို့ ဘုရင်မ အစ်စဘယ်လာ (Queen Isabella) က ငွေတော် ထုတ်ပေးတာ ဖြစ်ပါတယ်။ ကိုလမ်ဘတ်စ်က ကမ္ဘာသစ်ကို ရှာမပေးလည်း နောင်အခါမှာ ရှာပေးမယ့်သူ ဧကန်မုချ ပေါ်လာမှာဖြစ်တယ်။ အဒီအခါ တခြား ဥရောပနိုင်ငံတစ်ခုခုက ဖြစ်စရာရှိပါတယ်။ တစ်ဖက်မှာပြောရမှာက ဗစကိုဒဂါးမားလိုလူ မရှိလည်း ပေါ်တူဂီဘုရင်က နောက်တစ်ယောက် ကိုရှာပြီး ဒီခရီးကို ထွက်ခိုင်းမှာဖြစ်ပါတယ်။ ဒီလိုရွေးလွှတ်တဲ့ လူညံ့လို့ ခရီးပေါက်ရင်လည်း ပေါ်တူဂီက လက်လွှတ်ပြီး နောက်တစ်ဖန် ဒီကိစ္စကို မလုပ်တော့ဘူးလို့ နေမှာ မဟုတ်ပါ။ အနီးအပါးမှာ ရှိနေပြီဆိုတာ သိပြီးသားဖြစ်လို့ ရေလမ်းကို မရရအောင် ဆက်ပြီး ကြိုးစားရှာကြမှာ ဖြစ်ပါတယ်။ ပြီးတော့ အာဖရိက အနောက်ဖက် ကမ်းခြေတစ်လျှောက်မှာ ပေါ်တူဂီစခန်းတွေ တန်းစီပြီး ရှိနေပြီဖြစ်လို့ ဥရောပရဲ့ တခြားနိုင်ငံတွေကလည်း အိန္ဒိယကို အဦးအစ သွားရောက်နိုင်ဖို့ ခဲယဉ်းပါတယ်။ ဒုတိယအချက် ကိုပြောပါဆိုရင် ဥရောပဟာ အိန္ဒိယနဲ့ အရှေ့ဖျားနိုင်ငံတွေ (Far East) မှာ အနောက်ခြမ်းကမ္ဘာ (Western Hemisphere) မှာလောက် မလွှမ်းခြုံနိုင်ပါ။ အနောက်နိုင်ငံတွေနဲ့ တွေ့ဆုံရင် အိန္ဒိယ ယဉ်ကျေးမှုမှာ နောင်အခါ တော်တော်များများ ပြောင်းလဲလာတာကို တွေ့နိုင်ပါတယ်။ ရေလမ်းက ကိုလမ်ဘတ်စ် ပေါက်လာပြီး ဆယ်စုနှစ် နည်းနည်းအတွင်းမှာပဲ ကမ္ဘာသစ်က ယဉ်ကျေးမှုကြီးတွေဟာ တကယ့်ကို ကွယ်ပျောက် တိမ်မြုပ် သွားအောင် ဖျက်ဆီးတာကို ခံလိုက်ကြ ရပါတယ်။ ပြီးတော့ အနောက်ခြမ်းကမ္ဘာမှာ အမေရိကန်ပြည်ထောင်စုလို သမ္မတ နိုင်ငံကြီးတစ်ခု အိန္ဒိယမှာ ယှဉ်ပြိုင်စရာ မပေါ်လာပါ။ ခရစ်စတိုဖာ ကိုလမ်ဘတ်စ်ကို အနောက်ခြမ်းကမ္ဘာမှာ ကောင်းကောင်း၊ ဆိုးဆိုး ဖြစ်ပေါ်သမျှ အကြောင်းတွေဟာ သူ့ကြောင့်လို့ မပြောနိုင်သလို ဒဂါးမားကြောင့် အရှေ့တိုင်းပြည်တွေဟာ ဥရောပနဲ့ တိုက်ရိုက် ဆက်သွယ်နိုင်လို့ အပြောင်းအလဲတွေ ပေါ်ရတယ်လို့ မပြောနိုင်ပါ။ နယ်မြေသစ်ရှာတဲ့နေရာမှာ သံကြိုး ကွင်းဆက်လို တသီကြီး ဗစကိုဒဂါးမားရှေ့က ရှိခဲ့ပါတယ်။ ပင်လယ်ခရီးသွား ဟင်နရီ (Henry the Navigator)၊ အာဖရိက အနောက်ကမ်းခြေမှာ ဘယ်လို အကျိုးအမြတ်

ရနိုင်ပါ့မလဲလို့ ရှာဖွေရေးတွေ၊ ဗာတိုလိုမြူးဒီယာ့စ် (Bartolomeu Dias)၊ ဒဂါးမား ကိုယ်တိုင်ပါတယ်။ နောက်ပြီး သူ့ကိုဆက်ခံသူ (ဖရစ်စစ်စကို ဒအယ်လ်မေဒါ Francisco Almeida) နဲ့ အယ်လ်ဖောင်ဆို ဒေအယ်လ် ဗုကာ့ခ် (Alfonso de Albuquerque) တို့အပြင် အများကြီးပဲ ရှိပါတယ်။ ဒီကြိုးဆက်မှာ ဗစကိုဒဂါးမားဟာ အထူးခြားဆုံး၊ အပြောင်မြောက်ဆုံး ကွင်းဆက်ဖြစ်တယ်လို့ ကျွန်တော် ထင်ပါတယ်။ ဒါပေမဲ့ အနောက်ခြမ်းကမ္ဘာကို ဥရောပ ဆန်အောင် လုပ်ခဲ့တဲ့ကြိုးဆက်မှာ ကိုလမ်ဘတ်စ် လောက် အရာ မရောက်ပါ။ ဒါကြောင့် ဒီစာအုပ်မှာ တန်းစီတဲ့အခါ သူက ကိုလမ်ဘတ်စ်အောက် အများကြီး နေရာ နိမ့်သွားရပါတယ်။

30, December, 2001.

# (၈၇) မဟာဆိုင်ရပ်စ် (ခရစ်မပေါ်မီ ၅၉၀ – ၅၂၉)

## Cyrus the Great (590 B.C. – 529 B.C.)

ပါရှအင်ပါယာ (PersiaEmpire) ကို ထူထောင်သူမှာ မဟာဆိုင်ရပ်စ် (Cyrus the Great) ဖြစ်ပါတယ်။

အီရန် (Iran) အနောက်တောင်ထောင့်ရှိ ပဒေသရာဇ် အငယ်စားက စတင်ကြီးပွားခဲ့ရသူ ဖြစ်ပါတယ်။ အဲဒီက အထူးထင်ရှားတဲ့ စစ်အောင်ပွဲတွေကို အကြိမ်ကြိမ် တိုက်ခိုက်ပြီး မိဒ်စ် (Medes)၊ လီဒီယန် (Lydians) နဲ့ ဘေဘီလွန်နီယ (Babylonians) အမည်ရှိတဲ့ လက်နက် နိုင်ငံကြီးသုံးခုကို ဖျက်ဆီးပြီး ရှေးခေတ်က အရှေ့အလယ်ပိုင်း (Middle East) ကို အနောက် မြေထဲပင်လယ် (Mediterranean Sea) က အရှေ့အိန္ဒိယ (India)ထိ နိုင်ငံကြီး တစ်နိုင်ငံဖြစ်အောင် ပေါင်းစပ် ပေးနိုင်သူ ဖြစ်လာပါတယ်။ မူလ ပါရှဘာသာစကားနဲ့ ကုရုစ် (Kurush) လို့ခေါ်တဲ့ ဆိုင်ရပ်စ်ကို အီရန် အနောက်တောင်၊ (အခု ဖားစ် Fars ခေါ်တဲ့) ဖာရ်စစ် (Persis) နယ်မှာ ခရစ် မပေါ်မီ နှစ် ၅၉၀ က မွေးဖွားခဲ့ပါတယ်။ အဲဒီအခါက ဖာရ်စစ် (Persis) နယ်ဟာ မိဒ်စ် (Medes) အင်ပါယာရဲ့ ပြည်နယ် ကလေး တစ်ခုမျှသာ ဖြစ်ပါတယ်။ မိဒ်စ်ဘုရင့် လက်အောက်ခံ နယ်ငယ်ကလေးရဲ့ အကြီးအကဲ တစ်ယောက်က ဆင်းသက်ပေါက်ဖွားလာသူမျှ ဖြစ်ပါတယ်။ နောင်အခါမှာတော့ ဆိုင်ရပ်စ်ကို ကြီးကျယ် လာအောင် ဂရိ (Greek) ပုံပြင်ထဲက အိဒိပါ့စ် (Oedipus) ဘုရင် ဆင်ဆင်၊ ကြီးကျယ်သူတစ်ဦးအဖြစ် ချီးမွမ်း ပြောဆိုကြပါတယ်။ ပုံပြင်မှာ ဆိုင်ရပ်စ်ဟာ မိဒ်စ်ဘုရင် အာစတီယဂက်စ် (Astyages) ရဲ့ မြေးဖြစ်တယ်လို့ ပြောပါတယ်။ ဆိုင်ရပ်စ် မမွေးမီ ဘုရင်က သူ့ကို သူ့မြေးက တစ်နေ့မှာ နန်းချလိမ့်မယ်လို့ အိပ်မက် မြင်ပါတယ်။ အဲဒါကြောင့် မြေးကလေး မွေးမွေးချင်း သတ်စေလို့ အမိန့်ပေးထားပါတယ်။ အမိန့်အတိုင်း ဆောင်ရွက် ရမယ့်လူက ဒီလို သူကိုယ်တိုင် မရက်စက်ဝံ့ တဲ့အတွက် သိုးထိန်း လင်မယားကို သတ်ခိုင်း တယ်။ သိုးထိန်းလင်မယားကလည်း သားအဖြစ်နဲ့ မွေးထား ပါတယ်။ ဒီလိုနဲ့ ဒီကလေးကြီး လာတော့ ဘုရင်ကြီး ပျက်စီးရပါတယ်။ ဒီပုံပြင်ရဲ့ အသေးစိတ် ဖော်ပြချက်ကို ဟေရိုဒေါတပ်စ် (Harodotus) မှာ ကြည့်ပါ။ ကြံဖန်လည်ဆည်ပြီး ပြောကြတာပါ။ ဆိုင်ရပ်စ် ငယ်ငယ်က အကြောင်းကို နည်းနည်းမှမသိပါ။ သိတာကတော့ ခရစ်မပေါ်မီ ၅၅၈ လောက်မှာ ခမည်းတော် ပါရှဘုရင် ပထမ

စမ်ဘီစက်စ် (Cambyses I) ကို ဆက်ခံရတယ်။ မိဒ်စ် ရှင်ဘုရင်ရဲ့လက်အောက်ခံ မင်းငယ် ဖြစ်လာတယ်။ ခရစ်မပေါ်မီ ၅၅၃ ကိုရောက်တဲ့အခါ အထက်ဘုရင်ကို ပုန်ကန်ပြီး သုံးနှစ်ကြာတော့ အထက်ဘုရင်ကို ထီးနန်းကို ဖြုတ်ချနိုင်ပါတယ်။ မိဒ်စ်နဲ့ပါရှဟာ လူတစ်မျိုးတည်း၊ ဘာသာစကား တစ်မျိုးတည်းလို့ ဆက်စပ်နေပါတယ်။ ဆိုင်ရပ်စ်ဟာ မိဒ်စ် ဥပဒေနဲ့ မိဒ်စ် အုပ်ချုပ်ရေး စနစ်ကို ဆက်သုံးလေတော့ နိုင်ငံခြားက လာရောက် အုပ်ချုပ်တာမျိုး မဟုတ်ဘဲ တစ်နိုင်ငံတည်းမှာပဲ မင်းဆက် အသစ်လို့ ထင်စရာ ရှိနေပါတယ်။ ဆိုင်ရပ်စ်က မကြာမီ နိုင်ငံခြားကို ထွက်တိုက်ဖို့ ပြင်ဆင်ပါတော့တယ်။ ပထမ ဖြို့ခွင်းရမှာက အာရှမိုင်နာ (Asia Minor) က လီဒီယ (Lydian) အင်ပါယာ လက်နက်နိုင်ငံကို တိုက်တယ်။ အဲဒီကဘုရင် ကရိုအေရှပ်စ် (Croesus) ဟာ အဆမတန် ချမ်းသာတယ်လို့ ကျော်ကြားနေသူ ဖြစ်ပါတယ်။ ဆိုင်ရပ်စ်ရဲ့သံက ကရိုအေးရှပ်စ် ရွှေထက် စွမ်းတယ် ဆိုရမယ်။ ခရစ်မပေါ်မီ ၅၄၆ မှာ ဆိုင်ရပ်စ်က လီဒီယအင်ပါယာ (လက်နက်နိုင်ငံ) ကိုနိုင်လို့ ကရိုအေးရှပ်စ်ဟာ သုံ့ပန်း ဖြစ်လာရပါတယ်။ ဆိုင်ရပ်စ်က အရှေ့ဘက်ကို တိုက်ခိုက် သိမ်းယူဖို့ စတယ်။ စစ်ပွဲ တစ်ခုပြီးတစ်ခု တိုက်ခိုက်ပြီး အီရန် အရှေ့ခြမ်းကို နှိမ်နင်းပြီး သူ့လက်နက်နိုင်ငံ လုပ်ပါတယ်။ ခရစ်မပေါ်မီ ၅၄၀ ကိုရောက်တဲ့အခါ ပါရှ လက်နက်နိုင်ငံဟာ အိန္ဒိယမှာ အိန္ဒုမြစ်ခေါ် (အခု ဆာဒါရယ Syr Darya) အထိ ကျယ်ပြန့် လာပါတယ်။ နောက်ပိုင်း လုံပြီဖြစ်လို့ ဆိုင်ရပ်စ်ဟာ အချမ်းသာဆုံး နိုင်ငံဖြစ်တဲ့ ဘေဘီလွန်လက်နက်နိုင်ငံ (Babyloniann Empire) ကို တိုက်ဖို့ ပြင်ဆင်တယ်။ ဒီနေရာကို ရှေးက အရှေ့အလယ်ပိုင်း မြေသြဇာကောင်းတဲ့ လခြမ်းရိပ် (Fertile Crescent) လို့ခေါ်ကြပါတယ်။ ဘေဘီလွန်နီယ ဘုရင် နဘိုနိဒပ်စ် (Nabonidus) က ဆိုင်ရပ်စ်နဲ့ မတူတဲ့ အချက် တစ်ချက်ရှိတယ်။ သူ့ကို တိုင်းပြည်သားက မချစ်ပါ။ ဆိုင်ရပ်စ်ရဲ့တပ်တွေ ချီတက် တိုက်ခိုက်လာတဲ့အခါ ဘေဘီလွန်နီယတပ်တွေက အကျိုးမရှိတဲ့ အလုပ်ကို မလုပ်ပြီး ခရစ်မပေါ်မီ အနှစ် ၅၃၉ မှာ စစ်မတိုက်ဘဲ လက်နက်ချပြီး အညံ့ခံ လိုက်တယ်။ ဘေဘီလွန်နီယ လက်နက်နိုင်ငံထဲမှာ ဆီးရီးယား (Syria) နဲ့ ပါလက်စတိုင်း (Palestine) နိုင်ငံတွေ လည်း ပါဝင်တာ ဖြစ်လေတော့ အဲဒီနှစ်နိုင်ငံကိုပါ ဆိုင်ရပ်က စိုးပိုင်ရပါတယ်။ ဆိုင်ရပ်စ်က ရပြီးသား အင်ပါယာကြီးကို အခြေခိုင်အောင် နှစ်တော်တော်ကြာအောင် အချိန်ယူပြီး စည်းရုံးပါတယ်။ ပြီးတော့မှ စစ်တပ်ကြီးကို အရှေ့မြောက်ကို ချီတက် စေတယ်။ ကပ်စပီယန်ပင်လယ် (Caspian Sea) ဗဟိုအာရှမှာနေတဲ့၊ ရေကြည်ရာမြက်နုရာ လှည့်လည် သွားလာနေတဲ့ မက်စဂိတေး (Massagetae) လူမျိုးစုကို တိုက်ခိုက် သိမ်းသွင်းဖို့ ဖြစ်ပါတယ်။ ပထမတိုက်ပွဲငယ်မှာ ပါရှတို့က နိုင်ပါတယ်။ ခရစ်မပေါ်မီ ၅၂၉ ခုနှစ်ကတိုက်တဲ့ ဒုတိယပွဲမှာတော့ ရှုံးတယ်။ အခုထိ ကမ္ဘာမှာ အကြီးမားဆုံး အကျယ်ပြန့်ဆုံး နိုင်ငံကြီးအရှင် ဆိုင်ရပ်စ်လည်း ကျဆုံး သွားပါတယ်။ သားတော် ဒုတိယ ကမ်းဗ်စက်စ် (Cambyses) က ဆိုင်ရပ်စ်ကို ဆက်ခံတယ်။ ကမ်ဗိစက်စ်က တစ်ကျော့ပြန်တိုက်တဲ့အခါ မက်စဂိတေး (Massagetae) တွေကိုနိုင်လို့ ခမည်းတော်ရဲ့ အလောင်းကို အရယူပြီး ပါရှမြို့ဟောင်း ပဆာဂဒေ (Passargadae) မှာ မြှုပ်နှံခဲ့ပါတယ်။ ကမ်ဗိစက်စ် အီဂျစ် (Egypt) ကို သွားရောက် တိုက်ခိုက်အောင်မြင်တဲ့အခါ ရှေးခေတ်

အရှေ့အလယ်ပိုင်း အားလုံးကို အင်ပါရာ တစ်ခုတည်း ဖြစ်အောင် လုပ်နိုင်ခဲ့ပါတယ်။

ဆိုင်ရပ်စ်ဟာ စစ်ရေးစစ်ရာမှာ ထူးချွန်တာကို ပြောဖို့မလိုပါ။ ဒါက တစ်ဖက်မြင်ပဲ ရှိသေးတယ်။

တခြားဘက် တွေမှာလည်း တော်တာပါပဲ။ အထူးသဖြင့် အုပ်ချုပ်ရေးမှာ တည်တည်ငြိမ်ငြိမ် ရှိတယ်။ ဒေသ အလိုက် နှစ်သက်ရာ ဘာသာကို ကိုးကွယ်ကြတာကို နားလည်လက်ခံပြီး ကြိုက်သလို ကိုးကွယ် ခွင့်ရတယ်။ ဓလေ့ ထုံးစံတွေကိုလည်း ဆက်ပြီး ကျင့်သုံးခွင့်ပေးတယ်။ တခြား စစ်အောင်နိုင်သူတွေလို ရက်ရက်စက်စက် ရိုင်းရိုင်းစိုင်းစိုင်း ချေမှုန်း သတ်ဖြတ်တာမျိုး မလုပ်ပါ။ ဥပမာပြရရင် ဘေဘီလုံနီယ၊ အထူးသဖြင့် အဆီးရီးယ (Assyria) တွေဆိုရင် ရှုံးတဲ့ဒေသကလူတွေကို ထောင်ပေါင်းများစွာ သတ်ပစ်တယ်။ တစ်နေ့အဲဒီလူတွေ သူပုန် ထမှာပဲဆိုပြီး အကုန် ဇာတိရပ်ရွာက ထွက်စေပြီး ပြည်နှင်ဒဏ်ပေးတယ်။ ဥပမာ ဘေဘီလုံနီယက ဂျူဒ (Judea) ကို ခရစ်မပေါ်မီ ၅၈၆ ခုနှစ်က နိုင်တဲ့အခါ ဘေဘီလုံကို လူတွေအများကြီး ခေါ်သွားတယ်။ အနှစ်ငါးဆယ်ကြာတဲ့အခါ ဘေဘီလုံနီယကို ဆိုင်ရပ်စ် တိုက်ခိုက်သိမ်းယူပြီးတဲ့အခါ ဂျူးလူမျိုးတွေကို ဇာတိနေရပ်ကို ပြန်ခွင့်ပြုတယ်။ ဒီလိုသာ ဆိုင်ရပ်စ် ကျေးဇူးနဲ့ ပြန်ခွင့်မရရင် အဲဒီခရစ်မပေါ်မီ အနှစ်ငါးရာကပဲ မျိုးပြုတ်ပြီး ဂျူးလက်ကျန် ရှိတော့မယ် မထင်ပါ။ ဆိုင်ရပ်စ် ဒီလိုလုပ်တာမှာ နိုင်ငံရေး ရည်ရွယ်ချက် ရှိမယ်လို့ ထင်ရပါတယ်။ ဘာပဲပြောပြော သူ့ခေတ်သူ့အခါက အင်မတန်ညှာတာ ထောက်ထားတဲ့ မင်းကောင်း တစ်ပါးဖြစ်တယ်လို့ ဆိုရပါမယ်။ ပါရှအင်ပါရာက တစ်နေ့နေ့ တို့လွတ်လပ်ရေးကို ချိုးဖျက်ဆီး လိမ့်မယ်လို့ အဲဒါကို ကြောက်နေရတဲ့ ဂရိတွေဟာ ဆိုင်ရပ်စ် ကိုတော့ အင်မတန် ကြည်ညိုဖွယ် ကောင်းတဲ့မင်းလို့ လေးစားခဲ့ကြပါတယ်။ ဆိုင်ရပ်စ်ကလည်း အစီအမံ ကောင်းတော့ သူမရှိပေမယ့် သူ့အင်ပါယာဟာ ဆက်လက် စည်ကား တိုးတက် ကျယ်ပြန့်ပါသေးတယ်။ မဟာအလက်ဇန္ဒား တိုက်ခိုက်တဲ့အချိန်ထိ နှစ်ပေါင်းနှစ်ရာ ဆက်လက် တည်တံ့နေပါတယ်။ အဲဒီ နှစ် ၂၀၀ လုံးနီးပါးမှာ ပါရှတွေဟာ ပြည်တွင်းငြိမ်းချမ်းပြီး စီးပွားဥစ္စာ တိုးတက် ချမ်းသာစွာ နေကြရပါတယ်။ အလက်ဇန္ဒားအောင်နိုင်လို့ ပါရှအင်ပါယာ အပြီးတိုင် ပျက်စီးသွားတယ်လို့ မပြောနိုင်ပါ။ အလက်ဇန္ဒား ကွယ်လွန်ပြီးနောက် သူ့ရဲ့ပထမ ဆဲလ်လူကပ် နီကတာ (Seleucus I Nicator) အမည်ခံ ဗိုလ်ချုပ်ကြီး တစ်ဦးက ဆီးရီးယား၊ မက်ဆိုပိုတေးမီးယားနဲ့ အီရန်ကို အပိုင်ရတယ်။ ဆယ်လူစစ် အင်ပါယာ (Seleucid Empire) လို့ သူ့ပိုင်နက်ကို ခေါ်ပါတယ်။ အီရန် ကိုတော့ ကြာကြာ အုပ်စီးမထားနိုင်ပါ။ ခရစ်မပေါ်မီ အနှစ်သုံးရာမှာ ဆယ်လူစစ်အုပ်ချုပ်ရေးကို ပထမ အာစာစက်စ် (Arsaces I) က ခေါင်းဆောင်ပြီး ပုန်ကန်တယ်။ သူက ဆိုင်ရပ်စ်မင်းဆက်ရဲ့ အကြေမဲန်နစ် (Achaemenids) ကဆင်းသက်သူလို့ ပြောပါတယ်။ အဲဒီ အာစာစက်စ် ထူထောင်တဲ့နိုင်ငံကို ပါသီယန်အင်ပါယာ (Pathian Empire) လို့ ခေါ်ပါတယ်။ အမှန်က အီရန်နဲ့ မက်ဆိုပိုတေးမီးယား နှစ်နိုင်ငံကို အုပ်စီးတဲ့ နိုင်ငံ ဖြစ်ပါတယ်။ ခရစ်ပေါ်ပြီး ၂၂၄

ခုနှစ်မျှ အာစာစစ်ဒ် (Arasacid) ဘုရင်တွေကို ဖယ်ပြီး ပါရှမင်းဆက်သစ် (new Persian Dynasty) ပေါ်လာတယ်။ မင်းဆက်သစ်ကို စက်စနစ် (Sassanids) လို့ တွင်ပါတယ်။ သူတို့လည်း အကြေမဲန်နစ် (Achaemenids) က ဆင်းသက်တယ်လို့ ပြောပါတယ်။ သူတို့က အနှစ်လေးရာကျော် အုပ်စိုး သွားပါတယ်။

မဟာဆိုင်ရပ်စ်ရဲ့ ဘဝဇာတ်လမ်းဟာ ကမ္ဘာ့သမိုင်း ကို အကြီးအကျယ် ပုံစံပြောင်းစေခဲ့ပါတယ်။ ဆူမာရိယ (Sumeria) မှာ ခရစ်မပေါ်မီ အနှစ် ၃၀၀၀က ပထမဆုံး ယဥ်ကျေးမှုတစ်ခု ထွန်းကားခဲ့တယ်။ အဲဒီမှာ အနှစ် နှစ်ထောင့်ငါးရာ တိုင်တိုင် ဆူမာရိယ (Sumeriaus) လူမျိုးတွေ နဲ့ တခြားဆီမိုက်နွယ်ဝင်တွေ (Semitic) အုပ်စီးခဲ့တယ်။ သူတို့ကို အက္ကဒီယလို့ ခေါ်ပါတယ်။ သူတို့ မင်းအဖြစ် အုပ်ချုပ်ရာဒေသကိုပဲ ကမ္ဘာမှာ ဓလေ့ အမြင့်ဆုံး၊ စီးပွားရေးချမ်းသာ အကြွယ်ဝဆုံး ဌာနရယ်လို့ သတ်မှတ် ခဲ့ကြရပါတယ်။ ဒီလိုသတ်မှတ်တာမှာ အီဂျစ် မပါ။ (အီဂျစ်နဲ့ မက်ဆိုပိုတေးမီးယားတို့က တန်းတူလို့ ယူဆပါတယ်။) ဒါပေမဲ့ ဆိုင်ရပ်စ် ဘဝနိဂုံးချုပ်တဲ့အခါ ဒီတိုးတက်တဲ့ သမိုင်း အလယ်တည့်တည့်ဖြစ်တယ်။ ကမ္ဘာ့သမိုင်းရဲ့ တစ်ဆစ် တစ်ပိုင်းပြီးပြီလို့ ဆိုနိုင်ပါတယ်။ အဲဒီကစပြီး မက်ဆိုပိုတေးမီးယားနဲ့ အီဂျစ် ဘယ်နေရာမှ ယဥ်ကျေးတဲ့ ကမ္ဘာမှာ နိုင်ငံရေးနဲ့ ဓလေ့ရေးရာတွေမှာ ဗဟိုဌာနတွေ မဟုတ်ကြတော့ပါ။ ဆက်ပြီးပြောရမယ်ဆိုရင် ဆီမိုက်အမျိုး (Semitic People) တွေဟာ မြေဩဇာ ကောင်းတဲ့ လခြမ်းရပ်ဝန်း (Fertile Grescant) မှာ လူအများဆုံး ရှိပေမယ့် ရှေ့ရာစုနှစ်တွေအများကြီးမှာ လွတ်လပ်တဲ့နိုင်ငံတွေ မဟုတ်ကြပါ။ ပါရှတွေ မရှိတော့ အင်ဒိုဥရောပ (Indo–European) အနွယ်ဝင် မက်ဆိုဒိုနီယ (Macedonians) နဲ့ ဂရိ (Greek) တွေ ရောက်လာပါတယ်။ သူတို့နောက်မှ ပါသီယ (Parthian) တွေ အဆက်ဆက် ရောက်လာတယ်။ ရောမ (Roman) တွေ၊ စက်စနစ်ဒ် (Sassanid) မင်းတွေ ပေါ်လာတယ်။ အဲဒါတွေအားလုံးဟာ အင်ဒိုဥရောပ အနွယ်တွေဖြစ်ပါတယ်။ အဲဒါပြီးတော့ မဟာဆိုင်ရပ်စ်နောက် အနှစ်တစ်ထောင့်နှစ်ရာ၊ ခုနစ်ရာစုနှစ်မှာ မူဆလင်တွေကို တိုက်ခိုက် အောင်နိုင်တဲ့ခေတ် ဖြစ်လာပါတယ်။ အဲဒီကျတော့မှ မြေဩဇာကောင်းတဲ့ လခြမ်းရပ်ဝန်းကို ဆီမိုက် အမျိုးတွေ ပြန်ပြီး အုပ်စိုးခွင့်ရခဲ့ပါတယ်။ ဆိုင်ရပ်စ် ထင်ရှား အရေးပါရတဲ့ အကြောင်းကတော့ သူက စစ်ပွဲ အမြောက်အမြားကို နိုင်တယ်။ နယ်မြေအကျယ်အပြန့် ပိုင်တယ်။ သူက ပိုင်နက်ကြီးကို စီမံကွပ်ကဲရေး ကောင်းလို့ ခေတ်ဟောင်း ကမ္ဘာ့သမိုင်းရဲ့ နိုင်ငံရေးပုံစံကို အရာရောက်အောင် ပြောင်းလဲ တိုးတက်စေပါတယ်။ ပါရှအင်ပါယာဟာ နယ်သိပ်ကျယ်တယ်။ ရာစုနှစ် အများကြီး မပျက်မစီး တည်တံ့တယ်။ ဒါပေမယ့် အဲဒီအင်ပါယာ လောက်နီးနီး ကြီးကျယ်ပြီး အသက်ရှည်တဲ့ ရောမ၊ ဗြိတိသျှနဲ့ တရုတ်အင်ပါယာတွေလောက် လူအများစု အပေါ်မှာ ကောင်းကျိုးဆိုးပြစ် ကျရောက်ပုံ မနစ်နာပါ။ ဆိုင်ရပ်စ်ရဲ့ဩဇာကို ခန့်မှန်းမယ်ဆိုရင်တော့ သူ့အောင်ပွဲမျိုးကို သူတစ်ယောက်ပဲ ရတာဖြစ်တယ်။ (သူမပေါ်လာရင် အဲဒီ ပါရှအင်ပါယာ ဖြစ်လာနိုင်စရာ မရှိပါ။) ဆိုင်ရပ်စ်မမွေးမီ လူ့တစ်ဆက်ဖြစ်တဲ့ ခရစ်မပေါ်မီ ၆၂၀ ကဆိုရင် ဘယ်သူကမှ

ရှေ့နှစ်တစ်ရာအတွင်း ရှေးခေတ် ကမ္ဘာကြီးတစ်ခုလုံး ငါတို့ဒေသရဲ့ အနောက်တောင်ထောင့် ချောင်ကျကျ အီရန်ကလူတွေက လွှမ်းမိုး အုပ်ချုပ်လိမ့်မယ်လို့ ဘယ်လိုတွေးမိနိုင်ပါ့မလဲ။ အခုက ပြန်ပြီးကြည့်ရင်လည်း ပါရှအင်ပါယာ ဖြစ်ပေါ်လာပုံက စီးပွားရေး၊ လူမှုရေးတိုတဲ့ အကျိုးအကြောင်းနဲ့ ဆက်စပ်ပြီး တွေးလို့ မရနိုင်တဲ့ကိစ္စ ဖြစ်နေတယ်။ ဒါကြောင့် ဆိုင်ရပ်စ်ဟာ သမိုင်းလမ်းကို ပြောင်းပစ်နိုင်တဲ့ တကယ့်ရှားပါးတဲ့လူနည်းစုမှာ သူတစ်ယောက် ပါတယ်လို့ ပြောစမှတ်ပြုကြပါတယ်။

30, December, 2007.

# (၈၈) မဟာပီတာ (၁၆၇၂ – ၁၇၂၅)

# PETER THE GREAT (1672 – 1725)

ရုရှဇာဘုရင် (Russian Czars) တွေထဲမှ မဟာပီတာ (Peter the Great) ဟာ အထူးခြားဆုံး (Czar) ဖြစ်ပါပေတယ်လို့ အများကပဲ သတ်မှတ်ထားပြီးဖြစ်ပါတယ်။ သူ့ဆန္ဒက နိုင်ငံကို အနောက်တိုင်းဆန်ရမယ်လို့ ဆုံးဖြတ် ထားတာဖြစ်လို့ အဲဒီအချက်ကပဲ ရုရှ (Russia) ကို ကမ္ဘာ့တန်ခိုးကြီးနိုင်ငံတစ်ခု ဖြစ်အောင် မြှင့်တင် ပေးခဲ့တဲ့နေရာမှာ အရေးအပါဆုံး အကြောင်းရင်းတစ်ခု ဖြစ်ပါတယ်။

ဇာဘုရင် အလက်ဇစ် (Zar Alexis) နဲ့ ဒုတိယ မိဖုရား နာတလီယာနရစ်ရှ်ကိန (Natalia Narshkina) တို့ရဲ့ တစ်ဦးတည်းသောသား ဖြစ်တယ်။ မော်စကို (Moscow) မှာ ၁၆၇၂ က မွေးပါတယ်။ အသက်လေးနှစ်မှ ကောင်းကောင်း မပြည့်ခင် ခမည်းတော် နတ်ရွာစံတယ်။ ဘုရင် အလက်ဇစ် (Alexis) နဲ့ ပထမမိဖုရား ကလေး တစ်ဆယ့် သုံးယောက် ရှိတယ်။ ဒီတော့ ထီးမွေရဖို့ အရှုပ်အထွေး ပြောကြ၊ အကြမ်းဖက်ပြီး တိုက်ကြခိုက်ကြ ဆိုတာတွေ ပေါ်လာတာ မဆန်းပါ။ တစ်ခါက ဆိုရင် ပီတာ (Peter) လေးဟာ အသက်လုပြီး ပြေးရ ပုန်းရပါတယ်။ နှစ်ပေါင်း အကြာကြီး အဖေတူ အမေကွဲ အစ်မတော် ဆိုဖီယာ (Sophia) က ရင်ခွင်ပိုက်စိုးစံသူ ဖြစ်ခဲ့တယ်။ ဒီအစ်မတော်ကို ၁၆၈၉ မှာ ရင်ခွင်ပိုက် မင်းသမီးကြီး တာဝန်က ဖယ်ရှား လိုက်တော့မှ ပီတာရဲ့အခြေဟာ နည်းနည်း ခိုင်လာပြီလို့ ဆိုရပါမယ်။ ရုရှဟာ ၁၉၈၆ ခုထိ အောက်တန်း နောက်တန်းကျတဲ့ဒေသ ဘဝမှာပဲရှိသေးတယ်။ ဘယ်မှာပဲယှဉ်ယှဉ် အနောက်ဥရောပ (Europe) နိုင်ငံတွေကို မမီ။ နှစ်ပေါင်းရာပေါင်း များစွာ ကွာဟနေတယ်။ နောက်ကျနေတယ်။ မြို့အခေါ် ခံနိုင်တဲ့ဒေသက အနောက်တိုင်းနဲ့စာရင် သိပ်နည်းတယ်။ မြေကျွန် (Serf) ဆိုတဲ့ လူတန်းစားက ကြီးမား တုန်းပဲရှိသေးတယ်။ တကယ်က မြေကျွန် အရေအတွက်ဟာ အရင်က ထက်ပဲ ပိုပြီး ပွားများလာပါသေးတယ်။ ဥပဒေအရ သူတို့ ရပိုင်ခွင့်ဟာလည်း နည်းသထက် နည်းလာတယ်။ ရုရှမှာ ရီနေးဆန့် (Renaissance – အသိဉာဏ်ဟောင်းတွေ ပြန်လည်ဆန်းသစ်ခြင်း) နဲ့ ခရစ်သာသနာ ပြန်လည် ပြင်ဆင်ခြင်း (Reformation) တွေ မပေါ်ပေါက်ခဲ့ပါ။ သင်္ချာ နဲ့သိပ္ပံပညာတွေကို မသိ။ အလကားဟာတွေလို့တောင် ထင်မိကြတယ်။ အနောက်ဥရောပ (Western Europe) နဲ့ နှိုင်းစာရင် နယူတန် (Newton) က ပရင်စီပီယာ (Principia) အခြေခံကျမ်းကို ရေးပြီးတဲ့နောက် စာပေနဲ့ ဒဿနိက ပညာတွေ ဆူပွက်

တိုးပွားဆဲမှာ ရုရှက ခေတ်လယ် (Medieval) မှာပဲ ခေတ်နောက်ကျကျန်ရစ်ပါတယ်။

ပီတာဟာ အနောက်ဥရောပကို ၁၆၉၇ – ၉၈ မှာ ခရီးရှည်ကြီး ထွက်ခဲ့ပါတယ်။ အဲဒီခရီးကြီးကရတဲ့ အသိပညာတွေကို မှီးပြီး သူကိုယ်တိုင် နောင်ဘုရင် အဖြစ်နဲ့ စိုးစံတဲ့ နန်းသက်တစ်လျှောက်မှာ ပြုမူ ဆောင်ရွက်ချက် တွေကို တွေ့သွားရမှာဖြစ်ပါတယ်။ ပီတာဟာ ဒီခရီးရှည်ကြီးမှာ သူ့လူ ၂၅၀ လောက် သူနဲ့ တစ်ပါတည်း ခေါ်သွားခဲ့တယ်။ ကြီးကျယ်လှတဲ့ သံအဖွဲ့ကြီး (Grand Embassy) ဖြစ်ပါတယ်။ သူကိုယ်တိုင်က ပြော့မိခေလာ့ဗ် (Pyotr Mikhaylv) နာမည်ဝှက် (Pseudonym) ကို သုံးပါတယ်။ ဒီလိုမလုပ်ရင် သူ့ကိုယ်သူ ကြည့်ချင် သလောက် မြင်ချင်သလောက် သိခွင့်မြင်ခွင့် ရမယ် မဟုတ်ပါ။ ဒီခရီးကိုသွားဆဲမှာ ဟော်လန် (Holland) နိုင်ငံ ဝင်ပြီး ဒတ်ချ် အရှေ့အိန္ဒိယကုမ္ပဏီ (Dutch East India Company) မှာ သင်္ဘောဆောက်တဲ့ လက်သမား ဝင်ပြီး လုပ်ပါသေးတယ်။ အင်္ဂလန် (England) က ရေတပ်မတော် (Royal Navy) ရဲ့ သင်္ဘောကျင်း တစ်ခုမှာ ဝင်ပြီး အလုပ်လုပ်ဖူးတယ်။ ပြီးတော့ အမြောက်ပစ်နည်းကို ပရပ်ရှား (Prussia) မှာ သင်ကြားခဲ့ဖူးပါတယ်။ စက်ရုံတွေ၊ စာသင်ကျောင်းတွေ၊ ပြတိုက်တွေ၊ လက်နက်တိုက်တွေကို ကြုံတိုင်း ဝင်ကြည့်တယ်။ အင်္ဂလန်မှာ ပါလီမန် (Parliament) ဆွေးနွေးပွဲတောင် ဝင်ပြီး နားထောင် ဖူးတယ်။ အတိုချုပ်ပြောရရင် အနောက်တိုင်းဓလေ့ (Culture)၊ သိပ္ပံ (Science)၊ စက်မှုလုပ်ငန်း (Industry) နဲ့ အုပ်ချုပ်ရေးနည်းပညာ (Administrative techniques) တွေကို ရနိုင်သလောက် မှတ်သားလေ့လာပါတယ်။

ရုရှကို ပီတာ ၁၆၉၈ မှာ ပြန်လာတယ်။ အဲဒီအချိန်က စပြီး ရေရှည်အကျိုးရှိနိုင်မယ့် ပြုပြင်ရေး တွေကို ရုရှနိုင်ငံ ခေတ်မီအောင်၊ အနောက်တိုင်းဆန်အောင် ဆိုတဲ့ ရည်ရွယ်ချက်နဲ့ လုပ်ခဲ့ပါတယ်။ အနောက်တိုင်း နည်းပညာနဲ့ လက်တွေ့လုပ်ကိုင်နည်းတွေကို ယူငင် အသုံးပြုဖို့ အများကြီး အားပေးတယ်။ အနောက်တိုင်း လက်မှုစက်မှုပညာရှင် (Western technicians) တွေကိုလည်း ရုရှကို ခေါ်သွင်းလာတယ်။ ရုရှလူငယ်တွေ ကိုလည်း အနောက်ဥရောပကို ပညာတော် သင်လွှတ်တယ်။ သူ့လက်ထက် တစ်လျှောက်လုံးမှာ ပီတာဟာ စက်မှုနဲ့ ရောင်းဝယ်ရေး ထွန်းကားဖို့ မပြတ်အားပေး ကူညီတယ်။ သူစီမံလို့ မြို့တွေလည်း ကြီးလာတယ်။ လူလတ်တန်းစား (bourgeoisie) လည်း ဦးရေများလာတယ်။ အရာ ရောက်လာတယ်။ ပီတာ အုပ်ချုပ်ချိန်အတွင်းမှာ ရုရှရေတပ်မတော် (Russian Navy) ကို စတင်တည်ထောင်တယ်။ အဲဒါအပြင် တပ်မတော် (Army) ကိုလည်း အနောက်ပုံစံ အလိုက် ပြန်ပြီး စည်းရုံးတယ်။ တပ်သားတွေကို တူညီဝတ်စုံ (Uniforms) ဆင်တယ်။ ခေတ်ဆန်တဲ့သေနတ် စွဲကိုင် စေတယ်။ အနောက်တိုင်း စစ်လေ့ကျင့်ခန်းကို စတင် တီထွင်ပေးတယ်။ ရုရှပြည်သူ့အုပ်ချုပ်ရေးစနစ် (Civil Administration) မှာ ပြုပြင်ရေးလုပ်တဲ့အခါ ရာထူးခွင့်မှာ လုပ်ပုံလုပ်နည်းကို ကြည့်ပြီး အမှုထမ်းတွေကို ရာထူး တိုးမြှင့် ပေးတယ်။ အရင်ကလို အမျိုးအစဥ် လိုက်ပြီး ရာထူး မပေးတော့ပါ။

လူမှုဆက်ဆံရေးမှာ ပီတာ အနောက်တိုင်း ဆန်ဖို့ အားပေးတယ်။ မုတ်ဆိတ်ရိတ်ပစ်ခိုင်းတယ်။ (နောက်မှ ဒီအမိန့်ကို သိပ်ပြီး တင်းတင်းကျပ်ကျပ် လိုက်နာဖို့ မလိုဘူးလို့ ပြင်တယ်။) နန်းတွင်းသား (အမျိုးသား)တွေကို အနောက်တိုင်း ပုံစံနဲ့ ဝတ်စုံဝတ်ခိုင်းတယ်။ ဆေးသောက်ဖို့၊ ကော်ဖီ သောက်ဖို့ အားပေးတယ်။ အစတော့ သူခိုင်းတာတွေ သိပ်လက် မခံချင်ကြဘူး။ ဖွဲ့ခတ်ပြီး ဆန့်ကျင်ကြတယ်။ တော်တော်ကြာလာတော့ ရုရှတော်ဝင် (မင်းဆွေစိုးမျိုး) တွေဟာ အနောက်တိုင်း အမူအရာ၊ အနောက်တိုင်းဓလေ့ကို တကယ်တမ်း လိုက်နာ ကျင့်သုံးလာကြပါတယ်။ ပီတာက ရုရှ အရိုးအစဥ် (ခရစ်) ကျောင်းတော်ကိုလည်း ခေတ်နောက်ကျတယ်။ ဖောက်ပြန်ရေးအား တစ်ခု ဖြစ်တယ်လို့ သတ်မှတ်တယ် ဆိုတာ မဆန်းပါ။ အရိုးအစဥ်ကျောင်းတော် (Orthodox Church) ပြန်လည်ဖွဲ့စည်းဖို့ အသင့်အတင့် လုပ်ကြည့်တယ်။ ရှင်ဘုရင့်ဩဇာကို လက်သင့်ခံ မခံ စမ်းကြည့်တယ်။ ဘုန်းကြီးကျောင်းအစား လူကျောင်းတွေ ထူထောင် ပေးတယ်။ သိပ္ပံပညာကို သင်စေတယ်။ ဂျူလီယန်ပြက္ခဒိန် (Julian Calender) ကို စတင် သုံးခိုင်း တယ်။ ရုရှသုံးအက္ခရာကို ခေတ်ဆန်အောင် ပြင်တယ်။ သူ့လက်ထက်မှာ ပထမဆုံး ရုရှသတင်းစာ (Russia Newspaper) ထုတ်ခိုင်းတယ်။ နိုင်ငံတွင်း ပြုပြင်ရေးတွေလောက်နဲ့ မတင်းတိမ်နိုင်လို့ ပီတာက နိုင်ငံရေး ဝါဒမှာလည်း ပြောင်းလိုက်လို့ အရှေ့ အဖို့ အရေးပါ အရာရောက်တဲ့ အကျိုးဆက်တွေ ရခဲ့ပါတယ်။ သူလုပ်လို့ ရုရှက တောင်ဘက်မှာ တူရကီ (Turkey) စစ်မှာ အစပိုင်းက အောင်ပွဲရလို့ အဇော့ဗ် (Azov) သင်္ဘောဆိပ်ကို ရပြီး ပင်လယ်နက် (Black Sea) ထိ လမ်းပေါက် သွားပါတယ်။ ဒါပေမယ့် သူ့လက်ထက်နောက်ပိုင်းမှာ တာ့ခ် (Turks) တွေက ပြန်ပြီး အသာရလာလို့ ၁၇၀၀ မှာ အဇော့ဗ်ကို တူရကီကို ပြန်အပ် လိုက်ရတယ်။ ဆွီဒင်(Sweden)နဲ့ စစ်မှာဖြစ်ပျက်ပုံက တာ့ခ်စစ်နဲ့ ပွဲဦးထွက် ရုရှ ရှုံးတယ်။ နောက် အောင်ပွဲနဲ့ အဆုံးသတ် ပါတယ်။ ၁၇၀၀ ပြည့်မှာ ရုရှက ဒိန်းမတ် (Denmark) နဲ့ ဆက်ဇိုနီ (Saxony) ကိုပေါင်းပြီး ဆွီဒင်ကို တိုက်တယ်။ ဆွီဒင်က အဲဒီအခါက တန်ခိုးကြီး နိုင်ငံတစ်ခုဖြစ်ပါတယ်။ (ပိုလန် Poland ကလည်း ဆွီဒင်ကို စစ်ကြေညာပါတယ်။) ၁၇၀၀ ပြည့်မှာ နာရ်ဗ် (Narva) စစ်မှာ ရုရှတပ်တွေက အကျနာပါတယ်။ ဒီစစ်ပွဲကြောင့် သွေးကြွပြီး ဆွီဒင် ဘုရင်က သူ့တခြားရန်သူတွေကို လှည့်တိုက်ပါတယ်။ အဲဒီ အတောအတွင်းမှာ ပီတာက ရုရှစစ်တပ်ကို ပြန်ပြီး ဖွဲ့စည်းပါတယ်။ အဲဒီလိုပြုပြင်ပြီး ဆွီဒင်ကို ပြန်တိုက်တယ်။ ပေါလ်တာဝ (Poltava) က ၁၇၀၉ ခုနှစ်က ဆွီဒင်တပ် အကြီးအကျယ် အရေးနိမ့်သွားပါတယ်။ ဒီစစ်ကြောင့် ရုရှကရတဲ့ နယ်မြေတွေက (အကြမ်းဖျဥ်း) အက်စ်တိုနီယ (Estonia) နဲ့ လတ်ဗီးယား (Latvia) အပြင် ဖင်လန် (Finland) အနီးအစပ်က နယ်မြေနည်းနည်း ရလိုက် ပါသေးတယ်။ သိမ်းယူနိုင်တဲ့မြေက သိပ်မကျယ်ပါဘူးလို့ ဆိုပေမယ့် ရုရှအတွက် ဘောလတစ်ပင်လယ် (Baltic Sea) ဘက်ကို ထွက်စရာ ဆိပ်ကမ်းမြို့ရလို့ ‘ဥရောပကို အလွယ်တကူမြင်ဖို့ ပြတင်းပေါက်’ ရသွားပြီလို့ ပြောလေ့ ရှိကြပါတယ်။ နီးဗားမြစ် (Neva River) ကမ်းမှာ ဆွီဒင်က သိမ်းယူရရှိတဲ့ နယ်မြေကွက်ပေါ်မှာ ပီတာက မြို့တော်သစ် တည်တယ်။ စိန့်ပီတာစဘတ် (St.

Petersbarg) လို့ နာမည် ပေးတယ်။ (ခုတော့ လီနင်ဂရက် Leningrad လို့ အမည်သစ်နဲ့ ခေါ်နေကြပါတယ်။) ပီတာက ၁၇၁၂ ခုမှာ မော်စကိုက မြို့တော်သစ်ကို ပြောင်းရွှေ့နေပါတယ်။ အဲဒီကစပြီး ရုရှနဲ့ အနောက်ဥရောပ ဆက်ဆံရေးမှာ ဒီမြို့တော်သစ်ဟာ အရင်း မူလအကျဆုံးဒေသ ဖြစ်လာပါတယ်။

ပီတာရဲ့ ပြည်တွင်း ဆောင်ရွက်ချက်တွေနဲ့ ပြည်ပ စစ်တွေက သိပ်အကုန်အကျများလို့ မလွှဲမရှောင်သာပဲ အခွန်အကောက်တွေ တိုးမြှင့်ရပါတယ်။ အခွန်အကောက် တိုးတယ်၊ အပြောင်းအလဲများတယ် ဆိုပြီး ရုရှတွေက ဒေါသထွက်ကြတယ်။ သူပုန်ထကြတယ်။ ပီတာက ထကြွပုန်ကန်သမျှကို မညှာမတာ နှိပ်ကွပ်တယ်။ သူ့ခေတ်က သူ့ကို မကျေနပ်သူ၊ ဆန့်ကျင်သူတွေရှိပေမယ့် ကနေ့ ရုရှရော အနောက်တိုင်း သမိုင်းဆရာတွေကပါ ပီတာဟာ ရုရှဇာဘုရင်တွေထဲမှာ အကြီးအကျယ်ဆုံး ဖြစ်တယ်လို့ တညီတညွတ်တည်း ယူဆပြောဆိုကြပါတယ်။ ပီတာဟာ ဥပဓိရုပ်ကောင်းတယ်၊ အရပ်မြင့်မြင့် (၆ပေ ၆လက်မ ရှိတယ်။) သန်မာထွားကျိုင်းပြီး သွက်လက် ဖျတ်လတ်တဲ့ လူချော တစ်ယောက် ဖြစ်ပါတယ်။ ပျော်ပျော်ရွှင်ရွှင် ရယ်ရယ်မောမောနဲ့ အော်ဟစ် ပြောဆိုပါများလို့ ရိုင်းတယ် လို့တောင် ထင်စရာဖြစ်ပါတယ်။ အရက်အလွန်အကျွံ သောက်ပြီး ပြင်းပြင်းထန်ထန် ထိခိုက်ပုံမျိုး တွေ့ရတတ်ပါတယ်။ နိုင်ငံရေးနဲ့ စစ်ရေးမှာ လိမ္မာပါးနပ်တဲ့အပြင် လက်သမားဆရာ၊ ပန်းချီဆရာ၊ စာပုံနှိပ်စက်ဆရာ ဖြစ်တဲ့အပြင် ရေကြောင်းလမ်းပြနဲ့ သင်္ဘော တည်ဆောက်တဲ့ပညာတွေကိုလည်း တတ်တယ်။ ရှင်ဘုရင်တွေထဲမှာ သူ့လိုဘုရင်မျိုး မကြုံစဖူးပါ။ ပီတာမှာ အိမ်ထောင် နှစ်ဆက်ရှိပါတယ်။ ပထမ ယူဒိုဇီယ (Eudoxia) ကို အသက်တစ်ဆယ့်ခုနစ်နှစ်သားက ယူတယ်။ သီတင်းတစ်ပတ်ပဲ ပေါင်းသင်းရတယ်။ သူ့အသက် နှစ်ဆယ့်ခြောက်နှစ်ရောက်တော့ အဲဒီဇနီးကို သီလရှင်ကျောင်းကို ပို့ပစ်လိုက်ပါတယ်။ ၁၇၁၂ မှာ (အပြီးအပိုင်) ကွာရှင်းပြီး မယားတစ်ယောက် ယူပြန်တယ်။ ဒုတိယမယား ကက်သရင်း (Catherine) က သာမည အရပ်သူ လစ်သူယန်နီယ (Lithuania) မိန်းကလေး တစ်ယောက် ဖြစ်ပါတယ်။ ပထမဇနီးနဲ့ သားတစ်ယောက် အလီဇစ် (Alexis) ကိုရတယ်။ သားအဖ မတည့်ပါ။ ၁၇၁၈ မှာ အလက်ဇစ်ကို ပီတာကို လုပ်ကြံဖို့ ကြိုးစားတယ် ဆိုပြီး ဖမ်းပါတယ်။ နှိပ်စက် ညှဉ်းပန်း ခံရပြီး ထောင်ထဲမှာပဲ သေဆုံးသွားပါတယ်။ ပီတာလည်း စိန့်ပီတာစဘတ်မှာ ၁၇၂၅ နှစ်ဦးက နတ်ရွာစံပါတယ်။ သက်တော် ငါးဆယ့်နှစ်နှစ် ရှိပါပြီ။ သူ့မုဆိုးမ ကက်သရင်းက ထီးနန်း အရိုက်အရာကို ဆက်ခံတယ်။ (နောင်ပေါ်လာမယ့် မဟာကက်သရင်း Catherine the Great နဲ့မဆိုင်ပါ။)

အခု ဒီစာအုပ်မှာ မဟာပီတာကို နေရာပေးရတဲ့ အကြောင်းရင်း ကတော့ သူက ရုရှကို အနောက်တိုင်း ဆန်အောင် ခေတ်ဆန်အောင် စတင်လုပ်နိုင်သူ ဖြစ်လို့ပါပဲ။ သူ့လိုဘုရင်တွေ အများကြီး ရှိပေမယ့် သူတို့ကိုချန်ပြီး သူ့ကို တမင် ဖော်ထုတ်ရတဲ့ အကြောင်းကို ပြောပါ့မယ်။

အခုခေတ် နှစ်ဆယ်ရာစုနှစ်အတွင်းမှာ နိုင်ငံ ခေါင်းဆောင်တွေဟာ သိပ္ပံနဲ့ နည်းပညာကို အနောက်တိုင်း ကယူပြီး ကိုယ့်နိုင်ငံ တိုးတက်အောင်၊ အနောက်တိုင်း ဆန်အောင် လုပ်ကြဖို့ကို မှန်းသိကြ တယ်။ ဒါပေမယ့် ၁၇၀၀ ကဆိုရင် ဥရောပက လူတွေကသာ သူတို့နည်းပညာတွေ တိုးတက်တာကို သိပြီး အသီးအပွင့် အကျိုး အာနိသင်ရနေကြတာ၊ (ဥရောပ Europe) အပြင်ကလူတွေက အဲဒါကို သိပ်နားမလည်၊ သဘော မပေါက်ကြပါ။ ဒီတော့ ပီတာဟာ အနောက်တိုင်း ဆန်သင့်တယ်လို့ နားလည်လို့ လူတကာထက် အနှစ် ၂၀၀ လောက် ရှေ့ပြေးပြီး ခေတ်ဆန်နေသူဖြစ်ပါတယ်။ သူ့ကြောင့် နိုင်ငံဟာ ခေတ်ဆန်လာတယ်။ ပီတာရဲ့ရှေ့မှာ ရှိနိုင်မယ့် ကောင်းကျိုးကို ကြိုမြင်နိုင်စွမ်း ရှိတဲ့အတွက် သူနန်းရစက အလွန်အမင်း ခေတ်နောက်ကျနေတဲ့ နိုင်ငံဟာ ကမ္ဘာမှာ နိုင်ငံများစွာ ထက်သာတဲ့နိုင်ငံ ဖြစ်လာရပါတယ်။ (ဒါပေမဲ့ အနောက်ဥရောပက တစ်ဆယ့် ရှစ်ရာစုနှစ်တွေနဲ့ တစ်ဆယ့်ကိုးရာစုနှစ်တွေမှာ သိပ်မြန်မြန် တိုးတက်တဲ့ အတွက် အနောက်ဥရောပကို ရုရှက ရင်ပေါင်တန်းဖြစ်အောင် လိုက်လို့ မမီပါ။) တူရကီနဲ့ နှိုင်းယှဉ်ကြည့်ပါ။ အဲဒီနိုင်ငံလည်း ဥရောပရဲ့ အရှေ့ဖျား နယ်စွန်က အရေးပါတဲ့ နိုင်ငံတစ်ခု ဖြစ်ပါတယ်။ အဲဒီနိုင်ငံလည်း ထူးခြားတယ်။ တူရကီနဲ့ ရုရှ နှစ်နိုင်ငံစလုံး ဥရောပတစ်ခြမ်း (Semi-European) နိုင်ငံတွေလို့ ခေါ်ရမယ်။ ပီတာ နန်းမတက်မီ အနှစ် ၂၀၀ က တူရကီက ရုရှထက် စစ်ရေး၊ စီးပွားရေးနဲ့ ဓလေ့တွေမှာ အများကြီး သာတယ်။ ဒါမျှမက ပြောရမယ်ဆိုရင် တူရကီက သမိုင်း တစ်လျှောက်လုံး ရုရှထက် သာခဲ့ပါတယ်။ ဒါပေမယ့် ၁၇၀၀ ဝန်းကျင်က မြန်မြန် အနောက်တိုင်းဆန်အောင် လုပ်နိုင်လေ အကျိုးကျေးဇူး ထူးလေလို့ ဘယ်စူလတန် (Sultan) မှ သဘောမပေါက် နားမလည်ပါ။ ကိုယ့်နိုင်ငံကို ဒီထက်က တွန်းပို့လိုစိတ် မရှိပါ။ ဒါကြောင့် ရုရှက ပီတာ လက်ထက် ကစပြီး အကြီးအကျယ် တိုးတက်တဲ့အခါ တူရကီက တိုးတက်ရေးမှာ သိပ်နှေးနေပါတယ်။ နှစ်ဆယ်ရာစုနှစ်ရောက်ကာမှ ကေမယ် အတာကာဒ် (Kemal Atakurk) က မြန်မြန် ခေတ်ဆန်အောင် စီမံကိန်း ချပါတယ်။ အဲဒီအခါ ရုရှက တူရကီထက် စက်မှုရော ပညာရေးမှာပါ အများကြီးသာနေပါပြီ။ ကနေ့ရုရှက တူရကီထက် အကြီးအကျယ် သာတာ မှန်တယ်။ ဥပမာ ဟိုတုန်းက တူရကီမှာ ရုရှက မဟာပီတာလို စူလတန် (Sultan) တစ်ပါး ပေါ်ခဲ့တယ် ဆိုပါတော့။ ဒီလိုဆိုရင် တူရကီဟာ ကနေ့ အင်အားကြီး တစ်နိုင်ငံဖြစ်ပြီး အခုဆိုဗီယက်ဗဟိုအာရှ (Soviet Central Asia) ကို အပိုင်စီးထားပြီး ဖြစ်တယ်လို့ ပြောနိုင်မယ်။ (အဲဒီဒေသက လူတွေက မူဆလင် Muslims တွေဖြစ်တယ်။ သူတို့တူရကီနဲ့ ရင်းနှီးတာက ရုရှနဲ့ ရင်းနှီးတာ ထက်ပိုတယ်။) မဟာပီတာဟာ ရေစုန် မျောချင်တဲ့လူ မဟုတ်၊ သူ့ခေတ်သူ့အခါက ခေတ်ရှေ့ပြေး ပုဂ္ဂိုလ်ဖြစ်တယ်။ သူ အမြော်အမြင်ကြီးပုံက သမိုင်းကို ပြောင်းလဲ စေတယ်။ ရုရှမှာ သူသာ တက်မကိုင်မဖြစ်ရင် ဒီခရီးကို ဘယ်လိုမှ မရောက်လို့ ပြောနိုင်တယ်။ ဒါ့ကြောင့်လည်း ကျွန်တော်တို့က ပီတာကို ဒီစာအုပ်မှာ နေရာ ပေးသင့်တယ်ဆိုပြီး အခုဖော်ပြလိုက်တာ ဖြစ်ပါတယ်။ ပီတာကို နေရာပေးရင် ဘယ်နေရာ ဘယ်အဆင့်က ထားမလဲလို့ မေးရပါမယ်။ ပီတာကို အင်္ဂလန်က ပထမ အဲလိဇဘက်မိဖုရား (Queen Elizabeth I) နဲ့ တန်းတူထားချင်တယ်။

အနောက်တိုင်းတွေမှ အဲလိဇဘက်က ပိုပြီး လူကြိုက်များမှာဖြစ်ပေမယ့် အသင့်အတင့် အသိဉာဏ်ရှိတဲ့ ရုရှကို မေးရင် သူက မဟာပီတာ ထက်သာတယ်လို့ ပြောတာကို လက်သင့်ခံမှာ မဟုတ်ပါ။ ပီတာက အများကြီး အသစ်ထွင်ဉာဏ် ရှိတယ်။ ပင်ကိုက တော်တယ်။ အဲလိဇဘက်က တိုင်းသူပြည်သား အကြိုက်ကို လိုက်လုပ်ပေးတဲ့ သရုပ်ဆောင်ကောင်း တစ်ယောက်သာ ဖြစ်တယ်။ ပီတာက သူ့လူတွေတစ်ခါမျှ မတွေး၊ မကြံ၊ မလုပ်ရဲတဲ့ အတွေးအကြံ အလုပ်ကို ဇွတ်ခိုင်း ဝံ့တယ်။ တကယ်လို့သာ ဒီကြားထဲက ရာစုနှစ်တွေ အတွင်းမှာ အင်္ဂလန်က ကမ္ဘာ့ထိပ်တန်းအဖြစ်နဲ့ အရေးပါအရာရောက်ခြင်း မဖြစ်ခဲ့ပါရင် သူတို့နှစ်ဦး ကွာခြားချက်ဟာ ပိုပြီးမြင်သာမှာ ဖြစ်ပါတယ်။

31, December, 2001.

# (၈၉) မော်စီတုန်း (၁၈၉၃ – ၁၉၇၆)

# MAO ZEDONG (1893 – 1976)

တရုတ်မှာ မော်စီတုန်း (MAO Zedong) က ကွန်မြူနစ် ပါတီကို အာဏာရအောင်လုပ်ပေးတယ်။

အာဏာ ရပြီးနောက် နှစ်ဆယ့်ခုနစ်နှစ်အတွင်းမှာ အင်မတန်ကြီးတဲ့ နိုင်ငံကြီးကို ပြောင်းမြောက်အောင် ရေရှည် အကျိုး အများကြီးရှိအောင် လုပ်ပေးနိုင်ခဲ့တယ်။ မော်ကို ဟူနန်ပြည်နယ်၊ ရှောင်ရှန်ရွာနေ ကြွယ်ဝတဲ့ တောင်သူ မိဘက ၁၈၉၃ မှာ မွေးဖွားခဲ့ပါတယ်။ မော် အသက်တစ်ဆယ့်ရှစ်နှစ် ကျောင်းသားအရွယ် ၁၉၁၁ မှာ တရုတ်နိုင်ငံကို တစ်ဆယ့်ခုနစ်ရာစုနှစ်ကစပြီး အုပ်ချုပ် လာခဲ့တဲ့ ချင်မင်းဆက်ကို တော်လှန်ရေး စတင်ခဲ့ပါတယ်။ လပိုင်းလောက်အတွင်းမှာ ဧကရာဇ် အုပ်ချုပ်ရေး ပြုတ်ကျပြီး တရုတ်နိုင်ငံကို သမ္မတနိုင်ငံ အဖြစ် ကြေညာနိုင်ခဲ့ပါတယ်။ တရုတ်နိုင်ငံကို တစ်စုတစ်စည်းတည်း ဖြစ်အောင် ပေါင်းပြီး တည်ငြိမ်တဲ့ အစိုးရကို တော်လှန်ရေးသမားတွေက မဖွဲ့နိုင်ကြတာက ဝမ်းနည်းစရာ ကောင်းတဲ့အချက် ဖြစ်ပါတယ်။ တော်လှန်ရေးက နှစ်ရှည်လများ မတည်မငြိမ်ဖြစ်ပြီး ၁၉၄၉ ခုနှစ်ထိ ကြာမြင့်တဲ့ ပြည်တွင်းစစ်ကိုသာ လုပ်ပေး နိုင်တယ်လို့ ပြောစရာဖြစ်လာပါတယ်။

လူငယ်ဘဝကစပြီး မော်ဟာ နိုင်ငံရေးအယူအဆမှာ လက်ဝဲဘက်ကို ယိုင်ခဲ့တယ်။ ၁၉၂၀ ရောက်တော့ တကယ့် မာ့ခ်စ်ဝါဒီ ဖြစ်နေပါပြီ။ ၁၉၂၁ မှာ တရုတ် ကွန်မြူနစ်ပါတီရဲ့ အရင်းမူလထူထောင်သူ တစ်ဆယ့်နှစ်ဦးမှာ သူလည်း တစ်ယောက် အပါအဝင် ဖြစ်နေပါပြီ။ ဒါပေမယ့် ထိပ်ရောက်အောင် တက်တဲ့ အခါမှာတော့ နည်းနည်း နှေးတယ်လို့ ပြောနိုင်ပါတယ်။ ၁၉၃၅ ရောက်မှ ပါတီခေါင်းဆောင် ဖြစ်လာပါတယ်။ အဲဒီအတောအတွင်းမှာ ကွန်မြူနစ်ပါတီကလည်း မှန်မှန်နှေးနှေး ကြိုးစားပြီး တန်ခိုး အာဏာရအောင် ယူခဲ့ရပါတယ်။ ပါတီက ၁၉၂၇ နဲ့ ၁၉၃၄ မှာ ကြီးကြီး ကျယ်ကျယ် ဆုတ်ယုတ်ခဲ့သေးတယ်။ ဒါပေမယ့် လုံးဝ တိမ်မြုပ် မသွားအောင် ထိန်းခဲ့နိုင်ပါတယ်။ ၁၉၃၅ ခု မော် ခေါင်းဆောင်ခွင့်ရတဲ့အခါ ပါတီရဲ့ တန်ခိုး အင်အားဟာ မှန်မှန် ဖြည်းဖြည်း တိုးတက်လာပါတယ်။ ၁၉၄၇ ကို ရောက်တဲ့အခါ ချန်ကေရှိတ် ခေါင်းဆောင်တဲ့ အမျိုးသား အစိုးရကို ထိထိရောက်ရောက် နှိမ်နင်းဖို့ အသင့် ဖြစ်လာပါတယ်။ ၁၉၄၉ မှာ ကွန်မြူနစ်တပ်တွေက အောင်ပွဲရပြီး ကုန်းပိုင်း တရုတ်နယ်မြေ အားလုံးကို

ကွန်မြူနစ်က ပိုင်ပိုင်နိုင်နိုင် အုပ်စီး နိုင်ခဲ့ပါတယ်။ မော်ကပါတီ ခေါင်းဆောင် အဖြစ်နဲ့ အုပ်ချုပ်ရတဲ့ တရုတ်ဟာ အနှစ်သုံးဆယ့်ရှစ်နှစ်အတွင်းမှာ စစ်ရေး စစ်ရာတွေက လျော့တယ် မရှိ၊ တိုးပွားနေလို့ အင်မတန် ချို့ယွင်းတဲ့ အခြေအနေ ကြုံခဲ့ရတယ်။ နိုင်ငံကလည်း ဆင်းရဲတဲ့နိုင်ငံ၊ နိုင်ငံတွင်းမှာ မဖွံ့ဖြိုး မတိုးတက်ဘဲ သန်းနဲ့ချီပြီး စာမတတ်တဲ့ တောင်သူ လူများစုက ရေးခေတ် အယူအဆတွေမှာပဲ နစ်မွန်းပြီး နေကြတယ်။ မော်ကိုယ်တိုင်ကလည်း အသက် ငါးဆယ့်ခြောက်နှစ် ဖြစ်လာတော့ မော်ခေတ်ဟာ ကျန်ခဲ့ပြီ လို့ ထင်စရာရှိပါတယ်။

တကယ်ကတော့ မော်ရဲ့သြဇာအကြီးဆုံးအချိန်က ခုမှစပါတယ်။ ၁၉၇၆ မှာ မော် သေတော့ သူ့ဝါဒတွေက တရုတ်နိုင်ငံကို ပုံစံပြောင်းလဲသွားအောင် လွှမ်းမိုးပြီး ရှိနေပါပြီ။ ဒီပြောင်းလဲချက်တွေထဲမှာ နိုင်ငံကို အဘက်ဘက်က ခေတ်မီအောင် ပြုလုပ်ပေးတာက အချက် တစ်ချက်ဖြစ်ပါတယ်။ အတိအကျ ပြောရရင် မော်က တရုတ်နိုင်ငံကို မြန်မြန်ကြီး စက်မှု နိုင်ငံဖြစ်အောင် လုပ်ပေးခဲ့ပါတယ်။ စက်မှုထွန်းကားတယ် ဆိုတာ မှာလည်း ပြည်သူ့ကျန်းမာရေးနဲ့ ပညာရေးတိုးတက်မှုတွေကို မော်က တဖွဲ ကပေးနိုင်ခဲ့ပါတယ်။ ဒီပြောင်းလဲမှုတွေဟာ ထင်ထင်ရှားရှား အင်မတန်အဖိုးတန်ပါတယ်။ ခေတ်ချင်းတူညီရင် တခြားဘယ်နိုင်ငံမှာမှ ဒီလောက်မတိုးတက်ပါ။ အဲဒီလောက်နဲ့ မော်ကို ဒီစာအုပ်မှာ နေရာပေးခဲ့တာလို့ မဆိုနိုင်ပါ။ မော်အစိုးရရဲ့ နောက်တစ်ချက် စွမ်းဆောင်ချက်က တရုတ်စီးပွားရေးစနစ်ကို အရင်းရှင်စနစ်က ဆိုရှယ်လစ်စနစ်ကို ပြောင်းပေးနိုင်တာပဲ ဖြစ်ပါတယ်။ မော်ကွယ်လွန်ပြီး နှစ်သိပ်မကြာခင်မှာပဲ သူ့ကို ဆက်ခံတဲ့ ဒဲန်ရှောက်ပင် (Deng Xiao Ping) တရုတ်နိုင်ငံမှာ အချုပ်အချယ်မရှိတဲ့ ဈေးကွက်စနစ်ရဲ့ အင်္ဂါရပ်တော်တော်များများကို ပြန်လည်ကျင့်သုံးစေခဲ့တယ်။ ဒီပုံစံနဲ့ ဘယ်လောက်ကြာအောင် စခန်းသွားနေမလဲလို့ မခန့်မှန်းတတ်ပါ။ ဒါပေမဲ့ ထင်ရတာကတော့ ရှေ့ငါးနှစ်က ဆယ်နှစ်အတွင်းမှာ တရုတ်ဟာ ဆိုရှယ်လစ်စနစ်ကို စွန့်ပြီး ရေးကရှိခဲ့တဲ့ အရင်းရှင်စနစ်ကို ပြန်ရောက်သွားမယ့် အလားအလာရှိတယ်လို့ ထင်စရာရှိပါတယ်။ ဒီလိုဆိုရင် မော်ရဲ့ စီးပွားရေးဝါဒတွေဟာ အရင်က အရာရောက်သလို အခု အရာမရောက်တော့ပါလို့ ပြောနိုင်ပါတယ်။ မော်ရဲ့မူလစိတ်ကူးက မြို့နေစက်မှုလုပ်ငန်းက လုပ်သားတွေဟာ ကွန်မြူနစ်ပါတီရဲ့ အားအရှိဆုံး ကျောရိုးဖြစ်တယ်လို့ ယုံတယ်။ ဒီလိုပဲ မော်က တွေးထင်ခဲ့တယ်။ ဒါပေမယ့် ၁၉၂၈ ရောက်တဲ့အခါ မော်က တရုတ်နိုင်ငံအတွက် တသီးတသန့် တွေ့နေရတဲ့အချက်က ပါတီကို အရင်းခံထောက်ပံ့နေတာ တောင်သူလယ်သမား ဖြစ်တယ်ဆိုတဲ့အချက် ဖြစ်ပါတယ်။ ဒီအတိုင်း သူ့လမ်းစဥ်ပြောင်းလာတယ်။ အမျိုးသားရေးသမားတွေနဲ့ နှစ်အကြာကြီး ပြိုင်ဆိုင်နေကြရစဥ်က မော်ရဲ့အာဏာမြစ်ခြေက တောနယ်ဖြစ်ပါတယ်။ နိုင်ငံရဲ့အကြီးအကဲဘဝတစ်လျှောက်လုံးမှာ ဒီအတွေးအခေါ်ကိုပဲ လက်ကိုင်ထားပြီး ကျင့်သုံးခဲ့တယ်။ ဥပမာ ရုရှက စတာလင်ဆိုရင် စောစောက စက်မှုထွန်းကားရေးကို ဖိပြီးအားပေးနေတယ်။ အဲဒီတုန်းက မော်ဆိုရင် စိုက်ပျိုးရေးနဲ့ ကျေးလက်ဖွံ့ဖြိုးရေးကိုပဲ ပိုပြီးဂရုတစိုက် လုပ်စေတယ်။ ဒီလိုသာပြောရတယ်။ တရုတ်ရဲ့စက်မှုလုပ်ငန်းဟာ

မော်ခေါင်းဆောင်ချိန်က သိသိသာသာ တိုးတက် ခဲ့ပါတယ်။ နိုင်ငံရေးမှာ မော်က အာဏာရှင် စနစ်ကို ပိုင်ပိုင်ကြီး ဆုပ်ကိုင် ထားတယ်။ မော်လက်ထက်မှာ သူက သတ်စေလို့ ခိုင်းတဲ့အတွက် လူ သန်း ၂၀၊ သန်း ၃၀ အထက် တောင်ရှိမလား၊ အသက် ဆုံးရှုံးခဲ့ရပါတယ်။ ဒီတော့ လူ့ဇာတ်ခုံမှာ မော်လောက် သွေးချောင်းစီးအောင် သတ်နိုင်သူ မရှိဖူးပါ။ (ဒီလိုဆိုးဂုဏ်မှာ မော်ထက် သာလေ မလားလို့ ယှဉ်ကြည့်စရာ ဟစ်တလာ၊ စတာလင်နဲ့ ဂျဲန်ဂျစ်ခန်တို့ ရှိပါတယ်။) မော် သေဆုံးပြီးတဲ့အခါ နည်းနည်း လိုက်လျောတဲ့ အစိုးရ ပေါ်လာပြီး တရုတ်ကို ဒီမိုကရေစီဘက်ကို ရောက်အောင် လုပ်မယောင်ယောင် ရှိပေမယ့် ဒဲန်ရှောက်ပင်က ဘေဂျင်းရဲ့ တိယန်မဲန်ရင်ပြင်မှာ ၉ှန် ၁၉၈၉ က လူသတ်ပွဲကြီးနဲ့ ပိုင်ပိုင်နိုင်နိုင် ရက်ရက် စက်စက် သတ်ဖြတ် နှိမ်နင်းခဲ့ပါတယ်။

ကွန်မြူနစ်အစိုးရကို မော်စီတုန်း တစ်ဦးတည်း ကြိုးကိုင်တာမဟုတ်ပါ။ ဆိုဗီယက်ယူနီယံမှာ စတာလင်လို ငါ တစ်ယောက်တည်း အုပ်ချုပ်မယ် ဆိုတာမျိုး သူက မလုပ်ပါ။ ဒါပေမယ့် တရုတ်အစိုးရမှာ မော်ဟာ ၁၉၄၉ က သူသေဆုံးတဲ့ ၁၉၇၆ ထိ အင်မတန် တန်ခိုး သတ္တိကြီးမားတာ ထင်ရှားပါတယ်။ အရေးအခင်း တစ်ခုမှာ သူက ထိပ်တန်း တာဝန်အရှိဆုံး ဖြစ်တာကို ရှေ့ကိုခုန်တိုး (Great Leap Forward) ပွဲကြီးမှာ ၁၉၅၀ ကျော် ၁၉၆၀ ပြည့်လောက်က တွေ့ခဲ့ရပါတယ်။ ဒီစီမံကိန်းကို စောင့်ကြည့်သူ အတော်များများက လုပ်ငန်းသေးသေးကို အထူး အာရုံစိုက်ပြီး များများကြီး လုပ်နိုင်၊ လုပ်သား အားကို ဖိပြီး သုံးနိုင်ရင် ကျေးတောက ဘုံစခန်းတွေမှာ လုပ်ခဲ့တာ အရှုံးသာ အဖတ်တင်တယ်လို့ တွေးထင်ကြတယ်။ ထင်တိုင်းလည်း ဖြစ်လာလို့ ဒီစီမံကိန်းကို လက်လွှတ်ရတယ်။ မော်ထောက်ခံတဲ့ နောက် စီမံကိန်း တစ်ခုက နိုင်ငံရေး ခေါင်းဆောင်အများက ကန့်ကွက်ပေမယ့် ၁၉၆၀ ကျော် ၁၉၇၀ ပြည့်နီးနီးမှာ လုပ်တဲ့ ဆင်းရဲသား ဓလေ့တော်လှန်ရေးကြီး ဖြစ်ပါတယ်။ ဒီပွဲဟာ ကြီးမားတဲ့ဆူပူကြမ်း ဆိုနိုင်တယ်။ မော်ဘက်တော်သားတွေနဲ့ အဝိုင်းခံရသလို ဖြစ်နေတဲ့ ကွန်မြူနစ် ပါတီအရာရှိ အဆင့်ဆင့်တွေ အချင်းချင်းတွေ ခွပ်တဲ့ (ပြည်တွင်းစစ်) လို့တောင် ထင်ရတတ်တယ်။ အဲဒီအချိန်က မော်အသက်က ခြောက်ဆယ့်ငါးနှစ်ပိုင်းမှာ ဖြစ်နေပြီ။ ဓလေ့တော်လှန်ရေး ဆိုတဲ့ ရှေ့ကို ခုန်တိုးပွဲကြီးစတဲ့အခါ သူက အသက် ခုနစ်ဆယ်က တော်တော်ကလေး ကျော်နေပြီ။ ပြီးတော့ ပေါ်လစီကို သိသိသာသာ လမ်းပြောင်းမယ် လို့ဆိုပြီး အမေရိကပြည်ထောင်စုကို ပုတ်ခတ်ပွဲစတဲ့ အချိန်မှာ သူက အသက် ရှစ်ဆယ် နားကပ်နေပြီ။ ခုခေတ်နဲ့ သိပ်မကွာသေးတဲ့ နိုင်ငံရေးသမားတစ်ဦးရဲ့ ဩဇာ ဘယ်လောက်ထိ ကြီးမားခဲ့ပါသလဲလို့ တွက်ဆရတာ သိပ်ခက်တယ်။ ဒီစာအုပ် ပထမ စထွက်တဲ့အခါက မော်ကို နေရာမြင့်မြင့်မှာ ထားခဲ့တယ်။ ဘာပြုလို့လဲဆိုတော့ မော်ရဲ့ဩဇာဟာ နှစ်ကာလအကြာကြီး တည်ရှိနေမယ် ထင်မိလို့ ဖြစ်ပါတယ်။ အခု ဒီလို မဟုတ်ကြောင်း သိနေကြပါပြီ။ တရုတ်က ဆိုရှယ်လစ်ဝါဒကို စွန့်မယ့်ကိန်း ဆိုက်နိုင်တယ်။ မော်က တရုတ်ကို အာဏာရှင်စနစ် အမွေ ပေးခဲ့ပေမယ့် ဆက်လက် ရှင်သန် တယ်ထင်ရပေမယ့် ထင်သလောက် မဟုတ်ဘူးလို့ သိသာနေပါပြီ။ ဆက်လက် ပွားများ တည်တံ့ဖို့လည်း မမြင်ပါ။ မော် အသက် ထင်ရှားရှိစဉ်က သူလည်း ရီဟွန်တိလို့

အရေးပါတဲ့ ပုဂ္ဂိုလ် တစ်ယောက်လို့ ထင်ပါတယ်။ ဒီပုဂ္ဂိုလ်နှစ်ဦး စလုံးဟာ တရုတ်လူမျိုးနိုင်ငံမှာ ကြီးကြီးကျယ်ကျယ် ပြောင်းလဲမှု ပေါ်အောင် ဖန်တီးနိုင်သူတွေ ဖြစ်ပါတယ်။ ဒါပေမဲ့ ရှိဟွန်တိရဲ့သြဇာဟာ တရုတ်နိုင်ငံမှာ အနှစ် နှစ်ထောင့်နှစ်ရာ ခံတယ်။ မော်ရဲ့သြဇာကတော့ အခုပဲ အလျင်အမြန် တိမ်မြုပ်ကွယ်ပျောက်လု ရှိသွားပါပြီ။ နှစ်ဆယ်ရာစုနှစ်ထဲက လူအချင်းချင်းကို ယှဉ်မယ်ဆိုရင် မော်နဲ့ လီနင်ကို ယှဉ်ကြည့်သင့်ပါတယ်။ မော်က မာ့က်စ်ဝါဒကို တရုတ်မှာ ခိုင်မြဲအောင် လုပ်သလို လီနင် ကလည်း ရုရှမှာ အလားတူ ဆောင်ရွက်ခဲ့တယ်။ ဒီနှစ်ယောက်မှာ အမှတ်တမဲ့ ပြောမယ်ဆိုရင် မော်က ပိုပြီး တွင်ကျယ် သလိုရှိပါတယ်။ နည်းနည်းပိုပြီး အလေးအနက် စဥ်းစားရင် တရုတ်က လူဦးရေမှာ ဆိုဗီယက် ထက် သုံးဆ သာတယ်။ ဒါပေမယ့် လီနင်က မော်အတွက် စံထားစရာပုဂ္ဂိုလ်၊ မော်အတွက် ရှေ့ဆောင်၊ မော် အတုယူဖို့ စံပြ မဟုတ်ပါလား။ မော်ရဲ့တွေးခေါ်ပုံကို လမ်းပြသူ ဖြစ်ပါတယ်။ အဲဒါအပြင် ကမ္ဘာမှာ ပထမဆုံး ကွန်မြူနစ်နိုင်ငံကို ထူထောင်သူ ဖြစ်လို့ လီနင်က ကမ္ဘာအနှံ့ သြဇာ အင်မတန်ကြီးသူ ဖြစ်တယ်။ မော်လို့ သူ့ပြည်တွင်း မှာသာ လူအထင်ကြီးသူများတာမျိုး မဟုတ်ပါ။ အဲဒီအချက်ကို ချုပ်ကိုင်ပြီး စဥ်းစားရင် မော်ကို ဒီစာအုပ်မှာ လီနင်အောက်က ထားရပါတော့တယ်။

20, January, 2002.

# (၉၀) ဖရန်စစ် ဘေကွန် (၁၅၆၁ – ၁၆၂၆)

# FRANCIS BACON (1561 – 1626)

ဖရန်စစ်ဘေကွန်ဟာ ထင်ရှားတဲ့ အင်္ဂလိပ်နိုင်ငံရေး သမားဖြစ်ပြီး သူ့အချိန်နဲ့ သူ့လုပ်အားကို တတ်နိုင် သလောက် သူ့အဖို့ နိုင်ငံရေး ဂုဏ်သတင်းကြီးမြင့် ကျော်ကြားပြီး အောင်မြင်ဖို့ ကြိုးစား ဆောင်ရွက်တာ မှန်ပေမယ့် သူ့ကို သူရေးတဲ့ ဒဿနိကစာတွေအတွက် သက်သက်ကွက်ပြီး ဒီစာအုပ်မှာ ထည့်သွင်း ဖော်ပြ လိုက်တာ ဖြစ်ပါတယ်။ သူရေးတဲ့စာတွေအရ သူဟာ သိပ္ပံခေတ်သစ်ကို ဦးဆောင် ဖွင့်လှစ်သူ ဖြစ်တယ်လို့ ဆိုနိုင်တယ်။ သိပ္ပံနဲ့ နည်းပညာသာ ကမ္ဘာကို ပြုပြင် ပြောင်းလဲ တိုးတက်အောင် လုပ်နိုင်တယ်ဆိုပြီး သိပ္ပံ တိုးတက်ဖို့ နည်းလမ်းရှာကြဖို့ကို ထက်ထက်မြက်မြက် နှိုးဆော်တဲ့ ထိပ်တန်းဒဿနိက ပညာရှင်ကြီး ဖြစ်ပါတယ်။

ဘေကွန်ကို လန်ဒန်မှာ ၁၅၆၁ ခုနှစ်ကမွေးတယ်။ ဘုရင်မ အယ်လီဇဘက်ကို ခစားထမ်းရွက်တဲ့ အရာရှိကြီး တစ်ဦးရဲ့ အငယ်ဆုံးသားဖြစ်တယ်။ အသက် တစ်ဆယ့်နှစ်နှစ်မှာ ကိမ်းဗရစ်ချ် တြိတီ ကောလိပ်ကို တက်ခွင့်ရခဲ့ပေမယ့် သုံးနှစ်အကြာမှာ ဘာဘွဲ့မှမရဘဲ ထွက်လာခဲ့တယ်။ အသက်တစ်ဆယ့်ခြောက်နှစ်က စပြီး ပါရီမြို့ ဗြိတိသျှ သံအမတ် လက်အောက်မှာ ဝန်ထမ်း တစ်ယောက်အဖြစ် အမှုထမ်းခဲ့တယ်။ အသက် တစ်ဆယ့်ရှစ်နှစ် အရောက် ဖခင်က ရုတ်တရက် ကွယ်လွန် သွားတဲ့အခါ သူ့အဖို့ ဖခင်က ငွေများများစားစား မထားခဲ့နိုင်ပါ။ ဒါကြောင့် ဥပဒေပညာကို သင်ပြီး အသက်နှစ်ဆယ်မှာ ရှေ့နေ လိုက်ခွင့်ရခဲ့တယ်။ အဲဒီနောက် သိပ်မကြာခင် နိုင်ငံရေးမှာ ပါဝင်ခဲ့တယ်။ အသက် နှစ်ဆယ့်သုံးနှစ်မှာ အောက်လွှတ်တော် အမတ် ဖြစ်လာပါတယ်။ သူ့မှာ တန်ခိုးဩဇာထက်တဲ့ အမျိုးတွေ အဆွေတွေ ရှိပြီး သူကိုယ်တိုင်ကလည်း ဉာဏ်ရည် ဉာဏ်သွေး ထက်မြက်ပေမယ့် ဘုရင်မ အယ်လီဇဘက်က ရာထူးကြီးကြီး ဝင်ငွေများများ ရနိုင်တဲ့ ဘယ်အလုပ်မှာမှ သူ့ကို မခန့်ဖို့ ထာဝစဥ ြငင်းပယ် ခဲ့ပါတယ်။ ဘာပြုလို့လဲဆိုတော့ ပြောပြစရာ အချက် တစ်ခုက ပါလီမန်မှာ ဘုရင် ကိုယ်တော်တိုင် ထောက်ခံပြီး အတည်ဖြစ်စေချင်တဲ့ အခွန်ဥပဒေကျမ်း တစ်ခုကို သူက ရဲရဲဝံ့ဝံ့နဲ့ အပြင်းအထန် ကန့်ကွက်ခဲ့ဖူးလို့ ဖြစ်ပါတယ်။ ဘေကွန်ရဲ့ အသုံးစရိတ်က တော်တော်မြင့်လို့ ဘေကွန်မှာ ကြွေးပတ်လည် ဝိုင်းနေတယ်။ (ကြွေးမှုနဲ့ ထောင်တစ်ခါ ကျဖူးတယ်) သူဟာ ငါ ဒီလိုမနေ မစားနိုင်ပါကလား မသိသလိုဖြစ်နေပါတယ်။ သူကောင်းမျိုးကြီးထဲက အသက်ငယ်ငယ်နဲ့ ထင်ရှားပြီး ရှေ့တက်လမ်း

အများကြီးရှိတဲ့ အက်ဆက် မြို့စားငယ်နဲ့ ရင်းနှီးပြီး အကြံပေးပုဂ္ဂိုလ်ဖြစ်လာတဲ့ဘေကွန်ဟာ သူ့ကိုပြန်ပြီး အက်ဆက်က ထောက်ပံ့ ကြည့်ရှုမြှောက်စားတဲ့သဘော ရှိပါတယ်။ နောက် အက်ဆက်က ဘုရင်မ အယ်လီဇဘက်ကို သစ္စာဖောက်ပြီး ထီးနန်းလုဖို့ အားထုတ်တဲ့အခါ ဘေကွန်က အက်ဆက်ကို ဘုရင်မ အပေါ် သစ္စာစောင့်ထိန်းဖို့ သတိပေးပါတယ်။ အက်ဆက်က တားမရပါ။ လုပ်ကြံမှု မအောင်မြင်တဲ့အခါ အက်ဆက်ကို နိုင်ငံတော် ပုန်ကန်မှုနဲ့ တရားစွဲဆိုတော့ ဘေကွန်က အက်ဆက် ထိုက်သင့်တဲ့ အပြစ်ပေးဖို့ ထက်ထက်သန်သန် ဆောင်ရွက်ခဲ့ပါတယ်။ ဒါနဲ့ အက်ဆက်ကို ခေါင်းဖြတ် ကွပ်မျက်ခဲ့တယ်။ အဲဒါအတွက် ဘေကွန်ကို ပုဂ္ဂိုလ်အတော်များများက ရှုံ့မုန်းကြပါတယ်။ ဘုရင်မ အယ်လီဇဘက်က ၁၆၀၃ ခုမှာ နတ်ရွာစံတဲ့အခါ ဘေကွန်ဟာ ဘုရင်သစ် ပထမဂျိမ်းရဲ့ အကြံပေး ပုဂ္ဂိုလ်ဖြစ်လာတယ်။ ဘုရင်ဂျိမ်းက သူပေးတဲ့အကြံဉာဏ်တိုင်းကို လက်ခံတာ မဟုတ်ပေမယ့် ဘေကွန်ကို ကျေနပ်နှစ်သက်လို့ ဂျိမ်းဘုရင့် လက်ထက်မှာ အစိုးရရာထူး အဆင့်ဆင့် မြင့်တက်လာပါတယ်။ ဘေကွန်ဟာ ၁၉၀၇ ခုမှာ အစိုးရ ရှေ့နေချုပ်၊ ၁၆၁၃ မှာ လွှတ်တော်ရှေ့နေချုပ် ဖြစ်လာ ပါတယ်။ ၁၆၁၈ မှာ အင်္ဂလန်ရဲ့ အဓိပတိဖြစ်လို့ သူ့ရာထူးဟာ အမေရိကန်ပြည်ထောင်စုက တရားရုံးချုပ်ရဲ့ တရားသူကြီးချုပ်နဲ့ ညီမျှပါတယ်။ အဲဒီနှစ်မှာပဲ သူ့ကို ဘေရွန်မြို့စား အဆင့် ခန့်ထားခြင်း ခံရပြီး ၁၆၂၁ ဗိုင်းကောင့်မြို့စားအဖြစ် ခန့်ထားခဲ့ပါတယ်။ အဲဒီနောက် ကံနိမ့်ချိန် တစ်လှည့် ရောက်ရပြန်တယ်။ တရားသူကြီး အဖြစ်နဲ့ ဘေကွန်က ရှေ့မှောက်ကို ရောက်လာတဲ့ တရားပြိုင်ဆိုင်သူတွေဆီက ‘တံစိုးလက်ဆောင်တွေ’ ယူတယ်။ အဲဒါ လုပ်မြဲအလုပ်ဖြစ်တယ်ဆိုပေမယ့် တရားဝင် လုပ်ရတဲ့အလုပ် မဟုတ်တာလည်း ရှင်းပါတယ်။ ပါလီမန်ထဲက သူ့ရန်သူတွေက ဒါကို အခွင့်ကောင်းယူပြီး သူ့ကို အာဏာ ကင်းလွတ်အောင် တိုက်ခိုက်ကြတယ်။ ဘေကွန်က အပြစ်ရှိကြောင်း ဝန်ခံတဲ့အတွက် လန်ဒန် တာဝါမှာ အချုပ်ခံရပြီး ဒဏ်ငွေကြီးကြီး ပေးဆောင်ရတယ်။ ရှေ့အဆို ပြည်သူ့ဝန်ထမ်း မဖြစ်စေရလို့ တားမြစ်ခံရတယ်။ ဘုရင်က ဘေကွန့်ကို ထောင်က လွှတ်တယ်။ ပေးဆောင် ထားတဲ့ ငွေဒဏ်ကိုလည်း ပြန်ပေးတယ်။ ဒါပေမယ့် ဘေကွန့်တို့ နိုင်ငံရေး ဘဝကတော့ ရပ်စဲ ပျက်စီး သွားပါပြီ။ နိုင်ငံရေး သမားကြီးကြီးတွေ လာဘ်စားလို့၊ ပြည်သူ့ငွေကို အလွဲသုံးစား လုပ်လို့ ဖမ်းမိတဲ့ အစဉ်အလာတွေ အများကြီး ရှိခဲ့ဖူးပါတယ်။ ဒီလို ပုဂ္ဂိုလ်မျိုးတွေဟာ ဖမ်းမိတာ များတယ်။ ဒီလိုအခါမျိုးမှာ သူတို့က အများတကာလည်း လာဘ်နဲ့ မကင်းပါလို့ ထုချေလေ့ရှိတယ်။ သူတို့ ပြောချင်တာက ကျန် မကောင်းတဲ့လူတွေ အားလုံးကိုလည်း အရေး မယူနိုင်ရင် တို့ကိုလည်း အရေး မယူထိုက်လို့ ပြောချင်တယ်။ ဒီလိုချေပချက် မျိုးကို လိုက်ပြီး ဘေကွန်က မပြောပါ။ သူက ငါဟာ အခု အနှစ်၅၀ အတွင်းမှာ တရား အမျှတဆုံး တရားသူကြီး ဖြစ်တယ်။ ဒါပေမဲ့ အခု အနှစ်နှစ်ရာတွင်းမှာ ပါလီမန်ရဲ့ တရားအမျှတဆုံး အပြစ်ဒဏ် ပေးချက်ဖြစ်တယ်လို့ ပြောပါတယ်။ အခုပြောခဲ့သလို နိုင်ငံရေးမှာ သိပ်အရာရောက်ပြီး သိပ်အလုပ်များနေတဲ့ ပုဂ္ဂိုလ်ဟာ တခြားကိစ္စ လုပ်ချိန် ရနိုင်စရာ အကြောင်းမရှိပေမယ့် ဘေကွန်ရဲ့ဂုဏ်သတင်းကို အဆက်မပြတ် ထောက်ပြပြီး အခုစာအုပ်မှာ သူ့ကို

နေရာ တစ်ကွက်ပေးခြင်းဟာ သူ့နိုင်ငံရေး ဆောင်ရွက်ချက်ထက် သူ့ဒဿနိကကို ဖော်ထုတ် ရေးပြခြင်းအတွက် ဖြစ်ပါတယ်။

သူ့စာမွန်တွေထဲက ပထမဆုံး ၁၅၉၇ မှာ ထွက်ပေါ်လာတဲ့ စာမွန်နဲ့ အဲဒီစာကို ထပ်တလဲလဲ ချဲ့ထွင် ရှင်းလင်းချက်တွေ ဆက်ရေးနိုင်တဲ့အတွက် ဖြစ်ပါတယ်။ ဒီစာမွန်ကို သွက်လက် ပြောင်မြောက်အောင် ရေးနိုင်တဲ့ အပြင် ဒီအထဲမှာ အင်မတန် လေးနက်တဲ့ ဝေဖန် သုံးသပ်ချက် တွေလည်း ထည့်သွင်း ဖော်ပြနိုင်ခဲ့ပါတယ်။ ရေးသားတဲ့အခါ နိုင်ငံရေး တစ်ခုတည်းကိုသာ မသုံးသပ်ပဲ လူ့မှုစာရိတ္တကိုပါ ထည့်သွင်း ဖော်ပြနိုင်ပါတယ်။

အချို့ထင်ရှားတဲ့ မှတ်ချက်ထဲမှာ... လူငယ် ဆိုရင် ဆုံးဖြတ်ဖို့ထက် တီထွင်ဖို့ ကိစ္စမှာ ပိုပြီး အသုံးကျမယ်။ ဆွေးနွေး တိုင်ပင်ဖို့ထက် လုပ်ငန်း ဆောင်ရွက်ဖို့၊ အခြေကျပြီး လုပ်ငန်းကို ဝင်ဖို့ထက် စူးစမ်းရှာဖွေမှု အသစ်ကိစ္စကို ဆောင်ရွက်ဖို့ ပိုပြီး လိုအပ်ပါတယ်။ သက်ကြီးရွယ်အို ဖြစ်လာရင် အမှုကိစ္စတိုင်းမှာ သင့်မသင့် ပိုပြီး စဥ်းစားတယ်၊ ဟိုထောက် ဒီတိုင်း လုပ်လွန်းတယ်။ စွန့်လုပ်လိုက်မယ် ဆိုတဲ့စိတ် သိပ်နည်းသွားပြီ။ ဒီလိုဆိုရင် ကြီးသူငယ်သူ နှစ်ဦးကို တွဲထားသင့်တယ်လို့ မထင်ဘူးလား။ ကြီးသူငယ်သူ တစ်မျိုးစီ စွမ်းတယ်ဆိုရင် နှစ်ဦးနှစ်ဖက် စွမ်းသလောက် ဖေးမ ကူညီကြရင် တို့တွဲ ပေးလိုက်ကြစို့။ ကြီးသူငယ်သူတို့ အကြောင်း သားမယားရယ်လို့ ရှိလာရင် စီးပွားဥစ္စာ မဖြစ်မနေ ရှာတော့လို့ အကျပ်ကိုင်မယ့် လူတွေ ရှိလာပြီပေါ့။ အိမ်ထောင်ရှိ မရှိ(ဘေကွန်မှာ မယားရှိပေမယ့် သားသမီး မထွန်းကားပါ။) ဒါပေမယ့် ဘေကွန်က သိပ္ပံဒဿနကို ပိုပြီး ရေးသား သုံးသပ်လိုတဲ့ ဆန္ဒရှိပါတယ်။

ဘေကွန်က ပြန်လည် ဆန်းသစ် ရေးကျမ်းကြီးကို အတွဲခြောက်တွဲခွဲပြီး ရေးသားဖို့ စီစဥ်တယ်။ ပထမတွဲမှာ ကနေ့ထိ လူသားတို့ သိသမျှ အသိကို ဖော်ထုတ်ပြီး စစ်ဆေးဖို့ ရာထားတယ်။ ဒုတိယတွဲမှာ သိပ္ပံနည်းကျကျ စုံစမ်း စစ်ဆေးနည်းကို ဖော်ပြမယ်။ တတိယတွဲ အတွေး မဟုတ် လက်တွေ့ဖြစ်တဲ့ စာရင်းဇယား မှီငြမ်းပြုစရာ အချက်အလက်တွေကို ရေးထည့်ပေးမယ်။ စတုတ္ထတွဲမှာ သိပ္ပံနည်းစံနစ်သစ်တွေကို ရုပ်ပုံစာရင်းဇယားတွေနဲ့ ဖော်ပြမယ်။ ပဥ္စမတွဲမှာ အချင်းအရာ တစ်ခုချင်းအတွက် ယာယီဆုံးဖြတ်ချက်ကို ပေးမယ်။ ဆဋ္ဌမ(နောက်ဆုံး)တွဲမှာ နည်းသစ်အရ စူးစမ်းတွေ့ရှိချက်တွေကို စုစည်းပြီး အနှစ်ရသကို ဖော်ထုတ်မယ်။ ဒီလိုဆိုရင် အရစ္စတိုတယ်လ်ရဲ့ နောက်မှာ သိပ်ကြီးကျယ်တဲ့ စီမံကိန်းကြီး ဖြစ်လေတော့ အပြီးမသတ်နိုင်တာကို အံ့ဩစရာ မရှိနိုင်ပါ။ အသိပညာတိုးတက်ပုံ (၁၆၀၅) နဲ့ ကိရိယာသစ်တွေ (၁၆၂၀) ဆိုတဲ့ ကျမ်းနှစ်ကျမ်းကတော့ ဒီစီမံကိန်းကြီးရဲ့ ပထမနဲ့ ဒုတိယတွဲလို့ ယူဆနိုင်ပါတယ်။ လက်နက် ကိရိယာသစ်တွေဆိုတဲ့ ကျမ်းဟာ ဘေကွန် ပြုစုသမျှကျမ်းတွေထဲမှာ အဖိုးအတန်ဆုံးကျမ်း ဖြစ်ပါတယ်။ ဒီကျမ်းက ကိစ္စအရပ်ရပ်ကို စူးစမ်း စစ်ဆေးတဲ့အခါ လုပ်နည်း လုပ်ဟန်ကို ကျနအောင် လုပ်ကြပါလို့ တိုက်တွန်း နှိုးဆော်တဲ့စာ ဖြစ်တယ်။ အရစ္စတိုတယ်လ်ရဲ့ စဥ်ဆက်မှီပြီး စဥ်းစားပုံဟာ ပျင်းစရာ ဖြစ်နေပြီ၊ လက်တွေ့ လုပ်ပြီး စွံမစွံ သိကြပါ ဆိုတဲ့နည်းကို လိုက်ကြဖို့

နှိုးဆော်တယ်။ အသိပညာကို အရင်းခံပြီး အစဖော်ပါ။ နိဂုံးဆွဲပါ ဆိုတာထက်၊ လုပ်ကြည့်၊ ဘာအဖတ်တင်သလဲ ဆိုတာမှတ်၊ နိဂုံးကို စောင့်ကြည့်ဖို့ပဲ ရှိတယ်လို့ ဆိုလိုတယ်။ ကမ္ဘာကို သိချင်ရင် ပထမဆုံး လှည့်ပတ်ကြည့်ရမှာပါပဲ။ ပြီးတော့မှ ပထမ အချက်အလက်စု၊ ပြီးတော့မှ ဆုံးဖြတ်ချက်ချ၊ သိပ္ပံပညာရှင်တွေက ဘေကွန် ပြောတိုင်း အပြည့်အစုံ မလိုက်နာပေမယ့် - လေ့လာရေးမှာ အချက်ကျတဲ့ သဘောထားကို ရှာရမယ်။ ပြီးတော့ စမ်းသပ်ချက် လုပ်ပြီး ကြည့်ပါဆိုတဲ့ အချုပ်သဘောကိုတော့ ကနေ့အထိ လိုက်နာ ဆောင်ရွက်ခဲ့ကြပါတယ်။

အတ္တလန်တစ်သစ်ဆိုတဲ့ ဘေကွန်ရဲ့ နောက်ဆုံး စာအုပ်ကတော့ ရေးတဲ့စာအုပ်တွေထဲမှာ အရေးအပါဆုံး စာအုပ် ဖြစ်မယ်လို့ ထင်ပါတယ်။ အဲဒီစာအုပ်က အကြောင်းကိစ္စ တစ်ခုကို သိချင်တဲ့အခါ လက်တွေ့ ရှာဖွေစစ်ဆေးနိုင်မှ ကောင်းမယ်၊ လက်တွေ့လုပ်ကြပါလို့ တိုက်တွန်းတဲ့စာ ဖြစ်ပါတယ်။ ပထမ အချက်အလက် စုပါ၊ ပြီးတော့ ကောက်ချက် ချပါ၊ ဒါက ဘေကွန်တိုက်တွန်းတဲ့ လုပ်နည်း ဖြစ်ပါတယ်။ သိပ္ပံပညာရှင်တိုင်း သူပြောသလို အတိအကျ မလိုက်နာပေမယ့် အကြမ်းသဘောတော့ လိုက်နာ လာကြပါပြီ။ နည်းမှန်ကို အဲဒီအခါကပဲ စတင် ကျင့်သုံးလာကြပါပြီ။

အတ္တလန်တစ်သစ် စာအုပ်ဟာ ဘေကွန်ရဲ့ နောက်ဆုံး စာအုပ်ဖြစ်ပါတယ်။ ပစိဖိတ်သမုဒ္ဒရာထဲမှာ အတွေးသက်သက် ဖန်တီးတဲ့ ကျွန်းတစ်ကျွန်း ဖြစ်ပါတယ်။ ဒီကျွန်းက ဘာမဆို သဘာဝသိပ္ပံ တန်းတူ အခွင့်အရေးရတဲ့ နေရာ ဖြစ်တယ်။ ပြည်တည်ပုံက ဆာသောမတ်စ်မိုးရဲ့ ယူတိုပီယ (သာတူညီမျှဒေသ) အတိုင်း ဖြစ်တယ်။ ဒါပေမယ့် ဘေကွန်လိုချင်တဲ့ ပုံစံက ခြားနားပါတယ်။ ဘေကွန်ရဲ့ စာအုပ်အရ ချမ်းသာကြွယ်ဝပြည့်စုံတဲ့ သာတူညီမျှ စစ်စစ်ရဖို့ သိပ္ပံသုတေသနကို အစွမ်းကုန် ဖောက်ချပြီး ဆောင်ရွက်ရမယ်လို့ ဖော်ပြတယ်။ အမှန် ဆိုလိုချက်က သိပ္ပံသုတေသနကို ကောင်းကောင်း လုပ်တတ်လို့ရှိရင် ဥရောပတိုက်သားတွေကို သူ့စိတ်ကူးနဲ့ ဖော်ပြတဲ့ ကျွန်းပေါ်ကလူတွေလို သိပ်ချမ်းသာပြီး သိပ်ပျော်ကြမှာ ဖြစ်ပါတယ်။

ဖရန်စစ်ဘေကွန်ဟာ အစောဆုံး ပေါ်လာတဲ့ ခေတ်ဒဿနိက ပညာရှင်ဖြစ်ပါတယ်။ သူဟာ ကိုးကွယ် ယုံကြည်မှုထက် လောကီဆန်တဲ့ အတွေးအမြင်တွေ ကိုသာ အလေးဂရုထားပြီး ပြောဟော လေ့ရှိပါတယ်။ (သူကိုယ်တိုင် ထာဝရဘုရားရဲ့ ဂုဏ်ကျေးဇူး လေးစားကြည်ညိုပေမယ့်) သူရေးသား ဟောပြောတဲ့ အခါ ကိုးကွယ် ယုံကြည်မှုထက် လောကီ အမြင်တွေကိုသာ ဦးစားပေးပြီး ပြောဟော ရေးသားပါတယ်။ အယူမသီးပါ။ အကျိုးအကြောင်း ဆက်စပ်ပြီး ဖြစ်သင့်ဖြစ်ထိုက်တာကို ဖော်ထုတ်တယ်။ အစဉ်အလာ ပြောစကားတွေက ပညာထုတ်ယူဖို့ထက် လက်တွေ့ စမ်းသပ်ပါ။ အဲဒီကမှ အဖြေထုတ်ပါလို့ သင်ကြားလေ့ရှိတယ်။ နိုင်ငံရေးမှာလည်း သီအိုရီကို လေးစားဖို့ထက် လက်တွေ့ကို ဆောင်ရွက်ဖို့ ဂရုပြု ထားတယ်။ ရိုးရာ ပညာရေးနဲ့ စာအရေးအသား ထူးချွန် တာကို တွဲပြီး သိပ္ပံနဲ့ နည်းပညာကို

ဆက်စပ်အားပေးဖို့ဆန္ဒ အမြဲ တိမ်းညွတ်နေတယ်လို့ ပြောနိုင်ပါတယ်။ မိမိနိုင်ငံ အပေါ်မှာ သစ္စာရှိတဲ့ အင်္ဂလိပ် အမျိုးသား ဖြစ်ပေမယ့် ဘေကွန်ဟာ တိုးတက်ရေးမှာ တွေးခေါ်တဲ့အခါ မိမိနိုင်ငံရဲ့ နယ်နိမိတ်ကိုကျော်ပြီး တွေးတတ် မြင်တတ်တယ်။ သူ့ဆန္ဒကို သုံးမျိုးခွဲပြီး ပြောရပါမယ်။ ကိုယ့်နိုင်ငံမှာ ကိုယ့်ဩဇာဟာ ကြီးသထက် ကြီးရမယ်ဆိုတဲ့ ဆန္ဒဟာ ပထမဖြစ်တယ်။ ဒါက လူတကာ အတွေး၊ ညံ့တယ်၊ အောက်တန်းကျတယ်။ ဒုတိယက ကိုယ့်နိုင်ငံရဲ့ အာဏာတန်ခိုးက လူလောကမှာ ထိပ်တန်း ဖြစ်လာပြီး ကမ္ဘာကို လွှမ်းမိုးရမယ်လို့ ကြိုးစား ကြံစည်လုပ်ကိုင်တာ ဖြစ်ပါတယ်။ ဒါကလည်း မွန်မြတ်တယ် ဆိုပေမယ့် မတော်လောဘ ဘက် ခပ်ဆန်ဆန်ဖြစ်နေတယ်။ လူတစ်ယောက်ဟာ လောက တစ်ခွင်မှာရှိတဲ့ လူသားတွေအတွက် ကျေးဇူးပြုနိုင်ရင်း လွှမ်းမိုးနိုင်တယ် ဆိုရင်တော့ အတိုင်းထက် အလွန်ကောင်းပြီး အပေါ်ကပြောခဲ့တဲ့ ဆန္ဒနှစ်ခုထက် အများကြီးသာတယ်။ စွံတယ်လို့ ပြောရမှာ ဖြစ်ပါတယ်။

ဘေကွန်ဟာ သိပ္ပံပညာရဲ့ ရှေ့ဆောင် ပုဂ္ဂိုလ်ကြီး ဖြစ်ပေမယ့် သူကိုယ်တိုင်က သိပ္ပံပညာရှင် မဟုတ်ပါ။

သူနဲ့ခေတ်ပြိုင်ပုဂ္ဂိုလ်တွေ ကြိုးစား ဆောင်ရွက်ချက်၊ အောင်မြင်ချက်တွေကိုလည်း သတိထားပြီး မှတ်သား လေ့လာပုံ မရပါ။ နေပီယ (Napier) က မကြာမီက လောဂရစ်သမ် (Logarithms) ကို တီထွင်ခဲ့တာကို သူ ဂရုမစိုက်ပါ။ ကက်ပလာ (Kepler) နဲ့ သူနဲ့ အမျိုးတူ အင်္ဂလိပ် ဝီလီယံဟာဗေးတို့ ဘာတွေ တွေ့တယ်လို့လည်း သတိမထားပါ။ ဘေကွန်က အပူဓာတ် (တေဇော) ဟာ ဝတ္ထုပစ္စည်းတွေကို လှုပ်ရှား စေနိုင်တယ် ဆိုတာကိုတော့ သူ ရိပ်စားမိဟန် တူပါတယ်။ အဲဒီအသိကတော့ သိပ္ပံပညာမှာ အရေးပါတဲ့ အချက်တစ်ခု ဖြစ်ပါတယ်။ ဒါပေမဲ့ နက္ခတ္တဗေဒမှာ ကော်ပါးနိကပ်စ် (Corpernicus) ရဲ့ စိတ်ကူးတွေကိုတော့ လက်မခံပါ။ ဒါပေမဲ့ သတိထားရမယ့် အချက်တစ်ချက်က ဘေကွန်ဟာ သိပ္ပံထုံးနည်း ဥပဒေတွေကို မှန်အောင် မှတ်သားပြီး သိပြီးသမျှတွေကို ပြည့်စုံအောင် စုပေးဖို့ ကြိုးစား ဆောင်ရွက်နေသူ မဟုတ်ပါ။ အဲဒါမျိုးထက် သူ့ဆောင်ရွက်ချက်က ဘာတွေကို လေ့လာသင့်တယ်လို့ စုစည်း ရှာဖွေ တင်ပြဖို့ ဖြစ်တယ်။ သူကအစပြုပြီး ပြောဆိုချက်ကို ဆက်ပြီးလေ့လာ ဆွေးနွေးရမှာဖြစ်တယ်။ သူပြောတာတွေက နောက်ဆုံး ဆုံးဖြတ်ချက်လို့ မယူဆနိုင်ပါ။

ဖရန်စစ်ဘေကွန်ဟာ လက်တွေ့စမ်းသပ်ချက်ရဲ့ အရေးပါပုံကို စပြီးပြောဟောတဲ့လူ မဟုတ်ပါ။ ပြီးတော့ သိပ္ပံပညာက လူသားကို ကျေးဇူးအများကြီးပြုနိုင်ပုံကို စတင်သဘောပေါက်ပြီး ဆက်လက်ကြိုးစားကြဖို့ နှိုးဆော်သူလည်း မဟုတ်ပါ။ ဒါပေမဲ့ သူ့လို ဘယ်သူမှ ဒီစိတ်ကူးကို လူအများ စိတ်ဝင်စားလာအောင် သူ့အရင်က အခု သူ အားကြိုး မာန်တက် နှိုးဆော်သလို နှိုးဆော်ခြင်း မရှိပါ။ အဲဒါအပြင် ဘေကွန်က စာအရေးအသား ကောင်းလို့လည်းတစ်မျိုး၊ ကျော်ကြားတဲ့ နိုင်ငံရေး ခေါင်းဆောင်တစ်ဦး

ဖြစ်လို့လည်း တစ်ဖုံ၊ သိပ္ပံအပေါ်မှာထားရှိတဲ့ သူ့ဝါဒ၊ သူ့ဩဇာကို လက်ခံသူ၊ လိုက်နာ ဆောင်ရွက်သူ များလာရတာပါ။ လန်ဒန်ရဲ့ တော်ဝင် အသင်းကို ၁၆၆၂ က စတင် ထူထောင်တဲ့အခါ၊ အသင်းရဲ့လူကြီးတွေက ဘေကွန်ဟာ သူတို့ရဲ့ ရှေ့ဆောင်လမ်းပြ ပုဂ္ဂိုလ် ဖြစ်ပါတယ်လို့ အသိအမှတ် ပြုခဲ့ပါတယ်။ စွယ်စုံကျမ်းကြီးကို ပြင်သစ်ဂိုဏ်းသစ် တိုးပွားချိန်က ပြုစုတဲ့အခါ ဒီဒရော့ (Diderot) နဲ့ ဒရမ်ဘတ် (d’alembert) တို့က ဖရန်စစ်ဘေကွန်ကို သူတို့ကျမ်းရဲ့ နည်းပြန္နိုးဆော်သူလို့ အသိအမှတ်ပြုပြီး ဂုဏ်ပြုပါတယ်။ သူ့စာဗေဒဖြစ်တဲ့ လက်နက်သစ်နဲ့ အတ္တလန် တစ်သစ်တွေကို အရင်တုန်းက သိပ်ပြီး လူဖတ်များသလို အခု မဖတ်ကြတော့ပါ။ ဘာပြုလို့လဲ ဆိုတော့ အဲဒီကျမ်းတွေမှာပါတဲ့ အချက်အလက်တွေကို အကျယ်တဝင့် ဆောင်ရွက်ပြီး ဖြစ်လို့ပါ။

**အဆွေတို့ရင်ဖွင့်ကြပါလို့ ပြောသူတိုင်း သူတို့ကိုယ်တိုင်လည်း ရင်ဖွင့်ပြီးဖြစ်မယ်။ မိတ်သဟာဖြစ်ရင်**

ကျမ်းပြု ဖရန်စစ်ဘေကွန်။။။

# (၉၁) ဟင်နရီဖို့ဒ် (၁၈၆၃ – ၁၉၄၇)

# HENRY FORD (1863 – 1947)

အင်မတန် ကျော်ကြားတဲ့ အမေရိကန် စက်မှု လုပ်ငန်းရှင်ကြီးတစ်ဦးဖြစ်တဲ့ ဟင်နရီဖို့ဒ် (Henry Ford) ဟာ ခေတ်စက်မှုလုပ်ငန်းမှာ လိုအပ်တဲ့ပစ္စည်းကို အမြောက်အမြား အကြီးအကျယ် ထုတ်နိုင်တဲ့နည်းပညာကို အများတကာ လုပ်နိုင်တာထက် သူတစ်ယောက်တည်းက ပိုပြီး ဖြစ်ထွန်းအောင် လုပ်နိုင်ပါတယ်။ ဒီလို လုပ်နိုင်လို့ သူတို့တစ်နိုင်ငံလုံး လူနေမှုစနစ်ကို အများကြီး တိုးမြှင့်နိုင်သလို နောက်ဆုံး ကမ္ဘာနဲ့ချီပြီး တိုးမြှင့်အောင် လုပ်နိုင်ပါတယ်။

မီချီဂန် (Michigan)ပြည်နယ် ဒီရားဗွန် (Deerborn) မြို့မှာ ဖို့ဒ်ကို မွေးပါတယ်။ သူက အထက်တန်းကျောင်း ရောက်အောင်အထိ ကျောင်းနေဖူးသူ မဟုတ်ပါ။ သဒ္ဒါကျောင်းဆိုတဲ့ ကျောင်းကလေးမျိုးမှာ နေပြီး တစ်ခါတည်း ဒက်ထရွိုက် (Detroif) က စက်ဆရာ တစ်ဦးဆီမှာ အလုပ်သင် ဝင်တယ်။ စက်ပြင်တတ်လာတယ်။ ပြီးတော့ အင်ဂျင်နီယာဖြစ်လာတယ်။ ကားလ်ဗဲ့န်ဇ် (Karl Benz) နဲ့ ဂေါ့တလစ်ဗ်ဒိန်မလာ (Gottliev Daimler) တို့ (တစ်ကွဲစီ) လူတွန်းမြင်းဆွဲမပါဘဲ သူ့အားနဲ့ သူသွားတဲ့ကားကို ထွင်ပြီး ရောင်းချတဲ့ ၁၈၈၅ က ဖို့ဟာ လူငယ်ကလေးပဲ ရှိသေးတယ်။ ဖို့ဒ်ဟာ 'မြင်းမဆွဲတဲ့လှည်း' ကို ချက်ချင်း သိပ်စိတ်ဝင်စား လာတယ်။ ဒီတော့ ၁၈၈၆ မှာ သူ့ဘာသာ ပုံစံသစ် ထွင်ပြီး အပြင်တွန်းအားဆွဲအား မပါဘဲ အလိုလို သွားတဲ့ ကားကို တီထွင်ကြည့်ပါတယ်။ လူက တော်ပေမယ့် အခုအစ စမ်းသပ်ချက်နှစ်မျိုးစလုံး မအောင်မြင်ပါ။ တကယ်လို့သာ ဖို့ဒ်ဟာ အသက် လေးဆယ်နဲ့ သေသွားပါရင် ဘာမျှ အောင်မြင်အောင် လုပ်မသွားနိုင်ခဲ့ဘူးလို့ ပြောရမှာ ဖြစ်ပါတယ်။ ဖို့ဒ်က လွယ်လွယ်နဲ့ စိတ်လျှော့တတ်တဲ့လူမျိုး မဟုတ်ပါ။ ၁၉၀၃ မှာ ထပ်ပြီး ကြိုးစားကြည့်သေးတယ်။ အခု တတိယအကြိမ် ကြိုးစားတဲ့အခါ ဖို့ဒ် မော်တော်ကုမ္ပဏီက အောင်မြင် လာပြီဖြစ်လို့ စီးပွားဖြစ်တယ်။ နာမည်ကြီးတယ်။ အကြာအရှည် နာမည်ကြီးရတဲ့ အကြောင်းရင်းမှာ ဖို့ဒ်ရဲ့အခြေခံစွဲမြဲချက်တစ်ခုကြောင့် ဖြစ်တယ်။ အစောပိုင်းက ကြော်ငြာ တစ်ခုမှာ ဒီခံယူချက်ကို အခုလို ဖော်ပြထားပါတယ်။ နေ့စဉ်မြည့ာမတာသုံးလည်း ဆက်ပြီး တောင့်တင်း ခိုင်မာတဲ့ ယာဉ်ရှ်ထားကို လုပ်ပြီး ရောင်းမယ်ဆိုရင်– လုပ်ငန်း လုပ်ရင်လုပ်၊ အသက်မွေး ဝမ်းကြောင်း လုပ်ရင်လုပ်၊ အိမ်သုံး လုပ်ရင်လုပ်၊ စက်ကို လင်မယား သားသမီးမကျန် အားလုံးက ကျစ်လျစ်တယ်၊ ရိုးတယ်၊ ဘေးဖြစ်မှာ မကြောက်ရဘူး၊ သုံးတဲ့ နေရာမှာလည်း လွယ်ကူတယ်။ ပြီးတော့

နောက်ပြော ပေမယ့် အရေးပါတဲ့အချက်က ဈေးမကြီးဘူး။ ဒီတော့ လူအများ သုံးစွဲနိုင်တယ်။ တခြားစက်တွေကို တောင်းတဲ့ဈေးက ခေါင်ခိုက်နေတယ်။ သူလုပ်တဲ့ စောစောက ပုံစံတွေက အသင့်အတင့် ကောင်းပါတယ်။ ဒါပေမယ့် အခုပုံစံလို အရည်အချင်းမမြင့်ပါ။ ကျော်ကြားတဲ့ပုံစံ T ကို ၁၉၀၈ မှာစပြီး တီထွင် ရောင်းချတဲ့ အခါ စိတ်ကြိုက်နီးနီး ကောင်းနေပါပြီ။ ထွက်ဖူးသမျှကားတွေထဲမှာ အစွံဆုံးကား ဖြစ်ပါတယ်။ နောက်ဆုံး အရေအတွက် ၁၅ သန်းရောင်းရတယ်။

စောစောကပဲ ဖို့ဒ်က သူ့ကားတွေကို ဈေးပေါပေါနဲ့ ရောင်းမယ်ဆိုရင် ကားတစ်စီးဖြစ်ဖို့ ကုန်ကျစရိတ် နည်းရမယ် လို့ တွက်ထားပြီးသား ဖြစ်တယ်။ အဲဒီလိုဆိုရင် သူ့စက်ရုံမှာ ပစ္စည်း ထုတ်လုပ်နည်းဟာ အင်မတန် ကောင်းရမယ်။ (က) စက်အစိတ်အပိုင်းတွေကို လွယ်လွယ်နဲ့ ဖြုတ်လဲနိုင်ရမယ်။ (ခ)သူ့နေရာနဲ့သူ၊ သူ့တာဝန်နဲ့သူ ဆစ်ပိုင်းပြီး အသုံးဝင်ရမယ်။ (ဂ)စက်ကို နောက်ဆုံး အပြီးသတ် တပ်ဆင်တဲ့အရာမှာ လွယ်ကူရမယ်။ ဒါတွေအားလုံးဟာ လုပ်သားတိုင်း အစွမ်းကုန် အလုပ်လုပ်နိုင်အောင် ပံ့ပိုးပေးတဲ့ အချက်တွေဖြစ်ပါတယ်။ အရေးကြီးတာက လုပ်သားရဲ့အချိန်ကို အလဟဿ မကုန်စေရလို့ ဖို့ဒ်က နားလည်ထားပါတယ်။ လိုတဲ့ ကိရိယာတွေကို ထသွားပြီး သယ်ယူရတာမျိုး မဖြစ်စေရအောင် လုပ်သား လက်ထဲ အရောက် ပို့ပေးထားတယ်။ အနည်းဆုံး မြေပြင်က ကောက်ယူပြီး မတင်နေရလို့ အချိန် မကုန်ရအောင်၊ လူမပင်ပန်း ရအောင် သယ်ပေးစေတယ်။ မတင်ပြီး တပ်ဆင်ဖို့ အနီးအပါး ရွှေ့ပေးထားတယ်။ အလုပ်သမား ဆီကို လိုသမျှပစ္စည်းတွေ ရောက်အောင် သယ်ပို့တဲ့အခါ လွယ်အောင် ခါးပတ်တွေကို သုံးပါတယ်။ လျှောတိုက်ပြီး ပို့တဲ့နည်းကိုလည်း သုံးတယ်။ ခေါင်းပေါ်က ကြိုးတန်းနဲ့ လှည်းကလေးတွေနဲ့လည်း ဆွဲယူပေးပါတယ်။ လိုချင်တဲ့ပစ္စည်း ရောက်လာလို့ ရှိရင်လည်း ခါးလယ်တည့်တည့်လောက် ပို့လိုက်လို့ လုပ်သားက လိုချင်တဲ့ကိရိယာကို မြန်မြန် ဆွဲယူနိုင်ခွင့် ရတယ်။ ကုန်ထုတ်နည်းကို သေသေချာချာ စစ်ဆေးတယ်။ ပိုပြီးကောင်းမယ့်နည်းကို အမြဲရှာကြည့်မယ်၊ အလုပ်ရခက်တဲ့နည်း ဆိုရင် လုပ်နည်း အစိုင်အခဲကို တစ်စုစီခွဲပြီး လုပ်ကြည့်တယ်။ အဲဒီအခါ မကျွမ်းကျင်တဲ့ လုပ်သားတောင် လုပ်နိုင်တာကို တွေ့ပါတယ်။ လုပ်သားတချို့က အသိဉာဏ်နည်းတယ်၊ ပညာလည်း နည်းတယ်၊ အဲဒီလို အခက်အခဲတွေစုံနေရင် အကြာကြီး လေ့ကျင့်ခန်းပေးဖို့ လိုမယ်။ ဒီလိုစိတ်ကူးတွေကို ဖို့ဒ်က စတင် တွေးတောတတ်တာ မဟုတ်ပါ။ အဲလီဝှစ်တနေ (Eliwhitney) က အင်္ဂါအစိတ်အပိုင်းတွေ ပိုပြီး ကောင်းအောင်၊ ပိုပြီး လွယ်အောင် လဲလှယ် ပြောင်းရွှေ့သုံးနိုင်နည်းကို အရင် အနှစ်တစ်ရာကျော်ကပဲ စမ်းသပ် ပြုလုပ်ခဲ့ပါတယ်။ ဒါမျိုးကို အင်မတန်လုပ်တတ်တဲ့ ဖရက်ဒရစ်ဝင်စလိုတေလာ (Frederick Winslow Taylor) က ဒီလို စိတ်ကူးတွေထဲ စာနဲ့ချပြီးတောင် ရေးထား ခဲ့ပါသေးတယ်။ ငယ်ငယ် လုပ်ငန်းရှင် တချို့က ဒီနည်းတွေကို စမ်းသပ်ကြည့်ခဲ့ဖူးပါတယ်။ ဒါပေမယ့် ဒီစိတ်ကူးတွေကို တကယ် စိတ်ပါဝင်စားပြီး အသုံးချ ဖြစ်အောင်ချတဲ့ လုပ်ငန်းကြီး ပိုင်ရှင်ထဲမှာတော့ ဖို့ဒ်က အဦးအစ ဖြစ်ပါတယ်။ ရလဒ်ကတော့ အံ့သြဖွယ်ကောင်း လောက်အောင် ကြီးကျယ်ပါတယ်။ ၁၉၀၈ ခုမှာ မိုဒယ်တီ (Model T)ကားကို အပေါ်ဆုံးဈေး

ဖြစ်တဲ့ ဒေါ်လာ ၈၂၅ နဲ့ ရောင်းနိုင်ပါတယ်။ ၁၉၁၃ ရောက်တဲ့အခါ ရောင်းဈေးဟာ ဒေါ်လာ ၅၀၀ ထိ ကျသွားပါတယ်။ ၁၉၁၆ မှာ ဒေါ်လာ ၃၆၀၊ နောက်ဆုံး ၁၉၂၆ မှာ လက်လီနှုန်းဟာ ဒေါ်လာ ၂၉၀ ထိ ရောက်သွားတယ်။ တန်ဖိုးကျလေ အရောင်းသွက်လေ ဖြစ်လာပါတယ်။ အမေရိက ဆိုတာလည်း 'တစ်နိုင်ငံလုံး ဘီးတပ်ထားသလား' ထင်ရပါတယ်။ ဖို့ဒ်ဟာလည်း ကမ္ဘာမှာ အချမ်းသာဆုံး ပုဂ္ဂိုလ် ဖြစ်လာပါတော့တယ်။ ဖို့ဒ်ရဲ့ လုပ်သားတွေဆိုရင် ထွက်ကုန် အမြင့်ဆုံး ထုတ်နိုင်တဲ့လူတွေ ဖြစ်လာတယ်။ အဲဒီတော့ သူကလည်း အဲဒီလူတွေကို လခ အများဆုံး ပေးနိုင်ပါတယ်။ ၁၉၁၄ မှာ စက်မှုကမ္ဘာက အံ့ဩရတဲ့ အနည်းဆုံး အခကို သူ့အလုပ်ရုံကြီးတွေမှာ တစ်နေ့ငါးဒေါ်လာ (ဟိုအခါက သိပ်များတဲ့အခကို ပေးလိုက်နိုင်တာ) ဖြစ်ပါတယ်။ အရင်က ကုမ္ပဏီ တစ်ခုလုံးရဲ့ ပျမ်းမျှအခထက် နှစ်ဆနီးပါး မြင့်လာခြင်း ဖြစ်ပါတယ်။ မြင့်မားတဲ့ လုပ်ခ အသစ်နှုန်းကို ဖို့ဒ်က တစ်နိုင်ငံလုံးက လိုက်ပေးနိုင်အောင် ရှေ့ဆောင်ခဲ့လို့ စက်ရုံလုပ်သားတွေဟာ အရင်ကလို မဆင်းရဲကြတဲ့အပြင် လူလတ်တန်းစား (middle class) ဖြစ်လာကြပါတယ်။ ဖို့ဒ်ရဲ့ အသစ်တီထွင်ချက်ဟာ အခုပြောခဲ့ပြီးတာ ထက်ပိုပြီး ကျယ်ပြန့်အောင် အကျိုးပြုပါသေးတယ်။ သူက ပစ္စည်းကို အများကြီး ထွက်အောင်လုပ်နည်းကို လျှို့ဝှက်မထားပါ။ အဲဒါထက် ပိုသေးတယ်။ သူက လုပ်နည်းကောင်းကို ကြော်ငြာပြီး ပြန့်ပွားအောင် ဆောင်ရွက်ပါတယ်။ သူ့ အောင်မြင်ပုံကို တခြားအလုပ်ရှင်တွေက တွေ့တဲ့အခါ သူ့ကုန်ပစ္စည်း ထုတ်လုပ်နည်းကို လိုက်လုပ်ကြတယ်။ ရလဒ်က တစ်နိုင်ငံလုံးမှာ အကြီးအကျယ် ထွက်ကုန်တွေ များလာတယ်။ တိုးလာတယ်။ တစ်နိုင်ငံအဆင့်က တစ်ကမ္ဘာလုံး အဆင့်ထိ မြင့်တက်လာတာကို တွေ့ရပါတယ်။

ဖို့ဒ်ဟာ ဘဏ္ဍာရေးအောင်ပွဲကြောင့် နိုင်ငံရေးမှာ ပိုပြီး တွင်ကျယ်အောင် လှုပ်ရှားလာပါတယ်။ ဒါပေမယ့် သူ စိတ်ပျက်စရာတွေသာ တွေ့ရပါတယ်။ အပင်ပန်းခံပြီး ငြိမ်းချမ်းရေး ဟောပြောပေမယ့် သူ့စကားတွေကို ဘယ်သူမှ မလေးစားလို့ ပထမကမ္ဘာစစ်ကြီး ပေါ်ခဲ့ရတယ်။ ၁၉၂၀ ကျော်တဲ့အခါ ဆီးမိုက်ဆန့်ကျင်ရေး (Anti – Semitic propaganda) လုပ်ကြည့်တဲ့အခါ သူ့မှာသာ နာမည်ပျက်ရတယ်။ ဒီလိုနဲ့ သူဟာ နိုင်ငံရေးနယ်က နုတ်ထွက်ရတဲ့အထိ ဖြစ်လာပါတယ်။ ၁၉၃၀ ကျော်တဲ့အခါ လုပ်သားသမဂ္ဂတွေ သူ့ကုမ္ပဏီတွေမှာ ရောက်မလာအောင် အပြင်းအထန် ကန့်ကွက်ပါတယ်။ ဒါနဲ့ သူ့လုပ်သားတွေက သူ့ကိုမုန်းလာပါတယ်။ ကုမ္ပဏီမှာလည်း ဘာမှအကျိုးမရှိ၊ ဒါနဲ့ ဒီကိစ္စမှာ သူ လုံးဝ လက်လျှော့ ခဲ့ရပါတယ်။

အဲဒီနောက်ကိစ္စတွေမှာတော့ သူ့ ဂုဏ်သတင်းဟာ ညစ်နွမ်းနေပြီ၊ ကမ္ဘာတစ်ခုလုံးကိုလည်း အရင်ကလို အကျိုးကျေးဇူး မပြုနိုင်ပေမယ့် စက်မှုကုန်ထုတ်စွမ်း မြင့်နိုင်တဲ့ အပြင် လုပ်ခကိုလည်း သိပ်ပြီးတိုးအောင် လုပ်နိုင်တဲ့သူဆိုတဲ့ သူ့ရဲ့ဂုဏ်သတင်းကိုတော့ မထိခိုက်ပါ။

14, September, 2002.

# (၉၂) မဲန်စီယပ်စ် (၃၇၁ ဘီစီခန့် – ၂၈၉ ဘီစီခန့်)

## MANCIUS (371 B.C. – 289 B.C.)

တရုတ်ဒဿနိကပညာရှင် မဲန်စီယပ်စ်ဟာ ကွန်ဖြူးရှပ်ရဲ့ အရေးပါတဲ့ တပည့်ကောင်း တစ်ယောက် ဖြစ်ပါတယ်။ သူ့အဆုံးအမပေါင်းချုပ်ကို မဲန်စီယပ်စ်ကျမ်း လို့ပဲ ခေါ်ကြပါတယ်။ တရုတ်နိုင်ငံမှာတော့ သိပ်ပြီး လေးလေးစားစား ဖတ်ကြ၊ လိုက်နာကြတဲ့ ကျမ်းတစ်ကျမ်း ဖြစ်ပါတယ်။ ဒီပုဂ္ဂိုလ်ကိုလည်း ဒုတိယ သုခမိန်လို့ ခေါ်လေ့ရှိပါတယ်။ ကွန်ဖြူးရှပ် (Confucius) နောက် အနှစ်နှစ်ရာလောက်မှာ ပေါ်လာတဲ့ ဆရာကြီးတစ်ဆူ ဖြစ်ပါတယ်။

မဲန်စီယပ်စ် (Mancius) ကို ခရစ်မပေါ်မီ ၃၇၁ လောက်က အခုအခါ ရှန်တုန်(Shantung) လို့ခေါ်တဲ့ ထို့ (Tsou) တိုင်းငယ်ပြည်ငယ်ကလေးမှာ မွေးဖွားခဲ့ပါတယ်။ သူ့ကိုမွေးတဲ့ခေတ်က ကျိုမင်းဆက်ရဲ့ နောက်ဆုံးပိုင်း ဖြစ်တယ်။ အဲဒီခေတ်ကို တရုတ်တွေက နိုင်ငံအချင်းချင်း စစ်ခင်းတဲ့ ကာလလို့ ခေါ်ပါတယ်။ နိုင်ငံရေးအရ မညီမညွတ်၊ အစိပ်စိပ်ကွဲနေတဲ့အခါ ဖြစ်ပါတယ်။ မဲန်စီယပ်စ်ကို ကွန်ဖြူးရှပ်အဆုံးအမကို လိုက်နာတဲ့ အစဉ်အလာအတိုင်း ကြီးပြင်းလာရတဲ့လူဖြစ်လို့ သူက ကွန်ဖြူးရှပ်ရဲ့ သဘောထားတွေ၊ ဝါဒတွေကို သိပ်ကြိုက်ပြီး ထက်ထက်သန်သန် ပြောဟော လိုက်နာသူ တစ်ယောက် ဖြစ်ပါတယ်။ ဒီလိုနဲ့ပဲ သူကိုယ်တိုင် ပညာရှင်တစ်ဦး၊ ဒဿနိက ဆရာတစ်ဦး ဖြစ်လာရပါတော့တယ်။ မဲန်စီယပ်စ် Mencius ဟာ အရွယ်ရောက်ပြီးနောက် တရုတ်ပြည်နယ် တစ်နယ်ပြီးတစ်နယ် လှည့်တယ်။ အုပ်ချုပ်ရေး ပိုင်းဆိုင်ရာ ပုဂ္ဂိုလ်တွေကို အကြံဉာဏ် ပေးတယ်။ နယ်ရှင်ပယ်ရှင်တွေကလည်း သူ့စကားကို လေးလေးစားစား နားထောင်လိုက်နာပါတယ်။ ချီ Ch'i မှာ ခဏခေတ္တ အစိုးရအမှုထမ်း ဝင်ပြီး လုပ်ပါသေးတယ်။ ဒါပေမယ့် ခြုံငုံပြီး ပြောရရင် သူက ဘယ်မှာမှ အမြဲအစွဲ ရာထူးယူပြီး ကြိုးကိုင်တဲ့နေရာမျိုးက မနေခဲ့ပါ။ ခရစ်မပေါ်မီ ၃၁၂ နှစ်မှာ သူက အသက်ငါးဆယ့်ကိုးနှစ်ရှိပြီး ဇာတိဖြစ်တဲ့ ထို့နယ်က သူ့အိမ်ကို သူပြန်လာပါတယ်။ အဲဒီမှာပဲ သေဆုံးတဲ့ အထိ နေသွားပါတယ်။ သူကွယ်လွန်တဲ့နှစ်ကို အတိအကျ မပြောတတ်ပါ။ ခရစ်မပေါ်မီ ၂၈၉ လို့ သာမညမှန်းဆရပါတယ်။

မဲန်စီယပ်စ်ရဲ့ တစ်သက်မှာ ဆည်းကပ်တဲ့ တပည့်တွေ ရှိပါတယ်။ ဒါပေမယ့် တရုတ် တစ်နိုင်ငံလုံးမှာ ပျံ့နှံ့လာတဲ့ သူ့ဝါဒကတော့ မဲန်စီယပ်စ်ကျမ်းထဲက အရေးပါတဲ့ ဆုံးမချက်တွေဖြစ်တယ်။ ဒီကျမ်းကို သူ့ရဲ့ဆက်ခံတဲ့ တပည့်တွေက မဖြည့်စွက်တော့ဘူးလားလို့ မေးရင် ဖြည့်စွက် နိုင်ကောင်းပါရဲ့။ ဒါပေမယ့် သူ့အရင်း မူလစိတ်ကူးကို မထိခိုက်ပါလို့ပဲ ဖြေရမှာ ဖြစ်ပါတယ်။

မဲန်စီယပ်စ်ကျမ်းမှာ စိတ်ကူးယဉ်တာတွေ၊ အကောင်းမြင်ဝါဒတွေ များတယ်။ ဘာပြုလို့လဲဆိုတော့ မဲန်စီယပ်စ် ကိုယ်တိုင်က လူသတ္တဝါမှာ အကောင်းစိတ်က လွှမ်းမိုးတယ်လို့ ယူဆတယ်။ ကွန်ဖြူးရှပ် (Confucius) ရဲ့ နိုင်ငံရေးအယူအဆကို ထောက်ခံ တာများတယ်။ ရှင်ဘုရင် ဆိုရင် သြဇာအာဏာနဲ့ အုပ်စိုးတာထက် အကောင်းပြုမူတဲ့ စံနမူနာပုဂ္ဂိုလ် အဖြစ်နဲ့ ပြောကာဟောကာ သိမ်သိမ်မွေ့မွေ့ အုပ်ချုပ်သင့်တယ်လို့ ယူဆတယ်။ ဒါပေမယ့် မဲန်စီယပ်စ်က ကွန်ဖြူးရှပ် ထက်ပိုပြီး ‘လူထုဘက်တော်သား’ လို့ခေါ် ရပါမယ်။ သူဟောသမျှထဲမှာ အတွင်ကျယ်ဆုံး အချက်က ကောင်းကင်ဘုံရဲ့ အမြင်ဟာ လူအများရဲ့အမြင်၊ ကောင်းကင်ဘုံက ကြားသမျှဟာလည်း လူအများ ကြားသလိုပါပဲလို့ ဟောပြောတဲ့အချက် ဖြစ်ပါတယ်။ ဘယ်နိုင်ငံမှာမဆို အုပ်ချုပ်သူထက် လူထုသာ အရေးအပါဆုံး အပိုင်းဖြစ်တယ်လို့ မဲန်စီယပ်စ်က အလေးအနက် ထားပြီး ပြောဟောပါတယ်။ အုပ်ချုပ်သူ တစ်ဦးရဲ့တာဝန်က လူအများ ကောင်းစားရေးကို ရနိုင်သလောက် ဆောင်ရွက် ပေးရန်သာ ဖြစ်တယ်။ အတိအကျ ပြောရရင် အုပ်ချုပ်သူက အကျင့်စာရိတ္တ အရာမှာ စံပြ ဖြစ်ရမယ်။ လူတွေရဲ့ အသက်မွေး အလုပ်တွေဟာလည်း ဆီလျော် သင့်မြတ် ကောင်းမွန်တဲ့ အလုပ်တွေသာ ဖြစ်ရမယ်။ အစိုးရ ပေါ်လစီထဲမှာ သူနှစ်သက်တဲ့ အချက်ကို ပြောရရင် အတားအဆီး မရှိ ရောင်းဝယ်ကြ၊ အကောက်အခွန် နည်းနိုင်သမျှ နည်းပါစေ၊ သယံဇာတကို မဖြုန်းနဲ့၊ အခု အခြေအနေမျိုးထက် ချမ်းသာသူ၊ ဆင်းရဲသူမျှ ဒါကိုကြိုက်တယ်။ အစိုးရက လူအိုတွေကို စောင့်ရှောက်ရမယ်၊ မစွမ်းမသန်သူတွေကို စောင့်ရှောက် ရမယ်။ မဲန်စီယပ်စ်က ရှင်ဘုရင်ကို အထက် ကောင်းကင်ဘုံက အုပ်စိုးခွင့်အာဏာကို ပေးထားပြီး ဖြစ်တယ်လို့ ယုံကြည်တယ်။ အဲဒီလိုပဲ လွှဲအပ်ချက်ကို လျစ်လျူပြုပြီး လူထု ကောင်းစားရေးကို မလုပ်နိုင်ရင် ကောင်းကင်ဘုံရဲ့ အပ်နှင်းပြီး အာဏာကို လက်လွှတ် သွားလိမ့်မယ်လို့ ယူဆတယ်။ ဆိုလိုတာက ကျဆုံးမယ်။ ဒီလိုပြောတဲ့စကားမှာ ရှေ့ပိုင်းက ပြုခဲ့တဲ့အဆိုကို နောက်ပိုင်းက ချေဖျက်နိုင်ခွင့်ရှိတဲ့ ပုံပေါ်တယ်။

ဒီနေရာမှာ မဲန်စီယပ်စ်ဟာ (ဂျွန်လော့ခ် John Locke မပေါ်မီ ရှေးရှေးကပဲ) ပြည်သူ့အခွင့်အရေးမှာ အုပ်ချုပ်သူ ဆိုးရင် ပုန်ကန်ခွင့် ရှိတယ်ဆိုတဲ့ အချက် ဖြစ်ပါတယ်။ ဒီဝါဒကို တရုတ်နိုင်ငံမှာ လူအများ နှစ်သက် လိုက်နာကြပါတယ်။ ယေဘုယျပြောရရင် သမိုင်းတစ်လျှောက်မှာ အခု မဲန်စီယပ်စ် ဟောပြောတဲ့ တရားဟာ အုပ်ချုပ်သူတွေ ကြိုက်မှာထက် အအုပ်ချုပ်ခံလူတွေက ပိုပြီး ကြိုက်နှစ်သက်ကြပါတယ်။ ဒါကြောင့် မဲန်စီယပ်စ်ရဲ့ တင်ပြချက်ကို သူ့ခေတ်က တရုတ်ဘုရင်တွေက မလိုက်နာတာ အဆန်း မဟုတ်ပါ။ နောက်

ခေတ်နည်းနည်းကြာတဲ့အခါတော့ ကွန်ဖြူးရှပ် နောက်လိုက် တပည့်တွေနဲ့ တရုတ်အများစုက ပိုပြီး နှစ်သက်ခဲ့ကြပါတယ်။ မဲန်စီယပ်စ်ရဲ့ ဂုဏ်သတင်းဟာလည်း မြင့်သထက် မြင့်လာပြီ။ တစ်ဆယ့်တစ်နဲ့ တစ်ဆယ့်နှစ်ရာစုနှစ်တွေမှာ ကွန်ဖြူးရှပ်ဝါဒသစ် အမည်နဲ့ ကြီးထွားလာပါတယ်။

အနောက်တိုင်းပြည်တွေမှာဆိုရင် မဲန်စီယပ်စ်ကို နည်းနည်း ကလေးမှ အလေးမထားကြပါ။ ဘာပြုလို့လဲ ဆိုတော့ သူ့ဝါဒက တရုတ်ဘာသာနဲ့ပဲ ရေးထားတာရှိတယ်။ တစ်ခေတ်ထဲမှာ လောင်ဇု (Lao Tzu) ပြုစုတဲ့ တောက်တေချင် (Tao Te Ching) ကျမ်းကတော့ ပေးတဲ့ အကြံဉာဏ်တွေမှာ စွဲဆောင်မှု ရှိတယ် ဆိုပြီး ဥရောပ ဘာသာစကား အတော်များများနဲ့ ဘာသာပြန်ကြတယ်။ နှိုင်းယှဉ်ပြောရရင် မဲန်စီယပ်စ်ကျမ်းကို အနောက်တိုင်းသားတွေက မူလကျတယ်။ ပြတ်သားတယ် လို့ သိသူနည်းလှတယ်။

အစိုးရတွေက လူအိုနဲ့ မစွမ်းမသန်တွေကို ဂရုစိုက်ပါ ဆိုတဲ့အချက်ကိုတော့ လိုက်နာကျင့်သုံးဖို့ မခက်လို့ ထင်ပါတယ်။ အခွန်နည်းနည်းသာ ကောက်ဖို့လည်း လိုက်နာမယ်လို့ စဉ်းစား နိုင်စရာရှိပါတယ်။ ဒါပေမဲ့ အမေရိက နိုင်ငံရေးနယ်မှာတော့ ဒီဝါဒနှစ်ခုကို ပြောဟောလာရင် လိုက်လျောသူ (Liberals) နဲ့ ရှေးဆန်သူ (Conservatives) တွေ နှစ်ဂိုဏ်းစလုံးက စိတ်ထဲမှာ မနှစ်မြို့စရာ၊ မသက်သာစရာတွေ တွေ့မယ်လို့ ထင်ရပါတယ်။ ဒီလိုပဲ မဲန်စီယပ်စ်က တစ်ဖက်မှာ ဆင်းရဲချမ်းသာ ကွာဟနေတာကိုဖြေပါ။ အနှောင့်အယှက် မရှိ ရောင်းဝယ်ခွင့်ပေးပါ။ အကောက်အခွန် လျှော့ပါဆိုတာတွေဟာ တစ်မျိုးကိုလုပ်ရင် နောက်တစ်မျိုးကို လုပ်ဖို့ ခက်တယ်လို့ လက်တွေ့ သဘောကို မစဉ်းစားမိဘူး ထင်ပါတယ်။ မဲန်စီယပ်စ်ကို ဒီလို မပြောသင့်ပါ။ သူက အမေရိက ကွန်ဂရက်မှာ လာ အရွေးခံတာမှ မဟုတ်ဘဲလို့ ဆင်ခြေ တက်နိုင်ပါတယ်။ ဒါပေမဲ့ ဒဿနိကဆရာတွေဟာ လူအများ လေးစားထိုက်တဲ့ ဝါဒကို ပြောတဲ့အခါ (အားလုံး အဆင်ပြေချင်မှပြေမယ်) ယေဘုယျ သဘောမှာ တောင်းဆိုတိုင်း အလုပ် မဖြစ်ပါ။ သို့သော် ပြဿနာပေါ်ရင် ရှေ့ရှည်မှာ မက်ခီယာဗယ်လီ (Machiavelli) လို ဘယ်ဟာကို အရင်လုပ်လို့ ပြတ်ပြတ်သားသား ပြောနိုင်ရင် အဲဒီလူက မဲန်စီယပ်စ်ထက် လူတွေကို ပိုပြီးလွှမ်းမိုးနိုင်တာကို တွေ့ရပါတယ်။

ဒါပေမယ့် မဲန်စီယပ်စ်ရဲ့ ရေးသားချက်တွေက တရုတ်တွေ အပေါ်မှာ အများကြီး ဩဇာရှိတာ အမှန် ဖြစ်ပါတယ်။ သူက ကွန်ဖြူးရှပ်ဝါဒ အရေးပါတယ် ဆိုပေမယ့် ခရစ်ဝါဒအတွက် စိန့်ပေါလ် (St. Paul) အရေးပါပုံကို မမီပါ။ စိန့်ပေါလ်က သူတစ်ပါးထက် ထူးအောင် အရေးအသား စွံလို့ ဩဇာ သိပ်ကြီးတာ ဖြစ်ပါတယ်။ အကြမ်းအားဖြင့် ရာစုနှစ်ပေါင်း နှစ်ဆယ့်နှစ်နှစ် ကြာအောင် သူ့အယူအဆတွေကို ကမ္ဘာ့လူဦးရေရဲ့ ၂၀ ရာနှုန်းက သဘောကျ လက်ခံဆွေးနွေးတယ်ဆိုတာ ဒဿနိက ဆရာတိုင်း ရရှိတဲ့ဆု မဟုတ်ပါ။ သူ့ဩဇာကြီးမားတယ် လို့ပဲ ဆိုရပါမယ်။

# (၉၃) ဇော်ရော့အက်စတာ (ခရစ်မပေါ်မီ ၆၂၈ နှစ်လောက်က ၅၅၁ လောက်ထိ)

## ZOROASTER (c.628 B.C – c.551 B.C)

အီရန်နီယ Iranian လူမျိုး၊ ယုံကြည်မှုရှေ့ဖတ် prophet၊ ဇော်ရော့အက်စတာ Zoroaster ဟာ နှစ်ပေါင်း ၂၅ဝဝ ကျော် စွဲမြဲယုံကြည်သူတွေ ရှိခဲ့တဲ့အပြင် ကနေ့အထိလည်း ယုံကြည်သူတွေရှိတဲ့ ဇော်ရော့ အက်စတြီယန်ဝါဒ (Zoroastrianism) ကို စတင်သူ ဖြစ်ပါတယ်။ ဇော်ရော့အက်စတြီယန် ကျမ်းစာအုပ်မှာ အဇက်စတဖြစ်တဲ့ အဟောင်းဆုံး အပိုင်းပါဝင်တဲ့ ဂထာ့စ် (Gathas) ကို ရေးတဲ့ပုဂ္ဂိုလ်လည်း သူပဲဖြစ်ပါတယ်။

ဇော်ရော့အက်စတာ (ရှေးအီရန်နီယ ဘာသာ စကားအရ ဇရသုရှတြ အမည်ရှိသူ) ရဲ့ အတ္ထုပ္ပတ္တိကို ပြောလောက်စရာ အချက်အလက် အင်မတန်ရှားပါတယ်။ ခရစ်မပေါ်မီ ၆၂၈ နှစ်က ကနေ့ မြောက်အီရန်မှာ မွေးခဲ့မယ်လို့ ထင်ရပါတယ်။ သူငယ်ငယ်ဘဝကိုလည်း နည်းနည်းပဲ သိတယ်။ အရွယ်ရောက်တဲ့အခါ သူတီထွင်တဲ့ ကိုးကွယ်ယုံကြည်မှုသစ်ကို စပြီး ဟောပြောပါတယ်။ ပထမတော့ ကန့်ကွက်သူတွေရှိပါတယ်။ ဒါပေမယ့် သူ့အသက် လေးဆယ်လောက် ရောက်တဲ့အခါ ဘုရင် ပစ်ရှ်တစ္စ (Vishtaspa) ဘွဲ့အမည်ရှိတဲ့ မြောက်အီရန် (Iran) ကို အုပ်စိုးသူဟာ သူ့အယူဝါဒသစ်ကို လက်ခံပါတယ်။ အဲဒီကစပြီး ဒီဘုရင်ဟာ သူ့မိတ်ဆွေတွေကို ကာကွယ်စောင့်ရှောက်သူ ဖြစ်လာပါတယ်။ အီရန်တို့ အစဉ်အလာ ပြောစကားအရ ဇော်ရော့ အက်စတာဟာ အသက်ခုနစ်ဆယ့်ခုနစ်နှစ် နေရပြီး သူသေတဲ့နှစ်ဟာ ခရစ်မပေါ်မီ ၅၅၁ နှစ်ဝန်းကျင် ဖြစ်ဖို့များပါတယ်။

ဇော်ရော့အက်စတာဟာ ကျင့်စဉ် (Zoroastrian theorogy) က တစ်ဆူတည်းသော ဘုရားလည်း ယုံတယ်။

အပြိုင်ဘုရား ရှိတယ်လည်း ပြောတယ်။ အဲဒါကို စိတ်ဝင်စားစရာ ရောထွေးနေတယ်။ ဇော်ရော့အက်စတာ အဆိုအရ အစစ်အမှန် ဘုရားက တစ်ဆူတည်း ရှိပါတယ်။ သူ့ရဲ့ဘုရားဘွဲ့အမည်က အဟူရမဇ္ဒ (Ahura Mazda) ဖြစ်တယ်။ ခေတ်ပါရှန်ဘာသာနဲ့ ဩမွဒ် (Ormuzd) လို့ ခေါ်ပါတယ်။ အဟုရမာဇ္ဒ (ဉာဏ်ပညာ ကြီးရင့် လေးနက်သူ) က မှန်တာ၊ သစ္စာရှိတာသာ

အားပေးတယ်။ ဒါပေမယ့် ဇော်ရော့အက်စတာရဲ့ နောက်လိုက်တွေက မကောင်းဆိုးဝါးဘက်က အန်ဂရ (Angra) မိန့်ယု (Mainyu) (ခေတ်ပါရှန်နဲ့ အရိမန် Ahriman) လို့ ခေါ်ပါတယ်။ ဒီဘုရားက မကောင်းတာတွေ မမှန်တာတွေနဲ့ ဆိုင်ပါတယ်။ အမှန်တကယ်က ကမ္ဘာမှာ အဟုရမာဇ်ဒ ဘက်တော်သားလား အရိမန်ရဲ့ ဘက်တော်သားလားလို့ စိတ်ကြိုက် ရွေးချယ်ခွင့် ရှိပါတယ်။ အခုလက်ငင်း အချိန်မှာ နှစ်ဘက်ပြိုင်ဆိုင်မှု ရပ်နားနေပါတယ်။ ဒါပေမယ့် အဆုံးစွန်မှာ အဟုရမာဇ်ဒက နိုင်ရမယ်လို့ ယုံပါတယ်။ သူ့ကို ကိုးကွယ် ယုံကြည်ချက်မှာ နောက်တစ်ဘဝ ရှိတယ်လို့ စွဲစွဲမြဲမြဲ မှတ်ထားပါတယ်။ ကိုယ်ကျင့်တရားမှာ ဇော်ရော့အက်စတာ အယူဝါဒက တရားနည်းလမ်း ကျခြင်း၊ သစ္စာရှိခြင်းကို အထူးအလေးပေးပါတယ်။ တဏှာရာဂ ကင်းရမယ်၊ သားမယား မယူရဘူးလို့ မတားမြစ်ပါ။ သူတို့ ဘုရားရှိခိုးတဲ့အခါ ပြုမှုပုံတွေ ဆန်းကြယ်တယ်။ မီးကို ပူဇော်တယ်။ သူတို့ ဘုရားကျောင်းမှာ မီးကို မငြိမ်းစေရ၊ ထာဝရ ထွန်းထားတယ်။ ယုံကြည်မှုထဲမှာ အထူးခြားဆုံး ကတော့ သေသူရဲ့အလောင်းကို သင်္ဂြိုဟ်ပုံ ဖြစ်တယ်။ မြေမှာလည်းမမြှုပ်ပါ၊ မီးနဲ့လည်း မရှို့ပါ။ စင်မြင့် (မျှော်စင်) ပေါ်မှာ အလောင်းကို တင်ပြီး လင်းတစာ ကျွေးတယ်။ (ငှက်တွေကလည်း စားနေကျဆိုတော့ နှစ်နာရီ လောက်အတွင်းမှာ အရိုးဖွေးဖွေးပဲကျန်အောင် စားပစ်ကြပါတယ်။ )

ဇော်ရော့အက်စတာဝါဒ (Zoroastrianism) မှာ ရှေးရှေးက ပေါ်ထွန်းခဲ့တဲ့ အီရန်နိယ ကိုးကွယ် ယုံကြည်မှုတွေနဲ့ တူတဲ့ အချက်တွေ များများရှိပေမယ့် ဇော်ရော့အက်စတာ သက်တော်ထင်ရှား ရှိစဉ်က သူ့ဝါဒဟာ သိပ်ပြီးမပျံ့နှံ့ပါ။ ဒါပေမယ့် သူ့ကိုမွေးတဲ့ ဒေသကို မဟာဆိုင်းရပ်စ် (Cyrus the Great) က သူဟာ အင်ပါယာထဲမှာ ခရစ်မပေါ်မီ ခြောက်ရာစု နှစ်လယ်ကို ရောက်လို့ ဇော်ရော့အက်စတာ ကွယ်လွန်ချိန်မှာ ထည့်သွင်း လိုက်တယ်။ နောက် အနှစ်နှစ်ရာကြာတဲ့အခါ ပါရှ (Persian) မင်းတွေက ဒီကိုးကွယ် ယုံကြည်မှုကို လက်သင့်ခံပြီး အားပေးတဲ့ အတွက် ယုံကြည်သူ များလာပါတယ်။

မဟာအလက်ဇန္ဒား (Alexander the Great) က ခရစ် မပေါ်မီ လေးရာစုနှစ်နှောက်ပိုင်း ထက်ဝက် အရောက်မှာ ပါရှအင်ပါယာ (Persian Empire) ကို တိုက်ခိုက် သိမ်းယူတဲ့အခါ ဇော်ရော့ အက်စတာဝါဒကို ကိုးကွယ်သူ အများကြီး ဆုတ်လျော့သွားပါတယ်။ နောက်တော့ ပါရှတွေ နိုင်ငံရေး လွတ်လပ်မှု ပြန်ရလာတဲ့ အခါ ဟဲလင်းနစ် (Hellenistic) ဩဇာကျတဲ့အခါ၊ ဇော်ရော့ အက်စတာဝါဒ ပြန်ပြီး ထူထောင်ခွင့် ရပြန်ပါတယ်။ (ခရစ်ပေါ်ပြီး ၂၂၆ – ၆၅၁ မှာပေါ်တဲ့ စက်စနစ်မင်း (Sassanid dynasty) လက်ထက်အတွင်းမှာ ဇော်ရော့အက်စတာဝါဒကို ပါရှမှာ နိုင်ငံတော် ဘာသာ အဖြစ်နဲ့ ကိုးကွယ်ခဲ့ပါတယ်။

အာရပ် (Arab) တွေ ခရစ်ခုနစ်ရာစုနှစ်မှာ သိမ်းယူခြင်း ခံရတဲ့ ပါရှလူများစုက တဖြည်းဖြည်း အစ္စလာမ် (Islam) ဝါဒကို ပြောင်းလဲလာကြတယ်။ တချို့လည်း အစ္စလာမ် ဖြစ်အောင် အတင်းပြောင်းခိုင်းလို့ ပြောင်းရတယ်။ ဒါပေမယ့် မူဆလင်

(Muslims) တွေက ရှေးအယူဝါဒကို မညှင်းဆဲ မနှိပ်ကွပ်ပါ။ တခြားအယူဝါဒကိုလည်း ရှိမြဲရှိပါစေလို့ သဘော ထားပါတယ်။) တစ်ဆယ်ရာစုနှစ်ကျတော့ ကျန်သမျှ ဇော်ရော့အက်စတာဝါဒီ (Zoroastrians) တွေဟာ အီရန်က ပါရှန်း ပင်လယ်ကွေ့ (Persian Gulf) ထဲက ဟောရ်မုဒ် (Hormuz) ကျွန်းပေါ်ကို ထွက်ပြေး သွားကြပါတယ်။ အဲဒီကမှ သူတို့နဲ့ သူတို့က ဆင်းသက်သူတွေဟာ အိန္ဒိယ (India) ကို ပြောင်းရွှေ့ပြီး နယ်သစ် ထူထောင်ကြတယ်။ ဟိန္ဒူ (Hindus) တွေက သူတို့ကို ဖာရစီလို့ခေါ်ပါတယ်။ ပါရှ အဆက်တွေလို့ ဆိုလိုပါတယ်။ ကနေ့ အိန္ဒိယမှာ ဖာရစီ (Parsees) လူဦးရေဟာ တစ်သိန်းကျော်ရှိမယ်။ သူတို့အထဲက အများစုဟာ ဘုံဘေ (Bombay) မြို့တော်ဝန်းကျင်မှာ နေထိုင်ကြပါတယ်။ ချမ်းသာသူ များတယ်။ ဇော်ရော့အက်စတာဝါဒဟာ အီရန်မှာလည်း ပျောက်ကွယ် မသွားပါ။ အဲဒီမှာ ခုထိ ကိုးကွယ်ယုံကြည်သူ နှစ်သောင်းလောက် ရှိပါသေးတယ်။

ကနေ့အခြေအနေကို ပြောရရင် ကမ္ဘာမှာ ဇော်ရော့အက်စတာ ယုံကြည်သူ အရေအတွက်ဟာ မော်မွန် (Mormons) တွေထက်များတယ်။ သိပ္ပံနည်းခရစ်ဝါဒီ (Christian Scientists) တွေထက်လည်း များတယ်။ ဒါပေမယ့် မော်မွန်ဝါဒီ (Mormonism) နဲ့ သိပ္ပံနည်း ခရစ်ဝါဒတွေက ပေါ်တာ သိပ်မကြာသေးပါ။ သမိုင်းတစ်လျှောက်မှာ ဇော်ရော့အက်စတာဝါဒီတွေက အများကြီး အရေအတွက်မှာ သာပါတယ်။ ဒါကြောင့် ဇော်ရော့အက်စတာဝါဒကို ဒီစာအုပ်မှာထည့်ပြီး ဂျိုးဇက်စမစ် (Joseph Smith) နဲ့ မေရီဗေကာအက်ဒီ (Mary Baker Eddy) တို့ကို ချန်ထားခဲ့တာ ဖြစ်ပါတယ်။ အဲဒါအပြင် ပြောစရာတစ်ချက်က ဇော်ရော့အက်စတာဝါဒဟာ ဂျူးအယူဝါဒ (Judaism) နဲ့ ခရစ်အယူဝါဒ (Christianity) တွေအပေါ်မှာ ဩဇာ သက်ရောက်မှုရှိတယ်။ ဇော်ရော့အက်စတာရဲ့ အရှိန်အဝါဟာ မနိရဲ့ မာနိကြေအစ်ဇင်း (Manichaeism) မှာ သာပြီး တွေ့မြင် နိုင်ပါတယ်။ မနိက ဇော်ရော့အက်စတာဝါဒထဲက အကောင်းနဲ့ အဆိုး အားပြိုင်တဲ့ သဘောထားကို တိုက်ရိုက် ယူပြီး ပိုပြီး နက်ရှိုင်းအောင်၊ ပိုပြီး လိုက်နာချင်အောင် ဝါဒသစ်ကို ထူထောင်ခဲ့လို့ ဖြစ်ပါတယ်။ အချိန် အတော်ကြာအောင် အဲဒီအယူသစ်ဟာ ကမ္ဘာမှာ ကြီးမားတဲ့ဝါဒ တစ်မျိုးအနေနဲ့ မြင့်တက်လာဖူးတယ်။ အခုတော့ အစအနမှ မကျန်အောင် ပျောက်ကွယ်သွားပါပြီ။ ဇော်ရော့အက်စတာဝါဒဟာ အမှန်ကတော့ ရှေးအယူဝါဒတွေထဲက တစ်ခုဖြစ်ပေမယ့် ဒေသတစ်ခုအတွက် ပေါ်ထွန်း ခဲ့တာဖြစ်လို့ ကမ္ဘာအနှံ့ ပျံ့ပွားဖို့ ခက်ပါတယ်။ အဲဒါကြောင့် ဒီဝါဒရဲ့ အရာရောက်ပုံဟာလည်း ဗုဒ္ဓဝါဒ၊ ခရစ်ဝါဒ၊ အစ္စလာမ်ဝါဒတွေနဲ့ နှိုင်းယှဉ်လို့ မရနိုင်ပါ။

# (၉၄) ဘုရင်မ ပထမ အယ်လီဇဘက် (၁၅၃၃ – ၁၆၀၃)

# QUEEN ELIZABETH – I (1533 – 1603)

အင်္ဂလိပ်သမိုင်းမှာ အကျော်ကြား အထင်ရှားဆုံးလို့ လူအတော်များများက ချီးမွမ်းပြောဆိုလေ့ရှိတဲ့ နိုင်ငံ အုပ်ချုပ်သူဟာ ဘုရင်မ ပထမ အယ်လီဇဘက် ဖြစ်ပါတယ်။ ဘုရင်မရဲ့ နန်းသက် လေးဆယ့်ငါးနှစ်မှာ စီးပွားရေး တိုးတက်တာလည်း ထင်ရှားတယ်။ စာပေ ထွန်းကားတာလည်း သိသာတယ်။ ကမ္ဘာ့ရေတပ် အင်အားကြီး နိုင်ငံထဲမှာ ထိပ်တန်းက အင်္ဂလန်ဟာ ပါလာတယ်။ အဲဒီအခါက အင်္ဂလိပ်မင်းဟာ တန်ခိုးသြဇာ သိပ်ပြင်းပြီး နောက်ဆွဲက သူတစ်ပါး ကြိုးဆွဲတိုင်း ကရတဲ့ မင်းမဟုတ်၊ အင်္ဂလန် ရွှေခေတ်ရဲ့ စွမ်းဆောင်ချက်တွေမှာ ဘုရင်မ ကိုယ်တိုင် အရေးပါတဲ့ အခန်းက ပါဝင်ခဲ့တာကို ထင်ထင်ရှားရှား တွေ့မြင်ရတဲ့ ခေတ်အခါဖြစ်တယ်။

အင်္ဂလန်၊ ဂရင်းဝစ် (Greenwich) မှာ အယ်လီဇဘက် ကို ၁၅၃၃ က မွေးပါတယ်။ ခမည်းတော်က အင်္ဂလိပ် ပြုပြင်ပြောင်းလဲရေး (Reformation) ကို ရှေ့ဆောင်တဲ့ အဋ္ဌမဘုရင် ဟင်နရီဖြစ်ပါတယ်။ မယ်တော် အဲနီဗိုလင်း (Anne Boleyn) က ဟင်နရီရဲ့ ဒုတိယဇနီး ဖြစ်ပါတယ်။ အဲနီက ၁၅၃၆ မှာ ခေါင်းဖြတ် ကွပ်မျက်ခြင်း ခံရပါတယ်။ နောက် အတန်ကြာတော့ ပါလီမန်က အသက်သုံးနှစ်သာ ရှိသေးတဲ့ အဲလီဇဘက်ကို တရားဝင် အမွေခံထိုက်တဲ့ သမီး မဟုတ်လို့ ကြေညာ လိုက်ပါတယ်။ (အင်္ဂလိပ် ကက်သလစ်တွေရဲ့ အယူအဆမှာ ဟင်နရီက ပထမ မယားကို ကွာရှင်းတယ် ဆိုတာကို လက်မခံပါ။ ဒါမျိုးကို တရားမဝင်လို့ ယူဆတယ်။) ပါလီမန်က အခုလို မညှာမတာ ပြောဆိုပေမယ့် အယ်လီဇဘက်ကို နန်းတွင်းမှာပဲ ကြီးပြင်းတဲ့ အထိထားပြီး ပညာ ကောင်းကောင်း သင်ပေးပါတယ်။ အဲလီဇဘက် အသက်တစ်ဆယ့်သုံးနှစ်မှာ အဋ္ဌမ ဟင်နရီဘုရင် နတ်ရွာစံတယ်။ အင်္ဂလန်ထီးနန်းကို ဆက်တိုက် တစ်ဆယ့်တစ်နှစ် ဆက်ခံပြီး မင်းလုပ်သွားသူတွေက သိပ်ပြီး ထက်ထက်မြက်မြက် မရှိပါ။ အဲလီဇဘက်ရဲ့ အဖေတူအမေကွဲ မောင်ဖြစ်တဲ့ အဋ္ဌမအက်ဒွပ်က ၁၅၄၇ က ၁၅၅၃ ထိ ဘုရင် အဖြစ်နဲ့ စိုးစံတယ်။ သူ့လက်ထက်မှာ နိုင်ငံအစိုးရအနေနဲ့ အားတက်သရော ပရိုတက်စတင့် အယူကို ထောက်ခံ အားပေးခဲ့ပါတယ်။ သူ့နောက် ငါးနှစ်ဆက်ပြီး အုပ်စိုးတဲ့ ပထမမေရီဘုရင်မ (Queen Mary I) က ပြင်းပြင်းထန်ထန် ပုပ် (Pope) ရဟန်းမင်းရဲ့ သြဇာကို လက်ခံပြီး ရိုမန်ကက်သလစ်ကို အင်္ဂလန်မှာ ပြန်လည်

ထွန်းကားဖို့ ဆောင်ရွက်ပါတယ်။ ဒီဘုရင်မ အုပ်စိုးချိန်မှာ အင်္ဂလန်က ပရိုတက်စတင့်တွေ အဖမ်းခံရတယ်။ သူတို့အထဲက လူ ၃၀၀ ထက်မနည်း အသတ်ခံရတယ်။ (ဒါကြောင့်လည်း သူ့ကို သွေးစွန်းတဲ့ မေရီလို့ နှိမ့်ချပြီး ခေါ်လေ့ရှိကြတယ်။) အဲလီဇဘက်ကိုဖမ်းပြီး လန်ဒန်တာဝါမှာပို့ထားတာ ခံလိုက်ရသေးတယ်။ အဲဒီကနောက် လွှတ်ပေးပေမယ့် အချိန်မရွေး ခေါ်ပြီး နှိပ်စက်သတ်ဖြတ်မှာကို စိုးရိမ် ထိတ်လန့် နေရပါတယ်။ ၁၅၅၈ မှာ မေရီဘုရင်မ နတ်ရွာစံတော့ အသက်နှစ်ဆယ့်ငါးနှစ်ရှိတဲ့ အယ်လီဇဘက်ဟာ ထီးမွေကို ဆက်ခံ ရပါတယ်။ အင်္ဂလန်မှာ သိပ်ပြီး ဝမ်းသာရွှင်မြူးပြီး ဘုရင်မအသစ်ကို ကြိုဆို ကြပါတယ်။ ဘုရင်မအသစ် ရင်ဆိုင်ရမယ့် ပြဿနာ များလှတယ်။ ပြင်သစ်နဲ့ စစ်ဖြစ်ဆဲ၊ စကော့တလန်နဲ့ စပိန် ဆက်ဆံရေးမှာ မပြေလည်၊ အစိုးရအနေနဲ့ ဘဏ္ဍာရေး အကျပ်အတည်း တွေ့ရခိုက်၊ ဒီအတွင်းမှာ ၁၅၅၉ ခု အင်္ဂလန်မှာ အဲန်ဂလီကန် သာသနာကို နိုင်ငံတစ်နိုင်ငံလုံးရဲ့ ကိုးကွယ်ရေး အယူ ဖြစ်တယ်လို့ အတည်ပြု လိုက်တယ်။ သိပ်ပြီး အယူဝါဒ မပြင်းထန်တဲ့ ပရိုတက်စတင့်တွေက ဒီလိုလုပ်တာကို ထောက်ခံပေမယ့် ပြူရိတန် (Puritan) အမည်ခံ တစ်ဖက်စွန်း သန့်စင်ရေးဂိုဏ်းက ပိုပြီးပြင်းထန်တဲ့လမ်းကို လိုက်စေချင်တယ်။ ဒီလို တစ်ဖက်က ပြူရိတန် ဆန့်ကျင်ရေးနဲ့ တစ်ခြားတစ်ဖက်က ကက်သလစ်တွေ မကျေမနပ် ဖြစ်တဲ့ကြားမှာပဲ အယ်လီဇဘက်က သူ့အုပ်ချုပ်ရေး ခေတ်ကာလမှာ သူပြဋ္ဌာန်းတဲ့ ၁၅၅၉ အလယ်လမ်းကို မသွေးမဖည် ဆက်လက် ကျင့်သုံး သွားခဲ့ပါတယ်။ စကော့တလန်ဘုရင်မ မေရီရဲ့ဝန်းကျင်မှာ ကိုးကွယ် ယုံကြည်မှုကိစ္စတွေ ဝိုင်းနေတယ်။ ဒါနဲ့ စကော့တလန်က ပြေးထွက် ခဲ့ရပြီး အင်္ဂလန်မှာ ခိုလှုံရတယ်။ အင်္ဂလန်ရောက်တော့ အယ်လီဇဘက်ရဲ့ အကျဉ်းသားဘဝ ရောက်ရတယ်။ အယ်လီဇဘက်က တစ်ယူသန် တစ်ဖက်သတ် နိုင်ထက်စီးနင်း လုပ်လေ့ မရှိပါ။ ဒါပေမဲ့ အခြေအနေအမှန်က မေရီဟာ ရိုမန်ကက်သလစ်၊ အယ်လီဇဘက်လိုပဲ အင်္ဂလိပ် ထီးမွေးခံ တစ်ဦးဖြစ်တယ်။ ဒါကြောင့် အစိုးရကို တော်လှန်ပုန်ကန်တာ အောင်မြင်ရင်၊ သို့မဟုတ် အယ်လီဇဘက်ကို လုပ်ကြံ သတ်ဖြတ်နိုင်ရင် အင်္ဂလန်မှာ ရိုမန်ကက်သလစ် ဘုရင်မအဖြစ် အုပ်စိုးမှာ အမှန်ဖြစ်ပါတယ်။ မေရီကို အစုစု တစ်ဆယ့်ကိုးနှစ် အကျဉ်းချ ထားခဲ့တဲ့ အတောအတွင်းမှာပဲ အယ်လီဇဘက်ကို လုပ်ကြံဖို့ အကြိမ်ကြိမ် ကြိုးစား ခဲ့ကြတာမှာ မေရီရဲ့ အားပေးကူညီမှုပါမြဲဖြစ်တယ်။ နောက်ဆုံးမှာတော့ ၁၅၈၇ ခုနှစ်မှာ မေရီကို ကွပ်မျက် လိုက်ရပါတယ်။ ဒါပေမယ့် အယ်လီဇဘက်က သေစေဆိုတဲ့အ မိန့်ကို မလွှဲသာလို့သာ လက်မှတ် ထိုးပေးလိုက်ရတာ ဖြစ်ပါတယ်။ ဘုရင်မရဲ့အမတ်တွေနဲ့ ပါလီမန်ရဲ့ ဆန္ဒကိုသာ ပြောရရင် အခုထက် စောစောကပဲ သုတ်သင်ရမှာ ဖြစ်ပါတယ်။ ကိုးကွယ်ယုံကြည်မှု လွန်ပွဲမှာ အဲလီဇဘက်လည်း ပူးတွဲဒုက္ခရောက်နိုင်စရာ အကြောင်း အများကြီး ရှိတယ်။

ပုပ် (ရဟန်းမင်း) ပဥ္စမပိုင်ယပ်စ် (Pius) က အဲလီဇဘက်နဲ့ အဆက်အသွယ်ဖြတ်တဲ့ အမိန့်ထုတ်တယ်။

ဆိုလိုတာက သူမကို နန်းချရမယ်။ ၁၅၈၀ မှ ပုပ်(ရဟန်းမင်း)

တစ်ဆယ့်သုံးကြိမ်မြောက် ဂရယ်ဂိုရီ (Gregory) က အဲလီဇဘက်ကို သတ်နိုင်ရင် သတ်ကြ၊ အပြစ် မရှိစေရလို့ ကြေငြာတယ်။ ဒါပေမယ့် အခြေအနေ အားလုံးကို ခြုံကြည့်ရင် အဲလီဇဘက်ကို နန်းဆက်ဖို့ ထောက်ခံရမယ့် အချက်တွေ အများကြီး ရှိပါတယ်။ သူမ နန်းသက် တစ်လျှောက်လုံးမှာ ပရိုတက်စတင့်တွေက အင်္ဂလန်မှာ ကက်သလစ်ဩဇာ ပြန်လည် ထွန်းကား လာမှာကို သိပ်ကြောက်တယ်။ ဒီလိုမဖြစ်အောင် ထိထိရောက်ရောက် ဖြစ်နိုင်သူက အဲလီဇဘက်ပဲ ဖြစ်ပါတယ်။ အဲဒီအချက်တစ်ခုတည်းနဲ့ အင်္ဂလိပ် ပရိုတက်စတင့် လူထုတစ်ရပ်လုံးက သူမကို ဝိုင်းဝန်း ထောက်ခံ နေကြတာ ဖြစ်ပါတယ်။

အဲလီဇဘက်နဲ့ နိုင်ငံခြားရေးဝါဒကလည်း သိပ်ပြီး ပါးနပ် ကောင်းမွန်ပါတယ်။ ၁၅၆၀ ပြည့်လောက်ကစပြီး အီဒင်ဘာရာ စာချုပ်ကို လက်မှတ်ထိုးခဲ့တယ်။ ဒီစာချုပ်အရ စကော့တလန်မှာ ငြိမ်းချမ်းရေး ရခဲ့ပြီး ဖြစ်တယ်။ ပြင်သစ်နဲ့ စစ်ကိုလည်း ရပ်စဲခဲ့တယ်။ နှစ်နိုင်ငံဆက်ဆံရေး အထူး ကောင်းမွန် တိုးတက်လာပါတယ်။ အဲဒါကြောင့် တစ်ဖက်မှာ စပိန်နဲ့ မုန်းမီးပွားစရာ ကိစ္စတွေ ပေါ်လာရတယ်။ ဒါပေမဲ့ အဲလီဇဘက်က စစ်ကြေညာ တိုက်ခိုက်မှု မရှိအောင် ရှောင်ပါတယ်။ တစ်ဖက်က စပိန်မှာ တစ်ဆယ့်ခြောက် ရာစုနှစ်က သိပ်ပြီး စစ်လိုလားတဲ့ ကက်သလစ်တွေ အားကောင်းလာတော့ စပိန်နဲ့ အုပ်ချုပ်ခဲ့ဖူးတဲ့ နယ်သာလန် (Netherlands) က စပိန်ကို ပုန်ကန်တဲ့အခါ နယ်သာလန် သား ဒတ်ချ် (Dutch) တွေ အများစုက ပရိုတက်စတင့် ဖြစ်လို့ သူတို့ကို အဲလီဇဘက်က မကူမဖြစ် ကူရပြန်တယ်။ ဘုရင်မ ကိုယ်တိုင်က စစ်မလိုလားတာ မှန်ပေမယ့် သူ့အမတ်တွေနဲ့ ပါလီမန်က အများကြီးစစ်ကို လိုလား နေပြန်တယ်။ ဒါနဲ့ ၁၅၈၀ ကျော်နှစ်တွေမှာ စစ်ပြုရတော့ ဘုရင်မကို တစ်နိုင်ငံလုံးက အားတက်သရော ထောက်ခံ ခဲ့ကြပါတယ်။ ဒီနှစ်တွေအတွင်းမှာ အင်္ဂလိပ်ရေတပ်ဟာ အဲလီဇဘက်ရဲ့ လုံ့လနဲ့ တဖြည်းဖြည်း အားကောင်း လာပါတယ်။ စပိန်ဘုရင် ဒုတိယဖိလစ် (Philip II) က စပိန်အာမဒါ (Spanish Armada) အမည်နဲ့ ပိုပြီး အားကောင်းတဲ့ ရေတပ်ကို ထူထောင်နိုင်ပါတယ်။ အဲဒီ ရေတပ်အားကိုးနဲ့ အင်္ဂလန်ကို တက်သိမ်းဖို့ စီမံ ပါတော့တယ်။ ရေတပ်အင်အား နှစ်ခုကို နှိုင်းယှဉ်ရင် သင်္ဘော အရေအတွက်ချင်း တူတယ်။ ကျွမ်းကျင်တဲ့ သင်္ဘောသားကတော့ အင်္ဂလိပ်က များတယ်။ စပိန် သင်္ဘောတွေက ပိုပြီး ခိုင်ခန့်တယ်။ အမြောက် ပစ်နိုင်တဲ့ အင်အားမှာ သာတယ်။ ရေကြောင်း စစ်ကြီးကို ၁၅၈၈ မှာ တိုက်ခိုက်တဲ့အခါ စပိန်အာမဒါကို ကောင်းကောင်းကြီး နိုင်လိုက်ပါတယ်။ ဒီလိုနိုင်တဲ့ အတွက် အင်္ဂလိပ်ရေတပ် ကမ္ဘာ့တန်ခိုး အကြီးဆုံးရေတပ် ဖြစ်လာပါတော့တယ်။ အဲဒီဂုဏ်ထူး ဝိသေသကို အင်္ဂလန်က နှစ်ဆယ်ရာစုနှစ် အထိ ထိန်းသိမ်းထားနိုင်ခဲ့ပါတယ်။ ငွေရေးကြေးရေးမှာ အဲလီဇဘက်ဟာ သိပ်စေ့စပ် သေချာတယ်။ ဗြိတိသျှမင်း တွေရဲ့ ဘဏ္ဍာရေး အခြေအနေဟာ ဘုရင်မ နန်းတက်စက သိပ်ကောင်း ပါတယ်။ ဒါပေမဲ့ စပိန်နဲ့ ရန်စစ်ဘက် ပြိုင်ရတာက ငွေသိပ်ကုန်တယ်။ ဒါကြောင့် ဘုရင်မ စိုးစံတဲ့ နောက်ဆုံးနှစ်တွေမှာ ဆင်းရဲသွားပြီလို့တောင် ပြောမလို ဖြစ်ခဲ့ရပါတယ်။ ဒါပေမဲ့ ဧကရီ ဆင်းရဲတယ် ဆိုပေမယ့် နိုင်ငံကတော့ ဘုရင်မ နန်းရစကထက် အများကြီး တိုးတက်လာပါတယ်။ အဲလီဇဘက် နန်းစည်းစိမ် လေးဆယ့်ငါးနှစ် (၁၅၅၈ –

၁၆၀၃) ကာလကို အင်္ဂလန်ရဲ့ ရွှေခေတ် လို့တောင် တင်စားပြီး ခေါ်နေကြပါတယ်။ အင်္ဂလန်ရဲ့ အကျော်ကြားဆုံး စာရေးဆရာထဲမှာ အပါအဝင် ဖြစ်တဲ့ အက်ဒွပ်ဒေဗရေး (Edward de Vere) ခေါ် ကလောင် နာမည် ဝီလီယမ်ရှိတ်စပီးယား (William Shakespeare)ဟာ အဲဒီခေတ်က ပေါ်ထွန်းခဲ့တာ ဖြစ်ပါတယ်။ ဒီလိုတိုးတက်တာတွေမှာ အဲလီဇဘက်ရဲ့ ဆောင်ရွက်ချက်လည်း ပါသင့် သလောက်ပါတာ မှန်ပါတယ်။ ဥပမာ ဒေသဆိုင်ရာ လန်ဒန်မြို့ အုပ်ချုပ်ရေး အဖွဲ့က ကန့်ကွက်ပေမယ့် ရှိတ်စပီးယား ဇာတ်ရုံတွေကို အားပေးခဲ့ပါတယ်။ ဒေဗရေးကိုလည်း ငွေတော် ရက်ရက်ရောရော ပေးပြီး အားပေးတယ်။ တစ်ခု ပြောစရာကတော့ စာပေဘက်မှာ ထွန်းကားသလောက် တူရိယာ ဖြေဖျော်မှုနဲ့ စာပုံနှိပ် လုပ်ငန်းမှာ မဖွံ့ဖြိုးပါ။ အဲလီဇဘက်ခေတ်က အင်္ဂလိပ်တွေ နယ်သစ်ပယ်သစ် ရှာဖွေရေးမှာ တိုးတက်လာတာ တွေ့ရပါတယ်။ ရုရှကို အခေါက်ခေါက် သွားကြပြီး မာတင်ဖရိုဗစ်ရှာ (Martin Frobisher) နဲ့ ဂျွန်ဒေးဗစ် (John Davis) တို့က အရှေ့တိုင်းကို အနောက်မြောက်က ကျော်ပြီး သွားလို့ ဖြစ်ရမယ်လို့ မှတ်ယူပြီး လမ်းကြောင်းကို ဖော်ထုတ်ဖို့ ကြိုးစားကြတာ ဖြစ်ပါတယ်။ ဆာဖရန်စစ် ဒရိတ် (Sir Francis Drake) က (၁၅၇၇ – ၁၅၈၀) အတွင်းမှာ ကမ္ဘာကို တစ်ပတ်ပတ်ပြီး သွားတဲ့အထိ လမ်းကြောင်းကြလို့ ကာလီဖိုးနီးယား (California) ဆိပ်ကမ်းတစ်ခုကို ဝင်ရောက် ဆိုက်ကပ်ခဲ့ပါသေးတယ်။ ဆာဝေါ်တာရလေး (Sir Walter Raleigh) နဲ့ ပုဂ္ဂိုလ်တချို့က မြောက် အမေရိကမှာ အင်္ဂလိပ်နယ်သစ် ရှာဖွေနေထိုင်ဖို့ ကြိုးစား လိုက်ကြသေးတယ်။ကြိုးစားပေမယ့် မအောင်မြင်ပါ။

အဲလီဇဘက်ရဲ့ အကြီးဆုံးအမှားကတော့ အင်္ဂလန် ထီးနန်းကို ဆက်ခံမယ့်သူ ရွေးမပေးခဲ့တာ ဖြစ်ပါတယ်။

ဘုရင်မက ထီးမွေ ဆက်ခံဖို့အတွက် မင်းအပေါင်းရအောင် အိမ်ထောင်ပြုရမယ်၊ မင်းမျိုးတွေထဲက အပ်စပ်သူကို ရှာရမယ်၊ ဘာတစ်ခုမှ မလုပ်ပါ။ (ထီးနန်းဆက်ခံခွင့်အရ ရွေးပြီးရင် အဲဒီပုဂ္ဂိုလ်က သူ့ကို ရန်ရှာလိမ့်မယ်လို့ ကြောက်ရွံ့ စိုးရိမ်လို့လည်း ဖြစ်မယ်။)

ဘာအကြောင်းကြောင့်ပဲ ဖြစ်ဖြစ်၊ သူ့သာ စကော့တလန် မေရီ (Mary) ထက်စောသေရင် ပြည်တွင်းစစ် အမှန် ဆိုက်ရောက်မှာ ဖြစ်ပါတယ်။

ဘုရင်မဟာ အသက်ခုနစ်ဆယ်ထိ နေသွားတာဟာ အင်္ဂလန်အတွက် ကံကောင်းတယ်လို့ ဆိုရမယ်။ ဘုရင်မ သေမယ့်ဆဲဆဲ အခါရောက်တော့ စကော့တလန် မေရီရဲ့သားတော် စကော့တလန်ဘုရင် ဆဋ္ဌမဂျိမ်းကို ထီးမွေခံ အဖြစ် ရွေးပါတယ်။ အဲဒါမှ အင်္ဂလန်ရော စကော့တလန်ပါ မင်းတစ်မင်းတည်း ပေါင်းအုပ်ချုပ်တဲ့ (အကောင်းဆုံး) ပူးပေါင်းရေးဖြစ်မှာပါ။ ဒါပေမယ့် ဒီလိုတွေးတာဟာ မှန်မှမှန်ရဲ့လားလို့ မေးစရာ ရှိပါတယ်။ ဂျိမ်းနဲ့ သားတော်ပထမ ချားလ်စ် (Charles I) တို့ဟာ ဗြိတိသျှတွေရဲ့ စိတ်ကြိုက်ဖြစ်ဖို့ ခက်တယ်။ ဘာပြုလို့လဲ ဆိုတော့ သူတို့က သက်ဦးဆံပိုင် အာဏာရှင်သဘော အုပ်ချုပ်ရေးကို သိပ်ကျေနပ်တဲ့လူတွေ ဖြစ်နေပါတယ်။ အဲလီဇဘက်ဟာ သိပ်ပြီး

ဉာဏ်ပညာကြီး ရင့်တယ်။ နိုင်ငံရေး သမားအနေနဲ့ သိပ်ပြီး အကင်းပါးတယ်။ ဘာမဆို စိတ်လိုက်မာန်ပါ မလုပ်ဘူး။ ရှေးရိုးဆန်တယ်။ စစ်နဲ့သွေးထွက် သံယိုမှုကို မလုပ်လိုဘူး။ ဒါပေမယ့် ဆုံးဖြတ်ချက် ချပြီးရင်တော့ မဖြစ်မနေ ဆောင်ရွက်လေ့ ရှိတယ်။ ခမည်းတော်လိုပဲ ပါလီမန်နဲ့သာ တွဲဖက်ပြီး နိုင်ငံရေးကို လုပ်တယ်။ အများဆန္ဒကို လေးစားတယ်၊ အများဆန္ဒကို မလေးမစား ဖယ်ရှားဖို့ တစ်ကြိမ်တစ်ခါမှ မလုပ်ပါ။ လက်မထပ်တဲ့အပြင် သူ့ပါးစပ်ကလည်း သူဟာ အပျိုစစ်စစ်လို့ ပြောတာလည်း မှန်မှာပါ။ ဒါပေမဲ့ သူ့ကို ယောကျ်ားဆိုရင် မုန်းတယ်လို့တော့ မပြောသာပါ။ တကယ်ကတော့ ယောကျ်ားတွေနဲ့ ပြောဆိုနေရတာကို မရှောင်ဘူး၊ ရောနှောနေချင်ပါတယ်။ အမျိုးအမတ်ကို သေချာ စစ်ဆေးပြီးမှ ခန့်ထားလေ့ရှိတယ်။ ဘုရင်မ ဒီလိုနည်းလမ်း မှန်မှန်နေနိုင်တာဟာ (လောဒါဂလေဘွဲ့ခံ) ဝီလီယမ်စီခေလ် (Lord Durghley, William Cecil)ကို ၁၅၅၈ က သူကွယ်လွန်တဲ့ ၁၅၉၈ ထိ အပါးတော်မှာ ထားပြီး တိုင်ပင်ညှိနှိုင်း ဆောင်ရွက်တဲ့အတွက် ဖြစ်ပါတယ်။

အဲလီဇဘက်ရဲ့ အရေးပါတဲ့ ဆောင်ရွက်ချက်တွေကို ခြုံငုံပြီး ပြောပြရရင် ပထမအချက်က သွေးထွက်သံယိုမှု မဖြစ်အောင် ထိန်းပြီး အင်္ဂလန်မှာ သာသနာရေး ပြုပြင် ပြောင်းလဲရေးကို ဒုတိယအဆင့် လွန်မြောက်အောင် လုပ်ပေး နိုင်ခဲ့ပါတယ်။ (ဂျာမနီမှာဆိုရင် နှစ်သုံးဆယ်စစ် ၁၉၁၈ – ၁၉၄၈ တိုက်ပြီး နိုင်ငံလူဦးရေရဲ့ ၂၅ ရာခိုင်နှုန်း သေဆုံးရတာနဲ့ စာရင် သိပ်ပြီး ဘုရင်မရဲ့ဆောင်ရွက်ပုံဟာ အသေအပျောက် မရှိတဲ့အတွက် တော်ပါပေတယ်လို့ ချီးမွမ်းရတာဖြစ်ပါတယ်။) အင်္ဂလိပ် ကက်သလစ် ဂိုဏ်းဝင်တွေရဲ့ ရန်လိုနေကြတာကို တတ်နိုင် သလောက် ဖြေဖျောက်ပေးပြီး နိုင်ငံ မပြိုကွဲအောင် ထိန်းနိုင်တယ်။ ဒုတိယ အချက်က ဘုရင်မ နန်းစံတဲ့ လေးဆယ့်ငါးနှစ်ကို ကမ္ဘာ့နိုင်ငံကြီးတွေရဲ့သမိုင်းမှာ အင်္ဂလန်ရဲ့ အခြေအနေကို ရွှေခေတ် ဖြစ်ပါတယ်လို့ ပြောရလောက်အောင်အထိ ထင်ရှား ခဲ့ပါတယ်။ တတိယအချက်က အင်္ဂလန်ဟာ အခု ဘုရင်မ လက်ထက်ရောက်မှ အင်္ဂလန်ဟာ ကမ္ဘာမှာ ထိပ်တန်းနိုင်ငံ အဖြစ် တိုးတက်ပြီး ဒီအဆင့်နဲ့ ရာစု နှစ်ပေါင်းများစွာ ဆက်လက် တည်တန့်နေခြင်းပဲ ဖြစ်ပါတယ်။

အဲလီဇဘက်ဟာ အခုလို ကျော်ကြားတဲ့ ပုဂ္ဂိုလ်တွေထဲမှာ သိသိသာသာ ဘယ်သူနဲ့မှမတူတဲ့ ပုဂ္ဂိုလ်ဖြစ်တယ်။ ဒီစာအုပ်မှာပါတဲ့ ပုဂ္ဂိုလ်ဟာ အမှုကိစ္စ တစ်မျိုးမျိုးကို အသစ်ထွင်ပြီး စိတ်ကူးသစ် ပေါ်အောင်၊ သို့မဟုတ် ဝါဒသစ် ထွန်းကားအောင် လုပ်နိုင်တဲ့ ပုဂ္ဂိုလ်တွေဖြစ်တယ်။ ဒါပေမယ့် အဲလီဇဘက်ဟာ အသစ် တီထွင်သူမျိုး မဟုတ်။ သူလုပ်သမျှ ကိစ္စမှန်သမျှကိုလည်း အင်မတန် သတိထားပြီးမှ လုပ်ပါတယ်။ သူဟာ ဒါကြောင့် ရှေးဆန်သူ၊ အရိုးအစဉ်လေ့ကို လေးစားသူ ဖြစ်တယ်လို့ တွေ့ပါတယ်။ ပါလီမန် (Paliament) ရဲ့ ဩဇာအာဏာဟာ မင်းမိဖုရား ဩဇာထက် နှိုင်းယှဉ်ကြည့်ရင် ပိုမိုကြီးမား အရှာရောက် လာတယ်ဆိုတဲ့ စိတ်မသက်သာစရာ ဖြစ်ရပ်ကို တိုက်ရိုက် ဖြေရှင်းဖို့ အဲလီဇဘက် မကြိုးစားပါ။ သူလုပ်ပုံက သူ့မှာ သက်ဦးဆံပိုင် အာဏာရှိတယ်လို့ မပြ၊ မကျင့်၊ သူက ဗြိတိသျှ ဒီမိုကရေစီ (Democracy) ကို ကြီးပွားလာအောင်

ကျညီတဲ့ သဘောနဲ့နေတော့ ဒီမိုကရေစီ အုပ်ချုပ်ရေးကို ပုံဖော်ပေးနေသလို ဖြစ်လာတယ်။ စစ်တိုက်ပြီး အောင်ပွဲနဲ့ ဂုဏ်ယူလိုစိတ် အဲလီဇဘက်မှာ မရှိပါ။ လက်နက်နိုင်ငံ (Empire) ကြီး ကျယ်ပြန့် လာတာကိုလည်း မလိုလားပါ။ (တကယ်က အဲလီဇဘက် လက်ထက်က အင်္ဂလန်မှာ လက်နက်နိုင်ငံ မရှိခဲ့ပါ။) ဒါပေမယ့် အင်္ဂလိပ် ရေတပ်ကို ကမ္ဘာမှာ တန်ခိုး အကြီးဆုံး ဖြစ်အောင် လုပ်ပေးနိုင်ခဲ့လို့ အင်မတန်ကြီးမားတဲ့ ဗြိတိသျှ လက်နက်နိုင်ငံကြီး ဖြစ်ပေါ်ဖို့ အခြေခံ အုတ်မြစ်ချပေးခဲ့တာလို့ ဆိုနိုင်ပါတယ်။

ဗြိတိန် (Britain) ရဲ့ ပင်လယ်ရပ်ခြား လက်နက် နိုင်ငံဟာ အဲလီဇဘက်နတ်ရွာစံပြီးမှ ဖြစ်ထွန်းတယ်။

အများကြီး ကျယ်ပြန့်တယ်။ တော်တော့်ကိုကြာမှ ဒီလို ဖြစ်တာပါ။ ဗြိတိသျှ အင်ပါယာ ပေါ်ပေါက်လာအောင် တခြားလူတွေ အများကြီး ပါဝင် ဆောင်ရွက်တယ်။ အဲဒါအပြင် ဒီလှုပ်ရှားမှုဟာ ဥရောပ တစ်ပြင်လုံး နယ်ချဲ့တဲ့ အထဲမှာ ပါနေတယ်။ ပြီးတော့ အင်္ဂလန်ရဲ့ ပထဝီဝင် အနေအထားကလည်း အထောက်အကူ အများကြီး ပေးခဲ့ပါတယ်။ အတ္တလန်တစ် (Atlantic) သမုဒ္ဒရာကမ်းက တခြားနိုင်ငံတွေ (ပြင်သစ်၊ စပိန်နဲ့ ပေါ်တူဂီ) ပင်လယ်ရပ်ခြားမှာ အင်ပါယာကြီးတွေ အများကြီး ပိုင်ဆိုင်ခဲ့ကြပါတယ်။ ဒီလိုပဲ စပိန်ရဲ့ အန္တရာယ်ကို သူက ပယ်လှန်နိုင်စွမ်း ရှိပုံကို အကြီးအကျယ် ချဲ့ထွင် ချီးမွမ်း ချင်ရင်လည်း ဖြစ်ပါတယ်။ ပြန်ပြီး စစ်ဆေးကြည့်မယ် ဆိုရင် စပိန်ဟာ အင်္ဂလန်ရဲ့ လွတ်လပ်ရေးကို ချေမှုန်း ဖျက်ဆီးမယ့် ဘေးအန္တရာယ်ကြီးလို့ မြင်ဖို့ခက်တယ်။ အင်္ဂလိပ်ရေတပ်နဲ့ စပိန်အာမဒါတပ်တွေဟာ ရင်ဆိုင်ကြ ရတယ်လို့ မရှိပါ။ (အင်္ဂလိပ်ဘက်က သင်္ဘောတစ်စင်း တစ်လေတောင် မပျက်စီးခဲ့ပါ။) အဲဒါအပြင် သူတို့ စစ်သားတွေက အင်္ဂလန်မြေပေါ်မှာ ခြေမချနိုင်ခဲ့ပါ။ နိုင်ငံကို သိမ်းယူဖို့ဆိုတာ ဘယ်နည်းနဲ့မှ မဖြစ်နိုင်ပါ။ စပိန်တပ်သားတွေက အခြား ဥရောပနိုင်ငံတွေမှာလည်း ထင်ထင်ရှားရှား အောင်မြင်တယ် လို့လည်း မတွေ့ပါ။ စပိန်က သေးငယ်တဲ့ ဟော်လန် (Holland) လို နိုင်ငံလေးရဲ့ သူပုန်ကိုတောင် မနှိမ်နိုင်ရင် အင်္ဂလန်ကို နှိမ်နင်းနိုင်ဖို့ လုံးဝမဖြစ်နိုင်ပါ။ တစ်ဆယ့်ခြောက်ရာစုနှစ်က အင်္ဂလန် မျိုးချစ်စိတ်ဟာလည်း စပိန်တွေ လာရောက် အောင်ပွဲခံနိုင်အောင် သည်းခံမှာ မဟုတ်ပါ။ ဒီလိုဆိုရင် အဲလီဇဘက်ကို ဒီစာအုပ်မှာ ဘယ်နေရာကို ပေးမှာလဲလို့ မေးကြည့်ပါ။ အခြေခံအားဖြင့် ဒေသမှာသာ ကျော်ကြားသူပါ။ ရုရှဘုရင်မဟာပီတာ (Peter the Great) နဲ့ နှိုင်းယှဉ်ကြည့်ပါ။ ပီတာက အဲလီဇဘက်ထက် ထွင်ဉာဏ် သာတယ်။ ရုရှကို လမ်းသစ်ပေါ်ရောက်အောင် ပို့နိုင်တယ်။ ဒီလိုဆိုရင် သာမန်ရုရှအမျိုးသားကို အဲလီဇဘက်ကို ပီတာရဲ့ အထက်မှာ ထားမယ်ဆိုရင် လက်ခံနိုင်မယ် ထင်ပါသလား။ တစ်ဖက်မှာ အင်္ဂလန်က အဲလီဇဘက် နောက်ရာစုနှစ်တွေ အများကြီးမှာ သိပ်ပြောင်မြောက်အောင် ကြီးပွား တိုးတက်တာကို ထောက်ထားပြီး ပီတာနဲ့ သိပ်ခွာပြီး ထားရင်လည်း ကြိုက်မှာ မဟုတ်ပါ။ အမှန်က သူတို့နှစ်ဦး ထက်သာတဲ့ မင်းမိဖုရား သမိုင်းမှာ သိပ်များများ မရှိပါ။

# (၉၅) မိခေးလ် ဂေါ်ဗာချော့ဗ် (၁၉၃၁ – ......)

# MIKHAIL GORBACHEV (1931 – ......)

ကုန်ခဲ့တဲ့ အနှစ်လေးဆယ်အတွင်း အရေးအကြီးဆုံး နိုင်ငံရေး အဖြစ်အပျက်ကတော့ ဆိုဗီယက်ယူနီယံ အစိတ်စိတ် ကွဲပြီး ကွန်မြူနစ်ဝါဒ ကျဆုံးခြင်းပဲဖြစ်ပါတယ်။ ဒီအဖြစ်အပျက်ဟာ တစ်ကမ္ဘာလုံးကို ဆယ်စုနှစ်ပေါင်း အများကြီးကြာအောင် ဂယက်ရိုက်ပြီး ထိခိုက်လိမ့်မယ်လို့ ထင်ခဲ့ကြတယ်။ ပြိုပျက်တဲ့အခါ အံ့သြလောက်အောင် မြန်ဆန်ပြီး 'သမိုင်းဆိုတဲ့ အမှိုက်ပုံး' ထဲ ဝင်သွားပါပြီ။ ဒီလိုအံ့သြကြရတဲ့ ဆုတ်ယုတ် ကျဆင်းချိန်မှာ ပုဏ္ဏားတိုင်ကို ဘယ်ဘက် လှည့်လှည့် ဘယ်သူနဲ့ တွဲတွဲ ဖြစ်တယ်ဆိုပြီး ထင်ရှားကျော်ကြားလာသူက ဆိုဗီယက် ဆိုရှယ်လစ် သမ္မတ နိုင်ငံကို နောက်ဆုံး ၁၉၈၅ က ၁၉၉၁ ထိ ခြောက်နှစ် တိတိ ခေါင်းဆောင်ခဲ့တဲ့ မိခေးလ် ဂေါ်ဗာချော့ဗ် ဖြစ်ပါတယ်။

ဂေါ်ဗာချော့ဗ်ကို ရုရှတောင်ပိုင်း စထရောပေါလ် (Starropol) ပရီဗောလ်နိုး (Privolnoe) ရွာမှာ ၁၉၃၁ ခုက မွေးဖွား ခဲ့ပါတယ်။ သူ့ကလေးဘဝက သမိုင်းတစ်လျှောက် နိုင်ငံရေး နှိပ်ကွပ်တဲ့အခါ သွေးချောင်းစီးတယ်လို့ ပြောလောက်တဲ့ အမိုက်ရိုင်းဆုံး အာဏာရှင် ဂျိုးဇက် စတာလင် (Joseph Stalin) ခေတ်နဲ့ တိုးနေတယ်။ မိခေးလ်ရဲ့ အဘိုးအရင်း အန်ဒရေ (Andrei) က စတာလင်ရဲ့ အကျဉ်းစခန်းမှာ ကိုးနှစ် နေခဲ့ရပြီး ရုရှကို ဂျာမနီက စတင် ဝင်ရောက် တိုက်ခိုက်ချိန် မတိုင်မီ ၁၉၄၁ ခုရောက်မှ အကျဉ်းထောင်က လွှတ်ပေးခဲ့ပါတယ်။ မိခေးလ် ကိုယ်တိုင်ကတော့ အဲဒီအချိန်က ဒုတိယကမ္ဘာစစ်မှာ လက်နက်စွဲပါဝင် တိုက်ခိုက်ဖို့ ငယ်ပါသေးတယ်။ သူ့အဖေက စစ်ထဲ ဝင်ပါတယ်။ သူ့အထက်က အစ်ကိုကြီးက တိုက်ပွဲမှာ ကျတယ်။ သူတို့ဇာတိ ပရီဗောလ်နိုးကို ဂျာမနီက ကိုးလလောက် သိမ်းပိုက် ထားတာကို ခံခဲ့ရသေးတယ်။ ဒါတွေက ဂေါ်ဗာချော့ဗ်ရဲ့ ဘဝလမ်းကြောင်းမှာ ဘယ်လိုမှ မထိခိုက်ပါ။ စာသင်ကျောင်းမှာ စာတော်တယ်။ အမှတ်ပြည့် ရတယ်။ ကွန်မြူနစ်လူငယ် အသင်းဖြစ်တဲ့ ကွမ်ဆိုမိုလ် (Komsomol) ကို အသက်တစ်ဆယ့်ငါးနှစ်သား အရောက်မှာ ဝင်တယ်။ လေးနှစ်တိတိ ကောက်ရိတ်ကောက်နုတ် ကောက်လှေ့စက်ကို မောင်းပြီး အလုပ်လုပ် ခဲ့ဖူးတယ်။ မော်စကို (Moscow State University) နိုင်ငံတက္ကသိုလ် တက်ပြီး ဥပဒေ သင်တယ်။ ၁၉၅၅ မှာ ဘွဲ့ရတယ်။ တက္ကသိုလ် နေစဉ်အခိုက် (၁၉၅၂ ခုနှစ်မှာ) ကွန်မြူနစ် ပါတီဝင် ဖြစ်လာတယ်။ အဲဒီတုန်းကပဲ နောက်အခါ သူလက်ထပ်

ယူမယ့်ဇနီးလောင်း ရေစ မက်ဆီမော့ဗ်နာ တီတိုရဲန်ကော (Raisa Maximovna Titorenko) နဲ့ တွေ့ဆုံ ခဲ့ရပါတယ်။ ဘွဲ့ရပြီး မကြာခင် လက်ထပ်ကြပြီး အီရီနာ (Irina) အမည်ပေးထားတဲ့ ကလေး တစ်ယောက် ရပါတယ်။ ဥပဒေနဲ့ ဘွဲ့ရပြီး ဂေါ်ဗာချော့ဗ်က စတာဗ်ရိုပိုလ် (Stovropol) ကိုပြန်လာပြီး ပါတီမှာ အဆင့်ဆင့် လူကြီး ခေါင်းဆောင် အထိ တိုးမြင့်လာခဲ့ပါတယ်။ ၁၉၇၀ ပြည့်မှာ ဒေသပါတီကော်မတီရဲ့ ပထမ အတွင်းရေးမှူး ဖြစ်လာတော့ ရာထူးအဆင့် အများကြီး တက်သွားပြီလို့ ဆိုနိုင်ပါတယ်။ အဲဒီအခါ သူ့ မော်စကိုကို ပြောင်းရွှေ့နေထိုင်ရပါတယ်။ ၁၉၇၉ မှာ ဂေါ်ဗာချော့ဗ်ဟာ (ဆိုဗီယက်ယူနီယံကို တကယ်တမ်း အုပ်ချုပ်တဲ့) နိုင်ငံရေးဦးစီး (ပေါလစ်ဗျူရို Politburo) အဖွဲ့ဝင်လောင်း (Candidate member) ဖြစ်တယ်။ ၁၉၈၀ ပြည့် ရောက်တဲ့အခါ တင်းပြည့်အဖွဲ့ဝင် ဖြစ်လာပါတယ်။ အခုလို (၁၉၆၄ – ၁၉၈၂) အတွင်း အဆင့်ဆင့် တိုးတက်ခဲ့တာဟာ ဆိုဗီယက်ယူနီယံ (Soviet Union) ကို လီယိုနစ် ဗရက်ဇှနက်ဗ် (Leonid Brezhnev) ကြီးစိုးတဲ့ ကာလ အတွင်းက ဖြစ်ပါတယ်။ ဗရက်ဇှနက်ဗ် ကွယ်လွန်တဲ့အခါ အင်ဒရိုပော့ဗ် (၁၉၈၂ – ၁၉၈၄) က ခေတ္တ အုပ်စိုးပြီး၊ ချာနဲန်ကို (Chernenko) (၁၉၈၄ – ၁၉၈၅) ရဲ့ခေတ္တခဏ အုပ်စိုးရပါတယ်။ အဲဒီကာလအတွင်းမှာ ဂေါ်ဗာချော့ဗ်ဟာ နိုင်ငံရေးကြီးကိုင် (ပေါလစ်ဗျူရို) မှာ ထင်ရှားတဲ့လူ ဖြစ်လာပါပြီ။ ချာနဲန်ကို ၁၁ မတ် ၁၉၈၅ မှာ ကွယ်လွန်ပြီး နောက်တစ်နေ့မှာပဲ ဂေါ်ဗာချော့ဗ်ကို အတွင်းရေးမှူးချုပ် (Secretary General) ရာထူးကို ဆက်ခံ ရပါတော့တယ်။ လျှို့ဝှက် မဲပေးစနစ်နဲ့ ရွေးကောက်တာ ဖြစ်တယ်။ ဒါပေမယ့် ပြိုင်ဘက် ရေးဝါဒီ ဗစ်တာ ဂရီရှင် (Viktor Grishin) ကို မဲနည်းနည်း သာတာနဲ့ အနိုင်ရခဲ့တာဖြစ်တယ်လို့ သိရပါတယ်။ (မဲပေးတဲ့လူ တစ်ယောက် နှစ်ယောက်က တခြားဘက် ပါသွားတယ် ဆိုရင် သမိုင်းကြောင်း ဘယ်လောက် တိမ်းစောင်း သွားမယ်ဆိုတာ မတွေးဝံ့ပါ။) တခြား ဆိုဗီယက် ခေါင်းဆောင်တွေနဲ့ မတူတဲ့ အချက်က ဂေါ်ဗာချော့ဗ်ဟာ နိုင်ငံခြား (ပြင်သစ် ၁၉၆၆၊ အီတလီ ၁၉၆၇၊ ကနေဒါ ၁၉၈၃၊ အင်္ဂလန် ၁၉၈၄) ကို ပါတီ ခေါင်းဆောင် မဖြစ်မီက ရောက်ဖူးခဲ့တယ်။ ဒီတော့ သူ့ အရွေးခံရတယ်ဆိုရင် အနောက်နိုင်ငံတွေက ဂေါ်ဗာချော့ဗ် ဆိုရင် ခေတ်မီတယ်၊ အရင့်အရင်က လူတွေထက် လိုက်လျောညီထွေ ကျင့်တတ်တယ်လို့ မျှော်လင့်ကြတယ်။ ထင်သလို ဖြစ်ပါတယ်။ တကယ့် လက်တွေ့မှာ ပြုပြင် ပြောင်းလဲရေးတွေကို မြန်မြန် ထက်ထက် အရာရောက်အောင် လုပ်သွားနိုင်မယ်လို့တောင် မမှန်းမဆ နိုင်ခဲ့ကြပါ။

ဂေါ်ဗာချော့ဗ် ထိပ်တန်း ရာထူးယူတဲ့အခါ ဆိုဗီယက် ယူနီယံဟာ ကြီးကျယ်တဲ့ပြဿနာတွေကို ရင်ဆိုင်နေရတဲ့ အချိန် ဖြစ်ပါတယ်။ ဒါတွေကလည်း ဘာကြောင့် ဒီလို ကြီးလေး လာပါသလဲဆိုရင် လက်နက် တပ်ဆင်ရေးကို အစိုးရက အကြီးအကျယ် အားထုတ် ဆောင်ရွက်လို့ ဒီလို ဘဏ္ဍာရေး ဘေးဒုက္ခကြီးကို ကြုံတွေ့ရတာ ဖြစ်ပါတယ်။ ဒီလို လက်နက် အားပြိုင်ပွဲကို ရပ်လို့ရမယ်ဆိုရင် အမေရိကသမ္မတ ရော်နယ်ရီဂင် (Ronald Reagan) က စကား ကမ်းလှမ်းသလို ထိပ်သီးညီလာခံ (Summit Meeting) ကို ခေါ်မယ်လို့ သွက်သွက်လက်လက် သဘောတူ ခဲ့ပါတယ်။ ခေါင်းဆောင်ကြီး

နှစ်ဦး လေးကြိမ် တွေ့တယ်။ ဂျီနီဗာ (Geneva) မှာ ၁၉၈၅၊ ရေကျာဗစ် (Reykjavik) မှာ ၁၉၈၆၊ ဝါရှင်တန် (Washington) မှာ ၁၉၈၇ နဲ့ မော်စကို (Moscow) မှာ ၁၉၈၈ က တွေ့ခဲ့ကြပါတယ်။ ပြဇာတ်က သလို ဟန်ဆောင်ရာက တကယ်ဖြစ်ပုံမျိုး လက်နက် လုပ်ချက်ကို ကန့်သတ် ကြမယ်လို့ သဘောတူစာချုပ်ကို ဒီဇင်ဘာ ၁၉၈၇ မှာ လက်မှတ်ထိုးကြတယ်။ နျူကလီးယား (Nuclear) လက်နက်ကို တန်ခိုးကြီးနိုင်ငံတွေက တကယ်တမ်း လျှော့လုပ်ပါ့မယ်လို့ သဘောတူကြတယ်။ လက်တွေ့မှာလည်း မစ်ဆိုင်းလ် (Missiles) ဒုံးပျံ လက်နက် အလတ်စားတွေ လုပ်နေတာကို လုံးဝ ရပ်စဲခဲ့တယ်။

နိုင်ငံတကာ ဆက်ဆံရေးမှာ ရင်မောနေရတဲ့ နောက်တစ်ချက် ပြေလည်သွားပုံက ဂေါ်ဗာချော့ဗ်ရဲ့ ဆိုဗီယက် တပ်တွေကို အာဖဂန်နစ္စတန် (Afghanistan) က ရုတ်သိမ်း လိုက်ခြင်း ဖြစ်ပါတယ်။ ဘရက်ဇနက် (Brezhnev) လက်ထက်က ၁၉၇၉ က အဲဒီနိုင်ငံကို ဆိုဗီယက် တပ်တွေ လွှတ်ခဲ့တယ်။ အစက အောင်ပွဲ ရပါတယ်။ ဒါပေမဲ့ ရီဂင်က အာဖဂန် ပြောက်ကြားတပ် တွေကို မြေပြင်က ကောင်းကင်လွှတ် စတင်ဂါ (Stingar) ဒုံးပျံတွေကို ပေးတဲ့အခါ ကစပြီး (ဆိုဗီယက် လေတပ်ဟာ အရင်ကလောက် မတွင်ကျယ် နိုင်တာကို တွေ့ရပြီး တဲ့နောက်) ဒီရေကျတဲ့ ပုံမျိုးလို ဆိုဗီယက် အားကျဆင်းပြီး တိုက်ပွဲပြီးဆုံး အောင်မြင်ဖို့ ဝေးသွားခဲ့ရပါတယ်။ အပြင်လောကက ဆိုဗီယက်တွေ အာဖဂန်နစ္စတန်ကို ကျူးကျော် တိုက်ခိုက်တာကို ပြင်းပြင်းထန်ထန် ရှုတ်ချတယ်။ သက်ဆိုင်ရာ နိုင်ငံမှာလည်း စစ်ဒဏ်ကို ခံစားချက်ကြီးလို့ လူအများက မနှစ်သက်ကြပါ။ အစက ဘရက်ဇနက်ဗ်၊ အင်ဒရိုပေါ့ဗ် (Andropov)၊ ချာနန်ကို (Chernanko) နဲ့ ဂေါ်ဗာချော့ဗ်လည်း ထိပ်စက သူတို့နဲ့ ယူဆသလိုပဲ အာဖဂန်က ထွက်ပေးရရင် သိက္ခာကျမယ်လို့ ထင်ခဲ့ပါတယ်။ နောက်ဆုံးမှာတော့ ဂေါ်ဗာချော့ဗ်က အရှုံးနဲ့ပဲ ၁၉၈၈ နှစ်ဦးမှာ ဆိုဗီယက်တပ်တွေကို နုတ်သိမ်းဖို့ သဘောတူ လိုက်တယ်။ (ပြီးတော့ ကန့်သတ်ရက် မလွန်မီ ဖေဖော်ဝါရီ ၁၉၈၉ မှ ဆိုဗီယက်တပ်တွေကို ရုတ်သိမ်း ပေးခဲ့ပါတယ်။)

နိုင်ငံခြားရေး ဝါဒမှာ ဒီလိုပြောင်းတာဟာ ဇာတ်က နေသလား ထင်ရလောက်အောင် မြန်ဆန်တယ်။ ဒါပေမယ့် ဂေါ်ဗာချော့ဗ်က ပြည်တွင်းရေးမှာလည်း ပိုပြီးကြီးကျယ်တဲ့ ပြောင်းလဲမှုတွေကို လက်တွေ့ အကျိုးသက်ရောက်အောင် လုပ်ပေးပါတယ်။ ထိပ်စကပဲ ပြန်လည် တည်ဆောက်ရေး ဆိုတဲ့ အကြီးအကျယ်မှာ ဆိုဗီယက်စီးပွားရေးရဲ့ ညှဲ့ကွက်၊ ပျော့ကွက်တွေကို ဖယ်ရှားခြင်းဖြစ်ပါတယ်။ ဒီနေရာမှာ အရင်က (ဆိုဗီယက်အစိုးရကို တကယ်တမ်း အုပ်စီးထားတဲ့) ကွန်မြူနစ်ပါတီရဲ့အခန်းကို အများကြီး ဖြိုဖျက် ပစ်လိုက်တာပဲ ဖြစ်ပါတယ်။ စီးပွားရေးဘက်က တချို့လုပ်ငန်းတွေမှာ ပုဂ္ဂလိက ပါဝင်ဆောင်ရွက်ခွင့် ပေးလိုက်ပါတယ်။ ဂေါ်ဗာချော့ဗ်က သူဟာ မော့က်စ်(Marx)၊ လီနင် (Lenin) တို့ရဲ့ ခိုင်မြဲတဲ့တပည့်လို့ အမြဲပြောတဲ့ အချက် ဖြစ်တယ်။ ဆိုရှယ်လစ်ဝါဒကို စွဲစွဲမြဲမြဲ ယုံကြည် တယ်။ သူသွားရမယ့်ပန်းတိုင်က ကွန်မြူနစ်စနစ်ရဲ့ လုပ်နည်း လုပ်ဟန်ကို ပိုပြီး

တွင်ကျယ်အောင် အသင့်အတင့် ပြင်ရုံပဲဖြစ်တယ်လို့ ပြောလေ့ရှိပါတယ်။ သူ့ပြုပြင်ရေးမှာ အကြီးအကျယ် တော်လှန်တဲ့အပိုင်းက 'ပွင့်လင်းမှု' ဖြစ်ပါတယ်။ ဂေါ်ဗာချော့ဗ်က ဒီစကားကို ၁၉၈၆ က စသုံးပါတယ်။ ဘာကစပြီး ပွင့်လင်းရမယ်ဆိုတာကို သတ်မှတ်တဲ့အခါ အများအကျိုးအတွက် အစိုးရက ဆောင်ရွက်ရာမှာ လျှို့ဝှက် စီမံကိန်းဆိုတာ မရှိရလို့ ဆိုပါတယ်။

နောက်တစ်ချက်က ပုဂ္ဂလိက လုပ်ငန်းခေါ်ရမယ့် နိုင်ငံရေး ကိစ္စတွေကို လွတ်လပ်စွာ ဆွေးနွေးခွင့်ကိုလည်း ပေးရမယ်၊ ပေးမယ်လို့ ဆိုပါတယ်။ မကြာခင် ဒါမျိုး ပြောမိရေးမိ ပုံနှိပ်ဖြန့်ဝေ မိရင် ထောင်ဒဏ်နဲ့ တစ်ခါတစ်ရံ စတာလင် (Stalin) ခေတ်က သေဒဏ်အထိ ရနိုင်တဲ့ အကြောင်းအရာတွေကို အခု ပွင့်လင်းခေတ်မှာ လူတကာ ပြောနေပြီ။ ဆိုဗီယက် ဂျာနယ်တွေမှာ အစိုးရပေါ်လစီ (Policy)၊ ကွန်မြူနစ်ပါတီ၊ ဂေါ်ဗာချော့ဗ်ကိုပါ ထည့်ပြီး အစိုးရ အရာရှိကြီးတွေကို ဝေဖန်နိုင်တယ်။ ဆိုဗီယက် ဆိုရှယ်လစ်သမ္မတပြည်ထောင်စု (USSR) ကို ဒီမိုကရေစီ ပုံစံသွင်းတဲ့အခါ အရေးအပါဆုံး နောက်တစ်ချက်က ပြည်သူ့လွှတ်တော် အမည်နဲ့ ဆိုဗီယက်ပါလီမန် Parliament သစ်ကို အများဆန္ဒနဲ့ ရွေးကောက်ပွဲကို ၁၉၈၉ က ကျင်းပ ပေးတာဖြစ်ပါတယ်။ ဒီလိုရွေးကောက်ပွဲဟာ အနောက်နိုင်ငံတွေမှာ လုပ်တဲ့အခါ လွတ်လပ်ပုံမျိုးတော့ ပီပီသသ မဖြစ်နိုင်သေးဘူးလို့ ပြောနိုင်ပါတယ်။ အာဏာရ ကွန်မြူနစ် ပါတီဝင်တွေက အရွေးခံသူထဲမှာ ၉၀ ရာခိုင်နှုန်း ရှိပြီး အပြိုင်နိုင်ငံရေး ပါတီ မရှိသေးပါ။ ဒါပေမယ့် ရွေးကောက်ပွဲမှာ မဲပေးတဲ့လူတွေက လျှို့ဝှက်မဲ ပေးခွင့်ရှိတယ်။ အရွေးခံပုဂ္ဂိုလ် မှန်သမျှကို ပါတီက မဲထည့်ထားတာ ဖြစ်ပေမယ့် မဲရေတွက်တဲ့အခါ ရိုးရိုးသားသား ရေတွက်ခွင့် ရတယ်။ ကွန်မြူနစ်ပါတီ အာဏာရတဲ့ ၁၉၁၇ ကစပြီး အခုလောက် လွတ်လပ်တဲ့ ရွေးကောက်ပွဲမျိုး မရှိဖူးပါ။ ရွေးကောက်ပွဲဟာ ကွန်မြူနစ် ပါတီကို အယုံအကြည် မရှိလို့ ပွင့်ပွင့်လင်းလင်း မပြောတာတစ်ခုပဲ ရှိတော့တယ်လို့ပြောနိုင်တဲ့ ရွေးကောက်ပွဲ ဖြစ်ပါတယ်။ အရင်က ဘယ်တော့မှ မရှုံးဖူးတဲ့ ထိပ်တန်း ခေါင်းဆောင်တွေ ရှုံးတယ်။ ဘေးဖွဲ့ထွက်ပြီး သူတို့ကို ရှင်းရှင်းလင်းလင်း ဝေဖန်ခဲ့တဲ့လူတွေထဲက အတော်များများ အရွေးခံရတယ်။

ဆိုဗီယက်ဆိုရှယ်လစ် သမ္မတပြည်ထောင်စု (USSR) အတွင်းမှာ ဒီလိုအံ့သြ မှတ်သားလောက်တဲ့ ပြုပြင်ချက်တွေ လုပ်တဲ့အချိန်မှာပဲ အရှေ့ဥရောပ နိုင်ငံတွေမှာ ၁၉၈၉ – ၁၉၉၀ တွင်းမှာ ပြုံလာပြီး ပေါက်ကွဲ အံ့ကြွတဲ့ ပြောင်းခြင်းတွေ ပေါ်လာမယ်လို့ ဘယ်သူမှ ကြိုတင်ပြီး မြင်မထားမိပါ။ ဒုတိယ ကမ္ဘာစစ်ကြီး ပြီးချိန်မှာ ဒီဒေသအားလုံးကို ရုရှတပ်တွေက ဝင်ရောက် သိမ်းပိုက်ပြီး ဆိုဗီယက်ပြည်ထောင်စုကို အညံ့ခံပြီး သစ္စာခံဖြစ်တဲ့ ဘူလ်ဂေးရီးယား (Bulgaria)၊ ရိုမေးနီးယား (Rumania)၊ ပိုလန် (Poland)၊ ဟန်ဂေရီ (Hungary)၊ ချက်ကိုစလိုဗက်ကီးယား (Czecholovakea) နဲ့ အရှေ့ဂျာမနီ (East Germany) ဆိုတဲ့ ခြောက်နိုင်ငံဟာ ရုရှကို ထောက်ခံတဲ့နေရာမှာ အားကိုးလောက်တယ်လို့ အသိအမှတ် ပြုခံရပါတယ်။ ဒီလိုတက်လာတဲ့ နိုင်ငံ အစိုးရတွေကို လူထုက မနှစ်သက်ပေမယ့် သူတို့

ခေါင်းဆောင်တွေကို လှျို့ဝှက်ရဲ့နဲ့ စစ်တပ်က အားပေး ကူညီလို့ အနှစ်လေးဆယ် စိုးမိုးလာခဲ့ကြပါတယ်။ ဟန်ဂေရီမှာ ၁၉၅၆ က လူထုအုံကြွပုန်ကန်ပြီး ကွန်မြူနစ် မင်းဆိုးမင်းညစ်တွေ ပြန်ပြီး ကြီးစိုးခွင့်ရအောင် လုပ်ပေး ပြန်တယ်။ ပိုလန်ရွေးကောက်ပွဲကို ဂျွန် ၁၉၈၉ က ကျင်းပတဲ့အခါ အဲဒီကလူထုက ကွန်မြူနစ်တွေကို ထောက်ခံသူ သိပ်နည်းသွားပြီလို့ အထင်အရှား ပြသနေပေမယ့် စက်တင်ဘာ ၁၉၈၉ အထိ ကွန်မြူနစ်နဲ့ ရုရှတွေက အရှေ့ဥရောပကို အခိုင်အခန့် ချုပ်ကိုင်ထားပြီးဖြစ်တာကို တွေ့နေရပါတယ်။ ဒါပေမဲ့ အဲနှစ် ကုန်ဆုံးခါနီးရောက်တဲ့အခါ မှန်တိုင်းမှာ တဲပုတ်ကလေး ပြိုပျက်သလို သူတို့စိုးပိုင်ခွင့်ဟာလည်း ပြိုကျသွားပါတယ်။ အရှေ့ဂျာမနီက ပြသနာစပါတယ်။ အင်မတန် သတင်းဆိုးတဲ့ ဘာလင်နံရံ (Berlin Wall) ကို ၁၉၆၁ က စတင် ဆောက်တဲ့အခါကစပြီး အရှေ့ဂျာမနီကလူဟာ နံရံက ဖောက်ထွက်ပြီး အနောက်ပိုင်းကို ရောက်အောင် ကြိုးစား ကြတာကို တွေ့ရပါတယ်။ နံရံကို ဖြတ်ကျော်တဲ့လူ အတော်များများဟာ ကွန်မြူနစ်တွေ အုပ်စိုး ထားသမျှ နှစ်တွေအတွင်းမှာ ထွက်ပြေးဆဲ သေနတ်နဲ့ပစ်သတ်လို့ သေကြရပါတယ်။ ဒီနံရံဟာ အရှေ့ဂျာမနီ အပါအဝင် ကွန်မြူနစ်စိုးမိုးတဲ့ ပြည်နယ်တွေက လူတွေအတွက် သိပ်ကြီးကျယ်တဲ့ အကျဉ်းထောင်ကြီးနဲ့မခြား တည်ရှိ နေတာကို ထင်ရှားဖော်ပြတဲ့ အမင်္ဂလာ အထိမ်းအမှတ် ဖြစ်ပါတယ်။

အရှေ့ဘက်နေ ဂျာမနီလူမျိုးတွေဟာ တခြားနေရာက ဖြတ်ဝင်ဖို့လည်း မလွယ်ပါ။ သူတို့အစိုးရက နယ်ခြား တစ်လျှောက်လုံး လုံအောင်ပိတ်ပြီး သံဆူးကြိုး အထပ်ထပ် ကာတယ်။ သံဆူးကြိုး တံတိုင်းကို ဝင်ပြီး ထိမိရုံနဲ့ အသံကျယ်ကျယ်လောင်လောင် အော်မြည်ဖို့ စက်တွေလည်း တပ်ထားတယ်။ စစ်သား အစောင့်တွေ လည်း ရှိတယ်။ မိုင်းဗုံးတွေ ထောင်ထားတယ်။ ဒါတွေကို လွတ်အောင် ရှောင်ဖို့ မလွယ်ပါ။ ဒါပေမယ့် ၁၉၈၈ – ၁၉၈၉ မှာ အရှေ့ဂျာမနီတွေ အနောက်ကို ရောက်အောင် လာနိုင်သူတွေ အများကြီး ရှိတယ်။ သူတို့လာတဲ့လမ်းက သွယ်ဝိုက် တဲ့လမ်းဖြစ်တယ်။ ဘယ်သူ မဆို အရှေ့ဥရောပ နိုင်ငံတွေကို တရားဝင် သွားခွင့်ရှိတယ်၊ ဟိုကမှ တဆင့် အနောက်ကိုဝင်ကြရပါတယ်။ ဒီလို ကွေ့ထွက်တဲ့ လမ်းကိုပဲ ပိတ်နိုင်ဖို့ အရှေ့ဂျာမနီကို နှစ်ပေါင်းများစွာ တင်းတင်းကျပ်ကျပ် အုပ်စိုးထားတဲ့ ကွန်မြူနစ် ခေါင်းဆောင် အာရစ်ဟွန်နက်ကာ (Erich Honecker) က အောက်တိုဘာ၊ ၁၉၈၉ မှာ အစီအမံတွေ ပြုလုပ်ပါတယ်။ ဟွန်နက်ကာ ဒီလိုလုပ်တာကို ရက်အနည်းငယ် အတွင်းပါပဲ အရှေ့ဘာလင် (East Berlin) မှာ သူ့အစီအမံကို ကန့်ကွက်တဲ့ လူထုဆန္ဒပြပွဲတွေ လုပ်ပါတယ်။ ဒီလို ကိစ္စဖြစ်ဆဲမှာ ဂေါ်ဗာချော့ဗ် ဘာလင် ကိုရောက်လာပြီး ဟွန်နက်ကာကို မနှေးမဖင့် ပြုပြင်ရေးတွေ လုပ်ဖို့ နှိုးဆော်ပါတယ်။ ဆန္ဒပြပွဲကိုလည်း အကြမ်းဖက်ပြီး မဖြိုခွဲဖို့ အကြံပေးတယ်။ အရှေ့ဂျာမနီမှာ အဲဒီအချိန်က ဆိုဗီယက် တပ်သား ၃၈၀၀၀၀ (သုံးသိန်းရှစ်သောင်း) ကိုလည်း အရှေ့ ဂျာမနီတွေကို နှိမ်နင်းဖို့ မသုံးဖို့ တားပါတယ်။ ဂေါ်ဗာချော့ဗ် ဒီလို ဝင်ပြောလို့ အရှေ့ဂျာမနီရဲ့နဲ့ စစ်သားတွေ လုပ်တော့မယ့် သတ်ဖြတ်ပွဲကြီးကို တားဆီး မိတယ်။ ဆန္ဒပြသူတွေရဲ့ မျှော်မှန်းချက်တွေလည်း ရနိုင်မယ့် အလားအလာရှိကြောင်း ထင်ရှားစေတယ်။

ရက်အနည်းငယ် အတွင်းမှာပဲ အရှေ့ဂျာမနီရဲ့ မြို့ကြီး အသီးသီးမှာ လူထု ဆန္ဒပြပွဲကြီးတွေ ပေါ်လာလို့ သီတင်းနှစ်ပတ် အတွင်းမှာ ဟွန်နက်ကာ ရာထူးက နုတ်ထွက် လိုက်ရတယ်။ ဒါပေမယ့် သူ့နေရာကို ကွန်မြူနစ်တစ်ဦးဖြစ်တဲ့ အီဂွန် ကရဲင့်ဇ် (Egon Krenz) က ဆက်ခံတယ်။ နယ်ခြားကလည်း ပိတ်မြဲပိတ်ထား သေးလို့ လူထု ဆန္ဒပြပွဲတွေ ဆက်လုပ်တယ်။ နောက်ဆုံး ၉၊ နိုဝင်ဘာ ၁၉၈၉ မှာ ကရဲင့်ဇ်က ဘာလင်နံရံ (Berlin Wall) ကို ဖွင့်ပေးမယ်၊ အရှေ့ဂျာမန်တွေဟာ အနောက်ဘက်ကို စိတ်တိုင်းရှိ သွားလာခွင့်ပေးမယ်လို့ ကြေညာရပါတယ်။ ဒီကြေညာချက်လို ဘယ်ကြေညာချက်ကိုမှ လူထုက သောင်းသောင်းဖျဖျ ကြိုဆိုတာမျိုး ကြုံဖူးမယ် မထင်ပါ။ အဲဒါအပြင် ဒါကိုစွဲပြီး လျင်မြန်ကြီးကျယ်တဲ့ အကျိုးဆက် တွေလည်း မကြုံဖူးပါ။ အရှေ့ဂျာမနီကလူတွေဟာ ရက်အနည်းငယ် အတွင်းမှာ အရေအတွက် သန်းနဲ့ချီပြီး နယ်စပ်ကို ဖြတ်တယ်။ အကြောင်းပြချက်က အနောက်မှာ လူတွေဘယ်လို ချမ်းချမ်းသာသာ နေရစားရသလဲဆိုတာ မျက်မြင် ကိုယ်တွေ့ ကြည့်ချင်လို့ပါတဲ့။ ဒီလိုမြင်ရတဲ့အခါ အနှစ်လေးဆယ်အတွင်းမှာ ငါတို့ရဲ့ ကြီးပွားခွင့်၊ လွတ်လပ်ခွင့်တွေ လုယူတာခံခဲ့ရပါကလားလို့ ထင်ထင်ရှားရှား မြင်ကြရ၊ သိကြရပါတယ်။ အရှေ့ဥရောပ တစ်လျှောက်လုံးမှာ ဘာလင်တံတိုင်းနဲ့ ပတ်သက်လို့ လူတွေ သဘောထားပုံဟာ အရင်အနှစ်နှစ်ရာက ဘက်စတီး Bastille အကျဉ်းထောင်ကြီး ဖျက်လိုက်လို့ လူတွေ တားမနိုင်ဆီးမရ လွတ်လပ်ပြီလို့ ကြွေးကြော်မြူးတူးပုံနဲ့ သိပ်တူနေပါတယ်။ မင်းဆိုးမင်းယုတ်တွေ လူထုကို ငါတို့ ထင်သလို နှိပ်ကွပ်တဲ့အာဏာ ငါတို့ ဆုံးရှုံးပြီလို့ ပြဇာတ် ထဲမှာ ကပြသလို မြင်ကြရတယ်။ နိုင်ငံတစ်ခုပြီး တစ်ခုမှာ လူတွေ ထကြွပြီး သူတို့ကို အကြာကြီး လွှမ်းမိုးခဲ့တဲ့ ကွန်မြူနစ်တွေကို မောင်းထုတ် လိုက်ကြတယ်။

ဘူလ်ဂေးရီးယားမှာ အနှစ်သုံးဆယ့်ငါးနှစ် လုံးလုံး သံဖနောင့်နဲ့ နိုင်ငံလူထုကို နင်းခြေခဲ့တဲ့ တော်ဒို ဇီးကော့ဗ် (Todor Zhivkov) ကို ၁၀ နိုဝင်ဘာ ၁၉၈၉ မှာ အတင်းအကြပ် ရာထူးက နုတ်ထွက်ခိုင်းတယ်။ နောက် သီတင်းတစ်ပတ်ကြာတော့ ချက်ကိုစလို ဗက်ကီးယားမြို့တော် ပရပ်ဂ် (Prague) မှာ လူထု ဆန္ဒပြပွဲကြီး လုပ်ပြီး ၁၀ ဒီဇင်ဘာ ၁၉၈၉ မှာ သမ္မတ ဂါစတာ့ဗ် ဟုဆက် (Gustav Husak) ရာထူးက ထွက်ရတယ်။ သူ့နေရာမှာ နှစ်ဦးပိုင်းက နိုင်ငံရေးနဲ့ ထောင်ကျခဲ့ရတဲ့ အတိုက်အခံ နာမည်ကြီး ဂျက်ကလာဗ် ဟဘဲလ် (Jaclav Havel) က သမ္မတ ဖြစ်လာပါတယ်။

ဟန်ဂေရီမှာ အပြောင်းအလဲက ပိုပြီးမြန်သေးတယ်။ အောက်တိုဘာ ၁၉၈၉ မှာ အတိုက်အခံပါတီတွေကို တရားဝင် အသိအမှတ်ပြုရတယ်။ ၂၆ နိုဝင်ဘာ ၁၉၈၉ မှာ လွတ်လပ်တဲ့ ရွေးကောက်ပွဲလုပ်တယ်။ ပါတီသစ်တွေက ကွန်မြူနစ်ပါတီကို အပြတ်အသတ်နိုင်လို့ သွေးထွက်သံယိုမှု မဖြစ်ဘဲ အစိုးရအာဏာ ပြောင်းလဲပေးရတယ်။ ပိုလန်မှာ အဖြစ်အပျက်တွေက ပိုပြီး မြန်ဆန် သေးတယ်။ ၁၉၈၉ ခုနှစ်ရဲ့နောက်ပိုင်းကို ဝင်လာတဲ့အခါကစပြီး နိုင်ငံရေး အနိုင်ရတဲ့ ကွန်မြူနစ် ဆန့်ကျင်ဘက်တွေက ဆိုရှယ်လစ် စီးပွားရေးကို နည်းနည်းလေးမှ မကျန် ရအောင် ဖျက်သိမ်းပြီး အပြည့်အစုံလွတ်လပ်တဲ့ ဈေးကွက် စီးပွားရေးကို

၁ ဇန်နဝါရီ ၁၉၉၀ ကစပြီး တီထွင် ကျင့်သုံး ခဲ့ပါတယ်။

အရှေ့ဂျာမနီက အီဂွန်ကရဲင့်ဇ် (Egon Krenz) ဆိုရင် နယ်ခြား အတားအဆီးကို ဖွင့်ပြီးပြီမို့ အတိုက်အခံ တွေ ကျေနပ်ကြမယ်။ ဆက်ပြီး မကျေနပ်ချက်တွေ မတင်တော့ဘူးလို့ထင်တယ်။ မဟုတ်ပါ။ ဆက်ပြီး မကျေနပ်ချက်တွေ တင်နေလို့ ကရဲင့်ဇ် (Krenz) က ၃ ဒီဇင်ဘာ ၁၉၈၉ မှာ နိုင်ငံခေါင်းဆောင် ရာထူးက ထွက်လိုက်ရတယ်။ လေးရက်ကြာတဲ့အခါ အစိုးရက လွတ်လပ်တဲ့ ရွေးကောက်ပွဲကို ခွင့်ပြုလိုက်တော့ ကွန်မြူနစ်တွေ ရွေးကောက်ပွဲမှာ အကြီးအကျယ် ရှုံးနိမ့်တာကို ဘယ်သူမှ မအံ့သြပါ။

နောက်ဆုံး တင်းခံတဲ့နေရာက ရိုမေးနီးယား (Romania) ဖြစ်ပါတယ်။ အင်မတန် မောက်မာတဲ့ အာဏာရှင် နိကိုလေ ချောင်ဆက်စကူး (Nicolae Ceausescu) က ရာထူးက ဆင်းမပေးဘူးလို့ ဆုံးဖြတ် ပြီးသားပါ။ ဆန္ဒပြပွဲတွေ လုပ်ပြီး သူ့အုပ်ချုပ်ရေးကို ရှုတ်ချတာက တီမိဆောရ (Timisoara) မှာ ၁၅ ဒီဇင်ဘာ ၁၉၈၉ က ဖြစ်တယ်။ စစ်တပ်က လူထုကို သေနတ်နဲ့ပစ်ပြီး နှိမ်နင်းတယ်။ ဒေါသထွက်နေတဲ့ လူအုပ်ကြီးကို နှိမ်မရပါ။

ဆန္ဒပြပွဲတွေ ဆက်လုပ်ပြီး မြို့တစ်မြို့က နောက်တစ်မြို့ကို ကူးစက်သွားပါတယ်။ ချောင်ဆက်စကူးကို ဖြုတ်ချတယ်။ ဖမ်းတယ်၊ ကွပ်မျက်တယ်၊ အရှေ့ဥရောပရဲ့ နောက်ဆုံး စစ်ကဲကျပြီ။ ဒီအဖြစ်အပျက်တွေဟာ တစ်ခုချင်းလည်း ကြီးကျယ်တယ်၊ စုပြီး ပေါ်ပေါက်လာတဲ့အတွက် (၁) ချက်ကိုစလို ဗက်ကီးယားနဲ့ ဟန်ဂေရီက ဆိုဗီယက် တပ်တွေကို ဖယ်ရှား ပစ်နိုင်ခဲ့တယ်။ (၂) အထက် ကွန်မြူနစ် ကပျက်ကရက် လုပ်ခဲ့ပုံနဲ့မတူတဲ့ ရွေးကောက်ပွဲ စစ်စစ်တွေကို အသစ်စက်စက် လွတ်လပ်တဲ့ နိုင်ငံတွေမှာ ကျင်းပနိုင်တယ်။ (၃) မွန်ဂိုလီးယားနဲ့ အီသီယိုပီးယားလို ဆိုဗီယက် နောက်လိုက် နိုင်ငံအချို့က မာ့က်စ်ဝါဒ (Marxism) ကို စွန့်ပစ် လိုက်ကြတယ်။ ပြီးတော့ (၄) ဂျာမနီကို အောက်တိုဘာ ၁၉၉၀ မှာ အပြီးအစီး ပြန်လည် ပေါင်းစပ်ပေးနိုင်ခဲ့တယ်။

ဒီလိုပြောင်းလဲချက်တွေထက် ပိုပြီး အရေးပါတဲ့ အချက်က ဆိုဗီယက်ဆိုရှယ်လစ် သမ္မတနိုင်ငံတွင်းမှာ အမျိုးသားရေး လှုပ်ရှားမှုတွေ အလျင်အမြန် ပေါ်ပေါက် လာခြင်း ဖြစ်ပါတယ်။ ဆိုရှယ်လစ်နိုင်ငံ ပေါင်းစုံဆိုတာ နာမည်ခံ သက်သက်ဖြစ်တယ်။ ဘယ်နိုင်ငံကမှ အလိုအလျောက် ကျေနပ်နှစ်သက်ပြီး ဒီပြည်ထောင်စုထဲကို ဝင်လာခဲ့တာ မဟုတ်ပါ။ မည္သာမတာပြောရရင် ယခင် ရုရှလက်နက်နိုင်ငံ (Old Russian Empire) ရဲ့ အမွေခံ မျှသာဖြစ်တယ်။ ဇာဘုရင် (Czar) က တိုက်ခိုက် အောင်မြင် လို့ရတဲ့ နိုင်ငံတွေကို ပြည်ထောင်စုထဲ ဇွတ်ထည့် ထားတာဖြစ်ပါတယ်။ (တိုင်းပြည်တွေရဲ့ ထောင်ကြီးလို့ အာဏာရှင်ရဲ့ အင်ပါယာကို အနောက်နိုင်ငံတွေက အပြောင်အပျက် ခေါ်လေ့ရှိပါတယ်။) လူမျိုးတွေကလည်း ဘယ်တော့ ငါတို့ လွတ်လပ် မလဲလို့ မျှော်လင့်နေတယ်။ ဥပမာ ဖြိတိသျှ၊ ပြင်သစ်၊ ဒတ်ချ် လက်နက် နိုင်ငံတွင်းက နိုင်ငံတွေက လွတ်လပ်ရေး ရချင်တဲ့ဆန္ဒနဲ့ အတူတူ ဖြစ်ပါတယ်။ စတာလင်ရဲ့ သံလက်သီး

ဒဏ်အောက်မှာ ရှိစဥ်ကလို သူ့ကိုဆက်ဆံတဲ့ အစိုးရတွေ လက်ထက် မှာလည်း လက်အောက်ခံတွေက လွတ်လပ် လိုကြောင်း လေသံမျှ မဟဝံ့ခဲ့ပါ။ ဒါပေမယ့် ဂေါ်ဗာချော့ဗ်ရဲ့ ပွင့်လင်း ကာလ (Glassnost) မှာတော့ အမျိုးသားရေး ဆန္ဒတွေကို ဖော်ထုတ် ပြောဆိုခဲ့တယ်။ သိပ်မကြာဘူး စနစ်တကျ လွတ်လပ်ရေး တောင်းဆိုလာကြပါတယ်။ အက်စတိုးနီးယား (Estonia) လတ်ဗီးယား (Latvia)၊ မော်လ်ဒေဗီးယား (Moldavia) စတဲ့ ဆိုဗီယက် သမ္မတနိုင်ငံလေးတွေမှာ မငြိမ်မသက် ဖြစ်လာတယ်။ ဒါပေမယ့် သေးငယ်လှတဲ့ လစ်သူရေးနီးယား (Lithuania) မှာ စပြီး ပွင့်ထွက် လာပါတယ်။ ၁၁ မတ် ၁၉၉၀ မှာ ကျင်းပတဲ့ ရွေးကောက်ပွဲမှာ ခွဲထွက်ခွင့် (Secession) ပြဿနာကို ရှေ့တန်းတင် လာပါတယ်။ လစ်သူရေးနီးယားပါလီမန်က ဆိုဗီယက် ဆိုရှယ်လစ် သမ္မတပြည်ထောင်စုက အပြီးအပိုင် ခွဲထွက်မယ်လို့ ဆုံးဖြတ်တယ်။ ဥပဒေ သဘောအရ လစ်သူရေးနီးယား နိုင်ငံသားတွေက ဒီလို လွတ်လပ်ရေး တောင်းခွင့်ရှိပါတယ်။ အထက် ဆယ်စုနှစ်ပေါင်းများစွာကပဲ ဆိုဗီယက် ဖွဲ့စည်းအုပ်ချုပ်ပုံ ဥပဒေမှာ ဘယ်သမ္မတနိုင်ငံ မဆို ခွဲထွက်ခွင့် ရှိတယ်လို့ ခွင့်ပြုထားပါတယ်။ ဒါပေမယ့် ဂေါ်ဗာချော့ဗ် မပေါ်ခင်က ခွဲထွက်မယ် ဆိုရင် အပီအသ နှိပ်ကွပ်ခံ ရဖို့ပဲရှိတယ်။ ခွဲထွက်ချင်သူတွေ အတွက် ဝမ်းနည်း ကြေကွဲစရာပဲ ကြုံတွေ့ရမှာဖြစ်ပါတယ်။ ဂေါ်ဗာချော့ဗ်ရဲ့ ဆောင်ရွက်ပုံက သိပ်ပြီး စိတ်ဝင်စားစရာ ကောင်းပါတယ်။ ချက်ချင်းပဲ လစ်သူရေးနီးယား ဆုံးဖြတ်ချက်ဟာ တရားနည်းလမ်း မကျဘူးလို့ ကြေညာတယ်။ ဒါနဲ့မှ ဆက်လုပ်ရင် ဒုက္ခတွေ့မယ်လို့ ခြိမ်းခြောက်တယ်။ စီးပွားရေး အဆက်အသွယ် ဖြတ်တောက်တယ်။ ဆိုဗီယက်တပ်တွေကို လစ်သူရေးနီးယား မြို့တော်ထဲမှာ ချီတက်ပြီး အင်အား ပြခိုင်းတယ်။ ဒါပေမယ့် စစ်တပ်အားကို လုံးဝ မသုံး၊ အပစ်အခတ် မရှိ၊ ခေါင်းဆောင်တွေကို ဖမ်းတယ်၊ နောက်လိုက်တွေကိုချုပ်တယ်လို့မရှိ။ (စတာလင်ဆိုရင် ဘယ်ထားမလဲ။) လစ်သူယေနီးယား ဆိုတာ သေးပါတယ်။ ဆိုဗီယက် ပြည်ထောင်စုထဲမှာ စီးပွားရေးရော၊ စစ်ရေးပါ ဘာမှ မမှုလောက်ပါ။ ဒါပေမယ့် လစ်သူယေနီးယားက လုပ်ပုံက သိပ်ထိရောက်တယ်။ သူတို့ကို ချက်ချင်း အရေးယူ ခြေမှုန်းခြင်း မလုပ်တဲ့အခါ တခြားနိုင်ငံတွေက အတင့်ရဲ လာကြတယ်။ နှစ်လအတွင်းမှာ လတ်ဗီးယား (Latvia) က ဆိုဗီယက်ဆိုရှယ်လစ်သမ္မတ ပြည်ထောင်စုက ခွဲထွက်ပြီး လွတ်လပ်ရေး ကြေညာတယ်။ နောက် ၁၂ ဂျွန် ၁၉၉၀ မှာ ဆိုဗီယက်ဆိုရှယ်လစ် သမ္မတပြည်ထောင်စုမှာ အကြီးဆုံး ဖြစ်တဲ့ ရုရှဆိုဗီယက်ဆိုရှယ်လစ်နိုင်ငံက လွတ်လပ်ရေး မကြေညာပေမယ့် သူတို့မှာ အချုပ်အချာ အာဏာရှိတယ်လို့ ကြေညာတယ်။ ငါတို့မှာ ကိုယ့်ကြမ္မာ ကိုယ်ဖန်တီးခွင့်ရှိတယ်ဆိုတာ လွတ်လပ်ရေး ကြေညာတာနဲ့ သိပ်မကွာပါ။ နှစ်ကုန်တော့ ဆိုဗီယက်ပြည်ထောင်စုဝင် တစ်ဆယ့်ငါးနိုင်ငံတွေ တချို့က ကိုယ့်မင်းကိုယ့်ချင်း ကြေညာတယ်။ တချို့က လွတ်လပ်ရေး ကြေညာတယ်။ အားလုံး လွတ်လပ်တယ်ဆိုတဲ့ သဘောပါပဲ။ ဒါတွေ အားလုံးဟာ ဂေါ်ဗာချော့ဗ်ရဲ့ အရေးကြီးတဲ့အခါ လုပ်မယ် ပြောပြီး မလုပ်လို့ မဖြစ်ရတာတွေပါ။

ကွန်မြူနစ်ပါတီရဲ့ ရှေးသဘောထားရှိတဲ့ ခေါင်းဆောင်ပိုင်းက မကျေနပ်ပါ။

ဆိုဗီယက် စစ်တပ်က လည်း မကျေနပ်ပါ။ ဩဂုတ် ၁၉၉၁ ရောက်တဲ့ အခါ သူတို့က အာဏာသိမ်းပွဲလုပ်ပါတယ်။ ဂေါ်ဗာချော့ဗ်ကို ဖမ်းတယ်။ သူလုပ်သမျှ (မလုပ်သမျှ) ကို ရောက်မယ့် အခြေအနေ ရှိပါတယ်။ ဒါပေမယ့် ဆိုဗီယက် ပြည်ထောင်စုရဲ့ တခြား ထင်ရှားတဲ့ခေါင်းဆောင် အထူးသဖြင့် ရုရှသမ္မတနိုင်ငံ ဦးဆောင်ဖြစ်တဲ့ ဗောရစ်ယဲ့လ်ဆင် (Boris Yeltsin) လိုပုဂ္ဂိုလ်က အာဏာ သိမ်းတာကို မကြိုက်။ ရုရှလူများစုကလည်း မကြိုက်၊ ဒါနဲ့ ရက်အနည်းငယ်အတွင်းမှာ အာဏာသိမ်းပွဲ ပြိုပျက် သွားရပါတယ်။ အာဏာသိမ်းပွဲ ပျက်တယ် ဆိုရင် အဖြစ်အပျက်တွေ သိပ်ပြီး မြန်ဆန်လာပါတယ်။ ကွန်မြူနစ်ပါတီမှာ ဘာတန်ခိုး ဩဇာအာဏာမှ မကျန်တော့ပါ။ ပါတီ ဘာမှ လှုပ်ရှားခွင့် မရပါ။ ပါတီပိုင် ပစ္စည်းတွေကို သိမ်းယူတာခံရတယ်။ ဒါ့အပြင် နှစ်ကုန်တဲ့ အခါ ဆိုဗီယက် ဆိုရှယ်လစ်သမ္မတ ပြည်ထောင်စုထဲက နိုင်ငံ အသီးသီးဟာ ခွဲထွက် ကုန်ကြလို့ ဆိုဗီယက် ပြည်ထောင်စုလို့ အတိအလင်း ကြေညာပြီး ဖျက်လိုက် ရပါတယ်။ ကွန်မြူနစ်စနစ်မှာ ပြုပြင်ရေး လုပ်သင့်တယ်ဆိုတဲ့ ခေါင်းဆောင်တွေကို ယဲ့လ်ဆင်လို ပါတီကို အပြီးတိုင် ဖျက်ပစ်ရမယ်လို့ ဆိုတဲ့ လူတွေက ဖယ်ထုတ် ပစ်လိုက်ကြတယ်။

ဂေါ်ဗာချော့ဗ်ကိုယ်တိုင်က ဒီဇင်ဘာ ၁၉၉၁ မှာ (ခေါင်းဆောင်) ရာထူးက နုတ်ထွက်လိုက်ပါတယ်။

ဒီအခါ နောက်ပြဿနာ တစ်ခု ပေါ်လာပြန်တယ်။ သူ ရာထူး လက်ရှိအချိန် တစ်နှစ်လုံးမှာ ပြောင်းလဲရေးတွေကို သူကိုယ်တိုင် ကိုယ်ကျ ဘယ်လောက် ပါဝင် ဆောင်ရွက် ခဲ့ပါသလဲ လို့ မေးရမှာပါ။

ဆိုဗီယက် ဆိုရှယ်လစ်သမ္မတ ပြည်ထောင်စုရဲ့ စီးပွားရေး ပြုပြင်မှုအများစုကို ပြင်ဖို့ သူကိုယ်တိုင် ခေါင်းဆောင် ပါတယ်။ ဒါပေမယ့် သူ့ကိုသိပ်ပြီး မချီးမွမ်း နိုင်ပါ။ ဆိုဗီယက်စံနစ် ညံ့လို့ ဒီလိုပြင်ပေး၊ ဟိုလိုပြင်ပေး လို့ သူ့ကို ဝိုင်း အရေးဆိုကြလို့ သူက ပြောတိုင်း ဖြစ်အောင် ဆောင်ရွက် ရတာဖြစ်ပါတယ်။ သူဝင်လုပ်ရတာလည်း မများပါဘူး။ ပြီးတော့ လုပ်သင့်တဲ့ အချိန်ထက် အများကြီး နောက်ကျနေပါပြီ။ တကယ်က ဆိုဗီယက် စီးပွားရေး ညံ့တာဟာ ဂေါ်ဗာချော့ဗ်ရဲ့ တကယ်ပြုတ်ကျဖို့ ပဓာန အကြောင်းရင်း ဖြစ်ပါတယ်။ တခြားဘက်က ကြည့်ရင် ဂေါ်ဗာချော့ဗ်ကို အရှေ့ဥရောပ လွတ်လပ်ရေးအတွက် အများကြီး ကျေးဇူးတင် ထိုက်တယ်။ ဆိုဗီယက် လက်အောက်က ခြောက်နိုင်ငံ လွတ်လပ်တယ်။ ဒါကို မလွတ်လပ်အောင် ဆုတ်ဆိုင်း ဖိနှိပ်ပစ်ဖို့ မဖြစ်နိုင်ပါ။ ဒါမျိုး ဖြစ်ပေါ်လာအောင် သူ့အရှိန်အဝါကို သုံးရတယ် ဆိုတာလည်း ငြင်းမရပါ။ အရှေ့ဥရောပမှာ ပြုပြင်မှု လိုအပ်တာ ကလည်း ရုရှအတွင်းမှာပဲ အရင်က အချုပ်အကိုင်တွေကို ရှင်းတာနဲ့ တိုက်ဆိုင်နေပါတယ်။ ဒီအခါမှာ သူကလည်း ဒီလိုပဲဖြစ်ပေါ်လာဖို့ သူက လိုလားတယ်လို့ ထပ်ပြန်တလဲလဲ ပြောတာနဲ့ လွတ်လပ်ရေး သမားတွေအဖို့ အားရှိလာကြတာလည်း မှန်တယ်။ အဲဒါအပြင် တကယ့်အရေးပါတဲ့ အောက်တိုဘာ ၁၉၈၉ မှာ အရှေ့ဂျာမနီက

လူထုဆန္ဒပြပွဲတွေ လုပ်တော့ သူကိုယ်တိုင် ပါဝင်ခဲ့တာကလည်း သူ့အတွက် သိပ်ကောင်း သွားတယ်။ ခုလိုအခြေအနေမျိုးမှာ အရင် ဆိုဗီယက် ခေါင်းဆောင်တွေဆိုရင် တပ်ကို ခေါ်ပြီး သူပုန်ကို ရက်ရက်စက်စက် နှိမ်နင်းခိုင်းမှာ အမှန်ပါ။ ဂေါ်ဗာချော့ဗ်ကတော့ အောက်တိုဘာ ၁၉၈၉ မှာ သူက ဟွန်နက်ကာ အစိုးရကို ဆန္ဒပြသူတွေကို အကြည်အသာ လွှတ်ပေးဖို့ နားချပါတယ်။ ဒီလိုလုပ်လို့ ဘယ်လို ကောင်းသွားတယ်ဆိုတာ သိကြပြီးသား ဖြစ်ပါတယ်။ အလားတူကိစ္စ တစ်ခုမှ ဂေါ်ဗာချော့ဗ်က လစ်သူယေနီးယားသူပုန်ကို စစ်တပ်နဲ့ ဖိစီးချေမှုန်းမပစ်ဖို့ ပြောတာ အောင်မြင်တဲ့အတွက် တခြား ဆိုဗီယက် ပြည်ထောင်စုတွေလည်း အားကျပြီးလိုက်လုပ်ကြလို့ လွတ်လပ်ရေး အကုန်ရကုန်ကြပါတယ်။ ဂေါ်ဗာချော့ဗ်ရဲ့ တခြားအရေးပါတဲ့ လုပ်ငန်း တစ်ခုက လက်နက် တိုးချဲ့တာကို ကန့်သတ် ပေးတာအပြင် စစ်အေး (Cold War) ကို ပြီးဆုံးအောင် လုပ်နိုင်တာပဲ ဖြစ်ပါတယ်။ တချို့က ရော်နယ်ရီဂင် (Ronald Reagan) လည်း ဒီအရေးမှာ အများကြီး အရာရောက်အောင် ဆောင်ရွက် နိုင်တယ်လို့ ပြောကြပါတယ်။ ဒီမှာ စဥ်းစားစရာ ပထမအချက်က လက်နက် လုပ်တာကို ပြိုင်မယ်ဆိုရင် အမေရိကက ဆိုဗီယက်ထက် ငွေအားကောင်းလို့ သွားမပြိုင်နဲ့လို့ ပြောနိုင်တဲ့အခါ စစ်အေး (Cold War) ဟာ အလိုလို ချုပ်ငြိမ်းရတာ ဖြစ်ပါတယ်။ အဲဒါအပြင် နူကလီးယားလက်နက်ညှိနှိုင်းလို့ ရတယ် ဆိုတာနဲ့တစ်ပြိုင်နက် ဂေါ်ဗာချော့ဗ်ကို ချီးမွမ်းသလို ရီဂင်ကိုလည်း အလားတူ ချီးမွမ်းရမှာ ဖြစ်ပါတယ်။

ဒီအယူအဆ မှန်တယ်ဆိုရင် စစ်အေးအတွက် အမေရိကပြည်ထောင်စုနဲ့ ဆိုဗီယက်ပြည်ထောင်စု နှစ်ခုစလုံး အပြစ်ရှိတယ်လို့ ပြောရမှာဖြစ်ပါတယ်။ ဒါပေမယ့် သေသေချာချာ စစ်ရင် ဒီစကား မမှန်ပါ။ စစ်အေးက စတာလင်နဲ့ သူ့ကိုဆက်ခံသူတွေရဲ့ စစ်တပ်ကို တိုးချဲ့တာကြောင့် ဖြစ်တယ်။ အမေရိက ပါဝင်လာရတာက သူ့ဘက်က လုံခြုံရေး စိတ်ပူးကြောင့် ဖြစ်ရတာလို့ ပြောနိုင်တယ်။ ဆိုဗီယက်ခေါင်းဆောင်တွေဟာ တစ်ကမ္ဘာလုံးကို ကွန်မြူနစ် လွှမ်းခြုံဖို့ ငါတို့တာဝန်လို့ ယူဆနေသမျှ အနောက်နိုင်ငံတွေက (အညံ့မခံချင်ရင်) ဖက်ပြိုင်ရတော့မှာ အမှန်ဖြစ်ပါတယ်။ ဆိုဗီယက်ဘက်က ဒီလို သဘောထားကို စွန့်လွှတ်တဲ့ ခေါင်းဆောင် ပေါ်လာပြီ ဆိုရင် အရင်က ရပ်မရဘူးဆိုတဲ့ စစ်အေးဟာ အလိုလို အရည်ပျော် သွားပါတယ်။

ဂေါ်ဗာချော့ဗ်ကို ဆိုဗီယက်ပြည်ထောင်စုအတွင်းမှာ နိုင်ငံရေး အပြောင်းအလဲတွေ ဖြစ်အောင် စွမ်းဆောင် နိုင်လို့ သာပြီး ချီးကျူးသင့်ပါတယ်။ ကွန်မြူနစ် ပါတီ ဩဇာ ကျအောင် ပြောရေးဆိုခွင့် ပွင့်လင်း လာအောင်၊ လွတ်လပ်စွာ ရေးခွင့်၊ လွတ်လပ်စွာ ပြောခွင့်စတဲ့ တစ်နိုင်ငံလုံးမှာ ဒီမိုကရေစီဘက်က အောင်မြင် လာအောင် ဆွဲဆောင်နိုင်တဲ့ အတွက်၊ အဲဒါတွေမှာ ဆိုဗီယက်က သူများတွေ နှိပ်ကွပ်တာထက် သာတဲ့အတွက် ဂေါ်ဗာချော့ဗ် သာ မပေါ်လိုက်ရင် ဒါတွေ ချုပ်ငြိမ်းအောင်လုပ်ဖို့ သိပ်ခက်မှာ ဖြစ်ပါတယ်။

ပွင့်လင်းတယ် ဆိုတာက သူ့တထူးက သူ့ကိုခိုင်းတာလည်း မဟုတ်၊ တခြားနိုင်ငံရေး ဥဩချောင် အဖွဲ့ဝင်တွေက စိတ်ကူးရတာလည်း မဟုတ်၊ ဂေါ်ဗာချော့ဗ်ရဲ့ စိတ်ကူး သက်သက် ဖြစ်တယ်။ သူ့များတွေက ဘယ်လောက်ပဲ ဖျက်ဖျက် သူက မပျက်တမ်း ဆက်လက် ဆောင်ရွက်တဲ့ အချက် ဖြစ်ပါတယ်။

ဒီပွင့်လင်းချက်က ဆိုဗီယက်စနစ် နောက်ဆုံး ပြုတ်ကျအောင် လုပ်နိုင်တာဟာ တခြားကိစ္စတွေထက် ဒါကြောင့်လို့ပဲ မှတ်ယူသင့်တယ်။ ဒီမှာ ဆက်ပြီး ပြောစရာက အခုလို သိပ်အရေးကြီးတဲ့ အတွေးအခေါ် တော်လှန်ရေးမှာ အကြမ်းမကိုင်ဘဲ ဖြစ်မြောက်သွားတာကို တကယ် ချီးမွမ်း လောက်တယ်လို့ ဆိုရပါမယ်။ ဒီလို ချောချော မောမော ဖြစ်မြောက် အောင်မြင် သွားတာဟာ ဂေါ်ဗာချော့ဗ် အာဏာ ရှိခိုက် သူ့ ဆောင်ရွက်ပုံတွေ အပေါ်မှာ အများကြီး အခြေခံနေပါတယ်။ ဂေါ်ဗာချော့ဗ်ရဲ့ ဆောင်ရွက်ချက်တွေထဲမှာ အရေးအပါဆုံး ဖြစ်တဲ့ ဂျာမနီနှစ်ပိုင်းကို ပြန်ပြီး ပေါင်းပေးနိုင်တယ်။ ဆိုဗီယက် ပြည်ထောင်စုကို အပိုင်းပိုင်း လုပ်ပစ်လိုက်တယ်။ ကွန်မြူနစ်ပါတီ ချုပ်ငြိမ်း သွားတယ် ဆိုတာတွေဟာ သူ့အတွေး၊ သူ့လက်ရာ မဟုတ်ပါ။ အဲဒီစကား မှန်ပေမယ့် သူပါဝင်ရတဲ့ အခန်းကို လျှော့တွက်လို့ မရပါ။ နိုင်ငံရေး ခေါင်းဆောင် တစ်ဦးရဲ့ ဩဇာဟာ (တခြား ပုဂ္ဂိုလ်တွေမှာ လိုပါပဲ) သူ့ရည်မှန်းချက်ကြောင့် မဟုတ်ဘဲ သူ့လုပ်ပုံကိုင်ပုံကြောင့်သာ ဖြစ်ပေါ်ရတယ်လို့ ယူဆ ရပါတယ်။ တခြားလူတွေ (ကွန်မြူနစ်ကို သိပ်ပြီး မလိုလားတဲ့ အတွက် ပါ့သ်ဝါဒ ကျဆင်းဖို့ ဆောင်ရွက်ချက် လုပ်မယ်။) တစ်ခါက ကွန်မြူနစ် ဖြစ်ဖူးတဲ့ အာသာ ကော့စလာ (Arthur Koestler) နဲ့ ဝှစ်တကာ ချိမ်ဘာ (Whitaker Chambars) တို့ကို ကွန်မြူနစ်ရဲ့ အတွင်းသဘောကို အနောက် တိုင်းသားတွေ သိအောင် ပြောပေးမယ်။ ဆိုဗီယက်ထဲက လူထက်တွေ ဖြစ်တဲ့ အန်ဒရေ ဆာခါရော့ဖ် (Andrei Sakharov) နဲ့ အဲလက်ဇန္ဒား ဆောလ်ဇဲနစ်ဇင် (Alexander Solzhenitzen) တို့လို ရုရှမှာပဲ သေလိုရင် သေစေတော့ ဆိုပြီး ပြောသင့်တာ ပြောမယ်။ တောခိုပြီး တိုက်ပွဲဝင်တဲ့ အာဖဂန်နစ္စတန်၊ အန်ဂိုလာနဲ့ နီကာရာဂွာ တို့လို ကွန်မြူနစ် နိုင်ငံရေး အာဏာ မရအောင် ရဲရဲဝံ့ဝံ့ စစ်တိုက်မယ်။ အမေရိကပြည်ထောင်စုက ဟယ်ရီထရူးမင်း (Harry Trueman)၊ ရော်ဂယ်ရီဂင် စတဲ့ နိုင်ငံရေး ခေါင်းဆောင်တွေဟာ အမေရိကန်လက်နက်၊ အမေရိကန် စီးပွားရေး ခွန်အား၊ အမေရိကန် လွတ်လပ်ရေး နှစ်သက်ပုံနဲ့ စည်းစိမ်ပြည့်ဝပုံတွေကို လက်နက် အဖြစ် သုံးပြီး ကွန်မြူနစ် ဆန့်ကျင်ရေး လုပ်ကြပါတယ်။ အဲဒီလိုပုဂ္ဂိုလ်တွေ၊ ဒါထက်မကရှိသေးတဲ့ အလားတူ ပုဂ္ဂိုလ်တွေဟာ ဂေါ်ဗာချော့ဗ် အာဏာရတဲ့ ၁၉၈၅ က ကွန်မြူနစ် နိုင်ငံကြီး ပျက်ချိန်နီးပြီလို့ ဘယ်သူမှ ကြိုပြီး မြင်မထားကြပါ။ အဲဒါအပြင် ၁၉၈၅ မှာ လီနင်(Lenin)လို၊ စတာလင်လို ပုဂ္ဂိုလ်ကို ဆိုဗီယက်နိုင်ငံမှာ ခေါင်းဆောင် ရွေးမိရင် သူတို့ အခုလိုပဲ ဖိနှိပ်မြဲ၊ စစ်အေးလည်း ရှင်သန်မြဲ ဖြစ်နေမယ်။ ဒါပေမဲ့ စတာလင်လို လူမျိုး မဟုတ်ဘဲ မိခေးလ် ဂေါ်ဗာချော့ဗ် လိုလူကိုသာ ၁၉၈၅ က ဆိုဗီယက် ပြည်ထောင်စုမှာ ထိပ်တန်း ခေါင်းဆောင် တင်မိတယ်။ သူကလည်း ဆိုဗီယက်ယူနီယံ စပြီး ထူထောင်ကတည်းက ရှိခဲ့တဲ့ ကွန်မြူနစ်ပါတီကို ဖျက်ဖို့ ဘယ်တုန်းကမှ မရည်ရွယ် ပေမယ့် သူကျင့်သုံးတဲ့ဝါဒ၊ သူလုပ်ချင်တာကို ဖြစ်အောင်

လုပ်သွားတာတွေကပဲ အထက်က ပြောခဲ့တဲ့ ကိစ္စတွေကို သူက တမင်ဖြစ်အောင် လုပ်သလို ဖြစ်နေတယ်။ ရည်ရွယ်ချက်ကို ဖယ်လိုက်ပေမယ့် သူလုပ်လို့ ကျုပ်တို့ကမ္ဘာမှာ နောက်ထပ် မပြင်နိုင်အောင် ပြောင်းလဲ သွားတာတွေ အများကြီး ရှိခဲ့ပါတယ်။

# (၉၆) မဲန်နက်စ် (ခရစ်မပေါ်မီ အနှစ် ၃၁၀၀ က ပေါ်ထွန်းခဲ့သူ)

## MENES (fl:c. 3100 B.C.)

မဲန်နက်စ် (Menes) ဟာ အီဂျစ် ပထမမင်းဆက် (First Egyptian Dynasty) က ပေါ်ထွန်းခဲ့တဲ့ အီဂျစ် (Egypt) မင်းတစ်ပါး ဖြစ်တဲ့၊ သူ့အစွမ်းနဲ့ အီဂျစ်ကို မင်းတစ်ပါးတည်း အုပ်စိုးခံရတဲ့ နိုင်ငံဖြစ်အောင် စုစည်း နိုင်ခဲ့ပါတယ်။ ဒီတော့ အီဂျစ်မင်းနိုင်ငံ (Egyptian Kingdom) ရယ်လို့ ပထမဆုံး အကြိမ် ပေါ်လာပြီး လူသားတွေရဲ့ယဉ်ကျေးမှုကို ကြာရှည်လေးမြင့် ဝင့်ကြွားစရာ ဖြစ်ပေါ်စေခဲ့ပါတယ်။

မဲန်နက်စ် (MAnes) ရဲ့ ဖွားရက်၊ ကွယ်လွန် ရက်တွေကို အတိအကျ မပြောတတ်တော့ပါ။ ဒါပေမယ့် ခရစ်မပေါ်မီ အရင် အနှစ်သုံးထောင့်တစ်ရာလောက်က ပေါ်ထွန်းခဲ့တယ်လို့ ထင်ပါတယ်။ အဲဒီအခါမတိုင်မီက အီဂျစ်ဟာ နိုင်ငံတစ်ပေါင်းတည်း မဖြစ်သေးပါ။ နှစ်နိုင်ငံမှာ မင်းတစ်ပါးစီ အုပ်စိုး နေပါတယ်။ တစ်နိုင်ငံက နိုင်းမြစ်ဝကျွန်းပေါ် အရပ် (Nile Delta) ဖြစ်ပြီး မြောက်ဘက်မှာ ရှိတယ်။ နောက်တစ်နိုင်ငံက နိုင်းမြစ်ဝှမ်း (Nile Valley) ဖြစ်ပြီး တောင်အရပ် ဖြစ်ပါတယ်။ ရှေးအခါက အီဂျစ်မြေပုံကို ရေးဆွဲကြရင် မြစ်ဝနဲ့ပင်လယ်ကို မြေပုံရဲ့ အောက်ဘက်မှာ ထားပြီး ဆွဲကြပါတယ်။ အဲဒါကြောင့် အီဂျစ်လူမျိုးတွေက မြောက်ပိုင်းကို (Lower Egypt) အီဂျစ် အောက်ပြည်လို့ ခေါ်ပြီး တောင်ဘက်နိုင်ငံကို (Upper Egypt) အီဂျစ် အထက်နိုင်ငံလို့ ခေါ်စမြဲ ဖြစ်ပါတယ်။ အလွယ်ပြောလေ့ရှိတာက အောက်ပြည်က အညာထက် အစစသာတယ်။ ဒါပေမဲ့ တောင်ဘက်အညာ ဘုရင် မဲန်နက်စ်က အောက်ပြည်ကို သိမ်းယူပြီး အီဂျစ်ကို တစ်နိုင်ငံတည်း ဖြစ်အောင် ပေါင်းစပ် ပေးခဲ့ပါတယ်။ (နာမာ Narmer လို့လည်းခေါ်တဲ့) မဲန်နက်စ်က တောင်အီဂျစ်က သီနစ် (Thinis) မြို့ဇာတိ ဖြစ်တယ်။ မြောက်ပိုင်းကို တိုက်ခိုက် သိမ်းယူပြီးတဲ့အခါ မဲန်နက်စ်က အထက်အောက် အီဂျစ်ဘုရင်လို့ သူ့ကိုယ်သူ ဘွဲ့ပေးပြီး နောက်နှစ်ပေါင်း ရာထောင်နဲ့ချီပြီး သူ့ကိုဆက်ခံတဲ့မင်းတွေ ကလည်း ဒီဘွဲ့ကို ဆက်ပြီး သုံးစွဲကြပါတယ်။ ပြည်နယ် နှစ်နယ်ကြားလောက်မှာ မဲန်နက်စ်က မြို့တော် အသစ် တစ်မြို့ကို တည်ဆောက်ပြီး မမ်ဖစ်စ် (Memphis) လို့ အမည် ပေးတယ်။ မြို့တော်ရဲ့ တည်နေရာဟာ ပြည် နှစ်ပြည်ကို စိုးမိုးဖို့ အကောင်းဆုံးနေရာ ဖြစ်လာတယ်။ အဲဒီမမ်ဖစ်စ်မြို့ဟောင်းရာဟာ ကနေ့ကိုင်ရို

(Cairo) နဲ့ မဝေးလှပါ။ ဒီနေရာဟာ အီဂျစ်ရဲ့ ရှေ့ဆောင်မြို့တော်ကြီး အဖြစ်နဲ့ ကာလကြာမြင့်စွာ တည်ရှိခဲ့ပါတယ်။ မဲန်နက်စ် အကြောင်း ဒါ့ထက် ဆက်ပြီး ပြောစရာ နည်းနည်းပဲ ရှိပါတော့တယ်။ ဒီဘုရင်ဟာ သိပ်နန်းသက် ရှည်တယ်။ ရှေးမှတ်ရက် တစ်ခုအရ ခြောက်ဆယ့်နှစ်နှစ် မင်း အဖြစ်နဲ့ အုပ်ချုပ်ခဲ့တယ်။ ကြွားတာလည်း ဖြစ်ချင်ဖြစ်မယ်။

မဲန်နက်စ်ရဲ့ ဆောင်ရွက်ချက်က မသေးပါ။ သူပေါ် မလာခင်က အီဂျစ်ဓလေ့ (Egypt Culture) ဟာ ဆူမာ (Sumer) ထက် အများကြီး အောက်ကျတယ်။ ဆူမာက အခု အီရန် (Iran) ဖြစ်ပါတယ်။ နိုင်ငံရေး အရ အခုလို အီဂျစ်ဟာ တစ်ပေါင်းတည်း ဖြစ်လို့ အရင်က ပေါ်ထွက် ခွင့်မရတဲ့ တန်ခိုးသတ္တိတွေလည်း ပေါ်ထွက် လာပါတယ်။ တကယ်ကတော့ အခုလို ပေါင်းပြီးလို့ မကြာခင်မှာပဲ လူမှုပေါင်းသင်းရေးနဲ့ တခြားဓလေ့တွေပါ အလျင်အမြန် တိုးတက်လာလို့ အများကြီး တိုးတက် အောင်မြင်ကြီးပွားတယ်လို့ ပြောနိုင်ပါတယ်။ အစိုးရ ဖွဲ့စည်းပုံနဲ့ လူမှု ထူထောင်ပုံ တွေဟာ အခုမင်းဆက် ကစပြီး ရှေ့လာမယ့် နှစ်နှစ်ထောင်လောက် နည်းနည်းပဲ အပြုအပြင် အပြောင်းအလဲ လုပ်ရပါတယ်။ တာရှည်ခံတဲ့ အောင်မြင်မှု ဖြစ်ပါတယ်။ အရုပ်စာ (Hieroglyphic writing) ရေးနည်းလည်း စံနစ်တကျ ကောင်းမွန် ပြန့်ပွား လာတာနဲ့အမျှ အဆောက်အအုံတွေ လက်မှုပညာ တွေမှာလည်း တိုးတက် လာပါတယ်။ ရာစုနှစ် နည်းနည်း ကြာတဲ့အခါ အီဂျစ်ဓလေ့ဟာ ဆူမာရီယ (Sumeria) နဲ့ တန်းတူ လိုက်နိုင်တဲ့အပြင် တချို့မှာ သာပါသေးတယ်။ မဲန်နက်စ် နောက်အနှစ်နှစ်ထောင်မှာ အီဂျစ်ဟာ စီးပွားရေးနဲ့ ယဉ်ကျေးတဲ့ ဓလေ့မှာ စံထားစရာဖြစ်ပါပြီ။ ကမ္ဘာမှာ ထိပ်တန်း၊ သို့မဟုတ် ထိပ်တန်း အောက်ဆင့်ကို ရောက်တဲ့ နိုင်ငံဖြစ်လာပါတယ်။

ဒီလို အောင်မြင်တိုးတက်ပုံမျိုး တခြားမှာ တွေ့ရခဲ ပါတယ်။ အခုလို ရေရှည်ခံပုံမျိုးက ပြိုင်ဘက်ရှားတယ်လို့ ပြောရမှာ ဖြစ်ပါတယ်။ မဲန်နက်စ်ရဲ့ ဆောင်ရွက်ချက်ကို အကျအန မသိရလို့ သူကိုယ်တိုင်ရဲ့ စွမ်းဆောင်ချက်ဟာ အခုလို သူ့နိုင်ငံရဲ့ တိုးတက်မှုမှာ ဘယ်လောက် သူ့ရဲ့ ကျေးဇူး ရှိနေပါသလဲလို့ ပြောဖို့ သိပ်ခက်နေပါတယ်။

အားကိုးစရာ သတင်းစကား အချက်အလက်များများ မရှိတဲ့ အတွက် အမှန်းအဆပဲ ပြောကြရမှာ ဖြစ်ပါတယ်။ သူ့ဆောင်ရွက်ချက်ဟာ သိပ်အဖိုးတန်တယ် ဆိုတာကတော့ သေချာတယ်။ ယေဘုယျအားဖြင့် အီဂျစ်ရဲ့ ဖာရိုး (Pharaohs) အမည်ခံတဲ့မင်းတွေဟာ နာမည်မျှသာ အကြီးအကဲ မဟုတ်၊ တကယ်တမ်း ဘုန်းတန်ခိုးကြီးတဲ့ မင်းတွေ ဖြစ်ပါတယ်။ အဲဒါအပြင် သမိုင်းမှာ ပြန်ပြီး စစ်ကြည့်ရင် မင်းညံ့တဲ့အခါ အောင်နိုင်မှု မရှိ၊ ပိုင်နက် နယ်ပယ်ချဲ့လို့ မရ၊ ရပြီးသားနယ်ကိုတောင် ပိုင်ပိုင်နိုင်နိုင် မဆုပ်မိနိုင်လို့ အကျိုးခံစားခွင့်တွေ လျော့နည်းလိုက်တယ်။ ဒါ့ကြောင့် အခုလို အီဂျစ် တိုးပွားရတာလို့ ပြောနိုင်ပါတယ်။ အသေးစိတ် မပြောတတ်ပေမယ့် သူ့အစွမ်းကတော့ တကယ်ကြီးမှာ ဖြစ်ပါတယ်။

# (၉၇) သျှာလမိန်း (၇၄၂ – ၈၁၄)

# CHARLEMAGNE (742 – 814)

ခေတ်လယ်က မဟာချားလ်စ် (Charles the Great) ဘုရင်ကို ဖရန့်ခ် (Franks) တွေရဲ့မင်းဖြစ်လို့ သူတို့စကားသံနဲ့ သျှာလမိန်း (Charlemagne) လို့ ခေါ်ကြတာ ဖြစ်ပါတယ်။ ဒီဘုရင်က ဆက်ဆိုနီ (Saxony) ကို သိမ်းယူနိုင်တယ်။ မြင့်မြတ်တဲ့ ရောမ အင်ပါယာ (Holy Roman Empire) ကို ထူထောင်သူ၊ ဥရောပ သမိုင်းမှာ ထိပ်တန်းက မင်းတစ်ပါးဖြစ်ပါတယ်။ ချားလ်စ်ကို နောင်အခါ သူ့ရဲ့မြို့တော်ဖြစ်မယ့် အာချန် (Archan) အနီးမှာ ၇၄၂ ခုနှစ်က မွေးဖွားခဲ့တယ်လို့ ထင်ပါတယ်။ သူ့ဖခင်က ပေပုပင် (Pepin the Short) ဖြစ်ပါတယ်။ သူ့အဘိုးက ပြင်သစ်ကို မူစလင်တွေ သိမ်းယူဖို့ ၇၃၂ ခုမှာ လာရောက် တိုက်ခိုက်တဲ့အခါ တို့ (Tours) စစ်ပွဲမှာ နိုင်အောင်တိုက်ပြီး ကျူးကျော်သူတွေကို အပြီးအပိုင်နှင်ထုတ်နိုင်တဲ့ ဖရန့်ခ် (Frank) ခေါင်းဆောင် ချားလ်စ် မန်တယ်လ် (Charles Mantel) ဖြစ်ပါတယ်။ ပေပင် (Pepin) ကို ၇၅၁ မှာ ဖရန့်ခ်ဘုရင်အဖြစ် ကြေညာ လိုက်တဲ့အခါ အားပျော့တဲ့ မာရိုဗင်ဂျီယ (Merovingian) မင်းဆက် ရပ်စဲပြီး မင်းဆက်သစ် ပေါ်လာတယ်။ နောင်အခါ ဒီမင်းဆက်သစ်ကို သျှာလမိန်းကို အစွဲပြုပြီး ကာရိုလင်ဂျိယ (Carolingian) လို့ ခေါ်ပါတယ်။ ပေပင် ၇၆၈ မှာ ခုမှာ နတ်ရွာစံတဲ့အခါ ဖရန့်ခ်မင်းနိုင်ငံ (Frankish Kingdom) ကို ချားလ်စ်နဲ့ ညီတော် ကာလိုမဲန် (Carloman) တို့ ခွဲဝေပြီးယူကြတယ်။ ကံအားလျော်စွာ မမျှော်လင့်ဘဲ ကာလိုမဲန်က ၇၇၁ မှာ သေဆုံးသွားလို့ ချားလ်စ်ဟာ အသက် ၂၉ နှစ်မှာ ဖရန့်ခ်မင်း နိုင်ငံရဲ့ တစ်ဦးတည်းသော မင်း ဖြစ်ပါတယ်။

ဖရန့်ခ်နိုင်ငံဟာ အဲဒီအခါက အနောက်ဥရောပမှာ အား အကောင်းဆုံးနိုင်ငံ ဖြစ်ပါတယ်။ ချားလ်စ် နန်းရတဲ့အခါက ဖရန့်ခ်နိုင်ငံ (Frankish State) ဟာ ကနေ့ပြင်သစ် (France)၊ ဘဲလ်ဂျီယမ် (Belgium) နဲ့ ဆွစ်ဇာလန် (Switzerland) အပြင်ကနေ ဟော်လန် (Holland) နဲ့ ဂျာမနီ(Germany)ရဲ့အစိတ်အပိုင်း အတော်များများ ပါဝင်တဲ့နိုင်ငံကြီးတစ်ခု ဖြစ်ပါတယ်။ ချားလ်စ်ကလည်း အချိန်သိပ်မဆွဲပဲ ပိုင်နက်ချဲ့ဖို့ စီစဉ်တယ်။ ကာလိုမဲန်ရဲ့ မယားနဲ့ ကလေးတွေက အီတလီမြောက်ပိုင်း လွမ်းဗတ် (Lombard) နိုင်ငံမှာ ခိုလှုံနေကြတယ်။ သျှာလမိန်းဟာ လွမ်ဗတ်သူဇနီး ဒေစီဒေရတ (Desiderata) ကိုကွာရှင်းပြီး မြောက်ပိုင်းအီတလီကို သူ့စစ်တပ်နဲ့ ဝင်ရောက် တိုက်ခိုက်တယ်။ ၇၇၄ မှာ လွမ်ဗတ်ကို ချွင်းချက် မရှိ ပိုင်ပိုင်နိုင်နိုင် ရတဲ့အတွက် သူ့ပိုင်နက်ထဲမှာ

မြောက်ပိုင်း အီတလီလည်း ပါဝင်သွားပါတယ်။ နောက်ထပ် လေးကြိမ်တိုက်ခိုက်ပြီးတဲ့အခါ သူ့ကို ပြိုင်ဘက် မရှိတော့ပါ။ ကာလိုမန်ရဲ့မယားနဲ့ ကလေးတွေကို သူရပြီးတဲ့နောက် သူတို့ ဘယ်ရောက်သွားတယ်လို့ ဘယ်သူမှ မသိတော့ပါ။

ဒါတွေထက်ပိုပြီးအရေးပါတဲ့အချက်က သျှာလမိန်းက ဂျာမနီမြောက်ပိုင်းက ဆက်ဆိုနီ (Saxsony) ပြည်နယ်ကြီးကို သိမ်းယူနိုင်ခြင်း ဖြစ်ပါတယ်။ မလွယ်ပါ။ အပိုင် အနိုင်ရဖို့ ၇၇၂ ခုကစပြီး တစ်ဆယ့်ရှစ်ကြိမ် တိုက်ခိုက်ရတာ ၈၀၄ ခုနှစ်အထိ ကြာမြင့်ပါတယ်။ ဆက်ဆိုနီကို ခက်ခဲရတဲ့ အကြောင်းရင်းထဲမှာ ကိုးကွယ် ယုံကြည်မှုနဲ့ ပတ်သက်တဲ့ ပြဿနာတွေပါတယ်။ ဒီတော့ အချိန်လည်းကြာတယ်၊ သေကြေပျက်စီး ဆုံးရှုံးမှုတွေလည်း များတယ်။ ဆက်ဇွန် (Saxon) တွေဟာ မိစ္ဆာဒိဋ္ဌိတွေ ဖြစ်ပါတယ်။ သျှာလမိန်က သူ့လက်အောက် ရောက်တဲ့ ဆက်ဇွန်တိုင်း ခရစ်အယူကို ပြောင်းယူရမယ်လို့ အတင်းအကျပ် အမိန့်ထားရှိတယ်။ နှစ်ခြင်းမင်္ဂလာ (Baptism) မယူတဲ့လူ၊ ယူပြီးမှ မိစ္ဆာဒိဋ္ဌိပြန်ဖြစ်တဲ့လူ ဆိုရင် သတ်ပစ်တယ်။ ဒီလို အတင်းအကျပ် အာဏာထားပြီး အယူပြောင်းခိုင်းလို့ ဆက်ဇွန်လူဦးရေ လေးပုံတစ်ပုံ လောက် အသတ်ခံ လိုက်ရတယ်။ ချားလ်ဟာ ဂျာမနီ တောင်ပိုင်းနဲ့ အနောက်တောင် ပြင်သစ်မှာလည်း သူ့အာဏာ တည်အောင် စစ်တိုက်ခိုက်ပြီး နှိမ်နင်း ရသေးတယ်။ သူ့လက်နက်နိုင်ငံရဲ့ အရှေ့ဘက် နယ်နိမိတ် လုံခြုံဖို့ သျှာလမိန်းဟာ အဗာ (Avars) တွေနဲ့ စစ်ပွဲ ပေါင်းများစွာ တိုက်ခိုက်ရပါတယ်။ အဗာတွေက အာရှတိုက်သားဟန် (Han) တွေနဲ့ အမျိုးနီးစပ်တယ်။ သူတို့က ကနေ့ ဟန်ဂေရီ (Hungary) နဲ့ ယူဂိုစလားဗီးယား (Yugoslavia) နယ်တွေမှာ ပိုင်နက် အများကြီးရှိတယ်။ တဖြည်းဖြည်း သျှာလမိန်းက အဗာတပ်တွေကို နှိပ်ကွပ် လိုက်ပါတယ်။ ဆက်ဆိုနီနဲ့ ဗာဗေးရီယ (Bavaria) အရှေ့ဘက်က နယ်တွေကို ဖရန့်ခ်တွေက အုပ်စိုး နိုင်ပေမယ့် ဖရန့်ခ်သြဇာခံနယ်တွေဟာ အရှေ့ ဂျာမနီက ခရိုအေးရှား (Croatia) အထိ တန်းစီပြီး ရှိနေပါတယ်။

သျှာလမိန်းက တောင်ဘက် နယ်နိမိတ်ကိုလည်း ခိုင်လုံအောင်လုပ်ပါတယ်။ စပိန်ကို ၇၇၈ မှ ဝင်ရောက် တိုက်ခိုက်တယ်။ မအောင်မြင်ပါ။ ဒါပေမယ့် မြောက်ပိုင်း စပိန်မှာ နယ်ခြား ပြည်နယ်တစ်ခု ပေါ်ပေါက်လာတယ်။ အဲဒီနယ်ကို စပိန်ချီ (Spanish March) လို့ခေါ်တယ်။ သူ့သြဇာခံတယ်။ (သူ့နန်းသက် လေးဆယ့်ငါးနှစ်မှာ ဖရန့်ခ်တွေက စစ်ပွဲလေးဆယ့်လေးကြိမ် တိုက်ခဲ့ရတယ်။) သျှာလမိန်းဟာ အနောက်ဥရောပကို သူ့လက်အောက်ခံ ဖြစ်အောင် လုပ်နိုင်တယ်။ တန်ခိုးအထက်ဆုံး ကာလမှာ သူ့ပိုင်နက်ထဲမှာ ကနေ့ ပြင်သစ်၊ ဂျာမနီ၊ ဆွစ်ဇာလန်၊ ဩစတြီးယားနဲ့ အနိမ့်နိုင်ငံတွေ (Low Countries) အပြင် အီတလီထဲက အပိုင်းကြီး တစ်ပိုင်းနဲ့ နယ်စပ် ဒေသတွေဟာ သူ့ပိုင်နက်မှာ ပါဝင်နေပါတယ်။ ရောမ အင်ပါယာ ကျဆုံးပြီးနောက် ဥရောပဟာ အခုလို တစ်နိုင်ငံတည်း သဘောသက်ရောက်တဲ့ ပုံစံ ဝင်လာခြင်း မဖြစ်ဖူးသေးပါ။ သူ့နန်းသက် တစ်လျှောက်လုံးမှာ သျှာလမိန်းဟာ ပုပ်မင်းနိုင်ငံ (Popecy) နဲ့ နိုင်ငံရေးအရ မဟာမိတ် ဖြစ်ပါတယ်။ သူ အသက်ရှင်နေသ၍ ရဟန်းမင်း (Pope)

နဲ့ သူ ဆက်ဆံရာမှာ သူကသာ အခရာပုဂ္ဂိုလ် (ခေါင်းဆောင်) ဖြစ်ပါတယ်။

သျှာလမိန်းနန်းသက်မှာ အရေးကြီးဆုံး အဖြစ်အပျက် ကတော့ ခရစ်ရှစ်ရာပြည့်နှစ် ခရစ္စမတ်ရက် (Christmas Day) ဟာ ရောမ (Rome) မှာ ဖြစ်ခဲ့ပါတယ်။ အဲဒီနေ့မှာ တတိယလီယို (Leo) ရဟန်းမင်း (Pope) က ချားလ်စ်ရဲ့ခေါင်းမှာ သရဖူဆောင်းပြီး သူဟာ ရောမတွေရဲ့ ဧကရာဇ်လို့ ကြေညာလိုက်ပါတယ်။ သဘောတရားမှာ အရင်အနှစ် သုံးရာကျော်က ပျက်စီးသွားခဲ့တဲ့ အနောက် ရောမ အင်ပါယာကို ပြန်လည် ထူထောင်မိပြီလို့ ပြောကြားတာ ဖြစ်တယ်။ ဒါကြောင့် သျှာလမိန်းဟာ ဩဂတ်စတပ်ဆီဇာ (Augustus Caesar) ကို တရားဝင် ဆက်ခံသူ ဖြစ်သွားပါတယ်။ လက်တွေ့မှာ သျှာလမိန်းရဲ့ အင်ပါယာဟာ ရောမဧကရာဇ်နိုင်ငံကြီးကို ပြန်လည် ဖော်ထုတ်တယ် ဆိုတာဟာ ရယ်စရာ ကောင်းပါတယ်။

ပထမအချက်မှာ နယ်မြေအားဖြင့် ရှေးကပိုင်နက်နဲ့ အခုပိုင်နက် မတူပါ။ သျှာလမိန်းရဲ့ အင်ပါယာဟာ ကြီးတယ် ဆိုပေမယ့် အနောက် ရောမအင်ပါယာရဲ့ ထက်ဝက်မျှသာ ဖြစ်ပါတယ်။ ရှေးကအင်ပါယာမှာ ပါသလို အခု အင်ပါယာမှာလည်း ဘယ်လ်ဂျီယမ်၊ ပြင်သစ်၊ ဆွစ်ဇာလန်နဲ့ မြောက်အီတလီ ပါတယ်။ ဒါပေမယ့် အင်္ဂလန်၊ စပိန်၊ တောင်ပိုင်း အီတလီနဲ့ မြောက်အာဖရိက ဆိုတဲ့ အရင် ရောမအင်ပါယာမှာ ပါတဲ့နယ်တွေ အခုအင်ပါယာက မပိုင်ပါ။ သျှာလမိန်းရဲ့ ဩဇာ မရှိပါ။ ပြီးတော့ အခုပိုင်နက်မှာ အရေးပါတဲ့ ဂျာမနီဟာ အရင်က ရောမ လက်အောက်ခံ မဖြစ်ခဲ့ဖူးပါ။

ဒုတိယအချက်က သျှာလမိန်းဟာ ဘယ်ပုံစံနဲ့မှ ရောမသား မဟုတ်ပါ။ ဘယ်ပုံစံတွေလဲဆိုရင် မျိုးရိုးကို ကြည့်ကြည့် သူ့ပုံပန်းသဏ္ဌာန်ကို ကြည့်ကြည့်၊ သူ့ဓလေ့(အပြုအမူ) ကိုပဲကြည့်ကြည့်၊ သူက ရောမသား မဟုတ်ကြောင်း ထင်ရှားတယ်။ ဖရန့်ခ်ဆိုတာ မျိုးဆက် အရ ကျူတွန်နစ် (Teutonic) မျိုးတူစုထဲက ဖြစ်တယ်။ သျှာလမိန်းရဲ့ မွေးရာပါစကားက ရှေးဂျာမန်စကား (Old Germanic) (Dialeat) ဖြစ်တယ်။ လက်တင် (Latin) လိုတော့ သူပြောတတ်ပါတယ်။ ချားလ်စ်ဟာ မြောက်ပိုင်းဥရောပ (Europe)မှာ နေခဲ့တယ်။ အထူးသဖြင့် ဂျာမနီမှာ အနေများတယ်။ အီတလီကို လေးခေါက်သာ ရောက်ဖူးတယ်။ သူ အင်ပါယာရဲ့ မြို့တော်က ရောမ မဟုတ်၊ အေချန် (Achan) ဖြစ်တယ်။ ကနေ့ ဂျာမနီမှာ ရှိတယ်။ ဒတ်ချ်၊ ဘယ်လဂျီယမ် ဘော်ဒါနဲ့ မဝေးလှပါ။ သျှာလမိန်းရဲ့ နိုင်ငံရေး ပါးနပ်ပုံဟာ ဘယ်ပျောက် သွားသလဲလို့ မေးစရာတစ်ချက် ပေါ်လာတယ်။ သူ့ကို ဆက်ခံမယ့်သူကို မထားရစ်နိုင်ပါ။ နန်းသက် တစ်လျှောက်လုံး စစ်တွေ တိုက်ပြီး အနောက်ဥရောပ ကုန်မတတ်ကို တစ်ပေါင်းတည်း ဖြစ်အောင် လုပ်ထားပေမယ့် သူ့ကို ဆက်ခံဖို့ သားတော် သုံးပါးကို သုံးပိုင်းပိုင်းပြီး တစ်ပိုင်း စီပေးမယ် လုပ်တော့ သူ့ပေါင်းစပ်တာ ဘယ်ပျောက် သွားသလဲလို့ မေးစရာ ဖြစ်ပါတယ်။ ကံအားလျော်စွာ သူမသေခင်ကပဲ သားတော် နှစ်ပါးက ကံကုန်တယ်။ တတိယ သားတော်ဖြစ်တဲ့ ဘုရားကြည်ညိုတဲ့ လူဝီ (Louis the Pious) က ၈၁၄ ခု အေချန်မှာ သျှာလမိန်း

နတ်ရှာစံတော့ အင်ပါယာကို တစ်ပေါင်း တစ်စည်းတည်း ဆက်ခံစိုးစံခွင့်ရပါတယ်။ လူဝီကလည်း သူ့ခမည်းတော်လိုပဲ ထီးမွေကို ဆက်ခံမယ့်သူ ရှာမပေးသွားနိုင်ပါ။ သားတော်နှစ်ပါးကို ခွဲပေးတယ်။ ရန်စစ်ဖြစ်ကြတယ်။ နောက်ဆုံးမှ (၈၄၃ ခုမှာ) ဗာဒွန် (Verdon) စစ်ပြေငြိမ်း စာချုပ် ချုပ်ဆိုကြတယ်။ အဲဒီစာချုပ်အရ ဖရန့်ခ် အင်ပါယာကို သုံးပိုင်းပိုင်းတယ်။ ပထမ အပိုင်းမှာ အခုပြင်သစ် အားလုံးနီးပါး ပါတယ်။ ဒုတိယအပိုင်းက ဂျာမနီ အားလုံးနီးပါး ပါတယ်။ တတိယပိုင်းက မြောက်အီတလီနဲ့ ပြင်သစ် ဂျာမနီနယ်စပ် အကျယ်ကြီး တစ်လျှောက်လုံးပါတယ်။

သျှာလမိန်းရဲ့တန်ခိုးသတ္တိက ကျွန်တော် သတ်မှတ်တာထက် ပိုပါတယ်လို့ ပြောသူရှိကောင်းရှိမယ်။

ဘာပြုလို့လဲဆိုတော့ သူက ပျောက်ဆုံးသွားတဲ့ ရောမ အင်ပါယာကို ပြန်ပြီး ဖော်ထုတ်ပေးနိုင်တယ်။ ဥရောပ သမိုင်းမှာ အစဥ်အဆက် ဘယ်လိုဖြစ်သင့်တယ်လို့ ပုံဖော် ပေးသွားသူဟာလည်း သူပင်ဖြစ်တယ်။ အနောက် ဥရောပရဲ့ ငြိမ်းချမ်းရေးအန္တရာယ်တွေကိုလည်း သူကပိတ်ပေးသွားတယ်။ ပြင်သစ်၊ ဂျာမနီနဲ့ အီတလီတွေရဲ့ နယ်နိမိတ် အကြမ်းကိုလည်း သူက ဖော်ထုတ် ပေးသွားပါတယ်။ ခရစ်ယာန် အယူဝါဒကိုလည်း အနှံ့ဖြန့်တယ်။ နိုင်ငံနဲ့ ကျောင်းတော်ကို ရှေ့ဆက်ပြီး ရာစုနှစ်ပေါင်းများစွာ အားပြိုင်ကြဖို့ကိုလည်း သူပဲ ပုံစံချ ပစ်ခဲ့တာဖြစ်တယ်။ ကျွန်တော့် သဘောကိုပြောရရင် ဒါတွေဟာ ပုံကြီးချဲ့လွန်းတယ်။ မွန်မြတ်သော ရောမ အင်ပါယာလို့ ခေါ်တာဟာ အပိုအလုပ်ပါ။ တကယ်က သူ တည်တန့် ခိုင်မြဲအောင်လုပ်တာက ဖရန့်ခ်မင်းနိုင်ငံကို တည်တံ့ အောင်လုပ်တာ ဖြစ်ပါတယ်။ အနောက် ဥရောပကို ပေါင်းစည်း ပေးတယ်ဆိုရာမှာလည်း တကယ်သာ ရည်မှန်းတဲ့အတိုင်း ဖြစ်ထွန်းတယ် ဆိုရင် သိပ်ပြီး ချီးမွမ်းရမှာ ဖြစ်ပါတယ်။ ဒါပေမယ့် သျှာလမိန်းရဲ့ အင်ပါယာဟာ သူကွယ်လွန်ပြီး နောက်အနှစ် သုံးဆယ်ကြာတဲ့အခါ အစိပ်စိပ်ကွဲတယ်။ နောက်ထပ်ပြန်ပြီး စုစည်းလို့ မရတော့ပါ။ ပြင်သစ်၊ ဂျာမနီနဲ့ အီတလီတို့ရဲ့ ကနေ့ နယ်နိမိတ်ပါ။ သျှာလမိန်း ကြည့်ညိုသူ လူဝီတို့နဲ့ လုံးဝ မနိုင်ပါ။ အီတလီရဲ့မြောက်ဘက် နယ်နိမိတ်က အဲလ်ပ်စ် (Alps) တောင်ရိုးအလိုက် ပထဝီဝင်က ဖော်ထုတ်ထားတဲ့ နယ်နိမိတ် ဖြစ်ပါတယ်။ ပြင်သစ် ဂျာမနီ နယ်နိမိတ် ဆိုတာကလည်း ဘာသာစကားနယ်က အစ သတ်မှတ်ပြီး ဖြစ်နေပါတယ်။ ပြီးတော့ အကြမ်းအားဖြင့် ရှေးရောမ အင်ပါယာရဲ့ မြောက်ဘက် နယ်နိမိတ် ဆိုရင် လည်း ဖြစ်ပါတယ်။

သျှာလမိန်းကို ခရစ်သာသနာနယ် ကျယ်ပြန့်အောင် လုပ်ပေးတယ် ဆိုတဲ့ စကားကိုလည်း ပြန်ပြီး စစ်ဆေး ချင်တယ်။ ခရစ်ဝါဒဟာ မြောက်ဘက်ကို ဥရောပကနေ ပြန့်နေတာ သျှာလမိန်း မပေါ်မီ ရာစုနှစ်ပေါင်း များစွာကပဲ ပေါ်ပေါက်နေတဲ့ အခြင်းအရာ ဖြစ်ပါတယ်။ သူ့နောက်လည်း ရာစုနှစ်ပေါင်းများစွာ ဆက်ပြီး ပြန့်ပွားနေတာ ဖြစ်ပါတယ်။ ဆက်ဖွန်တွေကို

အကြမ်းကိုင်ပြီး ခရစ်သာသနာ ပြုတာကလည်း မလိုအပ်ပဲ ဝင်လုပ်တာဖြစ်ပါတယ်။ အင်္ဂလန်က အင်္ဂလိုဆက်ဇွန်တွေက မသတ်မဖြတ်ဘဲ ခရစ်ယာန် သာသနာဘက်ကို ကူးပြောင်းနေပါတယ်။ နောက်ပြီး ရာစုနှစ်များစွာမှာ အထူးသဖြင့် စကဲန်ဒီနေးဗီးယား (Scandinavia) မှာ အပြောအဟော သက်သက် အကြမ်းမဖက်ဘဲ အောင်မြင် နေတာဖြစ်တယ်။

သျှာလမိန်းရဲ့ စစ်မှုရေးရာမှာ အောင်ပွဲခံပြီး အနောက် ဥရောပကို ပြင်ပရန်က ကာကွယ် ပေးတယ်ဆိုတာလည်း တကယ်မဟုတ်ပါ။ ကိုးရာစုနှစ် တစ်ခုလုံးမှာ မြောက်ပိုင်းနဲ့ အနောက်ပိုင်း ပင်လယ်စပ်ကို ဗိုက်ကင်း (Vikings) ခေါ် နော်စမန် (Norseman) တွေက အလီလီ ဖျက်ဆီး လုယက်တိုက်ခိုက်တာကို ခံနေခဲ့ ရပါတယ်။ အဲဒါနဲ့ တစ်ချိန်တည်းမှာပဲ မဂ်ယာ (Magyar) မြင်းသည်တွေက ဥရောပကို အရှေ့က တိုက်တယ်၊ မူစလင်တွေက ဥရောပတိုက်ကို တောင်ဘက်က အမြဲတစေ နှောင့်ယှက်နေတာကို ခံရပါတယ်။ ဥရောပ သမိုင်းမှာ အခု လေ့လာနေတဲ့ခေတ်ဟာ လုံခြုံမှု အနည်းဆုံး ကာလ ဖြစ်ပါတယ်။ နိုင်ငံနဲ့ကျောင်းတော် တစ်ဦးကို တစ်ဦးက လွှမ်းမိုးဖို့ ကြိုးစားတာကို ဥရောပ သမိုင်းမှာ မပြတ်ကြုံရတဲ့ ပြဿနာ ဖြစ်ပါတယ်။ ကာရိုလင်ဂျီယ အင်ပါယာမှာ မပါတဲ့ နေရာတွေမှာလည်း ဒီပြဿနာ ရှိပါတယ်။ ခေတ်လယ် ကျောင်းတော်ရဲ့ စွဲလမ်းချက် တစ်ရပ်ဖြစ်လို့ သျှာလမိန်း မပေါ်လာလည်း ဒီပြဿနာက ရှိနေမှာ ဖြစ်ပါတယ်။ အသွင်အပြင် နည်းနည်း ပြောင်းချင်တယ်၊ ပျောက်ကွယ် တိမ်မြုပ်လို့ မရနိုင်စရာလို့ ဆိုရမယ်။ သူ့ကို ရောမမှာ သရဖူဆောင်းပြီး ဧကရာဇ် မြှောက်တာ ဆန်းပါတယ်။ ဒါပေမယ့် ဒီလိုမြှောက် လို့လည်း ဘာမျှ ထူးခြား ဆန်းပြားတဲ့ရလဒ်ကို မတွေ့ရပါ။ တရုတ်ကို ဖြစ်စေ၊ ကုလားကိုဖြစ်စေ သူတို့ ရှီဟွန်တိ (Shi Huang Ti)၊ ဂျန်ဂျစ်ခန် (Genghis Khan)၊ အသောက (Asoka) ကို ကြည်ညိုလေးစားသလို၊ အရေးပါ တယ်လို့ သတ်မှတ်သလို တန်းတူ ထားနိုင်သလားလို့ မေးကြည့်ပါ။ သျှာလမိန်းကို ဆွိဝဲန်တိ (Sui Wen Ti) နဲ့ နှိုင်းယှဉ်ရင် တရုတ်ဧကရာဇ်က သာတာပဲပေါ့။ တရုတ်ကို ပူးပေါင်း ပေးတဲ့ ဆွိဝဲန်တိရဲ့ ကြိုးစားချက်က ရေရှည် အကျိုးရှိတယ်။ သျှာလမိန်းရဲ့ အနောက်ဥရောပ ပေါင်းစည်းရေးက သူ့တစ်ဆက်တောင် ပြည့်အောင်မခံပါ။

ဥရောပ တိုက်သားတွေက သျှာလမိန်းရဲ့ အရေးပါပုံကို ချဲ့လွန်းတယ်လို့ ဆိုရသော်လည်း တကယ့်ကို ချဲ့လောက်တာပဲ ရှိပါတယ်။ လမ်းဗတ် (Lembard) နဲ့ အဗာ့စ် (Avas) နိုင်ငံတွေကို ဖျက်ဆီး ပစ်တယ်။ ဆက်ဆိုနီ (Saxony) ကို အောင်နိုင်တယ်။ သူ့စစ်ပွဲတွေမှာ အမြောက်အမြား သေတယ်။ အကောင်းဘက်က ပြောရ ရင်တော့ သူ့လက်ထက်မှာ ဓလေ့ပြန်လည် ဆန်းသစ်ရေး ခေတ္တခဏ ပေါ်ထွန်းခဲ့တယ်။ (သူကွယ်လွန်တဲ့အခါ သူနဲ့တစ်ပါတည်း ပျောက်ဆုံး သွားတာလည်း မှန်တယ်။) သူ့ကြောင့် ရေရှည်ဆက်ပြီး ပေါ်ပေါက်တဲ့ အဖြစ်အပျက် တွေလည်း ရှိတယ်။ သူ့နောက် ရာစုနှစ်ပေါင်းများစွာ အတွင်းမှာ ဂျာမနီဧကရာဇ်တွေက အီတလီကို လွှမ်းမိုး ချုပ်ကိုင်ဖို့ ကြိုးစားပေမယ့် မအောင်မြင်ပါ။ သျှာလမိန်း လမ်းပြလို့ အီတလီဘက် စိတ်ဝင်စားကြတာဖြစ်တယ်။ တကယ်က သူတို့သြဇာကို မြောက်ဘက်၊

အရှေ့ဘက်ကို ဖြန့်ဖို့ ကောင်းပါတယ်။ မွန်မြတ်တဲ့ ရောမအင်ပါယာကို သူကစပြီး တစ်ဆယ့်ကိုးရာစု နှစ်ဦးအထိ ဒီကိစ္စကို ဆက်လက် စိတ်ဝင်စားနေကြတာကို တွေ့ရပါတယ်။ (ဒီလိုသာ ဖြစ်နေတယ်၊ မွန်မြတ်တဲ့ ရောမ အင်ပါယာရဲ့ တန်ခိုးကတော့ ခပ်တိမ်တိမ်ပါ။ ဂျာမနီမှာ နိုင်ငံတွေ အစိပ်စိပ် ပေါက်ပြီး ကွဲပြားနေကြတာက လက်တွေ့ ဖြစ်ပါတယ်။)

သျှာလမိန်းရဲ့ အရေးပါဆုံး ဆောင်ရွက်ချက်ကတော့ ဆက်ဆိုနီကို နှိမ်နင်းလိုက်ခြင်း ဖြစ်တယ်။

အဲဒီအခါကျမှ ဥရောပ ယဉ်ကျေးမှုနယ်ထဲကို အဲဒီနယ်က ရောက်လာ ရတာ ဖြစ်ပါတယ်။ ဘာနဲ့ အလားတူသလဲဆိုရင် ဂျူလီးယက်ဆီဇာ (Julius Caesar) က ဂေါလ် (Gaul) တွေကို အောင်နိုင်လိုက်တာနဲ့ တူတယ်။ ဒါပေမဲ့ ဆက်ဆွန်နီက သေးငယ်လို့ ဒီအဖြစ်အပျက်ဟာ မဖြစ်စလောက်လို့ ပြောရင်လည်း ဖြစ်ပါတယ်။

# (၉၈) ဟိုမာ (ခရစ်မပေါ်မီ ၈ ရာစုနှစ်လောက်က ထွန်းကားသူ)

# HOMER (FL. 8th c.B.C)

ဟိုမာ့ကဗျာရယ်လို့ အမည်သာ တွင်တယ်။ တကယ်ပဲ ဟိုမာ (Homer) စပ်ဆိုတာလားလို့ ငြင်းခုံကြတာ နှစ်ပေါင်း ရာထောင်မက ရှိခဲ့ပြီ။ ဘယ်တုန်းက၊ ဘယ်မှာ၊ ဘယ်လို၊ ဧလိယဒ် (the Iliad) နဲ့ ဩဒက်စီ (the Odyssey) ကို ရေးစပ်ခဲ့ပါသလဲ၊ အထက်အထက်က ရေးပြီး ရှိတာကို ဘယ်လောက် မှီငြမ်းပြုပြီး ရေးတယ် လို့ ထင်ပါသလဲ။ ဧလိယဒ်နဲ့ ဩဒက်စီကို ရေးစပ်သူဟာ တစ်ယောက်တည်းပဲလား၊ တစ်မျိုးကို တစ်ယောက် ရေးတာများလား၊ ဟိုမာ ဆိုတဲ့လူတောင် တကယ်ရှိခဲ့ဖူးတာ ဟုတ်ပါ့မလား။ ကဗျာနှစ်ပုဒ်စလုံးဟာ တဖြည်းဖြည်း အဖြစ်အပျက်တွေ အများကြီးကို ပေါင်းစပ် ပေးထားတာလား။ အယ်ဒီတာတွေက ဆရာမျိုးစုံရဲ့ လက်ရာတွေကို ပေါင်းပေး သွားတာများလား။ လေ့လာသူတွေ နှစ်ပေါင်းများစွာ ကြာမြင့်အောင် လေ့လာပေမယ့် ဒီမေးခွန်းတွေကို ဖြေတဲ့အခါ မျိုးစုံ ပြောကြပါတယ်။ မညီမညွတ် ဖြစ်မြဲပါပဲ။ ဒီလိုဆိုရင် ခေတ်ဟောင်းကို လေ့လာတဲ့ ပညာရှင် မဟုတ်ရင် အဖြေမှန်ကို မရနိုင်ဘူး။ အဖြေကို ကျွန်တော်လည်း မသိပါ။ ဒါပေမယ့် ဒီစာအုပ်မှာ ဟိုမာကို (တစ်နေရာရာ ပေးရမယ် ဆိုရင်) အောက်မှာ ပေးထားတဲ့ မှန်းဆချက်တွေကို ထည့်ပြီး စဥ်းစားရမှာဖြစ်ပါတယ်။

ပထမမှန်းဆချက်က တစ်ဦး တစ်ယောက်က ခေါင်းတည်ပြီး ဧလိယဒ်ကို ရေးရမှာ ဖြစ်ပါတယ်။ (ကော်မတီ ဖွဲ့ပြီး ရေးတာမျိုးလို တစ်ယောက် တစ်ပေါက်နဲ့ ကချော်ကချွတ် မဟုတ်ဘူး)။ ဟိုမာ မတိုင်မီက ရာစုနှစ် များစွာကို အခုပြောနေတဲ့ အကြောင်းအရာမျိုးကို ရေးစပ်ထားတဲ့ ကဗျာတို ကလေးတွေကို ဂရိ (Greek) တခြား ကဗျာဆရာတွေက ရေးခဲ့ရမယ်။ ဟိုမာက အဲဒါတွေကို အများကြီး ယူသုံးမှာ ဖြစ်ပါတယ်။ ဒါပေမယ့် ဟိုမာဟာ ဧလိယဒ် ဖြစ်အောင် အတိုအထွာတွေကို စီပေးတာလောက်သာ လုပ်တယ်လို့ မထင်ပါ။ သူ့မှာ အကောင်းအဆိုး ရွေးချယ်နိုင်တဲ့ အစွမ်း၊ အစီအစဥ် ကောင်းအောင် လုပ်ပေးနိုင်တဲ့ အစွမ်း၊ လိုရင်လည်း ဖြည့်နိုင်တဲ့ အစွမ်း ရှိရမယ်။ အဲဒီလိုလုပ်တဲ့ အခိုက်မှာ နောက်ဆုံး သူကိုယ်တိုင်ဟာ ရသမြောက်အောင် ထူးထူးခြားခြား လက်စသတ် ပုံဖော်ပေးနိုင်သူ ဖြစ်ရမယ်။ ဟိုမာ ဆိုတဲ့လူဟာ ခုလိုပြောင်မြောက်တဲ့ လက်ရာကို ခရစ် မပေါ်မီ ရှစ်ရာစုနှစ်လောက်က

ဖော်ထုတ်ခဲ့တာ ဖြစ်မယ် ထင်ပါတယ်။ ဒါ့ထက်ပဲ စောမယ်လို့ ပြောတဲ့လူတွေ ရှိပေမယ့် ဒီရက်စွဲဟာ အဖြစ်နိုင်ဆုံး ရက်စွဲလို့ ထင်ပါတယ်။ ပြီးတော့ ဒီလူပဲ ဩဒက်စီကို ဖွဲ့ဆိုတဲ့လူ ဖြစ်ရမယ်လို့ ယူဆပါတယ်။ (ဖွဲ့ဆိုပုံကွဲလို့) ကဗျာနှစ်ပုဒ်ကို ဆရာနှစ်ဦး ရေးတာ ဖြစ်ဖို့များတယ်လို့ ဆိုနိုင်စရာ ရှိပေမယ့် ရေးစပ် ပုံကွဲတာနဲ့ ရေးစပ်ပုံ ဆင်တူတာတွေကို တန်းစီပြီး ကြည့်ရင် တူတာက များပါတယ်။

ပြောပြီးသမျှကို အချုပ်ဆိုရသော် ဟိုမာရဲ့ အကြောင်းကို နည်းနည်းလေးပဲ သိတယ်ဆိုတာ ထင်ရှားတယ်။ ဘဝနဲ့ပတ်သက်ပြီး သေချာတဲ့ အချက်အလက် မရှိ၊ ခေတ်ဦးဂရိ အခါကာလကစပြီး ပြောစကားတွေအရ ဟိုမာဟာ မျက်မမြင် ဒုက္ခိတ တစ်ယောက် ဖြစ်ပါတယ်။ ဒါပေမယ့် အဖြစ်အပျက်တွေကို စေ့စေ့စုံစုံ ရေးချက်အရ မွေးကတည်းက ကန်းတာတော့ မဖြစ်နိုင်ပါ။ စကား အသုံးအနှုန်းအရ ပြောရရင် ဟိုမာရဲ့ ဇာတိက အိုင်အိုနီယ (Ionia) ဆိုတဲ့ အေဂျင် ပင်လယ် (Aegean Sea) အရှေ့ဘက်ကမ်းက နယ်ဖြစ်မယ်။

အခုလို ကဗျာတွေကို ရှည်ရှည်ကျယ်ကျယ် သီကုံးရင် စာနဲ့ ချမရေးဘဲ ဖြစ်နိုင်စရာ ရှိပါ့မလားလို့ မေးပါ။

ပညာရှင် အများစုကတော့ အနည်းဆုံး စတင် သီကုံးတဲ့အခါ နောက်ဆုံး အဆုံးသတ်တဲ့ အထိ နှုတ်နဲ့ပဲ သီကုံးခဲ့တာ ဖြစ်မယ်လို့ ဆိုပါတယ်။ ဒီလိုဆိုရင် ဘယ်အချိန်က အက္ခရာ တင်သလဲမေးရင် အတိအကျ ပြောမရပါ။ ဘယ်လောက် ရှည်တဲ့ ကဗျာလဲ ဆိုရင် (အတွဲလိုက်လင်္ကာ ၂၈၀၀၀ နှစ်သောင်း ရှစ်ထောင် ရှိပါတယ်။) ဒါတွေကို အမှားအယွင်း အကျော်အနင်း အကျအပေါက် မရှိအောင် ရေးမထားရင် မဖြစ်နိုင်ပါလို့ ယူဆ ရမလို ဖြစ်နေပါတယ်။ ဘယ်အခြေအနေနဲ့ သီကုံးခဲ့တာဖြစ်ဖြစ် ခရစ် မပေါ်မီ ခြောက်ရာစုနှစ်ကပဲ ဒီလင်္ကာတွေဟာ သိပ်ရှေးကျတဲ့ လင်္ကာတွေ ဖြစ်နေပါပြီ။ အဲဒီအချိန်ကပဲ ဟိုမာရဲ့ အတ္ထုပ္ပတ္တိကို မပြောပြနိုင် ကြတော့ပါ။ အဲဒီနောက် ဂရိတွေက ဩဒက်ဆီနဲ့ လေယဒ်ဟာ သူတို့ အမျိုးသား စာပေမှာ အခေါင်အထွတ်က ရှိတယ်လို့ သတ်မှတ်ပြီး ဖြစ်နေပါပြီ။ ယခင် အခုကြားထဲက ရာစုနှစ်ပေါင်းများစွာမှာပဲ အဖြည့်အဖြုတ် ဘယ်လိုပဲပါပါ၊ ဟိုမာရဲ့ ဂုဏ်သတင်း ကလည်း ကျဆင်းသွားခြင်းမရှိပါ။ ဟိုမာ သိပ်ကျော်ကြားလို့ အခုလို နောက်တန်း အများကြီး ကျအောင်လို့ ထားမိတဲ့အတွက် ကျွန်တော် သိပ်ပြီး မှားပြီလို့ စိတ်မချမ်းမသာ ဖြစ်ရပါတယ်။ ဒါပေမဲ့ စာပေ ပညာရှင်တွေ ကို သူတို့ရဲ့လက်ရာနဲ့ သူတို့ဇာတ်ကောင်တွေရဲ့ အစွမ်းကို ချင့်ပြီး ဒီစာအုပ်မှာ နေရာထားတာဖြစ်လို့ အခုလို ဖြစ်ပေါ်လာတဲ့ ကြောက်စိတ်ကို ဖြေရပါတယ်။ ဟိုမာနဲ့ ပတ်သက်တဲ့အချက်က လူကျော်ကြားသလောက် ဩဇာ သက်ရောက်မှု မရှိတာကို တွေ့ရပါတယ်။ ကနေ့ စာသင်ကျောင်းတွေမှာ ဟိုမာ အကြောင်းကို ပြောကြ ပေမယ့် လူတွေဟာ အထက်တန်းကျောင်းနဲ့ ကောလိပ်ပြီးရင် သူ့အကြောင်းကို မပြောကြတော့ပါ။ ရိုတ်စပီးယားရဲ့ ပြဇာတ်နဲ့ ကဗျာတွေကို လူတွေက ဖတ်လည်းဖတ်၊ ကလည်းက၊ ပွဲကြည့်သူ၊ စာနာသူ ဘယ်တော့မှ မလျော့တာနဲ့ သွားနှိုင်းလို့ မရပါ။ ဟိုမာကို

ကိုးကားပြီး ပြောသူလည်း ရှားတယ်။ ဟိုမာ ပြောပုံမျိုးကို ဗာ့တလက် (Bartlett) မှာ ပါတတ်တယ်။ ဒါပေမယ့် နေ့စဥ်ပြောစကားမှာ မတွေ့ပါ။ ရှိတ်စပီးယားနဲ့ အဲဒီလိုကွာရုံသာမက တခြားစာရေးဆရာတွေဖြစ်တဲ့ ဘင်ဂျမင် ဖရဲန်ကလင် (Benjamin Franklin) နဲ့ဖြစ်ဖြစ်၊ အိုမာခယမ် (Omar Khayyem) နဲ့ဖြစ်ဖြစ် အရည်အသွေး ချင်း ကွာခြားလှပါတယ်။ လူပြောများတဲ့ တစ်ပဲနိ (Penny) မသုံးရင် တစ်ပဲနိ ဝင်ငွေပေါ့ ဆိုစကားမျိုးဟာ လူပုဂ္ဂိုလ်ရဲ့ အကျင့်ကို ဖြစ်ဖြစ်၊ နိုင်ငံရေး သဘောထားဆုံးဖြတ်ချက်ကို ဖြစ်ဖြစ် ကနေ့လူတွေရဲ့အပြောမှာ လွှမ်းမိုးနိုင်တဲ့အသုံးမျိုး ဟိုမာမှာ မတွေ့ပါ။ ဒီလိုဆိုရင် ဟိုမာကို ဒီစာအုပ်မှာ ဘာပြုလို့ ထည့်ချင်နေပါသလဲလို့ မေးစရာ ဖြစ်ပြန်တယ်။ အကြောင်းပြစရာ အချက် နှစ်ချက်ရှိပါတယ်။ ပထမအချက်က အခုလို ရာစုနှစ်တွေအများကြီးမှာ ဟိုမာရဲ့ကဗျာတွေကို ကြားဖူး၊နာဖူး၊ ဖတ်ဖူးသူ သိပ်များတယ်။ ရှေးအခါမှ ဟိုမာရဲ့ကဗျာတွေဟာ အခုအခါ မှာထက် ပိုပြီး လူကြိုက်များတယ်။ ဂရိမှာ ဆိုရင် သူ့လက်ရာကို လူအများက သိတယ်။ လူအများရဲ့ ယုံကြည်မှုနဲ့ အမူအကျင့်တွေကို လွှမ်းမိုးနိုင်စွမ်းရှိတယ်။ ဩ ဒက်စီနဲ့ ဧလီယဒ်ကို စာပေဝါသနာရှင်တွေသာမက စစ်မှုထမ်းနဲ့ နိုင်ငံရေး ခေါင်းဆောင်တွေပါ အသုံးပြု ကြတယ်။ ရှေးရောမ ခေါင်းဆောင်တွေက ဟိုမာကို ကိုးကားတယ်။ မဟာအလက်ဇန္ဒားဆိုရင် ဧလီယဒ်ကို သူ စစ်ထွက်တဲ့အခါ ဖတ်ဖို့ယူသွားတယ်။ အခုအခါမှာလည်း ဟိုမာကို တချို့လူတွေက နှစ်သက်တယ်၊ ကျွန်တော် တို့လည်း ကျောင်းမှာတုန်းက ဟိုမာ ကောက်နုတ်ချက် တွေနဲ့ ရင်းနှီး ခဲ့ပါတယ်။ ဒါ့ထက်ပိုပြီး အရေးပါတဲ့ အချက်က စာပေမှာ ဟိုမာရဲ့ဩဇာကို တွေ့နေရတာ ဖြစ်ပါတယ်။ ရှေးခေတ် ဂရိကဗျာဆရာတွေနဲ့ ပြဇာတ်ရေး ဆရာတွေဟာ ဟိုမာကို စွဲစွဲလမ်းလမ်း အသုံးချကြတယ်။ ဥပမာ ဆိုဖိုကလိစ် (Sophocles)၊ ယူရိပိဒက်စ် (Euripides) နဲ့ အရစ္စတိုတယ်လ် (Aristotle) ဆိုသလို လူနည်းနည်းပဲ ကြည့်လိုက်ရင် ဟိုမာ အစွဲအလမ်းကြီးသူတွေဖြစ်တာကို တွေ့ရပါတယ်။ သူတို့က စာပေခန့်ခန့် ဆိုရင် ဟိုမာကို စံတင်ကြပါတယ်။

ဟိုမာကို ရှေးရောမ စာရေးဆရာတွေကလည်း အထင်ကြီး ပါတယ်။ အကောင်းစံ အဖြစ် သူ့ကဗျာတွေကို ထားတယ်။ ရောမ စာရေးဆရာတွေထဲမှာ အကောင်းဆုံးလို့ သတ်မှတ်တဲ့ ဗာဂျီလ် (Virgil) ဆိုရင် သူ့အကောင်းဆုံး လက်ရာ ဖြစ်တဲ့ အေယဲန်နိဒ် (the Aeneid) ကို သိသိသာသာ ဧလီယဒ်နဲ့ ဩဒက်စီပုံ ချိုးပါတယ်။ အခု ခေတ်သစ်မှာပဲ ထင်ရှားတဲ့ စာရေးဆရာ ဆိုရင် ဟိုမာကို တိုက်ရိုက် အတုယူချင်ယူ၊ တိုက်ရိုက် မဟုတ်ရင် လည်း ဆိုဖိုကလိစ် (Sophocles) နဲ့ ဗာဂျီလ် (Virgil) ဆိုတဲ့ ဟိုမာကို အထင်ကြီးသူတွေက တစ်ဆင့် အတုယူကြ ပါတယ်။ သမိုင်းမှာ သူ့လို စာရေးဆရာလောက် ကျယ်ကျယ်ပြန့်ပြန့် ကြာကြာရှည်ရှည် ဩဇာကြီးသူ မရှိပါ။ အခုပြောတဲ့ နောက်ဆုံး အချက်က အခရာဖြစ်ပါတယ်။ အရင် အနှစ် တစ်ရာတွင်းမှာ တော်လ်စတွိုင်း (Tolstoy) ရဲ့စာကို ဖတ်သူများတယ်၊ သူဟာ ဟိုမာ ထက် ဩဇာ ရှိတယ်။ ဒါပေမယ့် တော်လ်စတွိုင်းတို့က ဟိုမာလို ရှေ့အနှစ် နှစ်ထောင့်ခြောက်ရာ တိုင်အောင် ဩဇာ ရှိနိုင်ပါ့မလား။ ဟိုမာဩဇာ ရှိပုံက အနှစ် နှစ်ထောင့်ခုနစ်ရာ ကျော်ရင်သာ ကျော်မယ်၊ ဒါ့ထက် မလျော့ပါ။ ဒါကို အသေအချာ အချိန်ကာလ ကြာမြင့် တာမျိုး

စာပေသာမက တခြားဘယ်သူ့ အစွမ်းမှာမှ တွေ့နိုင်ကြမှာ မဟုတ်ပါ။

# (၉၉) ပထမ ဂျပ်စတိနီယဲန် (၄၈၃ - ၅၆၅)

# JUSTINIAN I (483 – 565)

ဧကရာဇ် ဂျပ်စတိနီယဲန် (the Emperor Justinian) ဟာ သူစိုးစံတဲ့ အချိန်မှာ ရောမဥပဒေ (Roman Law) ကို ဓမ္မသတ် ကျမ်းကြီး အဖြစ်နဲ့ စုဆောင်းထားရစ်နိုင်ခဲ့လို့ ဂုဏ်သတင်းကြီး မြင့်တဲ့ မင်းတစ်ပါး ဖြစ်ခဲ့ရတယ်။ ဂျပ်စတိနီယဲန် ဓမ္မသတ် (the Code Of Justinian) ဟာ ရောမတွေရဲ့ တရားဥပဒေဆိုင်ရာ မှီငြမ်းကျမ်းကြီး တစ်ခုကို တည်ဆောက်ပေးခဲ့တဲ့ လက်စွမ်းပြ တစ်ခု ဖြစ်ခဲ့ရပါတယ်။ ဒီဓမ္မသတ်ဟာ နောင်အခါ ဥရောပ နိုင်ငံများစွာမှာ ပြဋ္ဌာန်းတဲ့ အခြေခံဥပဒေ ဖြစ်ခဲ့ရပါတယ်။ တစ်ကမ္ဘာလုံး အကြာအရှည် လေးစားရတဲ့ ဥပဒေကျမ်းကြီး ကျမ်းခိုင် ဖြစ်လာရပါတယ်။

ဂျပ်စတိနီယဲန်ကို ယနေ့ ယူဂိုစလားဗီးယား (Yugoslavia) ယခင် တစ်ရက်စီယမ် (Tauresium) မှာ ခရစ် ၄၈၃ ခုနှစ်လောက်က မွေးဖွားခဲ့ပါတယ်။ သူဟာ စာပေမတတ် ဘြစီယ (Thracian) ကျေးတောသား ကနေပြီး စစ်ဘက် ဝင်လိုက်လို့ အရှေ့ရောမအင်ပါယာ (Eastern Roman Empire) ရဲ့ အရှင်သခင် ဖြစ်လာတဲ့ ပထမ ဂျပ်စတင် (Justin I) ရဲ့ တူဖြစ်ပါတယ်။ သူ့ဦးလေးလိုပဲ ကျေးတောသားဘဝက သူ့ဦးလေးရဲ့ အမအစကြောင့် ပညာကောင်းကောင်း သင်ခွင့်ရပြီး အတိုးအတက် အကြီးပွား မြန်ပါတယ်။ သားသမီး မရှိတဲ့ ဂျပ်စတင် (Justin) က ဂျပ်စတိနီယဲန်ကို ခရစ် ၅၂၇ ခုနှစ်မှာ တွဲဖက် ဧကရာဇ် ခန့်ခဲ့တယ်။ အဲဒီလို ခန့်ထားပြီး တစ်နှစ်အတွင်းမှာ ဂျပ်စတင် ကွယ်လွန်တဲ့အတွက် အဲဒီအခါကစပြီး ဂျပ်စတိနီယံန်ဟာ သူကိုယ်တိုင် ကွယ်လွန်တဲ့ ခရစ် ၅၆၅ ခုနှစ်အထိ တွဲဖက် မဟုတ်ဘဲ တစ်ပါးတည်း ဧကရာဇ် ဖြစ်လာပါတယ်။

ဂျပ်စတိနီယဲန် မမွေးဖွားမီ ၄၇၆ ခုနှစ်လောက် ကစပြီး အနောက်ရောမအင်ပါယာ (The Western Roman Empire) ဟာ ဂျာမန်မျိုးတုစုတွေ ဝင်ရောက်လာတဲ့အတွက် ပြိုကွဲ ပျက်စီးခဲ့ရပါတယ်။ ကွန်စတန်တီနိုပယ် (Constantinople) ကို မြို့တော်ပြုတဲ့ အရှေ့ရောမ အင်ပါယာသာ မပျက်မစီး ဆက်လက် တည်ရှိနေပါတယ်။ ဂျပ်စတိနီယဲန်က အနောက်မှာ လက်လွတ်ဆုံးပါးခဲ့ရတဲ့ နယ်မြေတွေကို ပြန်ရလိုတယ်။ ရောမအင်ပါယာကြီးကို ပြန်တည်ဆောက် လိုတယ်။ အဲဒီဆန္ဒအတိုင်း ဖြစ်မြောက် အောင် သူ့ဧကရာဇ် တစ်သက်မှာ အချိန်ရှိသ၍ ဆောင်ရွက် ခဲ့ပါတယ်။ ဒီစီမံကိန်းရဲ့ တစ်စိတ်တစ်ပိုင်းမျှသာ ဆောင်ရွက် ခဲ့ပါတယ်။ ဆိုလိုတာက အီတလီ၊

မြောက်အာဖရိကနဲ့ စပိန်ရဲ့တစ်စိတ်တစ်ပိုင်းလောက်ပဲ လူကြမ်းတွေ လက်ထဲက ပြန်ရအောင် ယူနိုင်ပါတယ်။ ဒါပေမယ့် ဂျပ်စတီနီယန်ကို ဒီစာအုပ်မှာ နေရာပေးတာက သူ့စစ်ရေးစစ်ရာ စွမ်းဆောင်ချက်ကြောင့် မဟုတ်ပါ။ သူက ရောမ ဥပဒေကို ကျမ်းတစ်စောင် တစ်ဖွဲ့ဖြစ်အောင် စုစည်း ပေးနိုင်ခဲ့တဲ့ အတွက် ဖြစ်ပါတယ်။ သူ ဧကရာဇ် ဖြစ်ပြီး နောက်တစ်နှစ်ဖြစ်တဲ့ ၅၂၈ စောစောပိုင်း ကစပြီး ဂျပ်စတီနီယန်က ဧကရာဇ် ဥပဒေကျမ်း (Code of Imperial Law) ကို ပြုစု ပြဋ္ဌာန်းဖို့ ကော်မရှင် တစ်ရပ် ဖွဲ့စည်းလိုက်ပါတယ်။ သူတို့ရဲ့ဆောင်ရွက်ချက်ကို ပထမအကြိမ် ၅၂၉ ခုနှစ်က ပုံနှိပ် နိုင်တယ်။ နောက် ပြင်ဆင်ဖြည့်စွက်ပြီး လက်တွေ့ လိုက်နာကျင့်သုံးရမယ်လို့ ၅၃၄ ခုနှစ်မှာ အမိန့်တော် ထုတ်ပြန်ပါတယ်။ အဲဒီအခါ အခုဥပဒေမှာ မပါတဲ့ အရင်က လိုက်နာခဲ့ဖူးသမျှ အမိန့်တွေ အားလုံးကို ရုပ်သိမ်း ပါတယ်။ အဲဒီအခါက အတည်ပြုခဲ့တဲ့ ကောဒက် (Codex) ဟာ တရားမဝင်ထုံးပေါင်းချုပ် (The Corpus Juris Civilis) ရဲ့ ပထမရှေ့ပိုင်း ဖြစ်လာပါတယ်။ နောက်ဆက်ပြီး ဒုတိယပိုင်း အနေနဲ့ ထွက်လာတဲ့ ပန်ဒက် (Pandects) က ကျော်ကြား ထင်ရှားတဲ့ ရောမ ဥပဒေပြု ပုဂ္ဂိုလ်တွေရဲ့ အကျဉ်းချုပ်ဖြစ်တယ်။ အဲဒါလည်း တရားဝင် လိုက်နာ ကျင့်သုံးရတဲ့ ဥပဒေကျမ်း တစ်ခု ဖြစ်ပါတယ်။ တတိယပိုင်းက အင်စတီကျု (The Institutes) လို့ ခေါ်ပါတယ်။ ဥပဒေ လေ့လာလိုက်စားသူတွေ လက်စွဲပြုရန် အတွက် အခြေခံဖြစ်ပါတယ်။ နောက်ဆုံးမှာ ဂျပ်စတီနီယန်ရဲ့ ကောဒက် အားလုံးကို ပေါင်းစပ်ပေးတဲ့ နိုဗယ်လေ (The Novellae) ဖြစ်တယ်။ ဂျပ်စတီနီယန် ကွယ်လွန်ပြီးမှ ထွက်လာတဲ့ကျမ်း ဖြစ်ပါတယ်။ ဂျပ်စတီနီယန်က စစ်ပွဲတွေလည်းတိုက်၊ အုပ်ချုပ်ရေး ဘက်မှာလည်း တာဝန်တွေက များလှတဲ့အတွက် ကော်ပါ့စ် ဂျူရစ် စီဗီလစ် (The Corpus Juris Civilis) တရားမကျင့်ထုံး ပေါင်းချုပ်ကို ကိုယ်တိုင် ကိုယ်ကျ မရေးဆွဲနိုင်ပါ။ သူ့အမိန့်ကို လက်တွေ့လိုက်လုပ်ရတဲ့ ဥပဒေပညာရှင်တွေဟာ အင်မတန် ဥပဒေ ကျွမ်းကျင်တဲ့ တြိဗောနိယန် (Tribonian) ရဲ့ ကွပ်ကဲမှု အောက်မှာ အလုပ်လုပ် ကြရပါတယ်။

ဂျပ်စတီနိယန်ဟာ အလုပ်လုပ်ရာမှာ အလွန့်အလွန် ထက်မြက်သူ ဖြစ်ပါတယ်။ အုပ်ချုပ်ရေးဆိုင်ရာ ပြုပြင်ချက်တွေကို အထူး အလေးအနက်ထားပြီး ဆောင်ရွက်ရာမှာ အရာရှိပိုင်းက လာဘ်စားတာကို နှိပ်ကွပ်ဖို့ ကိစ္စလည်း တစ်စိပ်တစ်ပိုင်းပါတယ်။ ရောင်းဝယ်ရေးနဲ့ ကုန်ပစ္စည်း ထုတ်လုပ်ရေးကို အားပေး ကူညီတယ်။ ပြည်သူ့အကျိုးအတွက် ကြီးမားတဲ့ အဆောက်အအုံတွေကိုလည်း ဆောက်လုပ် ပေးပါတယ်။ သူ့လက်ထက်မှာ ခံတပ်ကြီးတွေ၊ ကွန်စတဲန်တီနိုပယ်ရဲ့ နာမည်ကြီး ဟာဂိယဆိုဖိယ (The Hagia Sophia) အပါအဝင် ဘုန်းကြီးကျောင်းတိုက်ကြီးတွေကို အသစ်တည်တာလည်း ရှိတယ်။ အဟောင်းကို ပြုပြင် မွမ်းမံတာလည်း လုပ်တယ်။ ဒီလို အဆောက်အအုံနဲ့ စစ်တွေကြောင့် အခွန်တော်ကို အများကြီးပိုပြီး စည်းကြပ် ကောက်ခံရတယ်။ ဒါကြောင့်လည်း ကန့်ကွက်ချက်တွေ အများကြီး ထွက်ပေါ် လာပါတယ်။ ၅၃၂ ခုက ဖြစ်ပွားခဲ့တဲ့ နိကဆူပူသောင်းကြမ်းမှု (The Nika riots) ဆိုရင် ဧကရာဇ် ပလ္လင်ပေါ်က ဆင်းပြေးရမတတ် ကြီးကျယ်ပါတယ်။ ဒီပွဲကို

ဂျပ်စတိနိယဲန် နိုင်တာက စပြီး ကေရာဇ်ရဲ့ အခြေခိုင် သွားတယ်။ ဒီလိုသာဆိုရတယ် သူ ၅၆၅ ခုနှစ်မှာ နတ်ရွာစံတဲ့အခါ လူအများ အထင်အရှား ဝမ်းသာ ရွှင်မြူးကြတယ်။ ဂျပ်စတိနိယဲန်ကို အင်မတန် အစွမ်းရှိတဲ့ မိဖုရား သီယိုဒိုရာ (Theodora) က အများကြီး ကူညီပါတယ်။ ဒါကြောင့် မိဖုရား အကြောင်းကိုလည်း ထည့်သွင်း ပြောဆိုသင့်ပါသေးတယ်။ သီယိုဒိုရာကို ခရစ်နှစ် ၅၀၀ ပြည့်က မွေးဖွားတယ်လို့ထင်တယ်။ အသက် ငယ်ရွယ်တုန်းက ကချေသည်၊ ပြည့်တန်ဆာ၊ အဖေ မပေါ်တဲ့ ကလေးငယ် တစ်ယောက် ရဖူးတယ်။ ဂျပ်စတိနိယဲန်နဲ့ တွေ့တော့ အသက် နှစ်ဆယ်ကျော်အရွယ်၊ ကိုယ်လုပ်တော်အဖြစ် ပေါင်းသင်းပြီးတော့ ကေရာဇ် မဖြစ်မီ နှစ်နှစ် ၅၂၅ ခုရောက်မှ လက်ထပ်တယ်။ မယား ဖြစ်သူရဲ့ ထူးခြားတဲ့ အစွမ်းသတ္တိတွေကို အသိအမှတ် ပြုပြီး အမှုကိစ္စအားလုံး တိုင်ပင်တဲ့ ကေရာဇ်ရဲ့ အကြံပေး အရာရှိ သဘောမျိုး ဖြစ်လာတယ်။ သံတမန်ရေးရာက အစ အမှုကိစ္စတွေ အများကြီးကို ဆောင်ရွက်ခွင့် ပေးတယ်။ ဥပဒေပြုတဲ့ဖက်မှာလည်း မိဖုရားသြဇာကို ပယ်လို့ မရပါ။ အထူးသဖြင့် အမျိုးသမီး ရေးရာတွေမှာ ပါဝင်ပြီး အမျိုးသမီးတွေရဲ့ အခွင့်အရေးတွေကို တိုးမြှင့် ပေးခဲ့ပါတယ်။ ကင်ဆာနဲ့ ၅၄၈ ခုမှာ မိဖုရား ကွယ်လွန် တဲ့အခါ ဂျပ်စတိနိယဲန် အတွက် အကြီးအကျယ် ဆုံးရှုံးခြင်း တစ်ရပ် ဖြစ်ရပါတယ်။ ဒါပေမယ့် နောက်ပိုင်း တစ်ဆယ့်ခုနစ် နှစ်မှာလည်း ဘုရင် တစ်ပါးတည်း အုပ်ချုပ်ရေးလည်း အောင်မြင် ကောင်းမွန်ပါတယ်။ သီယိုဒိုရာ (Theodora)ဟာ လှသလောက် လိမ္မာချက်ချာတဲ့အတွက် အနုပညာ လက်ရာ ကောင်းများစွာကို ဖြစ်ထွန်းအောင် စီမံဆောင်ရွက်ပေးခဲ့ ပါတယ်။ ပြောခဲ့တဲ့အတိုင်း ဒီစာအုပ်မှာ ဂျပ်စတိနိယဲန်ကို သူ့အမိန့်တော်ကြောင့် ပေါ်လာတဲ့ တရားမကျင့်ထုံး ပေါင်းချုပ်ကျမ်း အတွက် ဖြစ်ပါတယ်။

ရောမဥပဒေကျင့်ထုံးကို ပိုင်ပိုင်နိုင်နိုင် ပြန်လည် ဖော်ထုတ်ပေးနိုင်ခဲ့တဲ့အပြင် ဒီကျမ်းကိုပဲ ဘိုင်ဇန်တိုင်း (Byzantine) အင်ပါယာမှာ နှစ်ပေါင်း ရာထောင်ချီပြီး အရေးထားသုံးစွဲခဲ့ပါတယ်။ အနောက်တိုင်း မှာတော့ နှစ်ပေါင်းငါးရာလောက် ဒီကျင့်ထုံးကြီးကို မေ့ပျောက်ခဲ့ပြီး ခရစ်နှစ် ၁၁၀၀ ရောက်ခါမှ ရောမဥပဒေကို ပြန်လည် ကျင့်သုံးတဲ့သဘောနဲ့ အီတလီက တက္ကသိုလ်တွေမှာ သင်ကြား ပို့ချတာကို တွေ့ပြန်တယ်။ အလယ်ခေတ် နောက်ပိုင်းဆိုရင် ဥရောပတိုက်ကြီးပေါ်က ဥပဒေ ကျင့်ထုံးများစွာကို ဖြစ်ထွန်း ကောင်းမွန်အောင် ဆောင်ရွက်ရာမှာ အရင်းခံ အားကိုးရတဲ့ ကျမ်းရင်း ဖြစ်လာပါတယ်။ ဒီလိုဖြစ်ပေါ် လိုက်နာတဲ့ နိုင်ငံတွေမှာ အင်္ဂလိပ် စကားပြောတဲ့ နိုင်ငံတွေမှာလို ဘိုးစဉ်ဘောင်ဆက် ဥပဒေနဲ့ မတူတဲ့ တရားမ ဥပဒေ ပေါ်လာပါတယ်။ ဒီတရားမ ဥပဒေ ကျင့်ထုံးပေါင်းချုပ် (The Corpus Juris Civilis) ကို အပြည့်အစုံ ကူးယူ ပြဋ္ဌာန်းတာတော့ မလုပ်ပါ။ ရှိရင်းစွဲ ပြည်သူ့ တရားဥပဒေမှာ အလျဉ်းသင့်သလို ပေါင်းစပ်ပြီး သုံးတဲ့သဘော ဖြစ်ပါတယ်။ ဒါကြောင့် ဥရောပတိုက် အနှံ့ တရားဥပဒေ လေ့လာ သင်ကြားလိုက်နာတဲ့အခါ ဒီပေါင်းချုပ်ကျမ်းဟာ အခြေခံ လက်စွဲကျမ်း ဖြစ်လာ ရပါတယ်။ ဥရောပ အပြင်က နိုင်ငံ အတော်များများ မှာလည်း ဒီဥပဒေကျမ်းကို လက်ခံလိုက်နာကြတဲ့အတွက် ဒီတရားမ ဥပဒေ ကျင့်ထုံးပေါင်းချုပ်ကျမ်းဟာ အကျယ်အပြန့် သြဇာရှိကြောင်း ထင်ရှားပါတယ်။

ဒါပေမဲ့ ဒီဂျပ်စတီနီယဲန်ကျင့်ထုံး (The Justinian Code) ကို အလွန်အကျူး ချီးမွမ်းနေပြန်ရင်လည်း မှားမယ်။ ဒီကျမ်းအပြင် အားထားစရာကျမ်းတွေလည်း ရှိပါတယ်။ ဥပမာ ကန်ထရိုက် (Contract) တွေလိုက်နာတဲ့ ထုံးနည်း တွေဟာ ကုန်သည်ပွဲစားလောကမှာ လက်တွေ့ အကျိုးအမြတ်လို့ လိုက်နာကြရတယ်။ ရောမဥပဒေနဲ့ မပတ်သက်ပါ။ ဂျာမန်ဥပဒေ၊ ဘုရားကျောင်းတော် (Church) ဥပဒေတွေလည်း ပြည်သူ့ဥပဒေတွေပါ။ အခုခေတ်သစ်မှာဆိုရင် ဥရောပဥပဒေနဲ့ ဥပဒေစံနစ်တွေကို အများကြီး တိုးချဲ့ပြင်ဆင်ပြီးဖြစ်နေလို့ လက်တွေ့ ကျင့်ထုံးဟာ ဂျပ်စတီနီယန်နဲ့ အနည်းအပါးလောက်သာ တူညီတယ်လို့ ဆိုရပါမယ်။

# (၁၀၀) မဟာဝိရ(ခရစ်မပေါ်မီ ၅၉၉ - ၅၂၇)

# MAHAVIRA(599 – 527 B.C.)

မဟာဝိရ (လူစွမ်းကောင်းကြီး) လို့ ဇိနတွေက သူတို့ယုံကြည်မှုရဲ့ ခေါင်းဆောင် ဝရ်ဓမနကို ခေါ်ပါတယ်။

ဝရ်ဓမနကို ခရစ်မပေါ်မီ ၅၉၉ ခုနှစ်က အရှေ့မြောက် အိန္ဒိယမှာ မွေးတယ်။ ဒီဒေသက ဂေါတမဗုဒ္ဓကို မွေးဖွားတဲ့ နေရာပါပဲ။ ဒါပေမယ့် ဗုဒ္ဓထက် အသက် (သုံးဆယ့်ခြောက်နှစ်) ကြီးပါတယ်။ ဝရ်ဓမနက ဂေါတမလိုပဲ မင်းသားငယ် တစ်ပါးမို့ ငယ်ငယ်က မင်းစည်းစိမ် ခံစားပြီး ကြီးပြင်းခဲ့ရတယ်။ အသက်သုံးဆယ်မှာ ဇနီးနဲ့ သမီးကိုစွန့်ပြီး တောထွက်တယ်။ ချူးခြံတဲ့ အကျင့်ကို ကျင့်တယ်။ ဝရ်ဓမန ပရ်သွနာထဂိုဏ်းမှာ ရဟန်းဝတ်ပြီး တစ်ဆယ့်နှစ်နှစ် တိုင်တိုင် တရားထိုင်ပြီး အကျင့်ကို အလွန်အကြူး အားထုတ်တယ်။ ကိုယ်ပိုင်ပစ္စည်းတွေ စွန့်လိုက်လို့ ရေခပ်သောက်စရာ ခွက်ငယ် တစ်ခုတောင် မရှိပါ။ ကိုယ်မှာ ဖုံးလွှမ်းစရာ အဝတ်ကိုတောင် စွန့်လိုက်သဖြင့် ကိုယ်လုံးတီး နေပါတယ်။ ကိုယ်ပေါ်မှာ တက်လာတဲ့ ပိုးမွှားကိုတောင် လက်နဲ့ဖယ်ရှား မပစ်ပါ။ ခြင်၊ မှတ် အကိုက်ခံ နေတယ်။ အိန္ဒိယလို ဖုန်းတောင်းယာစကာ ပေါများတဲ့ နေရာမှာတောင် မဟာဝိရရဲ့ ပုံပန်းသဏ္ဍာန်က ကဲ့ရဲ့လှောင်ပြောင် ရိုက်နှက်စရာ ဖြစ်လို့ ကဲ့ရဲ့လှောင်ပြောင် ရိုက်နှက်ပေတဲ့ သည်းခံတယ်။ နည်းနည်းမှ တုံ့ပြန်ခုခံခြင်း မပြုပါ။ အသက်လေးဆယ့်နှစ်နှစ် ရှိတဲ့အခါ မဟာဝိရက ငါ အကျွတ်တရား ရပြီလို့ ကြေညာတယ်။ ပြီးမှ အသက် မသေမီ အနှစ်သုံးဆယ်လုံးလုံး တပည့်တွေ အကျွတ်တရား ရရာ ရကြောင်း ဟောပြော ဆုံးမတယ်။ ခရစ်မပေါ်မီ ၅၂၇ ခုနှစ်မှာ ကွယ်လွန်တဲ့အခါ သူ့ကိုကြည်ညိုတဲ့ တပည့်တွေ အများအပြား ကျန်ရစ်ပါတယ်။ မဟာဝိရရဲ့ ဟောပြောချက်တွေဟာ ဗုဒ္ဓဝါဒ၊ ဗြဟ္မဏဝါဒတွေနဲ့ ဆင်ဆင် တူတယ်။ ဇိနဂိုဏ်းဝင်တွေက လူသေရင် ဘဝတစ်ပါးကို ရောက်တယ်။ (လူပြန်ဖြစ်ချင်မှ ဖြစ်မယ်။) အခုလို ဘဝပြောင်းတာဟာ ဇိနတွေရဲ့ ဇိနတွေ ယုံတဲ့ ကာရ်မ ဆိုတာ အခု ဘာလုပ်လုပ်၊ အဲဒါရဲ့ကောင်းကျိုးဆိုးပြစ်ကို နောင်ဘဝမှာခံ စံရမယ်လို့ ယုံတယ်။ လုပ်မိသမျှ အကုသိုလ်တွေများမှာ သေချာတယ်။ ဒါတွေကို ချုပ်ငြိမ်းအောင် လုပ်ဖို့ ဇိနက တရားပြတယ်။ မဟာဝိရ အလိုက တဏှာကိုပယ်ရမယ်။ ဇိန တပည့်ရဟန်းတွေက ဒီတရားကို အားထုတ်တယ်။ ငတ်ပြီးသေတဲ့အထိ နေနိုင်ရင် ကောင်းတယ်လို့ ယူဆတယ်။

ဇိနဝါဒမှာ အရေးအပါဆုံးတရားက အဟိံသ-အကြမ်းမဖက်တဲ့ အကျင့်ကို အလွန်အမင်း အားပေးတယ်။

လူအချင်းချင်း သာမက တိရစ္ဆာန်ကိုပါ နှိပ်စက်ညှဥ်းပန်းခြင်း မပြုရလို့ သင်ကြားပါတယ်။ ဒီလိုဆိုရင် ဇိနဝါဒီတွေဟာ သက်သက်လွတ် စားကြမှာ ဖြစ်ပါတယ်။ တကယ်တမ်း ကျင့်တဲ့ ဇိနဂိုဏ်းဝင်ဆိုရင် ဒါ့ထက်ပြင်းထန်သေးတယ်။ ခြင်ကလေး တစ်ကောင်တောင် မသတ်ပါ။ ပိုးမွှားပါတာကို မဖယ်ရှားဘဲ စားမိမှာစိုးလို့ အမှောင်ထဲမှာ အစာ မစားပါ။ ချမ်းသာပြီး တရားကို တကယ်လေးစားတဲ့ ဇိနဂိုဏ်းဝင် ဆိုရင် သူလျှောက်မယ့်လမ်းမှာ ပိုးမွှားတွေ မရှိအောင် လူငှားပြီး လမ်းကို တံမြက်လှဲခိုင်းတယ်။ ဒီအတိုင်းသာ ဆိုရင် တရားကို လေးစားတဲ့ ဇိနဂိုဏ်းဝင်ဟာ စပါးစိုက်ပျိုး လယ်ထွန်ဖို့ စိတ်သန့်မှာ မဟုတ်ပါ။ ဒါကြောင့်လည်း ယုံကြည်မှုကို အကြောင်းပြုပြီး တချို့အလုပ်ကြမ်းကို လုပ်ခွင့်မရကြပါ။ ဇိနဝါဒဟာ ယုံကြည်ချက်တူတဲ့ လူတစ်စုရဲ့ အနေအထိုင်၊ အလုပ်အကိုင်ကို ဘယ်လို ထိခိုက်တယ် ဆိုတာကို ပြဖို့ အကောင်းဆုံးစံ ဖြစ်ပါတယ်။ အိန္ဒိယနိုင်ငံသား ဆိုရင် စိုက်ပျိုးရေးလုပ်ဖို့ အင်မတန် နီးစပ်ပေမယ့် ဇိနဝါဒီတွေဟာ လယ်သမား မဖြစ်၊ ရောင်းဝယ်ရေးကိုသာ လုပ်ကြရပါတယ်။ လုံ့လ ဝီရိယလည်း သိပ်ကောင်းကြပါတယ်။ အဲဒါကြောင့် သူတို့ဟာ များသောအားဖြင့် ချမ်းသာ ကြွယ်ဝကြတယ်။ ပညာတတ်၊ လက်မှုပညာ ကျွမ်းကျင်သူ များတယ်။ သူတို့အထဲက စာပေ အနုပညာ ထွန်းပေါက်သူတွေ တခြားလူတွေထက် လူဦးရေ အချိုးကျ ပိုများပါတယ်။ မူလက ဇိနဝါဒက လူတန်းစား ဇာတ်မခွဲပါ။ နောက် ဗြဟ္မဏဝါဒနဲ့ နီးစပ်လို့ ဇာတ်ခွဲတတ်လာတယ်။ ဟိန္ဒူတွေ မှာလောက်တော့ မပြင်းထန်ပါ။ မဟာဝီရက ဘုရား တစ်ဆူ၊ အယူဝါဒကို အက္ခရာတင်ပြီး ရေးသားခြင်း မရှိလို့ ဗြဟ္မဏ အယူအဆတွေ အနည်းအများ ဝင်လာပါတယ်။ ဒါပေမယ့် သူတို့က သူတစ်ပါးကို လွှမ်းမိုးတာလည်း ရှိပါတယ်။ သားကောင်ကို သတ်ပြီး ပူဇော်ခြင်းနဲ့ အသားစားခြင်းတွေကို ရှောင်ရန် ဟိန္ဒူတွေကို လှုံ့ဆော်ခဲ့တယ်။ အဲဒါအပြင် ဇိနဝါဒက အကြမ်းမဖက်ရ ဆိုတဲ့အစွဲဟာ အိန္ဒိယ အကျင့်အဖြစ်နဲ့ ခေတ်သစ် အထိ ဆင်းသက်လာတယ်။ ဥပမာ ဂန္ဒီဟာ ဇိနဆရာ ဂိုဖဒ်ရာဇဆန္ဒြ (1867-1900) ကို ဆရာတင်ပြီး အလုပ် တော်တော်များများကို ပြုလုပ်ခဲ့တယ်။ ဇိနဝါဒီတွေက အရေအတွက် သိပ်မများပါ။ အိန္ဒိယ တစ်နိုင်ငံလုံးမှာ အစုစု သုံးသန်းခွဲလောက်ပဲရှိတယ်။ အနှစ်နှစ်ထောင့်ငါးရာကြာတဲ့အခါ ယုံကြည်သူ တော်တော်များ ခဲ့ပြီလို့ ပြောနိုင်ပါတယ်။ မဟာဝီရရဲ့သြဇာ အတိုင်းအတာကို တွက်ရင် သူ့ဆုံးမချက်ကို လက်ခံတဲ့လူ အရေအတွက်ကို အမှန်ထည့်တွက်ရမှာ ဖြစ်ပါတယ်။

29, October, 2002.

# ပထမပုံနှိပ်ခြင်းမှာ ပါခဲ့ပေမယ့် ဒုတိယပုံနှိပ်ခြင်းမှာ ထုတ်နုတ် ထားခဲ့ရတဲ့ ပုဂ္ဂိုလ်များ

## ထိတ်ထိတ်ကြဲထဲ မပါပေမယ့် ဒီလူတွေကို မထိမ်သင့်

ဒီစာအုပ်ရေးဆဲ ရောင်းရင်းတချို့က ဒီပုဂ္ဂိုလ်မျိုး ကိုလည်း အဓိကစာရင်းဝင် မဖြစ်သင့်ပေဘူးလားလို့ ပြောလာကြတယ်။ သူတို့ထောက်ပြလို့ စာရင်းဝင် ဖြစ်လာသူတွေ ရှိသလို ဟိုအကြောင်းဒီအကြောင်း တစ်ကြောင်းကြောင်းနဲ့ ချန်ရစ်ခဲ့ရသူတွေလည်း ရှိပါတယ်။ အောက်မှာ ကျော်စွာ ၁၀၀ ထဲ မပါလိုက်ရတဲ့ ကျော်ကြား ၁၀၀ စာရင်းကို ပေးထားပါတယ်။ သူတို့အထဲက ကျော်စွာထဲ ဝင်နိုင်လောက်တယ်လို့ ရှေ့နေလိုက်စရာ အချက်အလက်ကောင်းတွေ ရှိတာတော့ အမှန်ပါ။ တကယ်လို့များ သူတို့အထဲက ဆယ်ယောက်ကို ယူရင် သူတို့ဟာ ၁၀၁ – ၁၁၀ ဖြစ်မယ်။ သူတို့အစုစု ၁၀၀ ရှိလို့ ထိုပွဲထဲမှာ သူတို့ဟာ ၁၀၁ – ၂၀၀ ဖြစ်လာမယ်လို့ မမှတ်စေလိုပါ။

1. အဗရာဟမ် Abraham
2. အစွပ် Aesop
3. အိုင်ကဲန် Howard H.Aiken
4. အန်တိုနီ Susan B. Anthony
5. အကွိုင်နပ်စ် St. Thomas Aquinas
6. အာခီမိဒိစ် Archimedes
7. ဆမ်မိုစ် Aristarchus of Samos
8. ရစ်ချက်အာ့ခ်ရိုက် Richard Arkwright
9. အမ်းစထရောင်း Neil Armstrong
10. ဘက်ဘေ့ချ် Charles Babbage
11. ဗက်ကွာရယ် Antoine Henri Becquerel
12. ဘဲန်သမ် Jeremy Bentham
13. ဘစ်စမာ့ခ် Otto von Bismark
14. ဘောာ Niels Bohr
15. ဘရောဂ်လ Louis de Broglie
16. ကာနို Nicolas Sadi Carnot
17. ချော့စ် Cheops (Khufu)
18. ချာချီ Winston Churchill

19. ကလောစူယစ်ဇ် Karl von Clausewitz
20. ကလောစီယပ်စ် Rudolf Clausius
21. ကြူရီ Marie Curie
22. ဒိမ်မလာ Gottlieb Daimler
23. အာလီဂီအာရီ Dante Alighieri
24. ဒေးဗစ် King David
25. ဒီမိုခရိုတပ်စ် Democritus
26. အက်ဒီ Mary Baker Eddy
27. အက်တင်ဂျာ Rober C.W Ettinger
28. ဖောက် George Fox
29. ဖရင်ကလင် Benjamin Franklin
30. ဖရက်ဒရစ် Frederick the Great
31. ဖရီဒန် Betty Friedan
32. ဂလဲန် Galen
33. ဂန္ဒီ Mohandas K. Gandhi
34. ဂေါ့ဇ် Karl Friedrich Gauss
35. ဟမ္မူရဗီ Hammurabi
36. ဟေဂလ် George Wilheim Friedrich Hegel
37. ဟင်နရီ (အဋ္ဌမမြောက်) Henry VIII
38. ဟင်နရီ ရေကြောင်း Henry the Navigator
39. ဟာဇဲလ် Theodor Herzl
40. ဟစ်ပိုခရေတီဇ် Hippocrates
41. ဟော့ဗ် Thomas Hobbes
42. ဟတ္တန် James Hutton
43. အစ်ခနာတန် Ikhnaton
44. ဆေဘာဟ် Isaiah
45. ဂျုန်းအော့ဖ်အာ့ခ် Joan of Arc
46. ကန့် Immanuel Kant
47. အတာတာ့ခ် Kemal Ataturk
48. ကိန်းစ် John Maynard Keynes
49. ခိုရနာ Har Gobind Khorana
50. ကင်းဂျူနီယာ Martin Luther King, jr
51. ကင်ဆေ Alfred C. Kinsey
52. ကာရှော့ဗ် Gustav Pobert Kirchhoff
53. ခန် Kublai Khan
54. လိုင်ဗနစ်ဇ် Gottfried Wilhelm von Leibniz
55. ယေးနွား Etienne Renoir
56. ဒဗင်ချီ da Vinci
57. လင်ကွန် Abraham Lincoln
58. ပန်ဂ် Liu pan (Han Kao Tsu)

59. လူဝီဆယ့်ခြောက် Louis XVI
60. မဒီဆင် James Madison
61. မက်ဂလန် Ferdinand Magellan
62. မေရီအပျို The Virgin Mary
63. တဲန်နို Meijo Tenno (Emperor Mustsuhito)
64. မဲဒိလိဗ် Dmitri Mendeleev
65. မွန်တီကျူ Montesquieu
66. မွန်တက်ဆိုရီ Maria Montessori
67. မော့စ် Samuel Morse
68. မိုဇက် Mozart
69. မှာဝိယ ပထမ Muawiya I
70. အိုနေလ် Gerard K. O’Neill
71. ပါ့စ်ကယ်လ် Blaise Pascal
72. ပါ့ဗလော့ဗ် Ivan Pavlov
73. ပီကာဆို Pablo Picasso
74. ပိုလို Marco Polo
75. တောလမီ Ptolemy (Claudius Ptolemaeus)
76. ပိုင်သာဂိုရော့စ် Pythagoras
77. ရီဂင် Ronald Reagan
78. ရဲမ်ဗရမ်ဒ် Rembrandt
79. ရုစဗဲ့ Franklin Delano Roosevelt
80. စန်ကရ Sankara
81. စခရိုဒင်းဂါး Erwin Schrodinger
82. ရှော့ခလေ Wilhayn B. Shockley
83. စမစ် Joseph Smith
84. ဆော့ခရေတီစ် Socrates
85. ဆောဖောကလီစ် Sophocles
86. စန်ယက်စဲန် Sun Yat–sen
87. တလဘုတ် William Henry Fox Talbot
88. တမာလိန်း Tamurlane
89. တဲလား Edward Teller
90. သောရိုး Henry David Thoreau
91. တောင်းစ် Charles H. Townes
92. ထရူးမင်း Harry S. Truman
93. ဖော်လ်တာ Alessandro Volta
94. ဝက်စမန် Selman A. Waksman
95. ဝတ်စန်နှဲ့ ခရစ် James D. Watson & Francis Crick
96. ဝင်စင်ဝပ် Robert A. Watson Watt
97. ဝိုလ်စတုန်ခရဖ် Mary Wollstonecraft
98. ဝရိုက် Frank Lloyd Wright

99. ယဲလ်စင် Boris Yeltsin
100. ဇဝါရီကင် Vladimir Zworykin

## (က) ပက်ဗလို ပီကာဆို (၁၈၈၁ – ၁၉၇၃)

## PABLO PICASSO (1881 – 1973)

အနုပညာရဲ့ ဦးတည်ချက်ဟာ ဘာလဲလို့ ပန်းချီဆရာတွေကို မေးရင် သူတို့ ကိုယ်တိုင်လည်း ဘာမှန်းမသိလို့ အူကြောင်ကြောင် ဖြစ်နေတတ်တယ်။ ဒါပေမဲ့ ခေတ်ပုံပညာ ပေါ်ထွက်လာတဲ့အခါ ဒီပြဿနာကို ဖြေရှင်းဖို့ သိပ်လိုတယ်။ အခုပဲဖြေပါလို့ အရေးတကြီး တောင်းဆိုလာကြတယ်။ လူပြိန်း တွေးနဲ့ပြောရရင် သဘာဝအလှကို ကူးယူပေးရုံ သက်သက် ဆိုရင် အတော်ဆုံး ပန်းချီဆရာတွေတောင် အပေါ်စား ကင်မရာကို မမီပါ။ ရာစုနှစ် တစ်ခုကျော်ကြာအောင် ပန်းချီကား တစ်ခုရဲ့ ဆောင်ရွက်ချက်နဲ့ မျှော်မှန်းချက်ကို အကြိမ်ကြိမ် အခေါက်ခေါက် ပြောလို့မကုန် ရှင်းလို့မပြီး ဖြစ်နေ ခဲ့ရပါတယ်။ ဒီလိုဆောင်ရွက်ကြတဲ့လူတွေထဲမှာ အမြင်အတိုင်း ရေးဆွဲ ဖော်ပြရုံ သက်သက် ထက်ပိုအောင် ဘယ်ပုံဘယ်နည်း အသစ်ထွင် ရေးဆွဲသင့်တယ်လို့ လက်တွေ့ ဆွဲပြနိုင်တဲ့ (ပန်းချီဆရာတွေထဲမှာ) ပက်ဗလိုပီကာဆိုဟာ အစွမ်းဆုံး၊ လူကြိုက်အများဆုံး၊ အရဲရင့်ဆုံးလို့ ဖော်ပြရမယ့် ပုဂ္ဂိုလ်ဖြစ်ပါတယ်။ ပီကာဆိုရဲ့ လက်ရာဟာ သိပ်အတွေးနက်တယ်။ ဖော်ပြပုံအားရှိတယ်။ ပြောချင်တာကို ထင်းကနဲ မြင်နိုင်တယ်လို့ ပန်းချီလောက အပြင်လူတွေက ချီးမွမ်း အံ့သြကြတယ်။ လိုရင်းကို တစ်တစ်ခွခွ ပြနိုင်တဲ့ ကျူ့ဗစ်ရေးနည်း (Cubism) ထွန်းကားအောင် ဖော်ထုတ်ရာမှာ ပီကာဆိုက ခေါင်းဆောင် ဖြစ်ပါတယ်။ သူဟာ စွယ်စုံရသူ ဖြစ်ပြီး နည်းစနစ်မှာလည်း ကျွမ်းကျင်သူ ဖြစ်ပါတယ်။

ခေတ်အနုပညာမှာ အထူးခြားဆုံး ပုဂ္ဂိုလ်ဖြစ်တယ် လို့ အများကပဲ အသိအမှတ်ပြုတယ်။ ခေတ်အဆက်ဆက် တီထွင်ဉာဏ်မှာ သူ့ကိုမီသူမရှိ၊ သူ့နောက်လိုက်သူတွေသာ ရှိပါတယ်။ ပုံစစ်ပုံမှန်ကို ဆွဲလိုရင်လည်း ပီကာဆိုဟာ ကောင်းကောင်း ဆွဲနိုင်သူ ဖြစ်ပါတယ်။ ဒါပေမဲ့ မကြာခဏ ဆိုသလို သဘာဝ အနေအထားကို သူ့စိတ်ကြိုက် အတိုင်း ပြန်ပြီး အထားအသို ပြင်ပေး လေ့ရှိတယ်။ တစ်ခါက ငါ ရေခွက်တစ်ခွက် ဆွဲချင်ရင် ခွက်ဟာ မျက်မြင် အဝိုင်းဆိုပေမယ့် ငါက ပတ်ဝန်းကျင် အနေအထားကို ငဲ့ပြီး လေးထောင့် လုပ်ချင်လုပ်ပစ်မှာကွလို့ ပြောတတ်တယ်။

ပက်ဗလို ရွိုင်ဇီ ပီကာဆို (Pablo Ruiz Picasso) ကို စပိန်၊ မလာဂမြို့ကြီးမှာ ၁၈၈၁ ခုနှစ်က မွေးတယ်။ သူ့အဖေက ပန်းချီဆရာ၊ ပုံလည်းဆွဲတယ်။ ပန်းချီ သင်တန်းလည်း ဖွင့်ထားတယ်။ ပီကာဆို ငယ်ငယ်ကပဲ ပန်းချီကို အာရုံစိုက် လိုက်နာ ဆောင်ရွက်ခွင့် ရပါတယ်။ ဆယ်ကျော်သက် အရွယ်ကပဲ လက်ရာကောင်း ပန်းချီဆရာရယ်လို့ ထင်ရှားနေပါပြီ။ ၁၉၀၄ ခုနှစ်မှာ ပါရီ (Paris) မှာ အခြေစိုက် နေထိုင်ပြီးနောက် တစ်သက်လုံး ပြင်သစ်မှာပဲ နေသွားပါတယ်။ ပီကာဆိုဟာ သိပ်ပြီး တွင်ကျယ်အောင် အလုပ်လုပ် နိုင်တဲ့လူ

ဖြစ်တယ်။ ပန်းချီ ရေးဆွဲတဲ့ နှစ်ကာလမှာလည်း ထူးထူးခြားခြား ရှည်ကြာတယ်။ ၇၅ နှစ်နီးပါး ကြာတယ်။ အဲဒီနှစ်တွေ အတွင်းမှာ အနုပညာလက်ရာ တစ်မျိုးနဲ့တစ်မျိုး မထပ်စေရပဲ နှစ်သောင်းကျော်ကို ရေးဆွဲနိုင်တယ်။ ၇၅ နှစ်လုံးလုံး သီတင်းတစ်ပတ်မှာ ကြိမ်နှုန်း ပန်းချီကားငါးချပ် ရေးဆွဲပြီးစီးတယ်လို့ သိရပါတယ်။ အမြဲလိုလို သူ့လက်ရာဟာ ဈေးကောင်း ရပါတယ်။ အဲဒါနဲ့ ပီကာဆိုဟာ သူဌေးကြီး ဖြစ်လာပါတယ်။ ပြင်သစ် မို့ဂျင် (Mougins) မှာ ၁၉၇၃ ခုနှစ်က ကွယ်လွန်သွားပါတယ်။

ပီကာဆိုဟာ အလွန်အမင်း ထူးထူးခြားခြား လက်စွမ်း ထက်သူဖြစ်တယ်။ ပန်းချီဆရာလို့ နာမည်ခံ ထားပေမယ့် ပန်းပုလည်းထုတယ်။ လက်ရာကောင်းတွေ ထွက်ပါတယ်။ ဘဲလေး (Ballet) ကဖို့ နောက်ခံကားတွေလည်း တီထွင်ရေးဆွဲပေးတယ်။ ကဗျာလင်္ကာလည်း စပ်တယ်။ သူ့လက်ရာအနေနဲ့ လစ်သိုဂရပ် (ကျောက်ထွင်းပန်းချီ) ဆွဲပုံနဲ့ အနုပညာ လက်ရာပစ္စည်းတွေ အများကြီး ကျန်ရစ်ပါတယ်။ ပီကာဆိုဟာ တခြားပန်းချီဆရာတွေနဲ့ မတူတဲ့ အချက်တစ်ခုက နိုင်ငံရေးမှာလည်း သူစိတ်ဝင်စားတယ်။ အမှန်ပြောရရင် သူ့အကျော်ကြားဆုံး လက်ရာဖြစ်တဲ့ ဂွာနိက (Guernica) (၁၉၃၇) ဟာ စပိန် ပြည်တွင်းစစ်က အဖြစ်အပျက် တစ်ခုကို မှီပြီး ပေါ်လာတာဖြစ်ပါတယ်။ တခြားလက်ရာတွေလည်း နိုင်ငံရေး အရိပ်အခြေတွေနဲ့ မကင်းပါ။ ကျော်ကြားတဲ့ပန်းချီဆရာ တစ်ယောက်မှာ သူ့မူပိုင် ရေးဆွဲဟန် တစ်ခု ရှိမြဲဖြစ်ပါတယ်။ ပီကာဆိုမှာ မရှိပါ။ သူ့မှာ ရေးဆွဲဟန်တွေ အများကြီး ရှိပါတယ်။ အနုပညာ ဝေဖန်ရေး ဆရာတွေက သူ့မှာ အပြာခေတ်၊ ပန်းရောင်ခေတ်၊ ရေးဟောင်း လက်သစ်ခေတ် စသဖြင့် ခေတ်တွေ ရှိနေပါတယ်။ သူဟာ ကျူးဗစ်ဇင်ကို စပြီး တီထွင်သူ ဖြစ်ပါတယ်။ ခေတ်ပန်းချီမှာ နည်းလမ်းတွေ အများကြီး စပေးခဲ့သူဖြစ်ပါတယ်။ ဘယ်ပန်းချီဆရာမှ သူ့လို ရေးဆွဲဟန် မူကွဲတွေ အများကြီး မရှိနိုင်ပါ။ အနုပညာမှာ နည်းလမ်းသစ် တစ်ခုဟာ နှစ်ရှည်လများ ခံတယ်လို့ မရှိနိုင်ပါ။ ပီကာဆိုကို နှစ်ဆယ်ရာစုနှစ်အတွင်းမှာ အကြီးအကျယ် ချီးမွမ်းကြတယ်။ ရှေးနှစ်ပေါင်း များစွာမှာ ဆက်ပြီး ချီးမွမ်း နေကြဦးမှာလား။ ဒါမှ မဟုတ်ရင် သူ့အရှိန်အဝါဟာ မကြာခင် ကျဆင်း ပျောက်ကွယ် သွားမှာလားလို့ မေးရင် အမှန်ပြောရရင် ဒီအမေးကို ဖြေဖို့ မလွယ်ပါ။ လက်တွေ့နဲ့ ယှဉ်ပြီး အဖြေရှာရင် ပီကာဆိုရဲ့ သြဇာ အရှိန်အဝါဟာ အကြာကြီး ခံမယ်လို့ ဆိုချင်တယ်။ ခုထိမှန်တယ် ဆက်ပြီး မှန်နေဦးမှာလားဆိုတာတော့ အချိန်ကပဲ ဆုံးဖြတ်ပါလိမ့်မယ်။

# (၈) အဲန်တွိုင် ဟဲန်နရီ ဗက်ကွာရယ် (၁၈၅၂ – ၁၉၀၈)

## ANTOINE HENRI BECQUEREL (1852 – 1908)

ရေဒီယိုရုပ်ကြွခြင်းကို ရှာဖွေတွေ့ရှိသူ အဲန်တွိုင်ဟဲန်နရီ ဗက်ကွာရယ် (Antoine Henri Becquerel) က ပြင်သစ်နိုင်ငံ ပါရီမြို့တော်မှာ ၁၈၅၂ ခုနှစ်က ဖွားမြင်ခဲ့ပါတယ်။ ပညာကောင်းကောင်း သင်ခွင့်ရခဲ့လို့ ၁၈၈၅ မှာ ဒေါက်တာဘွဲ့ရခဲ့ပါတယ်။ ၁၈၉၂ မှာ ပါရီသဘာဝ သမိုင်းပြတိုက်ရဲ့ အသုံးချ ရူပဗေဒ ပါမောက္ခ ဖြစ်လာပါတယ်။ စိတ်ဝင်စားစရာ အချက်တစ်ခုက သူ့အဘိုးနဲ့ သူ့အဖေဟာ သူ့အခုရခဲ့တဲ့ရာထူးကို ရခဲ့ပါတယ်။ သူ့နောက် သူ့သားသမီးလည်း ဒီရာထူးပဲ ရပါတယ်။ ၁၈၉၅ ရောက်တဲ့အခါ ဗက်ကွာရယ်ဟာ ပါရီလက်မှုပညာကျောင်းရဲ့ ရူပဗေဒ ပါမောက္ခ ဖြစ်လာပါတယ်။ အဲဒီရာထူးမှာ တာဝန် ဆောင်ရွက်ရင်း နောင်အခါ သူ့နာမည်ကျော်ကြားဖို့ ကြီးကျယ်တဲ့ ရှာဖွေတွေ့ရှိချက် ကို လုပ်နိုင်ခဲ့ပါတယ်။

အရင်တစ်နှစ်က ဝီလ်ဟမ် ရောင်တဂျန် (Wilhelm Rontgen) က (X–ray) ဓာတ်မှန်ရောင်ခြည်ကို တွေ့ခဲ့တယ်။ သိပ္ပံစိတ်ဝင်စားသူတွေ အားလုံး လှုပ်ရှား သွားအောင် ကြီးကျယ်တဲ့ အသစ်တွေ့ရှိချက် ဖြစ်ပါတယ်။ ရောင်တဂျန်က ကတ်သုတ်ရောင်ခြည်ပြွန် (Cathode–ray tube) ကို အသုံးပြုပြီး (X–Ray) ကို ထုတ်လုပ် နိုင်ပါတယ်။ အဲဒါက အစပြုပြီး ဗက်ကွာရယ်က X–Ray ကို အမှောင်ထဲမှာ အရောင်လက်တဲ့ပစ္စည်းကို ရိုးရိုး နေရောင်နဲ့ ဖမ်းလို့ရနိုင်စရာ ရှိတယ်လို့ ကြံဆတယ်။ အဲဒါနဲ့ သူ့ဓာတ်စမ်းရုံမှာ ပိုတက်စီယမ် (Potassium)၊ ယူရေနီယမ် (Uranium)၊ ဆာလ်ဖိတ် (Sulphate) ကို ရောစပ်ပြီး အရောင်လက်တဲ့ပစ္စည်းကို ပြုလုပ်ပါတယ်။ ပြီးတော့မှ လက်တွေ့ စမ်းသပ်ချက်ကို လုပ်တဲ့အခါ ပထမ ဓာတ်ပုံမှန်ပြားကို စက္ကူထူထူမဲမဲကို အုပ်လိုက်တယ်။ ဘယ်လိုမှ မှန်ပြားကို အလင်းရောင် မထိအောင် ကာကွယ်လိုက်တာ ဖြစ်ပါတယ်။ ပြီးတော့မှ အရောင်လက်တဲ့ သလင်းစတွေကို ရစ်ပတ် ပိတ်ဆို့ထားတဲ့ မှန်ပြားထိပ်မှာ တင်တယ်။ နေရောင်ပြတယ်၊ ဓာတ်ပုံကူးတဲ့ ကော်ပြားကို ဆေးလိုက်တဲ့အခါ မျှော်လင့်ထားတဲ့အတိုင်း သလင်းစတွေရဲ့ပုံ ထင်နေတာ တွေ့ရပါတယ်။ ပထမ ဗက်ကွာရယ်က (X–Ray) အသစ် တစ်မျိုးကို တွေ့ရတယ်လို့ ထင်တယ်။ ဒါပေမဲ့ သူ့အထင်မှာ မတော်တဆ မှားယွင်းလုပ်မိတဲ့ အလုပ်တစ်ခုကြောင့် ထင်ရှားတဲ့ အလင်းရောင်မှာ ပထမ မိသွားပေမယ့် ထွင်းဖောက်ပြီး မြင်ရတဲ့ ယူရေနီယမ် ဓာတ်အဖွဲ့အစည်း တစ်ခုကို တွေ့ရှိပါတယ်။ အဲဒီနေ့ တိမ်ထူထပ်နေလို့ စမ်းသပ်ချက်တွေ ကြိုက်သလောက် ဆက်မလုပ်နိုင်ပါ။ အဲဒါနဲ့ သလင်းနဲ့ ဓာတ်မှန်ပြားတွေကို အသေအချာ ထုတ်ပြီး နေရောင်မှာ သလင်းစကို မပြလိုက်ဘဲ စားပွဲအံဆွဲထဲမှာ ထည့်ပြီး

ထားလိုက်ပါတယ်။ ရက်အတန်ကြာတော့ ဒီဓာတ်ပုံမှန်ပြားကို ဆေးကြည့်မိတယ်။ အံ့သြရတဲ့ အကြောင်းကတော့ သလင်းစတွေရဲ့ ရုပ်ပုံကို သေသေချာချာ တွေ့ရပါတယ်။ သေချာတဲ့အချက်က ဒါဟာ ရိုးရိုး အလင်းရောင်ဟပ်လို့ မဟုတ်ပါ။ ဒီလိုဆိုရင် ဗက်ကွာရယ်က သူ့မူလ စမ်းသပ်ချက်ပုံစံကို စွန့်ပြီး နောက်တစ်မျိုး စမ်းသပ်ရမယ်လို့ ဆုံးဖြတ်တယ်။ ဒီဆုံးဖြတ်ချက်ဟာ မှန်တယ်။ ယူရေနီယမ်ဆားက အရောင်ထွက်တာ (X–Ray) မဟုတ်ပါ။ (နာမည်မပေါ်သေးမီ ဗက်ကွာရယ်ရောင်ခြည်လို့ပဲ ခေါ်ကြတယ်။) အဲဒီရောင်ခြည်သစ်က အခုပြုလုပ်ဖော်စပ်တဲ့ ယူရေနီယမ် သာမဟုတ်၊ ဘယ်ယူရေနီယမ် နဲ့မဆို အရောင်ရတယ်။ ဒီလိုဖြစ်ပွားတာကလည်း ဓာတ်သဘာဝပြောင်းလို့ ယူရေနီယမ် အနုမြူကြောင့် ဖြစ်တယ်လို့ သိရပါတယ်။

ဗက်ကွာရယ်က ၁၈၉၆ ရောက်တဲ့အခါ အခုတွေ့ရှိချက်ရဲ့ အံ့သြဖွယ်ဖြစ်ရပ်တွေကို ဖော်ပြတဲ့ စာတမ်း အတော်များများ ရေးပြီးနေပါပြီ။ ဒီစာတမ်းတွေ (Mari Curie) က ဒီကိစ္စကို ထပ်သုတေသနလုပ်ပြီး စာတမ်းဆက်ရေးပါတယ်။ သိုရီယမ် (Thorium) ဓာတ်လည်း ရုပ်ကြွပစ္စည်း ဖြစ်တယ်လို့ သိလာပါတယ်။ ယောက်ျားဖြစ်တဲ့ ပီယာ (Pierre) နဲ့ တွဲဖက်ပြီး အရင်က မတွေ့ဘူး သေးတဲ့ ပိုလိုနီယမ် (Polonium) နဲ့ ရေဒီယမ် (Radium) ဓာတ်တွေကို တွေ့တယ်။ ဒါတွေလည်း ရေဒီယို ရုပ်ကြွစေနိုင်ပါတယ်။ (ဒီလိုဖြစ်ပျက်ပုံက ရေဒီယိုရုပ်ကြွ radio activity တယ်လို့ ကျူရီကပဲစပြီး သုံးစွဲခဲ့တာ ဖြစ်ပါတယ်။)

အားနက်ရုသဖို့ဒ် (Ernest Ruther Ford) နဲ့ ဖရက်ဒရစ် ဆော်ဒီ (Frederick Soddy) တို့လို သိပ္ပံပညာရှင် တချို့က ဒီအခြင်းအရာကို ယူပြီး ဆက်လက် စုံစမ်းတဲ့ အခါ ဗက်ကွာရယ်ရောင်ခြည်မှာ ရောင်ခြည်သုံးမျိုး ပါဝင်တယ်လို့ တွေ့တယ်။ သိပ္ပံပညာရှင်တွေက ဒီရောင်ခြည် သုံးမျိုးကို အယ်လဖာ ရောင်ခြည် (Alpha rays)၊ ဘီတာရောင်ခြည် (Beta rays)၊ ဂမ်မာရောင်ခြည် (Gamma rays) လို့ နာမည်မှည့်တယ်။ ဆက်ပြီး သူတို့ရဲ့ အစွမ်းသတ္တိ ဘယ်လောက်ရှိတယ် ဆိုတာကို စမ်းသပ် ဖော်ထုတ်ကြတယ်။ ရောင်ခြည်ထဲမှာ စိတ်ပါဝင်စားစရာ အကောင်းဆုံး ကတော့ သူတို့မှာပါလာတဲ့ စွမ်းအားပဲဖြစ်ပါတယ်။ ရေဒီယို ရုပ်ကြွတွေမှာ စွမ်းအားတွေ အများကြီး လှုပ်ရှားနေတာ ထင်ရှားပါတယ်။ ဘယ်က ဒီအစွမ်းတွေ ရသလဲဆိုရင် အနုမြူ Atom ထဲကပဲဖြစ်ရမယ်။ အဲဒါပဲ အံ့သြစရာ အချက်ဖြစ်ပါတယ်။ ရေဒီယိုရုပ်ကြွချက်ကို မသိရှိမီက အနုမြူမှာ ဒီလိုအားတွေ အများကြီး ရှိတာကို မသိကြပါ။ ဗက်ကွာရယ်ကို ပီယာနဲ့ မာကျူရီတို့နဲ့ တွဲပြီး ၁၉၀၃ မှာ နိုဗယ် (Novel) ဆုပေးတယ်။ ပြင်သစ်နိုင်ငံ လေခရွိုင်စစ် (Le Croisic) မြို့မှာ ၁၉၀၈ မှာ ဗက်ကွာရယ် သေဆုံး ပါတယ်။

ရေဒီယိုရုပ်ကြွအသုံးဝင်ပုံကို အနည်းငယ် ပြောပြပါမယ်။ ပထမ တိုက်ရိုက်ယူပြီး သုံးနိုင်တဲ့ကိစ္စတွေ ရှိတယ်။ ဥပမာ ကင်ဆာ (Cancer) ရောဂါကုတဲ့အခါ သုံးတယ်။ ဒုတိယ သူ့ကိုလက်ကိုင်ထားပြီး သိပ္ပံ စမ်းသပ်ချက် အတော်များများ လုပ်နိုင်ပါတယ်။ ရေဒီယိုရုပ်ကြွကို အသုံးပြုပြီး နျူကလိယ (Nuclear) ရဲ့ သဘာဝကို စုံစမ်းရတယ်။ ရေဒီယို လှုပ်ရှားတာ ပေါ်မှီပြီး ရှေးဟောင်း

သုတေသနပညာရှင်တွေနဲ့ ဘူမိဗေဒ ပညာရှင်တွေက ရှေးပစ္စည်းတွေရဲ့ အသက်နုရင့်ကို ပြနိုင်ဖို့ ရက်စွဲ ဖော်နိုင်ပါတယ်။ ဒါပေမယ့် သူ့ရဲ့အရေးသိပ်ကြီးတဲ့ တန်ဖိုးကတော့ အနုမြူထဲမှာ စွမ်းအား အများကြီး ရနိုင်တယ်ဆိုတဲ့အချက်ကို ပြနိုင်ခြင်းပဲဖြစ်ပါတယ်။ ဗက်ကွာရယ်ရဲ့ အသစ်တွေ့ရှိချက် ဆိုတာက အနုမြူစွမ်းအားကို အချိန်တိုတိုမှာ အများကြီး ရအောင် ထုတ်ယူနည်း ဖြစ်ပါတယ်။ (ဟီရိုရှီမ Hiroshima ကို ချတဲ့ဗုံးဟာ ယူရေနီယမ် အများကြီးပါတယ်။ နျူကလိယ တုံ့ပြန်အားဟာ အနုမြူအား (Atomic energy) ကို နှေးနှေး ထုတ်သုံးနိုင်တဲ့ နည်းရထားလို့ ဖြစ်ပေါ်လာတာပါ။) အခု ကျော်စွာ ၁၀၀ မှာ ဘယ်နေရာထည့်မလဲ စဉ်းစားပါ။ နျူကလိယအားကို၊ နျူကလိယဗုံးကို ထုတ်လုပ်ရာမှာ သူတစ်ဦးတည်းပါတာ မဟုတ်ပါ။ အများ ပါဝင်တယ်။ ဒါပေမယ့် ဗက်ကွာရယ်ရဲ့ အစွမ်းက ရှေ့ဆောင် တယ်လို့ သိပ္ပံသမိုင်းမှာ ထင်ရှားပါတယ်။ လီဥဝဲန်ဟောက် (Leeuwenhoek) နဲ့ ဗက်ကွာရယ်တို့ လုပ်ဆောင်ချက်ကို ယှဉ်ကြည့်ပါ။ ရေတစ်စက်မှာ ပိုးမွှားတွေ ဒီလောက်များများ ပါမယ်မထင်တာကို ပါကြောင်း လီဥဝဲန်ဟောက်က ပြနိုင်တယ်။ ဒီလိုပဲ ဗက်ကွာရယ်က အနုမြူထဲက မထင်တဲ့ ကမ္ဘာသစ်ကို ပြနိုင်တယ်။ သူတို့နှစ်ယောက်လုံးဟာ သူတို့ တအံ့တဩ တွေ့ရှိချက်ကို ရှာလို့တွေ့တာ မဟုတ်ပါ။ မရှာပဲနဲ့ တွေ့ကြတာပါ။ ဒါပေမဲ့ သူတို့သုတေသနကို အာရုံစိုက်ပြီး မကြိုးစားပဲနဲ့ ဒါတွေကိုတွေ့တယ်လို့ ပြောရင်လည်း မဟုတ်ဘူး။ သူတို့နှစ်ယောက် အကျိုးပေးပုံက ဆင်ဆင်ဖြစ်နေတယ်။ ဒါပေမဲ့ လီဥဝဲန်ဟောက်အောက်က ဗက်ကွာရယ်ကို ထားရမယ်။ လူသားတွေ အတွက် ပိုးမွှား အန္တရာယ်ကို သိလိုက်ရတာက ရေဒီယိုရှပ်ကြွနဲ့ အနုမြူအားထက် ပိုပြီးအရေးပါတယ်။ တစ်ဖက်က ကြည့်ပြန်ရင်လည်း ဗက်ကွာရယ်ကို (အနုမြူဗုံးကို လုပ်တဲ့လူတွေထဲက အန်ရီကိုဖာမိ Enrico Fermi လိုလူထက်) ပိုပြီးအရေးပါတယ်။ ၁၈၉၅ မတိုင်မီက အခုပြောနေတဲ့ ရေဒီယိုရှပ်ကြွ သဘောတရားတွေကို ဘယ်သူကမှ မသိမြင်ကြတာ မဟုတ်ပါ။ တစ်ယောက်က အစဖော်လိုက်တော့မှ အသိတွေ ပွားများလာတာက ထုံးစံဖြစ်မြဲ ဖြစ်ပါတယ်။

## (၈) နီးစ်ဘော (၁၈၈၅ – ၁၉၆၂)

## NIELS BOHR (1885 – 1962)

အနုမြူဖွဲ့စည်းပုံကို မွေးထုတ်တဲ့ဖခင်ဟာ နီးစ် ဟဲန်နရစ် ဒေးဗစ်ဘော (Niels Henrik David Bohr) ဖြစ်တယ်။ သူ့ကို ကိုပဲန်ဟဂဲန် (Copenhagen) မှာ ၁၈၈၅ ခုက မွေးပါတယ်။ ၁၉၁၁ မှာ ဒေါက်တာဘွဲ့ကို ရူပဗေဒ ပညာအတွက် ကိုပဲန်ဟေဂဲန်တက္ကသိုလ်က ပေးပါတယ်။ အဲဒီနောက် မကြာမီ အင်္ဂလန် ကိန်းဗရစ်ချ် (Cambridge) မှာ ဂျေဂျေသောမ်ဆင် (J.J Thompson) ဆိုတဲ့ အီလက်ထရွန် (Electron) ကို တွေ့တဲ့ နာမည်ကြီး သိပ္ပံပညာရှင်လက်အောက်မှာလာပြီး အမှုထမ်းပါတယ်။ သိပ်မကြာမီ မန်ချက်စတာက အားနက်ရုသာဖို့ဒ် (Ernest Ruther ford) ဆီမှာ ပြောင်းရွှေ့နေပြန်တယ်။ အဲဒီပုဂ္ဂိုလ်က မကြာမီက အက်တမ်နျူကလိယ (Atomic Nucleus) ကို တွေ့ရှိသူဖြစ်ပါတယ်။ ရှေးအယူအဆကို ဆန့်ကျင်ပြီး အနုမြူထဲက အလယ်နေရာမှာ နျူကလိယတွေ အများကြီး၊ အပြင်ပိုင်းမှာလည်း အီလက်ထရွန်တွေ အများကြီး ရှိတယ်လို့ ပြောတယ်။ မကြာမီ ဘောက သူ့ကိုယ်ပိုင် အယူအဆအသစ်ဖြစ်တဲ့ အနုမြူဖွဲ့စည်းပုံ (Atomic Structure) ကို ဖော်ထုတ်တယ်။ ဘော တွေ့ရှိချက်က အသစ်အဆန်းဖြစ်တယ်။ အနုမြူနဲ့ မော်လီကျူးတွေ ဖွဲ့စည်းပုံကို စာတမ်းရေးပြီး ၁၉၁၃ ခုမှာ ဖိလော်ဆိုဖီကယ် မဂ္ဂဇင်းမှာ ရေးလိုက်ပါတယ်။ ဘောရဲ့သီအိုရီက အနုမြူဖွဲ့စည်းပုံဟာ နေဖွဲ့စည်းပုံနဲ့ သိပ်ဆင်တယ်။ အလယ်နျူကလိယ ထုထုကို အပြင်က အီလက်ထရွန်တွေက ရစ်ပတ်နေတယ်။ ဒါပေမယ့် အရေးပါတဲ့ ခြားနားချက်ကတော့ ဘော အဆိုအမိန့်ကို ပြောရရင် အနုမြူကို ရစ်တဲ့ အီလက်ထရွန်က သေးငယ်မယ်။ လည်ပတ်အားလည်း သေးငယ်ရပါတယ်။ ခွင်တစ်ခွင်က ကူးပြောင်းရတာလည်း ရှိတယ်။ ဒီလို ကူးပြောင်းရင်း အလင်းရောင်ကို ပေါ်ပေါက် စေတယ် လို့လည်း သိရပါတယ်။ ဘောရဲ့ တွေးဆချက်ဟာ ရှေးသမား ရိုးကျအတွေးနဲ့ သိပ်ကွာခြားနေတယ်။ (အိုင်စတိုင်း Einstein လို ပုဂ္ဂိုလ်က) ဘောရဲ့စာတမ်းဟာ သိပ်ကြီးကျယ် ကောင်းလွန်းနေတယ်လို့ ချီးကျူးပါတယ်။ တချို့ကတော့ သီအိုရီ အသစ်ဖြစ်လို့ စိတ်ချလက်ချ ယူမသုံးရဲသလို ဖြစ်နေပါသေးတယ်။ ဘောသီအိုရီက ဟိုက်ဒရိုဂျင် အနုမြူရဲ့ ရောင်စဉ်ကို ရှင်းပြနိုင်တဲ့အခါကျမှ ဟုတ်ပါပေတယ်လို့ ဖြစ်လာကြပါတယ်။ ဟိုက်ဒရိုဂျင် ဓာတ်ငွေ့ကို အပူပြင်းပြင်းပေးရင် အလင်းရောင် ထွက်လာပါတယ်။ ဒါပေမယ့် အဲဒီအလင်းရောင်မှာ အရောင်စုံ မပါပါ။ ဘောရဲ့နည်းက မှန်းဆချက် နည်းနည်းကို အခြေခံပြီး အရောင်စုံကို ဖော်ထုတ်နိုင်ပါတယ်။ အရင်က ရှိမှန်းမသိတဲ့ အရောင်တွေကို ထပ်ပြီး တွေ့ပါသေးတယ်။ သူ့ အသစ် တွေ့သမျှကိုလည်း စမ်းသပ်ချက်နဲ့ မှန်ကန်ကြောင်း ပြနိုင်ပါတယ်။ သူ့ဖော်ပြချက်ကြောင့် အနုမြူဟာ အခုလို ဘာကြောင့် သေးငယ်နေသလဲ ဆိုတာလည်း သိရပါတယ်။

ဒီလိုအချက်တွေကြောင့် ၁၉၂၂ မှာ ဘောရဲ့သီအိုရီကို လက်ခံပြီး ရူပဗေဒမှာ နိုဗယ်ဆုကို ပေးပါတယ်။

ရူပဗေဒသဘောထားဆိုင်ရာ ဓာတ်ခွဲခန်း (Institute For Theoretical Physics) ကို ကိုပဲန်ဟေဂဲန်မှာ ၁၉၂၀ ပြည့်နှစ်က တည်ထောင်ပြီး ဘောကို ဒါရိုက်တာ ခန့်ပါတယ်။ သူ့ညွှန်ကြားချက်ကို ခံယူဖို့ ထက်မြက်တဲ့ လူငယ်သိပ္ပံပညာရှင်တွေ ရောက်လာပြီး အဲဒီဓာတ်ခွဲခန်းဟာ သိပ္ပံသုတေသနမှာ ကမ္ဘာ့ရှေ့ဆောင်တစ်ခု ဖြစ်လာပါတယ်။

ဒီအတောအတွင်းမှာ ဘောရဲ့ အနုမြူဖွဲ့စည်းပုံကို ထင်ရှားအောင် ရှင်းလင်းဖို့ အခက်အခဲတွေ ပေါ်ပေါက် လာပါတယ်။ အချုပ်က ဘောရဲ့သီအိုရီက ဟိုက်ဒရိုဂျင် ရောင်စဉ်ကို အနုမြူမှာရှိတာကို ရှင်းနိုင်ပေမယ့် တခြားအရောင်တွေကို မရှင်းနိုင်ပါ။ ရှိပြီး သိပြီးကို အသင့်အတင့် ဖြေရုံနဲ့ အဖြေ မရနိုင်၊ အများကြီး ပြုပြင်ကြံဆမှ အဖြေထွက်မယ်လို့ ဘောကိုယ်တိုင် သိပါတယ်။ သူက အင်မတန်ထူးချွန်တဲ့ ပုဂ္ဂိုလ် ဖြစ်တာ မှန်ပေမယ့် သူတစ်ဦးတည်း မစွမ်းနိုင်ပါ။ လိုတဲ့အဖြေကို ၁၉၂၅ မှာ နောက်ဆုံးပေးသူက ဝါနာ ဟိုက်ဆဲန်ဗာ့ခ် (Warner Heisen berg) နဲ့ အပေါင်းအပါတို့ဖြစ်ပါတယ်။ သူတို့က ဘောနဲ့လည်း တိုင်ပင်တယ်၊ အချင်းချင်းလည်း တွေ့ဆုံ ဆွေးနွေးတယ်။ ဘောကလည်း ဉာဏ်အသစ်ကို ကြိုဆိုတယ်။ လက်ခံဆွေးနွေးပြီး ထပ်ပွားအောင်လုပ်တယ်။ စာတမ်းရေးတယ်။ ဒီလိုနဲ့ သီအိုရီအသစ်တွေ ထွက်လာ ပါတယ်။

ဘောဟာ ၁၉၃၀ ကျော်တဲ့အခါ အနုမြူ နျူကလိယ သုတေသနကိုပဲ ဇောက်ချပြီးလုပ်တယ်။ အနုမြူ နျူကလိယကို 'အရေစက်ချ' ပုံစံနဲ့ စမ်းသပ်ကြံဆပါတယ်။ ဘောကပစဲ တင်ပြီး ယူရေနီယမ် အိုင်ဆိုတုပ်ကို စဉ်းစားတဲ့ အခါ အနုမြူဗုံး လုပ်ဖို့ လမ်းစရလာပါတယ်။ ဂျာမန် တပ်တွေက ၁၉၄၀ ပြည့်မှာ ဒိန်းမတ် (Denmark) ကို ဝင်စီးတယ်။ ဘောအတွက် အသက်အန္တရာယ်ရှိလာပြီမို့၊ နာဇီဆန့်ကျင်ရေး စိတ်ဓာတ်လည်း ပြင်းထန်လို့၊ သူ့မိခင်ကလည်း ဂျူးအမျိုးသမီး ဖြစ်နေလို့၊ ၁၉၄၃ မှာ ဆွီဒင် (Sweden)ကို ထွက်ပြေးခဲ့ရပါတယ်။ ဟစ်တလာရဲ့ အဆိပ်ငွေ့နဲ့ သေရမယ့်လူတွေကို အတော်များများ ကယ်တင် ပေးခဲ့ပါတယ်။ ဆွီဒင်က ဘောဟာ လေယာဉ်ပျံနဲ့ အင်္ဂလန်ကိုဝင်၊ အမေရိက ရောက်၊ စစ်အတွင်းက အနုမြူဗုံး ဖြစ်အောင် လုပ်တာကို ကူညီခဲ့ပါတယ်။ စစ်ပြီးတော့ ကိုပဲန်ဟေဂဲန်ကို ပြန်သွားပါတယ်။ သူထူထောင်ခဲ့တဲ့ သိပ္ပံသုတေသန ဓာတ်စမ်းရုံမှာပဲ ဦးဆောင်ဦးရွက် ဆောင်ရွက်ရင်း ၁၉၆၂ မှာ ကွယ်လွန်သွားပါတယ်။ ၁၉၁၂ က ဘော အိမ်ထောင်ကျတယ်။ သိပ္ပံသုတေသန လုပ်ငန်း အကြီးဆုံးတစ်ခု လုပ်နေတဲ့ အခိုက်အတန့်လည်း ဖြစ်ပါတယ်။ သူ့သားငါးယောက်ထဲက အေ့ဂ်ျဘောလည်း ၁၉၇၅ မှာ ရူပဗေဒပညာနဲ့ နိုဘယ်ဆုရတယ်။ ကမ္ဘာမှာ ဘောဟာ လူချစ်လူခင် အများဆုံးဖြစ်တဲ့ သိပ္ပံဆရာ ဖြစ်ပါတယ်။ သူ့ပညာကြောင့် မဟုတ်၊ သူ့စိတ်တွေ နူးညံ့ပြီး ကြင်နာ ထောက်ထားတဲ့ လူဆန်တဲ့စိတ်ကြောင့် ဖြစ်ပါတယ်။

ဘောရဲ့အရင်းမူလဖြစ်တဲ့ အနုမြူ သီအိုရီကို အရင်အနှစ် ငါးဆယ်ကပဲ ဆွေးနွေးပြုပြင်ခဲ့ကြရပါတယ်။ သူဟာ နှစ်ဆယ်ရာစုရဲ့ အထူးချွန်ဆုံး လူသားတွေထဲက တစ်ယောက်ဖြစ်ပါတယ်။ ပထမတစ်ချက်က သူ့အယူအဆ တချို့ကို အခုထိ လက်ခံ ထားကြဆဲ ဖြစ်ပါတယ်။ အနုမြူရဲ့အားကို သိထားတာကိုပဲ ဆက်သုံးနေကြတယ်။ အနုမြူမှာ သူ့ဘာသာ ကြီးမားတဲ့ ခွန်အားရှိနေတယ်ဆိုတာကို လုံးဝဥဿုံ လက်မခံပေမယ့် ဒါကို အဖိုးတန်တဲ့ အစတစ်ခုလို့ လက်ခံကြပါတယ်။ ကွမ်တမ်သီအိုရီကို သူက အစဖော်တာ ဖြစ်ပါတယ်။ အဲဒီကမှ ကွမ်တမ်မက္ကင်းနစ် ဖြစ်လာရတာပါ။

# (ဃ) စိန့်သောမတ်စ် အကွီနာ့စ် (ခရစ်နှစ်၁၂၂၅ ခန့် - ၁၂၇၄ခန့်)

# ST. THOMAS AQUINAS (c. 1225 – 1274)

အီတလီက ဒဿနိကပညာရှင် သောမတ်စ် အကွီနာ့စ် ဟာ ဆုမသီအိုလိုဂျီစ လို ဘာသာရေးကျမ်းတွေ ရေးလို့ နာမည်ကြီးပါတယ်။ ကာသိုလစ်ကျမ်းရင်းတွေထဲက အပြည့်စုံဆုံး၊ အကောင်းဆုံးလို့ ပြောရပါမယ်။ သူရေးသလောက် ပြည့်စုံအောင် အတွေးအခေါ်တစ်မျိုးကို ရေးက ဘယ်သူမှ မရေးဘူးသေးပါ။ သူ့စာကို ဖတ်တဲ့သူဟာ သူ့စကားကို မလိုက်နာပေမယ့် သူ့ကို အင်မတန် ပြည့်စုံပါတယ်လို့ ချီးကျူးမိမှာ ဖြစ်ပါတယ်။ ဒါပေမဲ့ သူ့ပညာက အင်မတန် လေးနက်သိမ်မွေ့တဲ့အတွက် လက်တွေ့ လိုက်နာဖို့ အင်မတန်ခက်ခဲမှာ ဖြစ်ပါတယ်။ ဘာသာရေးအယူအဆကို တင်ပြတဲ့အခါ ကာသိုလစ် အယူကို အခုသူရေးသလို ဝေဖန် ပိုင်းခြားပြီး ထင်ရှားအောင် ရေးနိုင်သူ မရှိပါ။ ဒါပေမဲ့ အတွေးအခေါ် နယ်မှာ ခေတ်ဆန် ပေါ်ထွန်းအောင်တော့ သူမစွမ်းပါ။ သူ့ကျမ်းကို ဖတ်ပြီး ခရစ်သာသနာဝင် ဖြစ်လာတယ်။ ကာသိုလစ်အယူကို ပြောင်းလာတယ်လို့ မရှိပါ။ အဲဒါကြောင့် သူ့ရေးသားချက်က ဘယ်လောက် ကောင်းကောင်း လူတွေရဲ့အပြုအမူကို ပြောင်းလဲ နိုင်အောင် မစွမ်းလို့ သူ့ကို အထက်စာရင်းက ဖြုတ်ထားခဲ့တာဖြစ်ပါတယ်။

# (င) အာခီမီဒီစ် (ခရစ်မပေါ်မီ ၂၈၇ က ခရစ်မပေါ်မီ ၂၁၂ ထိ)

## ARCHIMEDES (287 B.C – 212 B.C)

ရှေးကမ္ဘာမှာ အာခီမီဒီစ်ကို သင်္ချာပါရဂူကြီး၊ သိပ္ပံပညာရှင်ကြီးလို့ အသိအမှတ်ပြုထားကြပါတယ်။

တစ်ခါတစ်ရံ သူဟာ ကုတ် (Lever) ရဲ့တန်ဖိုးကို စတင်သိရှိသူ၊ မြေရဲ့ ဆွဲဆောင်အားကို စတင်ဖော်ပြသူလို့ အထင်ကြီး ခံခဲ့ရတဲ့လူ ဖြစ်ပါတယ်။

တကယ်ကတော့ သူလူမဖြစ်ခင် နှစ်ပေါင်း များစွာကပဲ ကုတ်တန်ဖိုးကို သိရှိနေကြတယ်။

အီဂျစ် အင်ဂျင်နီယာတွေက သူ့ရှေ့နှစ်ပေါင်းများစွာကပဲ ကုတ်ရဲ့အစွမ်းကို သိပြီး တကယ်လက်တွေ့ သုံးစွဲခဲ့ကြပါတယ်။ အလေးစူးအားဟာ တကယ်အလေးချိန် မဟုတ်ကြောင်းကိုလည်း အာခီမီဒီစ် မပေါ်မီကပဲ လူတွေ သိရှိပြီးနေပါပြီ။ အာခီမီဒီစ်နဲ့ သရဖူအကြောင်းမှာ ရေစိမ်ပြီး စည်ပိုင်းထဲမှာ ရေချိုးရင်း ရေဖိတ်စင် သလောက် လူခန္ဓာကိုယ်ရဲ့ အလေးကို ရှာနည်းပေါ်ပြီလို့ အော်ဟစ်ပြီး လမ်းထဲကို ထွက်လာတဲ့ပုံပြင်ဟာလည်း သိပ်ပြီး အကြောင်းအရာကို လူတကာနားလည်အောင် ထင်ရှားပြ နိုင်ဖို့နည်းကို တွေ့ရှိတာပဲ ဖြစ်ပါတယ်။

သင်္ချာပါရဂူအနေနဲ့ အာခီမီဒီစ်ဟာ အမှန်တကယ် တော်တယ်။ သူ့အတွေးဟာ ကဲကုလပ်စ်ကို စတင်တွေ့ဖို့ အင်မတန် နီးစပ်နေပါပြီ။ ဆိုလိုတာက ကဲကုလပ်စ်ကို တွေ့သူ အိုင်ဆက်နယူတန်ထက် သူကသိတာ အနှစ် တစ်ထောင့်နှစ်ရာ စောပါတယ်။ ကံခေချင်တော့ သူ့ခေတ်က သင်္ချာကို သရုပ်ဖော်ဖို့ သိပ်ခက် နေသေးတယ်။ သူနဲ့နီးစပ်တဲ့ နောက်ပိုင်း သင်္ချာဆရာတွေလည်း ဒီကိစ္စကို မစွမ်းဆောင်နိုင်ပါ။ ဒါနဲ့ သူ့ဉာဏ်စွမ်းကို အသုံးချခွင့် မရလိုက်တဲ့အတွက် ကျော်ကြားသင့်သလောက် မကျော်ကြားဘဲ ရသင့်ရထိုက်တဲ့ အခွင့်အရေးတွေ မရခဲ့တာ ဖြစ်ပါတယ်။ ဒါပေမဲ့ သူ့အစွမ်းက လူတစ်ရာထဲမှာ ပါဝင် လောက်အောင်လည်း မကြီးကျယ်ပါ။

# (၈) ချားလ်စ် ဘက်ဘေ့ချ် (၁၇၉၂ – ၁၈၇၁)

# CHARLES BABBAGE (1792 – 1871)

အခုလို ကွန်ပျူတာတွေ ခေတ်မစားခင် နှစ်တစ်ရာ တိတိက အင်္ဂလိပ်လူမျိုး နည်းလမ်းသစ် တီထွင်နိုင်တဲ့ ချားလ်စ် ဘက်ဘေ့ချ်က ကွန်ပျူတာတွေ စွမ်းသလောက် ခိုင်းလို့ရတဲ့စက်ကို သူစမ်းသပ် တီထွင်နိုင်ပါတယ်။ ဒါပေမယ့် သူ့စက်က အခုစက်တွေလို အဖြေပေးတဲ့အခါ မမြန်ပါ။ ပြီးတော့ လျှပ်စစ်နဲ့ တွက်တဲ့နည်းလည်း မလုပ် နိုင်ခဲ့ပါ။ နည်းပညာဆိုင်ရာမှာ တစ်ဆယ့်ကိုး ရာစုနှစ်ကလောက် မမြင့်သေးပါ။ ဒါပေမဲ့ သူကတော့ အချိန်နဲ့ငွေကို မငဲ့ပဲ နည်းသစ်ကို စမ်းသပ်ပေးခဲ့ပါတယ်။ လက်စမသတ်ခင် ကွယ်လွန် သွားတဲ့အတွက် တီထွင် သူနဲ့အတူ နည်းပညာဟာလည်း ဆုံးပါးတော့မလို ဖြစ်ခဲ့ရပါတယ်။ ဒါပေမဲ့ ၁၉၃၇ မှာ အိုင်ကဲန် (Howard H. Aiken) ဆိုတဲ့ ဟားဗတ်တက္ကသိုလ်ရဲ့ ဘွဲ့ရပြီး သူတစ်ယောက်က ဘက်ဘေ့ချ် စိတ်ကူးကို ယူပြီး ကွန်ပျူတာစက်ကို တီထွင်ပေးပါတယ်။ IBM အထောက်အပံ့ နဲ့ အိုင်ကဲန်က အမှတ်တစ် ပထမဦးဆုံး ပေါ်တဲ့ အထွေထွေသုံး ကွန်ပျူတာကို တီထွင်ပေးခဲ့ပါတယ်။ အမှတ်တစ်စက်ကို စတင် သုံးခဲ့ကြလို့ နှစ်နှစ်အကြာ ၁၉၄၆ မှာ အင်ဂျင်နီယာ နောက်တစ်စုက (ENIAC) အမည်နဲ့ ပထမဆုံး လျှပ်စစ် ဂဏန်းတွက်စက်ကို တီထွင်ခဲ့တယ်။ အဲဒီအချိန်ကစပြီး ကွန်ပျူတာနည်းပညာက ခပ်မြန်မြန်နဲ့ အရမ်း တိုးတက်လာပါတယ်။

ကမ္ဘာမှာ ဂဏန်းတွက်စက်က သိပ်တွင် ကျယ်ပြီး အကျိုးပြုတဲ့ အချိန်လည်း ဖြစ်တယ်။ ရှေ့ပိုပြီး တိုးတက်ဖို့ အလားအလာလည်း အများကြီးရှိတယ်။ ဒါကြောင့် ချားလ်စ်ဘက်ဘေ့ချ် အကြောင်းကို ဒီစာအုပ်ထဲ ထည့်ပြီး ဖော်ပြဖို့ စီစဉ်ပါသေးတယ်။ နောက် သေသေချာချာ နှိုင်းယှဉ်တော့ အိုင်ကန် စွမ်းသလောက် သူက မစွမ်းပါ။ ENIAC ဒီဇိုင်းလက်ရာဟာ ရှေးဟောင်း ဖြစ်တဲ့ ဂျွန်မော့ချ်လီနဲ့ ဂျေပီအေကာ့တ်တို့ကိုလည်း မမီဘူး။ အဲဒါအပြင် သူ့အရင်က ပါစကယ်၊ လိုက်ဗနစ်ဇ်၊ ဂျက်ကတ်တို့နဲ့ တန်းတူပဲရှိတယ်။ ၁၆၄၂ လောက်က ပြင်သစ်သိပ္ပံဆရာ ပါစကယ်က ဂဏန်းတွက်စက်တစ်ခု တီထွင်ဘူးတယ်။ ၁၆၇၂ မှာ လိုက်ဗနစ်ဇ်ကလည်း ဂဏန်းပေါင်း၊နုတ်၊ မြှောက်၊ စား လုပ်နိုင်တဲ့စက်ကို တီထွင် ပြီးမြောက်ခဲ့တယ်။ ခေတ်ကွန်ပျူတာတွေမှာ သိပ်အသုံးဝင်တဲ့ နှစ်စုံတွဲ (Binary) နည်းကိုလည်း တွေ့ရှိခဲ့ပြီးပြီ၊ ပြင်သစ်လူမျိုး ဂျက်ကတ်က တစ်ဆယ့်ကိုးရာ စုနှစ်ဦးက ရက်ကန်းစက်မှာ အပေါက်ပါတဲ့ ကဒ်ပြားနဲ့ စက်ကိုစေခိုင်းတဲ့နည်း ထွင်ခဲ့ပြီးပြီ၊ အဲဒီက ဘက်ဘေ့ချ်ဟာ အများကြီး နည်းမှီရတယ်။ အမေရိကက ဟာမင် ဟောလာရင်ကလည်း သန်းခေါင်စာရင်း စစ်တဲ့အခါ သိပ်အသုံးဝင်တဲ့ အပေါက်ပါကဒ်တွေကို သုံးနည်း ထွင်ခဲ့တယ်။ အဲဒီလို နည်းသစ်တွေ ရှာကြပေမယ့် ဘယ်သူမှ အချွန်ဆုံး ဖြစ်မလာပါ။ ဒီတော့ ဘက်ဘေ့ချ်လည်း ထူးမခြားနားလို့ စာအုပ်ထဲမှာ ထည့်ဖို့က

# (ဆ) ချော့ပ်စ်(ခရစ်မပေါ်မီ ၂၆ ရာစုနှစ်လောက်က)

## CHEOPS (fl. 26th c. B.C)

အီဂျစ်ဘုရင် (ဂရိတွေက ချော့ပ်စ် လို့ခေါ်တဲ့) ခု ဖုကိုဂီဇ မှာရှိတဲ့ ပိရမစ်ကြီးကို တည်ဆောက်သူလို့ မှတ်ထားကြပါတယ်။ ပိရမစ်ကြီးက သူ့အလောင်းကို မြှုပ်နှံဖို့ လုပ်ရတယ် ဆိုပါတယ်။ သူ့မွေးနေ့၊ ကံကုန်တဲ့ရက် အတိအကျ မသိပါ။ ဒါပေမယ့် ခရစ်တော်မပေါ်မီ ၂၆ ရာစုနှစ်မှာ ထွန်းကားခဲ့တယ်လို့ ယူဆပါတယ်။ သူ့မြို့တော်က မစ်ဖစ်စ်၊ သူအုပ်စိုးတဲ့ တိုင်းပြည်က အီဂျစ်၊ အဲဒါကလွဲလို့ နောက်ထပ်ဘာမျှ မသိပါ။

ပိရမစ်ကြီးဟာ ကမ္ဘာမှာ လူလုပ်တဲ့ အဆောက်အအုံထဲ မှာ အကြီးကျယ်ဆုံး ဖြစ်တယ်။ ရှေးအခါကစပြီး ကမ္ဘာ့အံ့ဘွယ် ခုနှစ်ပါးမှာ တစ်ပါး အပါအဝင် ဖြစ်တယ်လို့ သတ်မှတ်တယ်။ ကျန်တဲ့ အံ့ဘွယ်ခြောက်ပါးက (ဟောင်းလွန်းလို့) အခုမရှိတော့ဘူး။ ပျက်စီးကုန်ပြီ။ ဒီပိရမစ်ကြီးသာ တည်ဆောက်တဲ့ ဘုရင်ကို သတိရစရာ အထိမ်းအမှတ် အဖြစ်နဲ့ ကျန်ရှိနေပါတယ်။

တည်ဆောက်ပုံ စေ့စပ် သေချာပြီး ကြီးကျယ်လို့ အံ့သြကြတာပါ။ အခုအထိ (ခုခေတ်) ၃၅ ထပ်တိုက် အမြင့်လောက် ပေ ၄၅၀ မြင့်ပါသေးတယ်။ အကြမ်းအားဖြင့် ကျောက်တုံးကြီး ၂၃၀၀၀၀၀ (နှစ်သန်းသုံးသိန်း) နဲ့ တည်ဆောက် ခဲ့တယ်။ ပျမ်းမျှကြေး ကျောက်တစ်တုံးဟာ နှစ်တန်ခွဲလေးတယ်။ ဒီပိရမစ်ထဲမှာ အခန်းတွေဖွဲ့ပြီး ဆက်သွယ်ဖို့ သွားလမ်းတွေရှိတဲ့အတွက် ကျောက်တုံး အရွယ် အစားစားလဲ ထည့်ပြီး ဆောက်ရတာဖြစ်လို့ အစီအစဉ် ခက်ခဲရှုပ်ထွေးလှတယ်။ ခုခေတ်အခါလို စက်ကိရိယာတွေမပါဘဲ ရှေးအီဂျစ်နိုင်ငံသားတွေ အရင်အနှစ် လေးထောင်ခြောက်ရာက ဒါလောက် ကြီးကျယ်တဲ့ အဆောက်အအုံကြီးကို ဘယ်လို စီမံ ဆောင်ရွက်တယ်လို့ ပြောဖို့ခက်တယ်။

အများဆုံး ပြောတတ်တာကတော့ တည်ဆောက်မယ့် ပုံစံစနစ်ကို အကျအနလုပ်ထားပြီး စေ့စေ့စပ်စပ် ခိုင်းနိုင်လို့ တိုင်းပြည်က ဖြည့်စွမ်းနိုင်သမျှ ပစ္စည်းအား၊ လူအားကို သုံးနိုင်လို့ ဒီလိုကြီးကျယ်တဲ့လုပ်ငန်းကို တည်ဆောက် အောင်မြင်တာ ဖြစ်တယ်လို့ပဲ ပြောနိုင်ပါတော့တယ်။ ပိရမစ်ကြီး တည်ဆောက်ချိန်ကို အနှစ် နှစ်ဆယ်လို့ ခန့်မှန်းတယ်။ သုံးစွဲတဲ့ ကျောက်တုံးကြီး အရေအတွက် ဟာလည်း ၃၀၀၀၀၀၀ ထက် ကျော်ရင်သာကျော်မယ်၊ ကျောက်တောင်မှာသွားပြီး လိုတဲ့အရွယ်ကို ဆစ်ပိုင်း ခုတ်ဖြတ် ယူရမယ်။ အဆောက်အအုံနေရာအရောက် သယ်ယူပြီး အချိုးကျအောင် ကျောက်တုံးကြီးတွေကို မယူပြီး တင်ထားနိုင်ဖို့ကလည်း လွယ်ကူမယ် မဟုတ်ပါ။ သယ်ယူတဲ့အခါ ရေလမ်းကို သုံးမှာဖြစ်လို့ လှေ၊ ဖောင်၊ သမ္ဗာန်တွေ အများအစား

သုံးရမှာဖြစ်ပါတယ်။ အလုပ်သမားကို ရာလိုက်ထောင်လိုက်ချီပြီး စေခိုင်းတဲ့ အခါမှာလည်း လူစေ့တက်စေ့ မပြတ်မလပ် အလုပ်တာဝန် ပေးထားဖို့ ဆိုတာလည်း မလွယ်ပါ။ ပိရမစ်ကြီးတည်ရှိနေတာ ခုထိ အနှစ် ၄၅၀၀ ကျော်ပါပြီ။ ရှေ့အဖို့ ခုခေတ် အင်ဂျင်နီယာတွေ ဆောက်ထားတဲ့ အဆောက်အအုံတွေ ပြိုကျသွားတဲ့အခါမှာလည်း ပိရမစ်ကြီး ဆက်ပြီး မပြိုမပျက် ရှိနေမယ်လို့ ပြောရတယ်။ အနုမြူဗုံးကို တိုက်ရိုက် ထိမှန်အောင် ချပြီးဖျက်တောင် ပျက်မယ် မဟုတ်ပါ။ သဘာဝ ရာသီဥတု တိုက်စားလို့ နည်းနည်း နည်းနည်း ပျက်ရမယ့် သဘောတော့ရှိပါတယ်။ အခုကို ရာသီဥတု တိုက်စားလို့ ပျက်စီးတဲ့နှုန်းနဲ့တွက်ရင် နောက်ထပ် အနှစ်တစ်သန်းလောက် ဆက်ပြီး တည်ရှိနေနိုင်စရာ ရှိတယ်။ အဲဒါကြောင့် ဘုရင်ချော့ပ်စ်ကို လူတွေက အခုလိုအကြာကြီး ဆက်ပြီး ချီးမွမ်းနေကြရတာ ဖြစ်ပါတယ်။ ခုထိ မမေ့မလျော့နိုင်အောင် ကျော်ကြားတဲ့ လူပုဂ္ဂိုလ်တွေနဲ့ စာရင် သူကထိပ်ဆုံးမှာ ဆက်လက် ရှိနေပါတယ်။ (ဆိုပါတော့ နပိုလီယန်တို့၊ မဟာအလက်ဇန္ဒားတို့ကို နောက် အနှစ်တစ်သောင်းမှာ မှတ်မိ နေကြဦးမှာလားလို့ မေးကြည့်ပါ။) ကျော်ကြားတာနဲ့ ကျေးဇူးပြုတာ တခြားစီပါ။ ချော့ပ်စ်လို သူ့ခေတ်သူ့အခါက အီဂျစ်မှာ ကျော်ကြားသူ တစ်ဦးဖြစ်တာ မှန်ပေမယ့်လို့ သူဟာ လူသားတွေနဲ့ ခေတ်အဆက်ဆက်မှာ ကျေးဇူးရှိပေမယ့်လို့ မချီးမွမ်းလောက်ပါ။

## (၈) မာရီ ကျူရီ (၁၈၆၇ – ၁၉၃၄)

## MARIE CURIE (1867 – 1934)

မာရီကျူရီရဲ့ မူလနာမည်က မရိုင်ယာစခါလောစက ဖြစ်ပါတယ်။ ကျော်စွာ ၁၀၀ မှာထည့်ထားတဲ့ သိပ္ပံပညာရှင် တချို့ထက် အများကြီးပိုပြီး ကျော်ကြားပါတယ်။ ဒီအမျိုးသမီးရဲ့ တတ်စွမ်းတဲ့ သိပ္ပံပညာကြောင့် အခုလို ကျော်ကြားတာ မဟုတ်။ အမျိုးသမီး တစ်ဦးအနေနဲ့ ဒါမျိုးလုပ်နိုင်ပါကလားလို့ ချီးမွမ်းအံ့သြကြပြီး အခုလို ကျော်ကြားလာတာ ဖြစ်ရမယ်လို့ ကျွန်တော် (အစက) ထင်မိတယ်။ အမျိုးသမီးရဲ့ ရာသက်ပန် လုပ်ကိုင် ဆောင်ရွက်ပုံကို ကြည့်ပြန်တော့ အမျိုးသမီး တစ်ဦးဟာ အဆင့်မြင့်တဲ့ သိပ္ပံသုတေသနကို ဆောင်ရွက် နိုင်တယ်လို့ ပြတ်သား ရှင်းလင်းစွာ ဖော်ပြနေပါတယ်။ အဲဒီအချက်ကြောင့် ဒီအမျိုးသမီးကို သိပ်ပြီး ကျေနပ် ချီးမွမ်းကြတယ်။ တချို့ကတော့ ရေဒီယို ရုပ်ကြွ အကြောင်းကို ရှာဖွေတွေ့ရှိသူဟာ သူပဲပေါ့လို့ ထင်မှတ်ကြတယ်။ အမှန်တော့ ရုပ်ကြွအကြောင်းကို ရှာဖွေတွေ့ရှိသူက အင်တွိုင်ဟဲန်နရီဗက်ကွာရယ် (Antoine Henri Becquerel) ဖြစ်ပါတယ်။ ဒီနယ်မှာ ဗက်ကွာရယ် ရှေ့ဆောင်ဖြစ်တာ ငြင်းစရာမလို၊ သူရေးတဲ့စာကို ဖတ်မိတဲ့အခါမှာ မာရီနဲ့ လင်ဖြစ်တဲ့ သိပ္ပံပညာ ထူးချွန်သူ ပြာရေ (Pierre) တို့က ဒီအကြောင်းအရာကို စူးစမ်းဖို့ ပြင်ဆင်ကြတာ ဖြစ်ပါတယ်။ မာရီကျူရီရဲ့ အထင်ရှားဆုံး ဆောင်ရွက်ချက်က ရေဒီယမ် (Radium) ကို တွေ့ရှိတယ်။ ဒါကို သန့်ထုတ်ပြီးပြ နိုင်တယ်။ အဲဒါအရင်ကလည်း ရေဒီယိုရုပ်ကြွတစ်မျိုးဖြစ်တဲ့ ပိုလိုနီယမ် (Polonium) ကို ဖော်ထုတ်နိုင်ခဲ့တယ်။ အဲဒီဓာတ်ကို သူမရဲ့ဇာတိဖြစ်တဲ့ ပိုလန် (Poland) ကိုစွဲပြီး ပိုလိုနီယမ်လို့ အမည်မှည့်တာ ဖြစ်ပါတယ်။ ဒါတွေဟာ အံ့သြစရာ ကောင်းပါတယ်။ ဒါပေမယ့် သိပ္ပံသီအိုရီအနေနဲ့ သိပ်ပြီး အရာ မရောက်ပါ။ မာရီကျူရီ၊ ပြာရေကျူရီနဲ့ အင်တွိုင်ဟင်နရီဗက်ကွာရယ်တို့ အတွဲလိုက်ကို ၁၉၀၃ ခုမှာ ရူပဗေဒ နိုဘယ်လ် (Noble) ဆုကို ပေးလိုက်ပါတယ်။ မာရီကျူရီကို ၁၉၁၁ မှာ ဓာတုဗေဒအတွက် နောက်ထပ် နိုဘယ်ဆုကို ပေးပြန်တယ်။ ဒါကြောင့် ပုဂ္ဂိုလ်တစ်ဦးတည်း နိုဘယ်လ်ဆု နှစ်ခါရသူထဲမှာ ကျူရီဟာ ပထမဆုံး ပုဂ္ဂိုလ်ဖြစ်ပါတယ်။ မာရီကျူရီဟာ သိပ္ပံသုတေသနမှာ အခုလိုဆုကြီးတွေ ရချိန်က တစ်ဖက်က သားသမီးတွေကို ကျွေးမွေး စောင့်ရှောက်နေရပါသေးတယ်။ အဲဒါဟာ အံ့သြစရာ ကောင်းတဲ့အချက် ဖြစ်ပါတယ်။ သမီးကြီး အိုင်းရင်း (Irene) ကလည်း အင်မတန် ထင်ရှားတဲ့ သိပ္ပံပညာရှင် ဖြစ်လာပါတယ်။ အိုင်ရင်းက သူ့လို သိပ္ပံထူးချွန်သူ ဂျန်ဖရယ်ရစ်ဂျိုလီယို (Jean Frederic Joliot) နဲ့ရပြီး နှစ်ယောက်ပေါင်း အာတီဖိရှယ် (Artificial) ရေဒီယိုရုပ်ကြွကို ရှာဖွေတွေ့ရှိကြပြီး ၁၉၃၅ မှာ နှစ်ယောက်ပေါင်း နိုဘယ်လ်ဆုကို ရကြတယ်။ မာရီကျူရီရဲ့ ဒုတိယသမီး အိ(Eve) က ကျော်ကြားတဲ့ စာရေးဆရာမ၊ ဂီတမယ်ဖြစ်လာပါတယ်။ တကယ် တော်ကြတယ်။ မဒမ်ကျူရီက ၁၉၃၄ မှာ လူကေးမီယ (Leukemia) သွေးဖြူတဲ့ရောဂါနဲ့ သေဆုံးပါတယ်။ ရေဒီယို ရုပ်ကြွပစ္စည်းတွေနဲ့

ထိတွေ့ရပါများလို့ ဒီဝေဒနာ စွဲကပ်တယ်လို့ ထင်ရပါတယ်။

## (၈၂) ဘဲန်ဂျမင် ဖရန်ကလင် (၁၇၀၆ – ၁၇၉၀)

## BENJAMIN FRANKLIN (1706 – 1790)

သမိုင်းတစ်လျှောက်မှာ ဘဲန်ဂျမင် ဖရန်ကလင်လို စွယ်စုံဘက်စုံ တော်တဲ့လူ မရှိလို့ ပြောမှ မှန်လှပါတယ်လို့ ပြောဆိုရာ ရောက်တယ်။ အင်မတန်ကျော်ကြားတဲ့ လီယိုနာဒို ဒဗင်ချီ (Leonardo da Vinci) ထက် ဒီနေရာမှာ သာသေးတယ်။ အင်မတန် အံ့ဩစရာကောင်းပြီး အကဲအပိုမပါ မှန်တဲ့အချက်က ဖရန်ကလင်ဟာ လေးဌာနမှာ ထိပ်တန်းက ရှိခဲ့ပါတယ်။ ဘယ်လေးဌာန ပါလဲလို့ဆိုရင် စီးပွားရေး၊ သိပ္ပံပညာ၊ စာပေပညာ နဲ့ နိုင်ငံရေးတို့ ဖြစ်ပါတယ်။ စီးပွားရေးမှာ ဖရန်ကလင်ဟာ တကယ့်ပုံပြင်ထဲမှာမှ တွေ့ရတဲ့ ကျောမွဲက ကုံကဲဖြစ်တဲ့လူပါ။ ဘော်စတွန်မှာ သူက မိဘက ချမ်းသာသူတွေ မဟုတ်ပါ။ လူငယ်လေး တစ်ယောက်အနေနဲ့ ဖီလဒဲလ်ဖီယ (Philadelphia) ကို ရောက်လာတော့လည်း တကယ့်ကို ပိုက်ဆံတစ်ပြား တစ်ချပ်မှ မရှိပါ။ အသက်လေးဆယ်ကျော်စ အရွယ်မှာတော့ စာပုံနှိပ်တိုက်ထောင်ပြီး သတင်းစာ ထုတ်ရာက ကြွယ်ဝလာပြီး တခြားလုပ်ငန်းကို လှေလာ ပါတယ်။ နိုင်ငံခြားဘာသာ လေးမျိုးကိုလည်း ကိုယ့်ဘာသာကြိုးစားပြီး သင်ယူပါတယ်။ သိပ္ပံပညာရှင် အနေနဲ့ ဖရန်ကလင်ဟာ လျှပ်စီးနဲ့ လျှပ်စစ် အကြောင်း လေ့လာတယ်။ အဲဒါအပြင် အင်မတန် အသုံးဝင်တဲ့ အသစ်တီထွင်မှုတွေ လုပ်ပါသေးတယ်။ အဲဒါတွေက ဖရန်ကလင်မီးဖို၊ အဝေးကြည့် အနီးကြည့်မျက်မှန်နဲ့ အိမ်ခေါင်မိုးပေါ်က မိုးကြိုးတားတဲ့ တိုင်တွေ ဖြစ်ပါတယ်။ အဲဒီအထဲက မျက်မှန်နဲ့ မိုးကြိုးတိုင်ကို ကနေ့ထိ အနှံ့အပြား သုံးစွဲ နေကြတုန်း ဖြစ်ပါတယ်။

ဖရန်ကလင်ရဲ့ စာပေဘက်က ဆောင်ရွက်ချက်ကို သူ့ဂျာနယ်မှာ ရေးသားချက်တွေအရ ခန့်မှန်း သိသာ နိုင်ပါတယ်။ မကြာမီ လူမွဲရစ်ချတ် ပြက္ခဒိန် (Poor Richard'd Almanae) မှာ ဆုံးမဩဝါဒ အကြံပေး ဆိုသလို အင်မတန် တွင်ကျယ်လာတဲ့ သူထွင်တဲ့ စကားပုံတွေကို တွေ့ရပါတယ်။ အရွယ်ကြီးရင့်လာတဲ့အခါ အခုထိ ကျော်ကြားတဲ့ ကိုယ်ရေး အတ္ထုပ္ပတ္တိကို ရေးပါတယ်။ အခုထိ ဖတ်ရှုကြည်နူး ကြရပါတယ်။ နိုင်ငံရေးမှာ ဖရန်ကလင်ဟာ အုပ်ချုပ်ရေး ကျွမ်းကျင်သူ ဖြစ်ဖူးတယ်။ (သူက ကိုလိုနီတွေရဲ့ စာတိုက်မှူးကြီး ဖြစ်တယ်။ သူ့လက်ထက်မှာ စာတိုက်ဟာ ဝင်ငွေကောင်းပြီး အမြတ်အစွန်း ရတဲ့အထိ တိုးတက်တယ်။) ဥပဒေပြု အဖွဲ့ဝင်အနေနဲ့ (ပဲန်ဆယ်လ် ဗေနီယ လွှတ်တော်မှာ အကြိမ်ကြိမ် ကိုယ်စားလှယ် အဖြစ် အရွေးခံရပြီး) အောင်မြင်တဲ့ သံကြီး အဖြစ် ပြင်သစ်ကို အမေရိကသမိုင်းမှာ သိပ်အရေးပါတဲ့ အချိန်ကာလက စေလွှတ်ခြင်း ခံရတယ်။ အဲဒါအပြင် အမေရိက လွတ်လပ်ရေး ကြေငြာစာတမ်းမှာ သူလည်း လက်မှတ် ရေးထိုးတဲ့ ပုဂ္ဂိုလ် တစ်ယောက် ဖြစ်တဲ့အပြင် ဖွဲ့စည်း အုပ်ချုပ်ပုံ ဥပဒေ ရေးဆွဲတဲ့ လွှတ်တော်မှာ အဖွဲ့ဝင်

တစ်ယောက် အနေနဲ့ အရွေးခံရဘူးပါတယ်။ အဲဒါတွေ လုပ်ဆဲ၊ လုပ်ချိန် အခိုက်အတန့်မှာပဲ ဖရန်ကလင်ရဲ့ ပဥ္စမ 'အသက်မွေးလုပ်ငန်း' လို့ ခေါ်ရလောက်အောင် လူထု အကျိုးပြုလုပ်ငန်းတွေကို အားပေးတယ်။ ပါဝင် ဆောင်ရွက်တယ်။ ဥပမာ ဖီလဒဲလ်ဖီယမှာ ပထမဆုံး ဆေးရုံကို မူလ ထူထောင်သူမှာ သူပါတယ်။ ကိုလိုနီနယ်တွေမှာ ပထမဆုံးပေါ်တဲ့ မီးသတ်ဌာနကို ဖြစ်အောင် စည်းရုံးခဲ့တယ်။ မြူနီစပယ် (မြို့တော်ရဲ့) အဖွဲ့ကိုလည်း ထူထောင်ပေးခဲ့တယ်။ (ကိုလိုနီတွေဟာ ပထမစတင်တဲ့) အငှားစာကြည့်တိုက်ကို စည်းရုံး ထူထောင်တယ်။ (ဒါလည်း ပထမပါပဲလို့ ပြောရမယ်) သိပ္ပံအသင်းကိုလည်း ထူထောင်ခဲ့တယ်။ အများတကာလိုပါပဲ ဖရန်ကလင်မှာ ဒုက္ခတွေ၊ ကြေကွဲ ဝမ်းနည်းဖွယ်တွေ တွေ့ပါတယ်။ ဒါတောင် သူ့ဘဝဟာ သူတကာ အတုယူအားကျစရာ ဘဝဖြစ်ခဲ့ရတယ်။ သမိုင်းမှာ အံ့သြမှတ်သားစရာ အကောင်းဆုံး ပုဂ္ဂိုလ်ဖြစ်ခဲ့ရပါတယ်။ သူ့ဘဝဟာ လူဖြစ်ရကျိုးနပ်တဲ့ဘဝလို့ ခေါ်ရပါမယ်။ သူ့ဘဝ အသက်ရှစ်ဆယ့်လေးအထိ ကျန်းမာရေး ကောင်းတယ်။ အဲဒါကြောင့် သူ့ဘဝဟာ အသက်ရှည်တယ်။ အံ့သြဖွယ် အတွေ့အကြုံတွေ ရတယ်။ အသုံးဝင်တယ်။ အတွေ့အကြုံ ထွေပြားတယ်။ ပျော်ရွှင်စရာ အဖြစ်အပျက် များတယ်။ လူဖြစ်ရကျိုးနပ်တယ်။ အဲဒါတွေပြောပြီးရင် သူ့ကိုဒီစာအုပ်နဲ့ အပိတ် ဇာတ်လိုက် အဖြစ် မသုံးချင်ဘူးလားလို့ မေးပါ။ ခက်တာက သူလုပ်သမျှ ရေရှည် အသုံးဝင်တာမျိုး မဟုတ်တဲ့အတွက် သူလုပ်သမျှ အကုန်စုပြီးစဥ်းစားတာတောင် ကျွန်တော်က (ကျော်စွာတစ်ရာ)မှာ သူ့ကို မထည့်နိုင်ပါ။

# (ည) မိုဟန်ဒပ်စ် ဂန္ဒီ (၁၈၆၉ – ၁၉၄၈)

# MOHANDAS GANDHI (1869 – 1948)

အိန္ဒိယလွတ်လပ်ရေးအတွက် ကြိုးစား ဆောင်ရွက် ကြတဲ့အခါ ထင်ရှားတဲ့ ခေါင်းဆောင်တစ်ဦးက မိုဟန်ဒပ်စ် ဂန္ဒီ ဖြစ်ပါတယ်။ အဲဒီအကြောင်းတစ်ချက်ထဲနဲ့ တချို့က ဒီစာအုပ် မူရင်း လူပုဂ္ဂိုလ်တစ်ရာမှာ သူ့ကိုလည်း ထည့်ပေးပါလို့ အကြံပေးကြတယ်။ ဒါပေမယ့် အင်္ဂလိပ်က တစ်နေ့မှာ လွတ်လပ်ရေး မလွဲမသွေ ပေးရတော့မယ် ဆိုတာလည်း မှတ်ထားပါ။ ပြီးတော့ ၁၉၄၇ ဝန်းကျင်မှာ ကိုလိုနီတွေ ကိုယ့်မင်းကိုယ်ချင်း နေရကြတော့မယ်လို့ သမိုင်း သဘောဖြစ်စဥ်တွေက ပြနေပြီးဖြစ်လို့ ဂန္ဒီလိုပုဂ္ဂိုလ် မပေါ်လာပေမယ့်လည်း အိန္ဒိယ လွတ်လပ်ဖို့ နီးနေပြီလို့ သိနိုင်ပါတယ်။ ဂန္ဒီရဲ့ အကြမ်းမဖက်ပဲ လူထုအားနဲ့ အာဏာ ဖီဆန်တာဟာ အိန္ဒိယကို ဗြိတိသျှတို့နောက်ဆုံးမှာ အသာတကြည်နဲ့ စွန့်ခွာသွားဖို့ နှိုးဆော် တိုက်တွန်းချက် တစ်ခု ဖြစ်တယ်ဆိုတဲ့ အချက်လည်း မှန်ပါတယ်။ ဒါပေမဲ့ အိန္ဒိယကက ပိုပြီး တက်တက်ကြွကြွနဲ့ ခွန်အားကို သုံးမယ်ဆိုရင် ခုထက်စောပြီး လွတ်လပ်မယ်ဆိုတဲ့ အချက်လည်း ထည့်ပြီး စဥ်းစားရ ပြန်ပါတယ်။ ဂန္ဒီကြောင့် အိန္ဒိယလွတ်လပ်ရေး အရှမြန်သလား၊ အရနှေး သွားသလားဆိုတဲ့ စကားကို ခဏထားပြီး ဖြစ်စဥ်ကို ကြည့်ပြီး ပြောရရင် အိန္ဒိယလွတ်လပ်ရေးရဖို့ အခုပွဲမှာ ဂန္ဒီရဲ့ ဆောင်ရွက်ချက်က သူများတွေရဲ့ ဆောင်ရွက်ချက်နဲ့စာရင် တော်တော် နည်းပါတယ်။ အိန္ဒိယ လွတ်လပ်ရေးအတွက် ပေါ်ပေါက်လာတဲ့ အိန္ဒိယ အမျိုးသားကွန်ဂရက်က ဟိုအရင် ၁၈၈၅ ကပဲ ဖွဲ့စည်းခဲ့တာဖြစ်လို့ အိန္ဒိယကို ထားခဲ့ပါလို့ စတင်တောင်းဆိုတဲ့လူနဲ့ အဖွဲ့အစည်းတွေမှာ ဂန္ဒီ မပါပါ။ အဲဒါအပြင် အိန္ဒိယ တကယ်လွတ်လပ်ရေး ရတဲ့အခါ ပဓာနကျတဲ့ ခေါင်းဆောင်တွေထဲမှာလည်း သူမပါပါ။ ဘာပြောပြော ဂန္ဒီရဲ့ အထူးခြားဆုံး ဆောင်ရွက်ချက် ကတော့ အကြမ်းမဖက်ရေးကို ပဓာန ထားပြီး ဆောင်ရွက်တာမို့ ထိမ်းပေးတဲ့နေရာမှာတော့ ဂန္ဒီဟာ အရေးအပါဆုံး ပုဂ္ဂိုလ်ဖြစ်တာ ထင်ရှားပါတယ်။ (ဒီဝါဒကို သူကစပြီး ပြောဟောတာလည်း မဟုတ်ပါ။) ဂန္ဒီကိုယ်တိုင် သူဖတ်ခဲ့တဲ့ ထိုရော (Thoreau)၊ တော်လ်စတွိုင်း (Tolstoy)၊ ဓမ္မသစ် (The New Testament) တွေအပြင် ဟိန္ဒူကျမ်းတွေထဲမှာ ဒီဝါဒ ပါတယ်လို့ ဝန်ခံတယ်။ ဂန္ဒီရဲ့ဝါဒကို အများအပြား လက်ခံကြမယ်ဆိုရင် ကမ္ဘာ့သမိုင်းတစ်ခုလုံး ပြောင်းနိုင်တယ် ဆိုတာကိုလည်း သံသယ မရှိသင့်ပါ။ ကံဆိုတဲ့အချက်က ကမ္ဘာကိုခဏထားပါ။ အိန္ဒိယမှာလည်း သူ့ဝါဒကို အနှံ့အပြား လက်မခံပါ။

ပေါ်တူဂီ (Portugal) တွေ ဂိုအာ (Goa) ကို ၁၉၅၄ – ၁၉၅၅ မှာ လက်လွှတ်ပြီး ထွက်ခွာသွားအောင် သူ့နည်းကို သုံးရတယ်ဆိုတာလည်း မှန်ပါတယ်။ ဒါပေမဲ့ တကယ့် ဆောင်ရွက်တဲ့အခါ သူ့နည်းတစ်ခုတည်းနဲ့ ပန်းတိုင်ကို ရောက်ရတာ

မဟုတ်ပါ။ သိပ်မကြာခင် အိန္ဒိယအစိုးရက စစ်တပ်ကို လွှတ်ပြီး ဆူပူမှုကို နှိမ်နင်းတယ်။ အဲဒါအပြင် အရင်အနှစ် ၄၀ အတွင်းမှာ အိန္ဒိယက ပါကစ္စတန် (Pakistan) နဲ့ စစ်သုံးကြိမ် တိုက်တယ်။ တရုတ်နဲ့ နယ်ခြားစစ် တစ်ကြိမ်တိုက်တယ်။ အလွယ်ပြောတော့ သူ့ရဲ့နည်း ပေါ်ပေါက်လာပြီး အနှစ်ရှစ်ဆယ် ကျော်အတွင်းမှာ ကမ္ဘာကြီးမှာ အကြီးအကျယ် သွေးချောင်းစီးတာ နှစ်ခါကြုံခဲ့ရတယ် မဟုတ်လား။ ဒါ့ကြောင့် ဒဿနိကပညာရှင် ဂန္ဒီဟာ အခြေခံအားဖြင့် ပြောရရင် အောင်ပွဲရ သူရဲကောင်းကြီး တစ်ယောက် မဟုတ်ပါ။ အခုထိ ဒီလိုပဲ ပြောနိုင်ပါတယ်။

ဂျီးစပ်စ် (Jesus) ကွယ်လွန်ပြီး အနှစ်လေးဆယ် အတွင်းမှာ ဉာဏ်ပညာကြီးပြီး နှံ့စပ်အောင် ရှာဖွေတတ်တဲ့ ရောမ အမျိုးသား တစ်ယောက်က နာဇာရိသ် (Nazareth) (Jesus) ဇာတိကို ကြားမှကြားဘူးပါသလား။ မသိလို့ ပြောရင်လည်း ဖြစ်နိုင်တယ်။ ဒီလိုပါပဲ အရင် (ခရစ်မပေါ်မီ) အနှစ် ၄၅၀ လောက်က ကွန်ဖူစီ (Confucius) ဟာ သိပ်ဩဇာရှိတဲ့လူလို့ ပြောကြပါ့မလား။ ဒါပေမယ့် ခုထိ အဖြစ်အပျက်တွေကို ပေါင်းစပ်ကြည့်တဲ့အခါ ဂန္ဒီကို ဒီစာအုပ်မှာ ထည့်လိုက်တဲ့ ဂုဏ်ပြုထိုက်သူတွေရဲ့ စာရင်းမှာတော့ ပါသင့်သူပဲ ဖြစ်ပါတယ်။

# (၄၅) အေဗရာဟမ် လင်ကွန်း (၁၈၀၉ – ၁၈၆၅)

# ABRAHAM LINCOLN (1809 – 1865)

အမေရိကန် ပြည်ထောင်စုရဲ့ တစ်ဆယ့် ခြောက်ယောက်မြောက် သမ္မတ အေဗရာဟမ်လင်ကွန်းဟာ ဒီနိုင်ငံမှာဖြစ်ဖြစ်၊ ဘယ်နိုင်ငံမှာ ဖြစ်ဖြစ် အကျော်ကြားဆုံး၊ ကြည်ညိုစရာ အကောင်းဆုံး နိုင်ငံရေး ခေါင်းဆောင် ဖြစ်ပါတယ်။ ဒီလိုဆိုရင် ကျော်စွာတစ်ရာထဲမှာ ဘာပြုလို့ ချန်ရစ်ခဲ့သလဲ မေးပါ။ ကျွန်ပေါင်း သုံးသန်းငါးသိန်းလောက် ကျွန်ဘဝက လွတ်ကျွတ်အောင် လုပ်ပေးနိုင်တဲ့ ပုဂ္ဂိုလ်ဟာ သိပ်ကြီးကျယ်တဲ့ အစွမ်းရှိသူ မဟုတ်ပါလားလို့လည်း မေးပါ။ ကြီးကျယ်တာ သိပ်ဟုတ်တယ်။ ဒါပေမယ့် ကမ္ဘာ့ အတိုင်းအတာနဲ့ စစ်ဆေးလိုက်တဲ့အခါ တစ်ကမ္ဘာလုံးမှာ ကျွန်တွေ အားလုံးကို လွတ်ပစ်ဖို့ ကိစ္စဟာ တားမရနိုင်တဲ့ ကိစ္စပါ။ လင်ကွန်း သမ္မတရာထူး လက်မခံမီကပဲ နိုင်ငံများစွာမှာ ကျွန်တွေ လွတ်ပြီး ကုန်ပြီ။ သူကွယ်လွန်ပြီး ခြောက်ဆယ့်ငါးနှစ်တွင်းမှာ နိုင်ငံတွေအများကြီးမှာ ကျွန်ရယ်လို့ မရှိတော့ပါ။ လင်ကွန်းရဲ့ အစွမ်းနဲ့ ငါတို့ တစ်နိုင်ငံမှာပဲ သူများထက် ပိုပြီး စောပြီး ကျွန်တွေကို လွတ်ပစ်ဖို့ လုပ်နိုင်ပါတယ်လို့ ချီးမွမ်းရပါတယ်။ အမှန်က လင်ကွန်းရဲ့ အကြီးမြင့်ဆုံး ဆောင်ရွက်ချက်ဟာ တောင်ဘက် ပြည်နယ်တွေ ပြည်ထောင်စုထဲက ခွဲမထွက်အောင် လုပ်နိုင်လို့ ပြည်ထောင်စု မပြိုမကွဲ ဆက်လက် တည်တန့်နေတာ။ အဲဒါတောင် ကျော်စွာ တစ်နေရာမှာ နေရာမပေးနိုင်ဘူးလားလို့ ဆက်မေးပါ။ တကယ်တန်း ပြောကြစို့ဆိုရင် လင်ကွန်း သမ္မတအရွေးခံ ရတော့မှ တောင်ဘက်စွယ်တွေက ခွဲထွက်ဖို့ လုပ်ကြတယ်။ ပြည်တွင်းစစ်ရယ်လို့ တိုက်ခိုက် ကြတဲ့အခါ လင်ကွန်းဟာ သမ္မတ မဖြစ်ရင် မြောက်ပိုင်းက စစ်ရှုံးသွားမှာလားလို့ မေးရင် ဖြေနိုင်စရာ ရှိပါသလား။ လက်တွေ့မှာ စစ်စချိန်က မြောက်ပိုင်းမှာ လူဦးရေလည်း များတယ်။ စက်မှုထွက်ကုန်လည်း သာတယ်။ မြောက်ပိုင်းက မတော်တဆ စစ်ရှုံးတယ်ပဲထားပါ။ ရာဇဝင်ကြောင်းမှာ အကြီးအကျယ် ပြောင်းလဲ သွားစရာ မရှိပါ။ ဘာသာစကားအရ၊ ယုံကြည်မှုအရ၊ ဓလေ့စရိုက်အရ၊ ရောင်းရေး ဝယ်မှုအရ တောင်နဲ့မြောက်ဟာ တစ်စပ်ထဲ ဖြစ်နေလို့ အခိုက်အတန့် ကွဲသွားတဲ့တိုင်အောင် ပြန်ပြီး ပေါင်းမိမှာ ဖြစ်ပါတယ်။ တစ်ကွဲတခြားစီ ဖြစ်နေရင် အနှစ်နှစ်ဆယ် ကြာချင်ကြာပါစေ၊ အနှစ်ငါးဆယ် ကြာချင်ကြာပါစေ၊ ကမ္ဘာ့သမိုင်းမှာ ဘာမျှမကြီးကျယ်ပါ။ (တောင်ပိုင်းကို ချန်ပြီး အခုခေတ် အနေအထားမှာ အမေရိကန် ပြည်ထောင်စုဟာ ကမ္ဘာမှာ လူဦးရေ စတုတ္ထ၊ စက်မှုအင်အားကြီးအရ ရှေ့ဆောင် ပထမ ဖြစ်ပါတယ်။)

ဒီလိုဆိုရင် လင်ကွန်း ဆိုတဲ့ပုဂ္ဂိုလ်ဟာ ဘာမျှ အသုံးမဝင်တော့ပါလား။ ဒီလိုလည်း မဟုတ်ပါ။

သူ့ဘဝ ဆောင်ရွက်ချက်ဟာ လူသန်းပေါင်းများစွာအပေါ်မှာ လူ့တစ်ဆက် (အနှစ်နှစ်ဆယ်ကျော်) တန်ခိုးဩဇာ အထင်အရှားရှိပါတယ်။ ဒါပေမဲ့ မဟာဝိရလို ရာစုနှစ်တွေ အများကြီး ဆက်ဆက်ပြီး ဩဇာတိက္ကမ မရှိနိုင်ပါ။

# (၄၅) ဖာဒီနန် မဂ္ဂယ်လန် (၁၄၈၀ လောက်က ၁၅၂၁ ထိ)

## FERDINAND MAGELLAN (C 1480 – 1521)

ပေါ်တူဂီ (Portugal) တွေ ကမ္ဘာကိုပတ်ပြီး နယ်သစ် ပယ်သစ် ရှာသူတွေထဲမှာ ထိပ်ဆုံးက နာမည် ကျော်ကြားသူ ဖြစ်ပါတယ်။ သူ့နယ်သစ် ရှာခရီးတွေဟာ သူ့သမိုင်း တစ်လျှောက်မှာ အပြောင်မြောက်ဆုံး ခရီးလှည့်လည်ရေး ဖြစ်တယ်လို့ ပြောနိုင်ပါတယ်။ ခရီးပြီးဆုံးဖို့ အချိန်ကာလဟာ သုံးနှစ်ပြည့်မတတ် ရှိတတ်ပါတယ်။ မဂ္ဂယ်လန် ခရီး စထွက်တော့ သင်္ဘောငါးစင်းက ငယ်ငယ်၊ အရုပ်ဆိုးဆိုး၊ ရေမလုံ့တလုံတွေပါ။ ခရီးဆုံးလို့ ဥရောပကို သင်္ဘော တစ်စင်းပဲ ပြန်ရောက်လာတယ်။ အထွက်တုန်းက လူ ၂၆၅ ယောက်၊ အသက်မသေပဲ ချောချောမောမော အိမ်ပြန်ရောက်တာ တစ်ဆယ့်ရှစ်ယောက်၊ မဂ္ဂယ်လန် ကိုယ်တိုင် ခက်ခဲတဲ့ခရီး အဆစ်အပိုင်းမှာ ခေါင်းဆောင် ပေမယ့် သူလည်း ခရီးလမ်းမှာပဲ သေကျွန်ရစ်ပါတယ်။ လမ်းဆုံးတဲ့အခါ ခရီးထွက် ရကျိုးနပ်တယ်၊ ကမ္ဘာလုံးတယ် လို့ဆိုတဲ့ အချက်ကို သံသယ မရှိ ရဲရဲ ပြောနိုင်ပါပြီ။ အခုလို ခရီးကို အောင်မြင်စွာ ပြီးဆုံးနိုင်တာဟာ ပဓာနအားဖြင့် မဂ္ဂယ်လန်ရဲ့ဇွဲနဲ့ ဆောင်ရွက်မှုကြောင့် ဖြစ်တယ်။ ခရီးအစ ထိုလနှစ်လ အတွင်း သင်္ဘောသားတွေက ဆက်မ သွားချင်ကြပါ။ မဂ္ဂယ်လန်က သင်္ဘောသားတွေ ပုန်ကန်တာကို နှိမ်နင်းရသေးတယ်။ သူ့ကျွမ်းကျင်မှု၊ သူ့ဇွဲကြောင့် သူ့ကို ရေကြောင်းခရီးသွားပြီး နယ်သစ် ရှာသူတွေထဲမှာ အကြီးကျယ်ဆုံး ပုဂ္ဂိုလ်လို့ ချီးမြှင့်ခြင်းကို ခံရပါတယ်။

သူ့ဆောင်ရွက်ချက်ရဲ့ အရာရောက်ပုံကို အတိုင်းအတာ တစ်ခုအနေနဲ့ ပြောရရင်တော့ သေးပါတယ်။

ပညာတတ် ဥရောပတိုင်းသားတွေက ကမ္ဘာလုံးတယ်လို့ သိပြီးသား ဖြစ်ပါတယ်။ ပြီးတော့ မဂ္ဂယ်လန်သွားတဲ့ ခရီးလမ်းကြောင်း ဟာလည်း အရေးပါတဲ့ ကုန်သွယ် လမ်းကြောင်းကြီး ဖြစ်မလာပါ။ ဗာစကိုဒဂမ သွားခဲ့တဲ့ ခရီးလမ်းလို မဂ္ဂယ်လန်ရဲ့ခရီးဟာ ဥရောပ သို့မဟုတ် အရှေ့တိုင်းမှာ ဘာမျှအရေးပါတဲ့ အကျိုးဆက် မရှိပါ။ ဒါကြောင့် သူ့မှာ လူအများလေးစားမှုကို ရသင့်ရထိုက် လို့ရပြီး ဘယ်တော့မှ မေ့မှိန်မသွားတဲ့ ကျော်ကြားမှုကို ရပေမယ့် သမိုင်းမှာ သိပ်ပြီး ဩဇာတိက္ကမ ရှိတဲ့ ပုဂ္ဂိုလ်တစ်ရာမှာတော့ သူမပါပါ။

# (၃၃) လီယိုနာဒို ဒဗင်စီ (၁၄၅၂ – ၁၅၁၉)

# LEONARDO DAVINCI (1452 – 1519)

အီတလီနိုင်ငံ ဖလောရင့်မြို့အနားမှာ ၁၄၅၂ ခုနှစ်က လီယိုနာဒို ဒဗင်စီကို မွေးဖွားပါတယ်။ ၁၅၁၉ မှာ ကွယ်လွန် ပါတယ်။ ရာစုနှစ်တွေအများကြီး ကြာမြင့်ခဲ့ပေမယ့် သူဟာ အလွန်အမင်း ပညာဉာဏ်ထက်မြက်ပြီး အထူးချွန်ဆုံးပုဂ္ဂိုလ်ရယ်လို့ ပျံ့နှံ့ကျော်ကြားတဲ့ သူ့ဂုဏ်သတင်းကတော့ ညှိုးမှိန်ပျောက်ကွယ် သွားတယ်လို့တော့ မရှိပါ။ အခုရေးသားတဲ့စာအုပ်ဟာ ထင်ရှားတဲ့လူတွေရဲ့ စာရင်းမျှသာ ဖြစ်ပါရင် သူ့နာမည်ကို ပထမငါးဆယ်ထဲမှာ ထည့်သွင်း ဖော်ပြရမယ့် လူဖြစ်ပါတယ်။ ဒါပေမဲ့ သမိုင်းမှာ သက်ရောက်တဲ့ ဩဇာကတော့ သူ့အစွမ်း၊ သူ့ဂုဏ်သတင်းလောက် မကြီးပါ။ သူ့မှတ်စုတွေထဲမှာ လီယိုနာဒိုက သူနဲ့ခေတ်ပြိုင် ပေါ်ပေါက်တဲ့ အသစ် တီထွင်ချက်တွေဖြစ်တဲ့ လေယာဉ်ပျံနဲ့ ရေငုပ်သင်္ဘောစတဲ့ ပုံတွေအများကြီး ရေးဆွဲထည့်သွင်းထားခဲ့တယ်။ ဒီမှတ်စုတွေက သူဟာ သိပ်တော်တယ်။ ပင်ကိုအစွမ်းရှိတယ်ဆိုတဲ့အချက်တွေကို သက်သေခံလျက် ရှိပါတယ်။ ဒါပေမယ့် တကယ်တမ်း သိပ္ပံပညာ ထွန်းကား လာခဲ့တဲ့ကိစ္စမှာ သူ့ဩဇာ လုံးဝ မပါပါ။ ဘာကြောင့်လဲဆိုရင် အဲဒီပုံတွေနဲ့ပြထားတဲ့ တီထွင်ချက်တွေက သူတည်ဆောက်တဲ့ ပစ္စည်းတွေ မဟုတ်ပါ။ ဒုတိယအားဖြင့် စိတ်ကူးသိပ်ကောင်းပေမယ့် တကယ် စမ်းသပ် အောင်မြင်ခြင်း မရှိသေးတဲ့ စိတ်ကူးတွေသာ ဖြစ်ပါတယ်။

စိတ်ကူးမှာ ရေငုပ်သင်္ဘော၊ လေယာဉ်ပျံ ဖြစ်ပြီဆိုဦးတော့ လက်တွေ့တည်ဆောက်ပြီး လိုချင်သလို လုပ်နိုင်စွမ်းတဲ့ ပစ္စည်း ဖြစ်လာဖို့ သိပ်ခက်ပါတယ်။ တကယ်တမ်း တီထွင် နိုင်စွမ်းရှိတဲ့လူဟာ စိတ်ကူးဟာ လက်တွေ့ဖြစ်မြောက်တဲ့အထိ ဆက်လုပ်ရသေးတယ်။ ဥပမာ သောမတ်အက်ဒီဆင် (Thomas Edison)၊ ဂျိမ်းစ်ဝပ် (James Watt)၊ ရိုက်ညီနောင် (Wright brothers) တွေဟာ စက်မှုစိတ်ကူးပါထည့်ပြီး အသေးစိတ် စက်ကိရိယာကိုပါ ထည့်ပြီး တကယ် လုပ်ရှားတဲ့စက်ကို တည်ဆောက်ပေးရတယ်။ လီယိုနာဒိုက ဒီလောက်အထိ မစွမ်းပါ။ သူဟာ သူဆွဲတဲ့ပုံတွေထဲမှာ လိုအပ်တဲ့အချက်ကို အသေးစိတ် ဆွဲထည့်နိုင်ဦးတော့ သူ့မှတ်စုထဲမှာပဲ မြုပ်နေကြလို့ ဘာမျှအသုံးမဝင်ပါ။ သူကွယ်လွန်ပြီး ရာစုနှစ်တွေ အများကြီးကြာမှ တွေ့နေကြရတယ်။ မှတ်စုထဲကစာတွေက မှန်ထောင်ကြည့်မှ ဖတ်လို့ရတဲ့စာတွေဖြစ်နေတယ်။ ဒါတွေကို ပုံနှိပ်ပြီး ထွက်လာတဲ့အခါ တခြားသူတွေက သူလုပ်မယ် စိတ်ကူးထားတဲ့ စက်မျိုးတွေကို သူတို့ဘာသာ သီးခြား ကြိုးစားပြီး ပြုလုပ်သုံးစွဲနေနှင့်ကြပါပြီ။ အချုပ်ပြောရရင် သိပ္ပံပညာရှင်၊ အသစ်တီထွင်သူ လီယိုနာဒိုဟာ ဘာမျှဖြစ်ထွန်းအောင် မလုပ်နိုင်သူ ဖြစ်သွား ရပါတော့တယ်။ အခုစာအုပ်ထဲမှာ အခုလိုနောက်ကွယ်က သူ့ကိုထည့်ပြီး ဖော်ပြတာက သူ့ပန်းချီ

အစွမ်းကြောင့်သာ ဖြစ်ပါတယ်။ လီယိုနာဒိုဟာ တကယ့်ထိပ်တန်း ပန်းချီဆရာ ဖြစ်ပါတယ်။ ဒါပေမယ့် ရဲမ်ဗရဲန် (Rembrandt)၊ ရဖိုယယ် (Raphael)၊ ဗန်ဂို (Van Gogh)၊ သို့မဟုတ် အယ်လ်ဂရက်ကို (El Greco) တို့ထက်တော့ ပိုပြီး မစွမ်းပါ။ နောက်ပိုင်း ပန်းချီဆရာရဲ့ တိုးတက်ချက်မှာလည်း ပီကာဆို (Picasso) သို့မဟုတ် မိုက်ကယ်အိန်ဂျလို (Michael Angelo) တို့လောက် ဩဇာမကြီးပါ။

လီယိုနာဒို စိတ်ကူးရှိတယ်။ ထွင်ဉာဏ်ရှိတယ်။ သိပ်ရှေ့လောဘကြီးပြီး ဘာမှ လက်စမသတ်နိုင်တဲ့လူ ဖြစ်ပါတယ်။ အဲဒါကြောင့် သူရေးဆွဲပြီး လက်စသတ်တဲ့ ပန်းချီကားလည်း အရေအတွက်နည်းတယ်။ မကြာခဏ စိတ်ကူးပစ်ရပြီး အဟောင်းကို လက်စမသတ်ပဲ ပစ်ခဲ့တာတွေ များနေတယ်။ ထူးခြားတဲ့ဉာဏ်ကို မှန်မှန်ကန်ကန် အရာရောက်အောင် မလုပ်ပဲ ဖြုန်းတီးရာ ရောက်ပါတယ်။ မိုနာလီဇာ (Monalisa) လို ပန်းချီကားကို ရေးဆွဲနိုင်သူကို ဒီလိုပြောရတာ ရင့်သီးလွန်းတယ် ဆိုချင်ဆို၊ သူ့အကြောင်းကို သိတဲ့လူတိုင်းက ဒီအတိုင်းပဲ မှတ်ချက်ချရပါတော့တယ်။ လူတော်တွေထဲမှာ လီယိုနာဒိုဒဗင်စီဟာ အတော်ဆုံးလို့ပဲ ထားပါ။ သူ့လက်ရာတွေထဲက ခုထိ သုံးရတာ နည်းနေတယ်။ အိမ်ဆောက်ရာမှာလည်း သူတော်တယ်။ ဒါပေမယ့် သူဆွဲတဲ့ပုံနဲ့ ပြီးမြောက်တဲ့ အဆောက်အအုံရယ်လို့ ပြစရာ မရှိပါ။ သူ့လက်ရာ ပန်းပုလည်း တစ်ခုမှ မကျန်ရစ်ပါ။ ဆွဲပုံတွေ သိပ်ခန့်ညား ကောင်းမွန်တယ်ဆိုတာတောင် အခု နှစ်ဆယ်လောက်ပဲ အခုတွေ့တယ်။ မှတ်စု စာအုပ်တွေကတော့ အခု နှစ်ဆယ်ရာစုနှစ်က စာပေလေ့လာသူတွေ ချီးမွမ်းလို့ မဆုံးအောင် ကောင်းလှပါတယ်။ ဒါတွေကိုလည်း သိပ္ပံနဲ့ တီထွင်မှုမှာ သိပ်အကျိုးများလှတယ်လို့ မပြောနိုင်ဘူး။ ထူးခြားတယ်၊ တော်တယ်၊ လူတော်တစ်ရာထဲမှာတော့ သူ့နာမည်ကို မထည့်နိုင်ပါ။

# နောက်ဆုံးမှတ်ချက်
# နည်းနည်းပြောချင်သေးတယ်

ဒီစာအုပ် ထဲမှာ ထည့်သွင်းဖော်ပြခံရတဲ့ လူပုဂ္ဂိုလ် (ကျား မ) တွေဟာ ကျွန်တော်တို့ လောကမှာ သိပ်ပြီးကြီးကျယ်လို့ သူတို့ကို အုပ်စုဖွဲ့ပြီး တစ်ခုစီ ပြန်လည်ဆွေးနွေးသင့်တယ်လို့ ထင်မိပါတယ်။

ပထမအချက်က ဒီလိုကျော်ကြားတဲ့ လူပုဂ္ဂိုလ်အများစုဟာ ဥရောပတိုက်သားတွေ ဖြစ်တယ်။ (ဇယား –က– မှာ စာရင်းလုပ်ပြထားပါတယ်၊ ကြည့်ပါ။) အဲဒီဇယားမှာ တခြားနိုင်ငံ၊ တခြားလူမျိုးတွေထက် လူယဉ်ကျေး လောကမှာ ဗြိတိသျှအမျိုးသားက သာတယ်။ နောက်ထပ် စိတ်ဝင်စားစရာတစ်ချက်က ဗြိတိသျှ တစ်ဆယ့်ရှစ်ဦးမှာ စကော့တလန်သားက ငါးဦးထက် မနည်း ရှိနေ ပြန်တယ်။(အဲဒီငါးဦးဟာ တစ်ရာရဲ့ပထမထက်ဝက်၊ ဆိုလိုတာက ရှေ့တန်းကပါနေပါတယ်။)ကမ္ဘာ့လူဦးရေမှာ စကော့လူမျိုးက အပုံတစ်ရာပုံ တစ်ပုံရဲ့ ရှစ်ချိုး တစ်ချိုးသာ ရှိလေတော့ လူတော်လူစွာတွေ တစ်ထောင့်တစ်နေရာမှာ သွားစုပုံ နေတာဟာလည်း အံ့သြစရာ အချက်တစ်ခု ဖြစ်နေပါတယ်။)

ဇယား (ခ) မှာ မြင်နိုင်တာက ပုဂ္ဂိုလ်ထူးတွေဟာ ခေတ်အလိုက်မျှပြီး ပေါ်ထွန်းကြတာ မဟုတ်ဘူး။ ခရစ်မပေါ်မီ ခြောက်ရာစုနှစ်က သုံးရာစုနှစ်အထိ ကာလအတွင်း မကြုံစဖူးအောင် အများကြီး စုပြုံပြီး ပေါ်တယ်။ အဲဒီနောက် ငြိမ်သွားတာ အကြာကြီးပါ။ ဒါပေမဲ့ တစ်ဆယ့်ငါးရာစုနှစ်ကစပြီး အပင်မှာရှိတဲ့ အသီးတွေ မှည့်သလို တစ်ခုပြီးတစ်ခု တိုးဖို့၊ ပြောင်းဖို့ ကြုံရပြန်တယ်။ အဲဒီနောက် စာရင်းမှာ တိုးသ ထက်သာ တိုးလာပါတော့တယ်။ (ကျွန်တော်တို့မှာ အခုကျရောက်တဲ့ ရာစုနှစ်မှာ အရင်တစ်ဆယ့်ကိုးရာစုနှစ်ကလို ထူးခြား ပြောင်မြောက်တဲ့ တိုးတက်မှုတွေမျိုး ပေါ်လာ၊ မလာ ပြောဖို့ကတော့ နည်းနည်း အချိန်စောပါသေးတယ်။) သမိုင်းစာအုပ် စစ်စစ်ဆိုရင် နိုင်ငံရေး ပြောင်းလဲတာကို တကယ့်အပြောင်းလို့ ယူတယ်။ ကျွန်တော်ကတော့ ဒီလိုမထင်ပါ။ သိပ္ပံဆိုင်ရာတိုးတက်မှုဟာ လူသားအများမှာ တိုးတက်တဲ့ အကျိုးထူး ခံစားရတာဖြစ်တယ်လို့ ယူဆတယ်။ ဒါကြောင့် အခုရေးဆွဲတဲ့စာရင်းမှာ နိုင်ငံရေး၊ စစ်ရေး ခေါင်းဆောင်တွေထက် သိပ္ပံပညာဆရာနဲ့ နည်းသစ် တီထွင်သူတွေကို ဦးစားပေးထားတာ တွေ့ရမှာဖြစ်ပါတယ်။

ဇယား (ဂ) မှာတော့ ဒီစာအုပ်ထဲမှာ ဖော်ပြပါ ရှိတဲ့လူတွေထဲက ဘယ်သူ့ အရေးအခင်းကြီးတွေဟာ ဘယ်သူနဲ့ ဘယ်လောက် ပတ်သက်တယ် ဆိုတာကို ဖော်ပြထားတာ ဖြစ်ပါတယ်။ ကိုးကွယ် ယုံကြည်မှုဆိုင်ရာ ခေါင်းဆောင် တချို့ကို

ဒီစာအုပ် အစပိုင်းမှာ တင်ထားလေတော့ ဇယား (ဂ) မှာလည်း ဒီလိုဖြစ်မှာပဲလို့ ထင်စရာရှိတယ်။ တကယ်က နောက်လိုက် အရေအတွက်ကိုလိုက်ပြီး စဉ်းစားတယ်။ ဒီလိုဖြစ်နေလို့ လူမှုကိစ္စမှာ ဘယ်လိုလွှမ်းမိုး တတ်တယ်ဆိုတာက အတွေးအခေါ်ပိုင်းထက် ပိုပြီး အရေးပါတယ်လို့ ဆိုလိုတာ မဟုတ်ပါ။ စာအုပ်ထဲမှာ နိုင်ငံရေးသမားကို နောက်ပိုင်း ပို့ထားလို့ ဇယား (ဂ) က နိုင်ငံရေးကို သိပ်ပြီးအမွှမ်းတင်တယ်လို့လည်း မတွေးကြ စေလိုပါ။ အခုစာရင်းထဲမှာ အံ့သြစရာကောင်းတဲ့ အချက် တစ်ချက်က အနည်းဆုံး လူပုဂ္ဂိုလ်တစ်ဆယ့်ကိုးဦးဟာ အိမ်ထောင် မပြုပါ။ (လူစေ့အောင် အကြောင်းအရာ စုံစုံ မသိရလို့ ဖြစ်ပါတယ်။ စုံစုံသိရရင် ဒါထက် အရေအတွက် များနိုင်တယ်။) ဒါဟာ ဆန်းတယ်။ ဘာပြုလို့လဲဆိုတော့ ဒီလူတွေဟာ လူများစု ထက်သာတဲ့ ကျန်းမာ ချမ်းသာသူတွေ ဖြစ်လို့ပါပဲ။ လက်ထပ်ကြတဲ့တိုင်အောင် အားလုံးသားသမီးရကြတာ မဟုတ်ဘူး။ အနည်းဆုံး ဒီစာရင်းထဲက နှစ်ဆယ့်ခြောက်ယောက် ဟာ သားသမီး မရပါ။ အဲဒါအပြင် သားသမီး ရှိပေမယ့် လူတစ်ဆက် နှစ်ဆက် ပြုတ်ပြီး လူမျိုးကော သွားတာတွေ ရှိပါတယ်။ သတင်းစုံအောင် မရနိုင်လို့လည်း ဖြစ်မယ်။ တရားဝင် လက်မထပ်ပဲရတဲ့ သားသမီးကို မပယ်ပေမယ့် ဒီစာအုပ်ပါ ပုဂ္ဂိုလ်ထက်ဝက်မှာ သားထောက်နောက်ခံ မရှိလို့ မျိုးဆက်ပြတ် ကုန်ပါပြီ။ စာရင်းပါ ပုဂ္ဂိုလ် လူတော်တွေပါ။ အများစုက ပညာတတ်တွေဖြစ်တယ်။ ခုနစ်ယောက် ကတော့ စာမတတ်ပါ။ သူတို့က စစ်ခေါင်းဆောင်တွေ အနေနဲ့ အများကြီး ကျော်ကြားပါတယ်။ အချုပ်မှာ စာရင်းပါလူဆယ်ဦးဟာ ဒူလာသမားတွေ၊ လူသာမန်တွေမှာ ဒီလိုရောဂါရှိတဲ့လူ အမျိုးအစား များတယ်။ ဒီလိုထူးချွန်သူတွေမှာ ဒီရောဂါအဖြစ်များလို့ ဆေးပညာ သုတေသနသမားတွေကအရေးယူပြီး အကျိုးအကြောင်း ရှာဖွေကြတယ်။ ။

## ဇယား(က)ဒီစာအုပ်ထဲကလူတွေ ဘယ်ကလာသလဲ

- ဂရိတ်ဗြိတိန် – ၁၈
- ဂျာမနီနဲ့ သြစတြီးယား – ၁၅
- ပြင်သစ် – ၉
- အီတလီ – ၈
- ဂရိ – ၅
- စပိန် – ၃
- ရုရှ – ၄
- ဥရောပ တခြားနိုင်ငံ – ၇
- ဥရောပလူပေါင်း – ၆၉

- အမေရိကပြည်ထောင်စု – ၈
- တောင်အမေရိက – ၁
- နယူးဇီလန် – ၁
- အာဖရိက – ၃

- တရုတ် – ၇
- အိန္ဒိယ – ၃
- မောင်ဂိုလယ – ၁
- အနောက်အာရှ – ၇
- အာရှလူပေါင်း – ၁၈

- ပေါင်း – ၁၀၀

မှတ်ချက်။ ။ယူကလစ်၊ ဟိုမာ၊ အရစ္စတိုတယ်နဲ့ မဟာအလက်ဇန္ဒားတို့က ဂရိက၊ စတာလင်က ရုရှက၊ ဂရေဟမ်ဘဲလ် သူမွေးပြီး ကြီးပြင်းတဲ့ ဂရိတ်ဗြိတိန်က အမေရိကပြည်ထောင်စုထဲ မပါရပါ။

# ဇယား(ခ)ဒီစာအုပ်ထဲကလူတွေ ဘယ်အချိန်က ကြီးပွားခဲ့သလဲ

- ခရစ်မပေါ်မီ နှစ် ၆၀၀ အရင် – ၃
- ခရစ်မပေါ်မီ နှစ် ၆၀၀ လောက်က ခရစ်မပေါ်မီ နှစ် ၂၀၀ ထိ – ၁၃
- ခရစ်မပေါ်မီ နှစ် ၂၀၀ က ခရစ်နှစ် ၁၄၀၀ ထိ – ၁၆
- ၁၅ ရာစုနှစ် – ၄
- ၁၆ ရာစုနှစ် – ၉
- ၁၇ ရာစုနှစ် – ၉
- ၁၈ ရာစုနှစ် – ၁၂
- ၁၉ ရာစုနှစ် – ၁၈
- ၂၀ ရာစုနှစ် – ၁၆

- ပေါင်း – ၁၀၀

မှတ်ချက်။ ။ဂျက်ဖာဆန်ကို ၁၈ ရာစုလူလို့ သတ်မှတ်တယ်၊ ပလန့်ခ်ကို ၁၉ ရာစုကလူ၊ မာကိုနီနဲ့ ဖရွဒ်တို့က ၂၀ ရာစုနှစ် လူတွေပေါ့။

## ဇယား (ဂ) ဒီစာအုပ်ထဲကလူတွေ ဘာလုပ်ခဲ့ဘူးလို့လဲ

- သိပ္ပံနဲ့နည်းသစ်ထွင် – ၃၆
- နိုင်ငံရေး၊ စစ်ရေးခေါင်းဆောင် – ၃၁
- လောကီ ဒဿနိကပညာရှင် – ၁၄
- လောကုတ္တရာခေါင်းဆောင် – ၁၁
- အနုပညာနဲ့ စာပေ – ၅
- နယ်သစ်ရှာ – ၂
- စက်မှုလုပ်ငန်းရှင် – ၁

- ပေါင်း – ၁၀၀

မှတ်ချက်။ ။ပိဇာရိုနဲ့ ကောတဲ့ဇ်တို့ကို စစ်ခေါင်းဆောင် မခေါ်နိုင်၊ နယ်သစ်ရှာသူတွေလို့ခေါ်၊ ဖရန်ဒ်ကိုတော့ ဒဿနိက ဆရာထက် သိပ္ပံပညာရှင်လို့ ခေါ်မယ်၊ ကွန်ဖုစီ၊ လောင်ဇု၊ ဒေစကာ့တက်ဇ်နဲ့ အရစ္စတိုတယ်လ်တို့က လောကီဒဿနိကပညာရှင်။

## ပြီးပါပြီ။

# About E Book Creator



## အသိပေးချက်

အင်တာနက်ပေါ်၌ ပျံ့နှံ့ပြီးသော E Book များကိုသာ ဖတ်ရ အဆင်ပြေအောင် Unicode Encoded E Book များ အဖြစ်သို့ ပြန်လည် ပြောင်းလဲထားခြင်း ဖြစ်ပါသည်။

လက်ရှိအချိန်တွင် မြန်မာစာအုပ်များကို Paperback သို့မဟုတ် PDF များဖြင့်သာ ရရှိနိုင်ပြီး EPUB, MOBI, AZW3, KFX စသည့် E Book Format များဖြင့် ကျယ်ကျယ်ပြန့်ပြန့် မရရှိနိုင်သေးပါ။ E Book Format များဖြင့် တရားဝင် စာအုပ်ဖြန့်ချိမှုများ မရှိသေးခင် ကွက်လပ်တစ်ခုကို ဖြည့်သည့်အနေဖြင့်သာ ဤ E Book ကို ဖန်တီးခြင်းဖြစ်ပြီး မူရင်းစာရေးဆရာ၊ ထုတ်ဝေသူနှင့် အရောင်းဆိုင်များကို ထိခိုက်နစ်နာစေလိုခြင်း အလျဉ်းမရှိသည့်အပြင် မူပိုင်ခွင့် ချိုးဖောက်ရန် မရည်ရွယ်သလို မူပိုင်ခွင့်လည်း ဘယ်တော့မှ မချိုးဖောက်ပါ။

မြန်မာဘာသာဖြင့် E Book ထုတ်ဝေဖြန့်ချိမှုများ မရှိသလောက် နည်းနေသဖြင့် ကိုယ်သဘောကျသည့် စာအုပ်များကို E Book Format ဖြင့် သိမ်းထားလိုသူ စာဖတ်ပရိသတ်များနှင့် ပြင်ပစာအုပ် ဝယ်ရန် အခက်အခဲ ရှိသူများ အတွက် ဟာကွက်ကို ဖြည့်ဆည်းပေးသည်ဟုသာ ယူဆစေလိုပါသည်။ English Classic Novel များကို EPUB Versionဖြင့် အလွယ်တကူ ဖတ်၍ ရနေသော ယခုကာလတွင် ရှားပါး မြန်မာ စာအုပ်ကောင်းများကို Quality ကောင်းသော E Bookများ အဖြစ် စာချစ်သူများ လက်ထဲ ပို့ဆောင်ပေးချင်ရုံ ဖြစ်ပါသည်။

## ပန်ကြားလွှာ

စာများများ ဖတ်စေချင်ပါသည်။ များများ တွေးစေချင်ပါသည်။ စာရေးဆရာကောင်းများ၏ မူရင်းလက်ရာများကိုလည်း တတ်နိုင်ပါက ဝယ်ယူအားပေးစေလိုပါသည်။ ပန်းဆက်လမ်း၊ တိုးမြစ်၊ We Distribution၊ NDSP စသော အလွယ်တကူ မှာယူနိုင်သော စာအုပ်တိုက်များလည်း ရှိနေပြီဖြစ်ပါသည်။

စာအုပ်တိုက်များ အနေဖြင့်လည်း E Book Market ကို ကျယ်ပြန့်လာစေရန် အားပေးအားမြှောက် ပြုသည့်အနေဖြင့် E Book Version ဖြင့်လည်း ထုတ်ဝေပေးစေလိုပါသည်။ စာအုပ်များအတွက်လည်း အင်တာနက်ပေါ်မှ သက်ဆိုင်ရာ မျှဝေသူများ အားလုံးကို Credit ပေးပါသည်။

## About Burmese E Libro

ဆင်ခြေဖုံးရပ်ကွက်တစ်ခုမှာ ကြီးပြင်းလာတဲ့ ကောင်လေးတစ်ယောက်ဟာ ငယ်ငယ်ကတည်းက စာဖတ်ဝါသနာပါတော့ အိမ်က စာအုပ်တွေ အကုန်ဖတ်ပြီးသွားတဲ့အခါ စာအုပ်ဖတ်ချင်ရင် ရပ်ကွက်စာကြည့်တိုက်ကိုသာ အားထားခဲ့ရသည်။ စတန်းထိ ကျူရှင်မတက်ခဲ့သူမို့ ကျောင်းကပြန်ရင် စာကြည့်တိုက်ရောက်ပြီး မှောင်တော့မှ အိမ်ပြန်ရောက်နေကျလူ ဖြစ်သည်။ စာအုပ်တစ်အုပ် ဝယ်ဖို့ကို မုန့်ဖိုးတွေ အငတ်ခံပြီး စုဝယ်ရသည်။ စာအုပ်တိုင်း ဖတ်ချင်ပေမယ့် စာအုပ်တိုင်း မဝယ်နိုင်။ အင်တာနက်ကို ကောင်းကောင်း သုံးတတ်လာတဲ့အချိန်ကျတော့ အပြင်မှာ မဝယ်နိုင်သေးသည့် ဖတ်ချင်သမျှ စာအုပ်ကို လိုင်းပေါ်က ရှာဖတ်ဖြစ်သည်။

ထိုမှတစ်ဆင့် မိတ်ဆွေများ မျှဝေထားသော Website အသီးသီးမှ PDF များကို ရှာတွေ့လာရသည်။ PDF Format များသည် E-reader အသေးများနှင့် ဖုန်းများဖြင့် ဖတ်ရန် အဆင်မပြေလှပါ။ ထို့ကြောင့် ရှာရင်း ဖွေရင်း EPUB အကြောင်းကို သိလာရသလို EPUB Format ဖြင့် မြန်မာစာအုပ်များကို တွေ့လာရသည်။ သို့ရာတွင် လွန်ခဲ့သော နှစ်များကတည်းက ဖန်တီးခဲ့သော စာအုပ်များ ဖြစ်သဖြင့် Zawgyi or Win Art House Font များဖြင့် Encoded လုပ်ထားသော ဖိုင်များ ဖြစ်နေရာ E-reader or Phone များဖြင့် ဖတ်သောအခါ Rendering မမှန်သောကြောင့် အဆင်မပြေပြန်ပါ။

ထို့ကြောင့် ဖတ်ရ အဆင်ပြေအောင် Unicode ဖြင့် Encode ပြန်လုပ်ကာ Format မှန်သော EPUB များကို Personal Use အတွက် ပြန်သုံးဖို့ ရည်ရွယ်ပြီး လုပ်ချင်ခဲ့သည်။ ရှာရင်း ဖွေရင်း Everything E-Readers - Myanmar Facebook Group မှ မိတ်ဆွေများ၏ ပို့စ်များကို တွေ့ပြီး

စမ်းသပ်လုပ်ဖြစ်ခဲ့သည်။

တစ်အုပ် တစ်အုပ်ကို မူရင်း PDF နှင့် ပြန်တိုက်ကာ လက်စသတ်ရသည်မှာ အချိန်လည်း ပေးရသလို မျက်လုံးများကိုက်ကာ ပင်ပန်းသဖြင့် ကိုယ်လုပ်ထားသည်များကို ကိုယ်တစ်ယောက်တည်း ဖတ်ရင်း အလကား မဖြစ်သွားစေချင်ပါ။ ဤကာလအတွင်း ကိုယ်လုပ်ဖြစ်သော E Book များကို ကိုယ့်လိုပင် စာကို ရှင်းရှင်းလင်းလင်းနှင့် သတ်ပုံမှန်မှန် ဖတ်ချင်သော စာဖတ်ပရိသတ်များ၊ စာအုပ်ဝယ်ရန် အခက်အခဲရှိသူများ၊ ကိုယ်သဘောကျသည့် စာအုပ်များကို E Book Format ဖြင့် သိမ်းထားလိုသူများ အတွက် ရည်ရွယ်ပြီး ပြန်လည်မျှဝေခြင်းသာ ဖြစ်ပါသည်။

စစ်မှန်သော အတွေးအခေါ်များဖြင့် တရားသောဘက်က ရပ်တည်ကာ အာဏာရှင်စနစ် ချုပ်ငြိမ်းရေး အတွက် တတ်နိုင်သည့်နေရာမှ ကူညီရင်း ဒီတိုက်ပွဲကို အဆုံးထိ တိုက်ကြစေလိုပါသည်။

**Burmese E Libro**